

သာယာငြိမ့်ငြောင်း ကြားရသူစိတ်ကိုညွတ်ပျောင်းစေသည့် မြန်မာ့ဂုဏ်ဆောင် စောင်းကောက်

၂၃၄၅

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

# ရုပ်ပြဗဟုသုတဘဏ်





အတွဲ — ၄

စောင်း — တူ

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစီစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ် အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ်အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျာဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစ တို့ကို ကရဝိက၊ သျှင်။ ကျာဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ်အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေသည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မဲ့အကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစည်းသို့ရင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်ရင်း၊ (........................ — ရှု။) ဟုညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (........................ — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ် လောက်ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကိုရင်း၊ ပညာရပ်များကို စံနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုရင်း၊ ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါ အကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

| | |
|---|---|
| ၁။ အ | |
| ၂။ အာ | |
| ၃။ အား | |
| ၄။ အိ | |
| ၅။ အီ | |
| ၆။ အီး | |
| ၇။ အု | |
| ၈။ အူ | |
| ၉။ အူး | |
| ၁၀။ အေ့ | |
| ၁၁။ အေ | |
| ၁၂။ အေး | |
| ၁၃။ အဲ့ | နောက်ပစ် နှင့် ယသတ် |
| ၁၄။ အယ် | |
| ၁၅။ အဲ | |
| ၁၆။ အော့ | |
| ၁၇။ အော် | |
| ၁၈။ အော | |
| ၁၉။ အို့ | |
| ၂၀။ အို | |
| ၂၁။ အိုး | |
| ၂၂။ အက် | ကသတ် |
| ၂၃။ အောက် | |
| ၂၄။ အိုက် | |
| ၂၅။ အင့် | ငသတ် |
| ၂၆။ အင် | |
| ၂၇။ အင်း | |

| | |
|---|---|
| ၂၈။ အောင့် | ငသတ် |
| ၂၉။ အောင် | |
| ၃၀။ အောင်း | |
| ၃၁။ အိုင့် | |
| ၃၂။ အိုင် | |
| ၃၃။ အိုင်း | |
| ၃၄။ အစ် | စသတ် |
| ၃၅။ အည့် | ညကြီးသတ် |
| ၃၆။ အည် | |
| ၃၇။ အည်း | |
| ၃၈။ အဉ့် | ဉကလေးသတ် |
| ၃၉။ အဉ် | |
| ၄၀။ အဉ်း | |
| ၄၁။ အတ် | တသတ် |
| ၄၂။ အိတ် | |
| ၄၃။ အုတ် | |
| ၄၄။ အန့် | နသတ် |
| ၄၅။ အန် | |
| ၄၆။ အန်း | |
| ၄၇။ အိန့် | |
| ၄၈။ အိန် | |
| ၄၉။ အိန်း | |
| ၅၀။ အုန့် | |
| ၅၁။ အုန် | |
| ၅၂။ အုန်း | |
| ၅၃။ အပ် | ပသတ် |
| ၅၄။ အိပ် | |
| ၅၅။ အုပ် | |

| | |
|---|---|
| ၅၆။ အမ့် | သေးသေးတင် နှင့် မသတ် |
| ၅၇။ အမ် | |
| ၅၈။ အမ်း | |
| ၅၉။ အိမ့် | |
| ၆၀။ အိမ် | |
| ၆၁။ အိမ်း | |
| ၆၂။ အုမ့် | |
| ၆၃။ အုမ် | |
| ၆၄။ အုမ်း | |
| ၆၅။ ျ | ယပင့် |
| ၆၆။ ြ | ရရစ် |
| ၆၇။ ွ | ဝဆွဲ |
| ၆၈။ ှ | ဟထိုး |
| ၆၉။ ျွ | ယပင့် ဝဆွဲ |
| ၇၀။ ြွ | ရရစ် ဝဆွဲ |
| ၇၁။ ျှ | ယပင့် ဟထိုး |
| ၇၂။ ြှ | ရရစ် ဟထိုး |
| ၇၃။ ွှ | ဝဆွဲ ဟထိုး |
| ၇၄။ ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ ြွှ | ရရစ်ဝဆွဲဟထိုး |

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆူရာရွေးနုတ်၍ လေ့လာပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထဘဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထို့မျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းပြေရန်နည်းများလည်း ရရှိပေအံ့။

ထင်ပေါ်ကျော်ကြားပုဂ္ဂိုလ်များ။



လောကီထူပွတ်လူတို့ဇာတ်။



သစ်ပင်ပန်းမာလ်တိရစ္ဆာန်။



တမြေရပ်ခြားဒေသများ။



တိကျသိအပ်အရပ်ရပ်။



သုခုမဝင်ကြောင်းစုံလင်။



လုပ်ငန်းဆောင်တာအဖြာဖြာ။



သိပ္ပံအံ့ဖွယ်အသွယ်သွယ်။



ပြည်တော်သာရန်အခြေခံ။



အားလပ်ချိန်ဝယ်ပျော်ရွှင်ဖွယ်။

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဉာဏ်အခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် အောက်ပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိအံ့၊ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပို့လိုက်ဗရေရီနှင့် ပေါပေါ့ပါးမှုရင်း၊ နယူးယော့မြို့ အိဝင် ဂယ်လိုဝေမှုရင်း၊ ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်း နှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူး အထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| ကရင်ပြည်နယ်အစိုးရ မြန်ကြားရေးဌာန | ရန်ကုန်မြို့ | ၁၇၀ |
| ကာကွယ်ရေးဝန်ကြီးဌာန | ရန်ကုန်မြို့ | ၁၃ |
| ချင်းရေးရာဝန်ကြီးဌာန | ရန်ကုန်မြို့ | ၄၅၁ |
| စိတ္တဗေဒဌာန | ရန်ကုန်တက္ကသိုလ် | ၄၁။ ၄၃ |
| ဇီဝဗေဒဌာန | ရန်ကုန်တက္ကသိုလ် | ၃၃၂။ ၃၃၃ |
| တရုပ်ပြည်သူ့သမတနိုင်ငံတော်သံရုံး | ရန်ကုန်မြို့ | ၁၇၅။ ၃၁၀ |
| တိရစ္ဆာန်ရုံ | ရန်ကုန်မြို့ | ၄၇၀ |
| နိုင်ငံတော်ရုပ်ရှင်ပြဇာတ်ဌာန | ရန်ကုန်မြို့ | ၅ |
| ဗိုလ်တထောင်ဘုရား ဘဏ္ဍာတော်ထိမ်းအဖွဲ့ | ရန်ကုန်မြို့ | ၃၉၁။ ၃၉၃ |
| ရှေးဟောင်းသုတေသနဌာန | မန္တလေးမြို့ | ၁၆၅ |
| ဝိုင်၊ အမ်၊ ဘီ၊ အေ၊ ရုပ်စုံဗုဒ္ဓသာသနာ့ဝင် ကျမ်းအဖွဲ့ | ရန်ကုန်မြို့ | ၃၂၄ |
| သစ်တောဌာန | ရန်ကုန်မြို့ | ၂၆၈ |
| သစ်တောသုတေသနဌာန | ရန်ကုန်မြို့ | ၁၆၂ |
| အိန္ဒိယသံရုံး | ရန်ကုန်မြို့ | ၂၃၅ |
| ဦးကျော်ခိုင် | ရန်ကုန်မြို့ | ၂၆။ ၈၉။ ၉၄။ ၁၈၂။ ၂၅၇။ ၂၅၈။ ၂၈၅။ ၃၅၇။ ၃၆၆ |
| ဦးကျော်မင်း | ထားဝယ်မြို့ | ၈၉ |
| ဒေါ်ကြောင် | ဆင်ဖြူကျွန်းမြို့ | ၂၃၅ |
| ဦးခင် | ရန်ကုန်မြို့ | ၅၃ |
| ဦးခင်ဇော် | ရန်ကုန်မြို့ | ၂ |

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
|---|---|---|
| ခင်လေးမောင် | မြန်မာပြည်ဓာတ်ပုံအသင်း၊ ရန်ကုန်မြို့ | ၉။ ၃၀၈။ ၃၀၉။ ၃၆၇။ ၃၈၃။ ၃၈၄။ ဓောင်းကောက်။ စစ်ကိုင်းခရိုင်။ စစ်ဘုရင်ကစားခြင်း။ စိန်ပန်းပင်နှင့် ဆံထုံး ရောင်စုံပုံများ |
| ဦးချန်ထွန်း | ရန်ကုန်မြို့ | ၃၁၉ |
| ဦးဂုဏ်ဘဏ် | ရန်ကုန်မြို့ | ၈၈ |
| မောင်စောမောင် | ရန်ကုန်မြို့ | ၈၂ |
| ဦးစို | ရန်ကုန်မြို့ | ၂၅။ ၂၆။ ၃၁။ ၁၀၀။ ၁၀၁။ ၁၂၈။ ၁၆၃။ ၁၆၄။ ၁၇၀။ ၂၁၅။ ၂၆၅။ ၂၈၇။ ၃၁၇။ ၃၄၀။ ၃၇၆။ ၃၉၆။ ၄၀၅။ ၄၀၈။ ၄၁၈။ ၄၁၉ |
| ဦးစံသင် | မြောင်းမြမြို့ | ၇၂။ ၂၄၂။ ၂၆၇။ ၄၀၈။ ၄၁၄ |
| တင်တင်ဝင်း | ဇလွန်မြို့ | ၃၁၆ |
| ဦးတင်မောင် | ရန်ကုန်မြို့ | ၅၆ |
| တင်မောင်အေး | ရန်ကုန်မြို့ | ၂၂၄ |
| ကိုတင်အေး | ရန်ကုန်မြို့ | ၅၀ |
| ဦးထင်ကြီး | ရန်ကုန်မြို့ | ၉၆။ ၂၇၁။ မြင်းခင်းပွဲတော်ရောင်စုံပုံ |
| ဦးထွန်းကြိုင် | မြိတ်မြို့ | ၁၂၉။ ၁၃၀။ ၁၃၁။ ၄၀၃။ ၄၀၄ |
| ဦးထွန်းအောင် | မန္တလေးမြို့ | ၆၇။ ၇၄။ ၁၈၆။ ၂၁၂ |
| ဦးဒေါင်းစိန် | ရန်ကုန်မြို့ | ၇၅ |
| ဦးပုထွေး (ညိုနွဲ့) | ဖန်းမော်မြို့ | ၇၇ |
| ပူရန်းချန္ဒရာ | ပျဉ်းမနားမြို့ | ၃၁၅ |
| ဒေါ်ဖွားသုံ | ရန်ကုန်မြို့ | ၂၅၄။ ၂၅၅ |
| ဗစ်တာစံစီပိုး | ရန်ကုန်မြို့ | ၈၄ |
| ဦးဘသောင် | စစ်ကိုင်းမြို့ | ၈၁။ ၁၅၄။ ၁၆၃။ ၁၆၉ |
| ဗြိတိသျှပြတိုက် | လန်ဒန်မြို့ | ၄၂၈။ ၄၂၉။ ၄၃၀။ ၄၃၅ |
| မစ္စစ်ဘေလေ | လန်ဒန်မြို့ | ၃၉၀။ ၄၃၁။ ၄၃၂။ ၄၃၄ |
| ဦးဘိုးချစ် | ရန်ကုန်မြို့ | ၁၀၄ |
| ဦးမောင်ညွန့် | ရန်ကုန်မြို့ | ၁၄၃ |
| မလှသန်း | ရန်ကုန်မြို့ | ၈ |
| ဝိတိုရိယနှင့်အယ်လဘတ်ပြတိုက် | လန်ဒန်မြို့ | ၃၉၂။ ၄၃၀။ ၄၃၆။ ၄၃၇ |

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
| --- | --- | --- |
| ဦးသာနိုးအောင် | စစ်တွေမြို့ | ၁၅။ ၁၇ |
| ဦးသာမြတ် | ရန်ကုန်မြို့ | အကျွရာစာလုံးများ |
| ဦးသောဘိတ | စစ်ကိုင်းမြို့ | ၆၃။ ၁၆၃။ ၂၆၅ |
| ဦးသခေါ | တပ်ကုန်းမြို့ | ၁၅၂။ ၁၅၃ |
| ဦးသောင်းဟန် | မြန်အောင်မြို့ | ၄၄၄ |
| ကိုသန်းထွန်း | ကျောက်ဆည်မြို့ | ၃၄၁ |
| ဒေါ်သန်းမြ | ရန်ကုန်မြို့ | ၅၆ |
| ဒေါ်သန်းမြင့် | ရန်ကုန်မြို့ | ၅၈ |
| ဒေါက်တာသိမ်းမောင် | ရန်ကုန်မြို့ | ၆၂ |
| ဦးအောင်မြင် | ရန်ကုန်မြို့ | ၈၊ ဦး၊ မြဝတီဝန်ကြီး (အတွဲ ၃) |
| ဦးအောင်သိန်း (တိုင်းလုံးကျော်) | ရန်ကုန်မြို့ | ၇၉ |
| ဦးအုန်းခင် | မြန်အောင်မြို့ | ၄၄၅ |
| ဦးအုန်းမြင့် | မန္တလေးမြို့ | ၂၆၆ |
| နယူးပစ်ဓာတ်ပုံတိုက် | ရန်ကုန်မြို့ | ၆။ ၂၇။ ၂၈။ ၂၉။ ၈၅။ ၁၅၂။ ၁၇၂။ ၂၃၂။ ၃၄၉။ ၄၀၄ |
| ဗမာ့လျှပ်စစ်ဓာတ်ပုံတိုက် | မော်လမြိုင်မြို့ | ၂၈၈ |
| မြဓာတ်ပုံတိုက် | ရွှေကျင်မြို့ | ၂၃၃။ ၃၂၅ |
| မြို့မဓာတ်ပုံကူးတိုက် | ရန်ကုန်မြို့ | ၇၀။ ၃၇၈။ ၄၆၉ |
| ရွှေလုံဘရားသား | ရန်ကုန်မြို့ | ၁၈၅ |
| ဝင်းဓာတ်ပုံတိုက် | မြစ်ကြီးနားမြို့ | ၁၀၈။ ၁၀၉ |
| ဘီး၊ စီ၊ မဒါး ဘရားသား | ရန်ကုန်မြို့ | ၂၈၃ |
| အင်ပါယာဓာတ်ပုံတိုက် | မေမြို့ | ၂၈၉ |
| အောင်သပြေဓာတ်ပုံတိုက် | ညောင်တုန်းမြို့ | ၃၇၅ |

# ရှေးအကျဆုံးကြိုးတပ်တူရိယာ

စောင်းတူရိယာအကြောင်း သိမှတ်ဖွယ်ရာအပြာပြာတို့ကို အင်္ဂလိပ်ဘာသာကျမ်း၊ မြန်မာကျမ်းအစောင်စောင်တို့မှ ကောက်နုတ်၍ ဤစာမူတွင်ဖော်ပြထားသည်။ အီဂျစ်၊ဗက်ဗီလုံး၊ဆူမား၊ပါးရှား၊အိန္ဒိယ၊ဂျာဗားစသော နိုင်ငံအသီးသီးတို့တွင် အလွန်ရှေးကျသောခေတ်မှစ၍ စောင်းတူရိယာကို တီထွင်ခဲ့ကြ၏။ မြန်မာနိုင်ငံ၌ ပုဂံမြို့အာနန္ဒာဘုရားကျောက်ရုပ်တို့တွင် စောင်းကောက်ပုံကို တွေ့ရှိရခြင်းအားဖြင့် ပုဂံခေတ်ကတည်းက စောင်းကောက်သည် ခေတ်စားလျက်ရှိကြောင်း ထင်ရှားပေသည်။

စောင်းကောက်။ ။စောင်းကောက်သည် ကမ္ဘာပေါ်ရှိ တူရိယာများ အနက် ရှေး အကျဆုံး တူရိယာတမျိုး ဖြစ်သည်။ ရှေးပဝေဏီလူတို့သည် အမဲလိုက်ရာတွင် လေးမြားတို့ကို အသုံးပြုကြသည့်အချိန်မှစ၍ စောင်းတူရိယာကို စတင်တီထွင်လာကြသည်ဟု ကမ္ဘာ့ပန်တျာ သုတေသနပုဂ္ဂိုလ်ကြီးများက ယူဆကြသည်။ ယနေ့ကမ္ဘာပေါ်ရှိ လူမျိုးအသီးသီး အသုံးပြုနေကြသည့် စောင်းပုံ အမျိုးမျိုးကို အကြမ်းအားဖြင့်ခွဲခြားလျှင်၊ လေးကိုင်းပုံ စောင်း နှင့် တြိဂံပုံ စောင်းဟူ၍ စောင်းအမျိုးအစား နှစ်မျိုးရှိလေသည်။

စောင်းအမျိုးအစားနှစ်မျိုးရှိသည့်အနက် လေးကိုင်းပုံ စောင်းအမျိုးအစားသည် တြိဂံပုံ စောင်း အမျိုးအစားထက် ရှေးကျကြောင်းသိရှိရပေသည်။ ကမ္ဘာပေါ်တွင် လေးကိုင်းပုံသဏ္ဍာန်စောင်းကောက် အမျိုးအစားသည် ရှေးခေတ် အီဂျစ်နိုင်ငံ၊ ရှေးခေတ် အိန္ဒိယတိုင်းနှင့် ရှေးခေတ်ဂျာဗားကျွန်းတို့တွင် ပေါ်ထွန်း ခေတ်စားခဲ့ကြောင်းတွေ့ရှိရသည်။ မြန်မာနိုင်ငံ၌မူ ယခုတိုင် စောင်းကောက်ကို မြတ်နိုးနှစ်သက်စွာ တီးလျက်ရှိကြသည်။ စောင်းကောက်များသည် ဘီစီ ၃၀၀၀ ခန့်မှစ၍ ဆူမားပြည်နှင့်အီဂျစ်ပြည်ရှိ အရပ်ဒေသများမှစတင်၍ ပေါ်ပေါက်ထွန်းကားလာဟန်ရှိသည်။ ရှေးအကျဆုံးအီဂျစ်စောင်းမှာ ကြိုးတချောင်းသာလျှင် တပ်၍၊ စစ်တိုက်သည့်အချိန်အခါများ နှင့်ရန်သူများနောက်သို့လိုက်သည့်အခါများတွင်တီးကြကြောင်း သိရှိရသည်။ အိန္ဒိယတိုင်း၊ ပါဋလိပုတ်ပြည်၌ ခရစ် ၃၃၀ ပြည့်နှစ်တွင် နန်းတက် စိုးစံသော သမုဒြဂုတ္တမင်းလက်ထက်က သွန်းလုပ်ခဲ့သော ဒင်္ဂါးများပေါ်တွင် စောင်းကောက် တီးနေပုံကို တွေ့ရသည်။ ဂျာဗားကျွန်းသို့ အိန္ဒိယတိုင်းသားတို့ ၅ ရာစုနှစ်လောက်တွင် သွားရောက် နေထိုင်ကြရာ၊ စောင်းကောက်စသော တူရိယာများ ပါရှိသွားဟန်တူ၏။

ဂျာဗား ကျွန်းတွင် ၈ ရာစုနှစ်ခန့်လောက်က တည်ထားခဲ့သော ဗိုးရိုဗူဒူး စေတီတော်ကြီး၏ ပစ္စယာအဆင့်ဆင့်၌ရှိသော တမော့ကျောက်ရုပ်များတွင် စောင်းကောက်ပုံများကို တွေ့ရသည်။ ထိုစောင်းကောက်ပုံများအချို့တွင် မြန်မာစောင်းကောက်များမှာကဲ့သို့ စောင်းကြိုးများကို ဘွဲ့ကြိုးဖြင့် ချည်နှောင်သည်ကိုတွေ့ရသည်။

ခရစ်တော်မပေါ်မီ ၆ ရာစုနှစ်လောက်က အာရပ်လူမျိုးများသည် စောင်းတူရိယာကို 'စက်က' ဟုခေါ်ဝေါ်ကြ၏။












လူမျိုးအသီးသီးအသုံးပြုခဲ့ကြသောရှေးခေတ်စောင်းများ




ပုံ ၁။ မြန်မာစောင်းကောက်အင်္ဂါအစိတ်အပိုင်းနှင့် ဝေါဟာရများ

ဟူသောယုံကြည်ချက်နှင့် ကြိုး ၇ ချောင်းမှကြိုး ၁၃ ကြိုးတီးသော စံနစ်ကို မြဝတီမင်းကြီး တီထွင်ခဲ့သည် ဟူသော ယုံကြည်ချက် နှစ်ရပ်မှာ မခိုင်မာသော ယုံကြည်ချက်များသာဖြစ်ပေသည်။

ရှေးအခါက မြန်မာစောင်းများ၌ ကြိုး ၇ ချောင်းတပ်ဆင်၍ တီးမှုတ်ကြသည်ဟူ၍ ယုံကြည်ချက်ဖြစ်ပေါ်လာခဲ့ခြင်း အကြောင်းရင်းမှာ ပုဂံခေတ်အခါက အိန္ဒိယ ပန်တျာနှင့် စပ်ဆိုင်သည့် အကြောင်းအရာများ ပါရှိသောအိန္ဒိယကျမ်းများမှ တဆင့် မြန်မာဘာသာသို့တိုက်ရိုက်ဘာသာပြန်ဆိုကြစဉ်က 'ဝီဏာ' ခေါ်ကြိုး ၇ ချောင်းတပ်အိန္ဒိယတူရိယာတမျိုးကို 'စောင်း' ဟူ၍ဘာသာပြန်ဆိုခဲ့သောကြောင့်ဖြစ်သည်။

ထိုဝေါဟာရသည် ရှေးအကျဆုံးခေါ်ဝေါ်သော ဝေါဟာရဖြစ်ရုံမျှမက၊ ယင်းဝေါဟာရမှ တဆင့် စောင်း တူရိယာကို ဂရိဘာသာအားဖြင့် 'စန် ဘိ ကိ' ဟူ၍၎င်း၊ လက်တင်ဘာသာအားဖြင့် 'စန်ဘုက' ဟူ၍၎င်း၊ ပါးရှင်းဘာသာအားဖြင့် 'ချန်း (ခ)' ဟူ၍၎င်း၊ ယခုအာရပ်ဘာသာ အားဖြင့် 'စဲ (န်)' ဟူ၍ အသီးသီးဆင်းသက်လာခဲ့လေသည်။ မြန်မာလူမျိုးများ၏ 'စောင်း' ဟူသော ဝေါဟာရမှာလည်း အဆိုပါအာရပ်နှင့်ပါးရှင်းဝေါဟာရများမှတဆင့် ဆင်းသက်လာသည်ဟု ယူဆရသဖြင့် ယနေ့မြန်မာ့စောင်းကောက်များသည် အာရပ်နှင့်ပါးရှင်းလူမျိုးများထံမှ အိန္ဒိယမှ တဆင့် လက်ခံရရှိလိုက်ဟန်ရှိသည်။

ယနေ့ မြန်မာ့စာပေကျမ်းဂန်များတွင်ဖော်ပြပါရှိသော ဗေလုဝစောင်း၊ ဂုတ္တိလစောင်း၊ ဥတိန္နစောင်း၊ မင်းကုသစောင်းများသည် မြန်မာနိုင်ငံတွင် အသုံးပြုနေသည့် မြန်မာစောင်းကောက်မျိုးများမဟုတ်ဘဲ၊ အိန္ဒိယပြည်တွင်ရှေးပဝေဏီမှပေါ်ပေါက်ခေတ်စားလာခဲ့၍၊ ယနေ့တိုင် သုံးစွဲနေသော ကြိုး ၇ ချောင်းတပ် 'ဝီဏာ' ခေါ် အိန္ဒိယတူရိယာတမျိုးပင် ဖြစ်ဟန်တူသည်။ မြန်မာနိုင်ငံတော်တွင် ကျန်စစ်မင်းတည်ထားခဲ့သော ပုဂံ အာနန္ဒာစေတီတော်အတွင်းရှိ နံရံကပ်ကျောက်ရုပ်တုတော်များတွင် စောင်းကောက်ပုံ တပုံကို အစောဆုံးတွေ့ရှိရခြင်းအားဖြင့်၊ ပုဂံခေတ်အခါကတည်းကပင် မြန်မာနိုင်ငံ၌ စောင်းကောက်များ ခေတ်စားခဲ့သည်မှာ ထင်ရှားပေသည်။

ယနေ့ မြန်မာ့ ပန်တျာလောက၌မြန်မာစောင်းကောက်များတွင် ရှေးအခါက ကြိုး ၇ ချောင်းဖြင့်သာ တီးခဲ့ကြသည်

သက္ကရာဇ် ၉၀၄ ခုနှစ် အရှင် အဂ္ဂ သမာဓိ ရေးသားတော်မူခဲ့သည့် နေမိဘုံခန်းပျို့၊ ဖလိကဝိမာန ဘုံခန်းအကြောင်းဖွဲ့နွဲ့စပ်ဆိုရာ၌ 'မှုတ်တီး ညှင်းစောင်း၊ ရွှေနင်းနှောင်းနှင့်မိ

ခုနစ်သံလည်ပုံစံ

ဤ ၇ သံအားလုံးကိုလှည့်၍ အသံပြောင်းသွားသော (ဘုန်းတော်တေဇာ ဝေဖြာမိုးလို့ ထွန်းရာဇိန်) အစချီ ၇ သံလည်ကြိုးဟူ၍ ယခုတိုင်ရှိသော်လည်း၊ ယခုအခါစောင်းတီးရာ၌ ညှင်းလုံး၊ အောက်ပြန်၊ ပုလဲ၊ မြင်စိုင်း ဤ ၄ သံကိုသာ သံမှန်သံချထား၍တီးကြသည်ကို တွေ့ရ၏။



ကျောင်းပြိုင်ဆော်၊ ပြည်တော်ပုလဲ၊ အောက်ပြန် လွှဲလျက်' ဟူ၍ရင်း၊ ပတ္တမြား ဘုံခန်း အကြောင်း ဖွဲ့နွဲ့ စပ်ဆိုရာ၌ 'သံလေး ချည်ချောင်း၊ သာသည့်စောင်းနှင့်၊ မိကျောင်းညှိလှုပ်၊ငြင်းလက်အုပ်လည်း၊ချုပ်ကန့်နွဲ့၊ ပုလဲအောက်ပြန်၊ပြည်တော်လှန်လျက်၊တဖန်နှိုင်းထောက်၊မြင်စိုင်းကောက်၍' ဟူ၍စပ်ဆိုသီကုံးခဲ့ခြင်းကို အထောက်အထားပြု၍၊အင်းဝခေတ်စောင်းတူရိယာများကို ကြိုး ၁၃ ချောင်းတပ် စံနစ်ဖြင့် ညှင်းလုံး၊ အောက်ပြန်၊ပုလဲ၊မြင်စိုင်းအစရှိသည့်သံစဉ် ၇ မျိုး ပြောင်းလဲတီးခဲ့ကြကြောင်း သိသာထင်ရှားလေသည်။ ထိုပြင် လွန်ခဲ့သောနှစ်ပေါင်း ၃၅၀၀ လောက် ကတည်းကပင် အီဂျစ်စောင်း ကောက်များတွင် ကြိုး ၈ ချောင်းကိုဘွဲ့ကြိုးများဖြင့် ချည် လျက် တီး ခဲ့သည် ကို တွေ့ ရှိ ရသည်တကြောင်း၊ အိန္ဒိယပြည် ဘာရဟုတ်မြို့ ဘုရားရှိခိုး ကျောင်း ရုပ်လုံးတု များ တွင် တွေ့ရှိရသည့် အိန္ဒိယစောင်း ကောက်များ၌ ကြိုးအများ အပြားပါရှိသည်ကိုတွေ့ရခြင်းအားဖြင့်၊ အိန္ဒိယစောင်းကောက်များမှာ လွန်ခဲ့သည့်နှစ်ပေါင်း နှစ်ထောင်ကျော်ကတည်းကပင်ကြိုး အများအပြား တပ်လျက် တီး ခဲ့သည့်ကိုတွေ့ရှိရသည်တကြောင်း၊ အာရပ်လက်အောက်ခံ အယ်လဟီးရော့နယ်၌တွေ့ရှိသည့် ဖြ ရာစု ခေတ် အခါ လောက် က စောင်းများ၌ ကြိုး ၁၃ ကြိုးမှ ကြိုး ၄၀ အထိ တပ်ဆင်ထားသည်ကို သိရှိရသည့် တကြောင်းကြောင့်၊ မြန်မာနိုင်ငံတွင် ပုဂံခေတ်အခါလောက်ကတည်းကပင် စောင်းကောက်များ၌ကြိုး ၁၃ ကြိုး တပ်လျက်တီးနေကြပြီ ဟူ၍ယူဆရသည်။

စောင်းကောက်လက်ရုံးတွင် ကြိုးများ ချည်ရာ၌ ဘွဲ့ကြိုးဖြင့်ရင်း၊ သို့မဟုတ် လက်ရုံးကို အပေါက်ဖောက်၍ ဒလက်များတပ်၍ရင်း ချည်ကြသည်။ ကြိုးချည်နည်းများအနက်စောင်းလက်ရုံးကြိုး လျော့မကျစေရန် အထစ်များ ပြုလုပ်၍ ချည်နည်းမှာ ရှေးအကျဆုံး ချည်နည်းဖြစ်သည်။ ထိုချည်နည်းမှတဖန် ယခုမြန်မာ့စောင်းများတွင် ဘွဲ့ကြိုးဖြင့်ဗူးလည်သီးခတ်ချည်နည်းသို့ကူးပြောင်းလာခဲ့သည်။ မြန်မာနိုင်ငံ အနီးအနားတဝိုက် တိုင်းပြည်များ တွင် တွေ့ရှိရသော ရှေးစောင်းကောက်များမှာ အများအားဖြင့် ဘွဲ့ကြိုးများဖြင့်သာလျှင်ချည်ကြလေသည်။ မြန်မာနိုင်ငံတွင် စောင်းလက်ရုံးကိုအပေါက်ဖောက်၍ဒလက်များတပ်လျက်ကြိုးချည်ထားသည့် စောင်းမျိုးတမျိုး တွေ့ရှိရသည်။ ထိုစောင်းမျိုးကို ပဲခူးရိုးမတဝိုက်ရှိ စကောကရင်လူမျိုးများနှင့် ရှမ်းပြည်နယ်အချို့အရပ်ဒေသများရှိ ရှမ်းလူမျိုးများ တီးကြသည်။







ပုံ ၂။ သံစဉ် - ၄ - မျိုး၌စောင်းကြိုးညှိထားပုံ။

ပုဂံခေတ်အခါ၌ စောင်းတူရိယာနှင့်ယှဉ်တွဲ၍၊ ငြင်း၊ ကန့်လန့်ဖြတ် ပြွေများ ဖြင့် တီးမှုတ် လေ့ရှိကြောင်းလည်း သိရပေသည်။ • မှန်နန်း မဟာရာဇဝင်တော်ကြီး၊ မန္တလေးတိုင်းပဌမတွဲစာအုပ်၊စာမျက်နှာ ၂၀၅၊ ရတနသိဒ္ဓိ ပဌမတွဲ စာအုပ်စာမျက်နှာ ၂၂၄ တွင် သုမုန္ဒရီ ဖြိုးကြွင်းသက္ကရာဇ် ၇၉ ခုနှစ်နန်းတက်တော်မူသော ပျူစောထီးမင်း နန်းတက်ပွဲအခမ်းအနား၌ စောင်းတူရိယာတီးကြောင်း တွေ့ရှိရခြင်းဖြင့်၎င်း၊ မှန်နန်းရာဇဝင်တော်ကြီး၊ ပဌမတွဲ စာအုပ်စာမျက်နှာ ၂၈၂၊ ရတနသိဒ္ဓိ ပဌမတွဲ စာအုပ်စာမျက်နှာ ၃၁၆ တွင် သက္ကရာဇ် ၄၅၄ ခုနှစ်နန်းတက်တော်မူသော အလောင်းစည်သူမင်းကြီး၏မိဖုရားကြီး ၄ ပါးတို့၏နန်း တော်ဆောင် များ ၌ မိန်းမစည်၊ မိန်းမပတ်၊ မိန်းမစောင်း၊ မိန်းမငြင်းတို့ဖြင့် မပြတ်ဖျော်ဖြေ တီးကြရကြောင်းတွေ့ရှိရသဖြင့်၊ ပုဂံခေတ် မင်းခမ်း မင်းနားများ တွင် စောင်း တူရိယာများ တီး ကြောင်း သိရှိရ၏။ ‘ ချစ် တဲ့သူငယ် လေ၊ သူငယ်ချင်း ငယ် ကောင်း ယောင်း မတို့တော်၊ မဲလည်ပင်နှင့် ဒန်းပင်နွဲ့ နှောင်း၊ ယှက်ခါငယ်ပေါင်း’ အစချီသုံးထောင့်အိုင်ချင်းတပုဒ်၌ ‘စုန်မဲ့ဆို စုံမဲ့ရက်၊ဆက်ဆက်မစုန်လို၊ တီးသည့်စောင်းနှင့်လောင်းသည့်ကြက်ကိုပိုက်လို့ငယ်ငို၊ မောင့် ကို ကုန်သွား၊ ထဲ့သလားတော်’ ဟူ၍ ရေးသားထားခဲ့ခြင်းဖြင့်၊ရှေးအခါကပင် စောင်းတူရိယာများကို မင်းခမ်း မင်းနား သဘင် များတွင် တီးကြရုံသာမက၊ တောင်သူလယ်သမားဆင်းရဲသားပိုင်းများ၌လည်း ခေတ်စားလျက်ရှိကြောင်းသိရှိရပေသည်။

ရှေးအစဉ်အဆက်မှဆင်းသက်၍ ကုန်းဘောင်ခေတ်ဦးပိုင်းတွင် မိမိတို့တီးသောစောင်း တူရိယာများကို ‘ ကရဝိတ်သံ၊ မြခြူသံ၊ ဇီဝစိုး၊ သစ်ကနက်၊ သန်းခေါင်ကျူး၊ သန်းခေါင်မောင်း၊ စံရှား ’ အ စ ရှိသည့် အမည် နာ မမျိုး များ မှည့်၍ စောင်းအိုး၏အနောက်ဖက်၌ ကမ္ပည်းစာတမ်း ထိုးလေ့ရှိကြသည်။ အတွင်းတော်များ၌ စောင်းတူရိယာများကို လက်ဝဲစောင်း၊ လကျာစောင်းဟူ၍ ခွဲခြားတီးကာ ဖျော်ဖြေကြရသည်။ သက္ကရာဇ် ၉၇၁ ခုနှစ်တွင် နန်းတက်တော်မူသော တောင်ငူဘုရင် နတ်သျှင်နောင်၊ သက္ကရာဇ် ၁၁၈၁ ခုနှစ် နန်းတက် တော် မူသော ဘကြီးတော် ဘုရား၊ သက္ကရာဇ် ၁၁၉၉ ခုနှစ် နန်း တက် တော် မူသော သာယာဝတီမင်း ခေါ် ရွှေဘိုမင်း၊ အနောက်နန်း မတော် မမြလေး၊ မြဝတီဝန်ကြီး ဦးစတို့သည် စောင်း အတီး ပညာကို ကိုယ်တိုင် လေ့လာ လိုက်စားဆည်း ပူး ခဲ့ သည် မျ ား ကို အ ထော က် အ ထား ပြု လျ က် အင်းဝခေတ်နှင့် ကုန်းဘောင်ခေတ် အခါ၌ ရှင်ဘုရင် မှ စ၍ မင်းညီမင်းသားများကိုယ်တိုင် စောင်းတီးခြင်းကိုအမြတ်တနိုးလေ့လာလိုက်စားခဲ့ကြောင်း သိသာထင်ရှားပေသည်။

မြန်မာ စောင်း ကောက်မှာ အရှယ် အားဖြင့် နှစ်စားရှိသည်။ ယောကျ်ားတီးစောင်းမှာ ကြီး၍၊ မိန်းမတီးစောင်းမှာ ငယ်သည်။ မြန်မာစောင်းကောက်များတွင် တပ်ဆင်ထားသောကြိုး ၁၃ ကြိုးကို အထက်ဆုံးမှ အောက်ဆုံးကြိုးအထိ အသံကြီးစဉ်ငယ်လိုက် (၁)အထက်ဒုန်း (၂)နှစ်ပင်ဒုန်း (၃)သုံးပင်ဒုန်း (၄)လေးပင်ဒုန်း (၅)ငါးပင်ဒုန်း (၆)ဒုန်း လက်ညှိုး (၇)နှစ် ပင်ဒုန်း လက်ညှိုး (၈)သုံးပင်ဒုန်းလက်ညှိုး (၉)တျောကြိုး (၁၀)တျောကြိုး (၁၁)တျာကြိုး (၁၂)သံကျပ်ကြိုး (၁၃)သံဖျားကြိုးဟု ညွှင်းလုံးသံစဉ်ညှိ၍တီးသည့်အခါခေါ် ဝေါ်ကြသည်။ ယင်းကြိုးအခေါ်အဝေါ် များ သည် ညွှင်းလုံး သံစဉ်ဖြင့် ညှိထားသောအခါ၌သာ ခေါ် သောအမည်များဖြစ်၏။ အခြားသံစဉ်များဖြင့်ညှိသောအခါတွင် ကြိုးအခေါ် အဝေါ် များပြောင်းလဲသွားတတ်သည်။ ယခုအခါ များသောအားဖြင့် အပေါ် ဆုံးတွင် တကြိုးတင်ကာ ၁၄ ကြိုးတပ်၍တီးကြသည်။ ရှေးအခါက စောင်း အတီး ပညာကို သင်ကြား ရာ၌ ရှေးဦး စွာ ကြိုးရှိ အသံအနေအထားနှင့် ကြိုးအတွဲအဖက်များကိုလေ့လာသင်ကြားနိုင်ရန် သီချင်းအားဖြင့် ဖွဲ့နွဲ့ စီကုံးသော အလေ့အထမှ စတင်၍၊ ကြိုးသီချင်းဟူသောသီချင်းအမျိုးအစားများ မြန်မာ့ပန်တျာလောကတွင်ပေါ် ထွန်းခဲ့ရလေသည်။ (ကြိုးသီချင်း — ရှု။) စောင်းကို သင်ရာတွင် အသံတူကြိုးတွဲတို့ အပြင် အသံမတူဘဲတွဲဖက်ရသော ၃ ကြိုးတွဲဌာန်၊ ၄ ကြိုးတွဲဌာန်၊ ၅ ကြိုးတွဲဌာန်၊ ၇ ကြိုးတွဲဌာန်၊ ၉ ကြိုးတွဲဌာန်ဟူ၍ အ မျိုး မျိုး ရှိ သည့် အ ပြင်၊ ဒျန့်ခေါ် ကြိုး တွဲ နည်း လည်း ရှိလေသည်။

စောင်းတီးရာ၌ ‘ ညှင်းလုံးသံစဉ်၊ အောက်ပြန်သံစဉ်၊ ပုလဲသံစဉ်၊ မြင်စိုင်းသံစဉ်၊ ဒူရကသံစဉ်၊ ခြောက်သွယ်ညွန့် သံစဉ်၊ ပြည်တော်ပြန်သံစဉ်’ ဟူ၍ သံစဉ် ၇ မျိုးခွဲခြားလျက် ကြိုးများကိုပုပြင်ပြောင်းလဲတီးကြ၏။ ဤကဲ့သို့စောင်းများတွင် သံစဉ် ၇ မျိုးဖြင့်ခွဲခြားတီးသော အစဉ်အလာတရပ်မှာ လွန်ခဲ့သည့်နှစ်ပေါင်းလေးရာကျော်ကပေါ် ထွန်းခဲ့ကြောင်း ခိုင်မာစွာသိရှိရသည်။ ထိုသံစဉ် ၇ မျိုးအနက် ဒူရကသံစဉ်၊ ခြောက်သွယ်ညွန့် သံစဉ်၊ ပြည်တော်ပြန် သံစဉ် ၃ မျိုးတီး သည့်အလေ့အထမှာ ကွယ်ပျောက်တိမ်ကောခဲ့လေပြီ။ သံစဉ် ၃ မျိုးတီးသည့် အလေ့အထ ကွယ်ပျောက် သွားခဲ့သော် လည်း၊ အဆိုပါသံစဉ် ၃ မျိုး၏တီးနည်းမှာ ကျန်ရှိနေသောညှင်းလုံး၊ အောက်ပြန်၊ပုလဲ၊မြင်စိုင်းသံစဉ်များ၌တီးသည့်နည်းအတိုင်းပင်ဖြစ်လေသည်။ ကျန်ရှိနေသော သံစဉ်များနှင့် ကွယ်ပျောက်သွားသောသံစဉ်များ၏ကွာခြားချက်မှာ အသံအစီအစဉ် အနေ အထား အား ဖြင့် ကွာခြားခြင်း မရှိဘဲ၊ အသံအနိမ့်အမြင့်သာလျှင်ကွာခြားလေသည်။ ယနေ့ တီးနေကြသောစောင်းသံစဉ် ၄ မျိုး၌ စောင်း ကြိုးများတွင် မည်သည့်အသံများညှိထားပုံနှင့် မည်သည့် သံစဉ်မှ မည်သည့်သံစဉ်သို့ မည်ကဲ့သို့ အသံများ ကူး ပြောင်း၍ ညှိပုံ ညှိနည်းများကို ပုံ



နိုင်ငံတော်အစိုးရပန်တျာကျောင်းတွင် စောင်းတီးအတတ်ကို
ဤသို့စံနစ်ကျစွာ သင်ကြားပေးလျက်ရှိပေသည်။

အမှတ် ၂ တွင် သင်္ကေတများဖြင့်ဖော်ပြထားသည်။ စောင်းညှိပုံ ညှိနည်းများ ဖော်ပြရာ၌၊ အသံအနိမ့်အမြင့်အားဖြင့် သိသိသာသာပြောင်းလွဲညှိရသော အသံများကိုသာ ဖော်ပြထားလေသည်။ ဖော်ပြထားသည့် အသံစဉ်တမျိုးမှ တမျိုးသို့ကူးပြောင်းညှိနည်းအတိုင်း ကြိုးများညှိလျှင် အသံစဉ်ရှိအသံများ ရာခိုင်နှုန်းပြည့် ကိုက်ညီနိုင်မည် မဟုတ်ချေ။ သံစဉ်အလိုက် ကြိုးရှိ အသံ နှစ်သံသုံးသံလောက်ကို မသိမသာအနည်းငယ်ပြုပြင်ပေးဖို့လိုလေသည်။

စောင်းသံစဉ်အမျိုးအစားအလိုက် သီချင်းအမျိုးအစားများကိုခွဲခြားသီဆိုတီးမှုတ်သော အစဉ်အလာတရပ်ရှိသည်။ ညွှင်းလုံးသံစဉ်တွင် ကြိုး၊ ဘွဲ့၊ သီချင်းခံများကိုရင်း၊ အောက်ပြန်သံစဉ်တွင် ပတ်ပျိုး၊ လေးထွေသံကပ်၊ မြင်းခင်း၊ လောကနတ်သံ၊ နတ်ချင်းများကိုရင်း၊ ပုလဲသံစဉ်တွင် ယိုးဒယား၊ မွန်၊ ဘောလယ်၊ ရှေးသံဆန်းများကိုရင်း၊ မြင်စိုင်းသံစဉ်တွင် တေးထပ်၊ ရှစ်ဆယ်ပေါ်၊ ဒိန်းသံ သီချင်းများကိုရင်း သီဆိုတီးမှုတ်လေ့ရှိကြသည်။

ရှေးမြန်မာတူရိယာများဖြစ်သော စောင်း၊ ဆိုင်း၊ ပတ္တလား၊ မိကျောင်းအစရှိသည့်တူရိယာများအနက်၊စောင်းဖြင့်တီးသော စောင်းတီးကွက်သည် အထင်ရှားဆုံးနှင့် အခန့်ညားဆုံးတီးကွက်ဟူ၍ ရှေးမြန်မာ့ပန်တျာလောကမှစတင်၍ အသိအမှတ်ပြုခြင်းခံခဲ့ရပေသည်။

စောင်းကောက်၏သက်ဆိုင်ရာ အစိတ်အပိုင်း ဝေါဟာရများကို ပုံအမှတ် ၁ တွင် ဖော်ပြထားသည်။ စောင်းအိုးကို အများအားဖြင့် ပိတောက်အနှစ်သားဖြင့် ပြုလုပ်ကြသည်။ စောင်းအိုးကို ပြုလုပ်ရာ၌ အထူ ၃ ချက်၊အပါး ၃ ချက်ရှိရသည်။ အထူ ၃ ချက်မှာ (၁)စောင်းအိုး၏ကျော (၂)လက်ရုံးနှင့်စောင်းအိုးဆက်ထားသည့်စောင်းဦးပိုင်း (၃)ဇီလားခေါ် စောင်း၏ပဲ့ပိုင်းတို့ဖြစ်၍၊အပါး ၃ ချက်မှာ စောင်းဘေးနှစ်ဖက်နှင့် သမင်ရေတို့ပင်ဖြစ်လေသည်။ စောင်းလက်ရုံးနှင့် စောင်းအိုးဆက်ထားသော အပိုင်းမှာ (လှေ) စံကားရွက်သဏ္ဌာန်ပြုလုပ်၍၊ စောင်း၏ပဲ့ပိုင်းမှာ ဖလားသဏ္ဌာန်ပြုလုပ်ရသည်။ ဤသည်ကိုရည်၍ ရှေးပညာရှင်တို့က 'ရှေ့စကား၊နောက်ဖလား' ဟူ၍ဆိုကြ၏။ လက်ရုံးထိပ်စွန်းတွင် ညောင်ရွက်ရှိရသည်။ စောင်းလက်ရုံးကို ရှားသားဖြင့်ပြုလုပ်ကြသည်။ စောင်းလက်ရုံးပြုလုပ်ရာ၌ သစ်အကြောကိုလိုက်၍ပြုလုပ်ကြရခြင်းကြောင့် (၁)သဇင်ခွေ (၂)မျောက်ထိုင် (၃)ငါးများချိတ်ဟုခေါ်သော စောင်းလက်ရုံးပုံ အမျိုးအစား ၃ မျိုးရှိသည်။ အချို့ပညာရှင်များက ၄ မျိုးရှိသည်ဟုဆိုကြသည်။ ယင်းတို့မှာ မျောက်ထိုင်၊သဇင်ခွေ၊လေးကြိုး၊သံလျက်စွန်းဟူ၍ဖြစ်သည်။ အချို့ပညာရှင်တို့က ငါးများချိတ်ခေါ် စောင်းလက်ရုံးပုံ အစားမှန်ပြလက်ရုံးပုံဟုခေါ် ဆိုကြသည်။

စောင်းခွက်ကိုထွင်းပြီးလျှင်၊ စောင်းအိုးထိပ်ကို သမင်ရေဖြင့်အုပ်ရသည်။ စောင်းသားရေကို ပြန်လည်လျော့ကျမသွားစေရန် အများအားဖြင့် မိုးတွင်း ဝါဆို ဝါခေါင်အချိန်အခါ၌ကျက်ကြသည်။ ဘွဲ့ကြိုးကိုပြုလုပ်ရာ၌ ရှာချည်ကိုသုံးလွန်းတင်ကျစ်၍ အဖျားတွင်ပန်းပွားတပ်ကြသည်။ စောင်းကြိုးကို ခင်ဝါပိုးရိုင်း သို့မဟုတ် ခင်ကြီးပိုးဖြင့် စောင်းအသံအနေအထားအလိုက် ကြိုးလုံးအကြီးအသေး ကျစ်လျက် တပ်ဆင်တီးကြသည်။

ခင်တံ ဟုခေါ်သောမှင်ရိုးတွင် စောင်းကြိုးများတပ်ရန်အပေါက်များရှိ၏။ ထိုအပေါက်များ အကွာအဝေး အချိုးမကျသော်၊စောင်းသံကိုထိခိုက်တတ်သည်။ ထိုကြောင့် မှင်ရိုးမှာ စောင်းတွင်အရေးကြီးသော အစိတ်အပိုင်းဖြစ်သည်။ ခင်တံ ညံ့လျှင်စောင်းသံ မကောင်း၊ ပုံလည်းမလှဖြစ်တတ်သည်။ စောင်းအိုးကောင်းပါလျက် ခင်တံအလှိုးမကောင်း

၍ အသံ အ သည်ကို အခင်ဖျက်သည်ဟု ရှေးကဆိုရိုးပြုကြ၏။ ရှေးလူကြီးများက စောင်းအိုးအတွင်း၌ စောင်းနှင့်ဆိုင်ရာ အထက်အင်းများချထားတတ်သည်။ သမင်ရေကျက်ပြီးသောအခါ နတ်သမီးပေါက်ခေါ်သော အပေါက်လေးပေါက်ကို သချ်ာနည်းဖြင့် အချိုးကျနေရာများတွင် နတ်ပွဲ ပသပြီးမှ ဖောက်လေ့ရှိကြသည်။ စောင်းကိုသုံးချောင်းထောက်ခြေခုံတွင်တင်၍ အမြင့်မှစသာ ထားလေ့ရှိကြ၏။ ရှေးအခါက ‘မြေမသက်ငှက်လည်းမဟုတ်၊ ရင်၌ထား သားလည်းမဟုတ်၊ မုတ်ဆိတ်ဖွား ကုလားမဟုတ်’ ဟု စောင်းကိုစကားထာဝှက်ကြသည်။

စောင်းအကြောင်းကို ရှေးပညာရှင်တဦးက ‘ပိတောက်ကိုတဲ့မတယ် (တည်)။ ရှားကောက်ခွေခွေနှင့်၊ သမင်ရေအပေါ်ဖုံးပါလို့၊ ဆဲ့သုံးပင်ခင်ဝါပိုးကို၊ မှင်ရိုးမှာတွယ်။ မြီးဖျားကပန်းပွားသွယ်၊ ခြယ်လယ်လို့စုပေါင်း။ ဒူတေးတံတျာနှင့်၊ မြည်ရှာလေပြည်စုံမက်တယ်၊ နန်းတော်ထက်စောင်း’ ဟူ၍ရေးစပ်ခဲ့သည်။

### ကိုးကားသောကျမ်းများစာရင်း

မြန်မာကျမ်းများ။ ။ (၁)မာဃဋ္ဌီကာ၊ (၂)မာဂဓအောဘိဓာန်၊ (၃)ကုသပျို၊ (၄)မဟာဇနကပျို၊ (၅)နေမိဘုံခန်းပျို၊ (၆)မှန်နန်းရာဇဝင်တော်ကြီး၊မန္တလေးတိုင်း၊ပဋ္ဌမတွဲ၊ (၇)ရတနသိဒ္ဓိပဌမတွဲ၊ (၈)ကဗျာဗန္ဓသာရကျမ်း၊ (၉)ကျောင်းသုံးသီချင်းပဒေသာဒုတိယတွဲ၊ (၁၀)ဂီတဥယျာဉ်။ အင်္ဂလိပ်ဘာသာဖြင့်ကျမ်းများ။ ။ (၁) ကတ်၊ဆတ်ကစ ရေး တူရိယာများသမိုင်း၊ (၂)ဒဗျူ၊ လင်းဒ ရေး ရှေးခေတ်တူရိယာများနှင့်ပြောင်းလဲလာပုံအကြောင်း၊ (၃)စတန်းဖို့နှင့်ဖော်ဆိုက် ရေး ပန်တျာသမိုင်း၊ (၄) မားဂရက် မာတင် ရေး အီဂျစ်ခမ်းနားခဲ့ပုံ၊ (၅)ကပ္ပတိန်ဆိုင်း ၏ အင်းဝရောက်သံမှတ်တမ်း၊ (၆)မာရှယ် ရေး ကရင်များအကြောင်း၊ (၇) အလိန် ဒန် နီယေလူ ရေး အိန္ဒိယပန်တျာနှင့် တူရိယာများ (၈)ဒေဝ၊ အန် ဂါဒီ ရေး အိန္ဒိယ ပန်တျာ၊ (၉)ဦးခင်ဇော် ရေး မြန်မာပန်တျာနိဒါန်း၊ (၁၀)ဂျေ၊ကွန်နီစ ရေး အင်ဒိုနီးရှား၏ ယဉ်ကျေးမှုနောက်ကြောခံ၊ (၁၁)ဂျေ၊ ကွန်နီစ ရေး ဂျားဗားကျွန်း၏ပန်တျာ၊ (၁၂)ရော်လင်ဆင် ရေး အိန္ဒိယတိုင်းသားတို့၏သမိုင်းအကျဉ်းချုပ်။ ဦးမြဦး

**စောင်းလျားပင်။** ။စောင်းလျားပင်သည် အပင်ငယ်မျိုးဖြစ်၏။ ရုက္ခဗေဒအမည်မှာ ‘အဗားဟိုးအား ကရမ်ဗိုလာ’ ဖြစ်၏။

အရွက်များသည် ရွက်ခြားပေါက်ကြသည်။ ပန်းပွင့်ကလေးများသည် ငယ်၍ညီညာသည်။ အရောင်မှာ ခရမ်းရောင်နုဖြစ်သည်။ အသီးအရောင်မှာ ပယင်းရောင်ရင့်ဖြစ်သည်။ အသီး၌ စောင်းများပါရှိရာ ပိုင်းဖြတ်ကြည့်က ကြယ်ပုံသဏ္ဌာန်ပေါ်သည်။



စောင်းလျားသီး

စောင်းလျားပင်ကို မည်သည့်နေရာတွင်မျှ စံနစ်တကျစိုက်ပျိုးခြင်းမပြုချေ။ ဥယျာဉ်တွင် အပင်ပေါက်ကလေးများပေါက်ကြသော်လည်း၊ အနည်းအကျဉ်းမျှသာ အောင်မြင်သည်။ ဒပ်ချ အရှေ့အိန္ဒိယကျွန်းစုတွင် စောင်းလျားပင်ကို မျိုးပွားရာ၌ တနှစ်သား အရွယ်အပင်ကလေးများမှ ကိုင်းဖြတ်ဆက်ခြင်း၊ မျက်ကွင်းလှီး၍ စိုက်ပျိုးခြင်းတို့ဖြင့် မျိုးပွားယူကြသည်။

အသီးများမှည့်လာသောအခါ ဟင်းသီး ဟင်းရွက် အဖြစ် ငပိနှင့် စား လေ့ရှိကြသည်။ ထိုပြင် သနပ် လုပ် ၍ လည်း စားကြသည်။

**စိုင်။** ။စိုင်သည် ပါဏဗေဒအရ ‘ ဗိုင်ဗော့ ဗန် တင်း ဗာမင်နိုကပ်’ ဖြစ်သည်။ ‘ဗိုးဗိဒီး’ မျိုးရင်းတွင်ပါဝင်သည်။ ပြောင်ထက် အရွယ်ငယ်၍ ကိုယ်လုံး ထွားကျိုင်းသည်။ အမြင့် ၅ ပေခွဲရှိသည်။ ထိုထက်မြင့်သော စိုင်များလည်းရှိသည်။ ဦးချိုမှာ ပျမ်းမျှခြင်းအားဖြင့် ၂၄ လက်မရှည်၍၊လုံးပတ် ၁၄ လက်မရှိသည်။ ပြောင်ထက်ခြေတံရှည်သည်။ စိုင်မနှင့် စိုင်ထီးကလေးတို့တွင် ဝင်းပြောင်သော သစ်အယ်သီး ညိုရောင်ရှိသည်။ မျက်နှာမှာ ဖြူသည်။ ခြေဖျားသည် ခွာအထက်မှ ဒူးဆစ်တိုင်အောင်ဖြူသည်။ တင်ပါးတွင် ထင်ရှားသောအဖြူကွက်ပါရှိသည်။ တခါတရံ စိုင်ထီးကလေးများ၏နံဘေးတွင် အဖြူပြောက်များကိုတွေ့ရသည်။ ယင်းအပြောက်များသည် တဖြည်းဖြည်း မွဲပြာရောင်သို့ ပြောင်းသွားသည်။

ကြီးပြင်းသော စိုင်များ၏အရောင်မှာ ညိုဝါရောင်ဖြစ်

သည်။ စိုင်ထီးတွင် အများအားဖြင့် မျက်နှာမှ နှာယောင်တိုင်အောင် အဖြူရောင် ညစ်ညစ်ရှိသည်။ ကိုယ်လုံး၏အရောင်မှာ ကာကီရောင်ဖြစ်သည်။ လုံးလုံးမည်းနက်နေသောစိုင်ကို တွေ့ရခဲသည်။

စိုင်သည် ရှက်ကြဲတော၊ အမြဲစိမ်းတောများရှိ မြေညီ၌သော်၎င်း၊မညီညွတ်သောမြေပြင်၌သော်၎င်း၊ ကျက်စားရန်နှစ်သက်သည်။ မြန်မာနိုင်ငံ၌ စိုင်ကိုသစ်တောရှိရာ တောင်ကုန်းများတွင်တွေ့ရသည်။

စိုင်သည် လူကိုမြင်လျှင် ထွက်မပြေးတတ်ချေ။ တခါတရံ လယ်တော ယာတောများထဲသို့ပင်ဝင်လာတတ်သည်။ နံနက်ခင်းနှင့် မွန်းလွဲပိုင်းတွင်အစာရှာထွက်သည်။ ပူအိုက်သောအချိန်တွင် နားနေတတ်သည်။ မြက်ပင်၊ ဝါးရွက်၊ ဝါးမျှစ်နှင့် အပင်ငယ်ကလေးများကိုစားသောက်သည်။ ငန်သော အရသာကို နှစ်သက်သည်။ အအုပ်အသင်းဖွဲ့လျက် စားကျက်ကောင်းရာဒေသသို့ ရာသီအလိုက်ပြောင်းရွှေ့ကျက်စားလေ့ရှိသည်။

စိုင်သည် ဖျတ်လတ်သည်။ အကြား၊ အမြင်နှင့် အနံ့ခံကောင်းသည်။ ငြိမ်သက်စွာနေလေ့ရှိသည်။ နွားကဲ့သို့အသံပြုတတ်သည်။ ထိတ်လန့်သောအခါ ကျယ်လောင်စွာအော်၍ တဟုန်တည်းပြေးလွှားတတ်သည်။ စိုင်သည်များသောအားဖြင့် တကြိမ်လျှင် သားတကောင်သာပေါက်သည်။ တခါတရံမှသာ နှစ်ကောင်ပေါက်တတ်၏။ စိုင်ကိုမြန်မာနိုင်ငံ၊ ယိုးဒယားနိုင်ငံ၊ မလာယုကျွန်းဆွယ်၊ ဗော်နီယိုကျွန်းနှင့် ဂျားဗားကျွန်းတို့တွင် တွေ့ရသည်။ မြန်မာနိုင်ငံတွင် မဏိပူရတောင်ကုန်းများ၌လည်း တွေ့ရသည်ဟု အဆိုရှိသည်။



နွားနှင့်သဏ္ဍာန်တူသောစိုင်

စစ်ကိုင်းခရိုင်။ ။စစ်ကိုင်းတိုင်း၏တောင်ဖက်ဆုံးခရိုင်ဖြစ်သည်။ အရှေ့ဖက်တွင် မန္တလေးခရိုင်နှင့်ကျောက်ဆည်ခရိုင်၊ မြောက်ဖက်တွင် ရွှေဘိုခရိုင်နှင့်အောက်ချင်းတွင်းခရိုင်၊အနောက်ဖက်တွင်အောက်ချင်းတွင်းခရိုင်၊တောင်ဖက်တွင် မြင်းခြံခရိုင်တို့က နယ်နိမိတ်သတ်ထားသည်။ အကျယ်အဝန်းမှာ ၁,၈၂၅ စတုရန်းမိုင်ဖြစ်၍၊ လူဦးရေမှာ ၁၉၄၁ ခုနှစ်သန်းကောင်စာရင်းအရ ၁၇,၂၇၀ ဖြစ်သည်။

ခရိုင်ရုံးစိုက်မြို့မှာ စစ်ကိုင်းမြို့ပင်ဖြစ်သည်။ အုပ်ချုပ်ရေးအတွက် စစ်ကိုင်းနယ်နှင့် မြင်းမူနယ်ဟူ၍ နယ်နှစ်နယ်ခွဲခြားထားသည်။ စစ်ကိုင်းနယ်တွင် တန်တားဦးမြို့နယ်နှင့်စစ်ကိုင်းမြို့နယ်တို့ပါဝင်၍၊ မြင်းမူနယ်တွင် မြင်းမူမြို့နယ်၊ မြောင်မြို့နယ်နှင့် ငဇွန်မြို့နယ်တို့ပါဝင်လေသည်။

ဧရာဝတီမြစ်သည် စစ်ကိုင်းခရိုင်ကိုဖြတ်သန်းစီးဆင်းသည့်ပြင် မူးမြစ်နှင့်မြစ်ငယ်မြစ်များသည်လည်း စစ်ကိုင်းခရိုင်အတွင်းမှာပင် ဧရာဝတီမြစ်နှင့်ပေါင်းဆုံလာသဖြင့် ရေလမ်းခရီးအဆက်အသွယ်ကောင်းမွန်လေသည်။

စစ်ကိုင်းခရိုင်အတွင်း နုံးတင်မြေနုလွင်ပြင်များမှစ၍ သစ်ပင် ဝါးပင်မပေါက်သောကျောက်တောင်များအထိပါဝင်ရကား၊မြေမျက်နှာပြင်မှာ အသွင်အမျိုးမျိုးဖြစ်နေလေသည်။ စစ်ကိုင်းတောင်တန်းမှာ ပေ ၇၀၀ ကျော်မှ ၁၃၇၃ ပေအထိမြင့်သည်။ အင်းဝနယ် မြို့သာအနီးတွင် တောင်ငယ်များစွာရှိသည့်အနက် မိုးဇာတောင်သည် အမြင့်ဆုံးဖြစ်၏။ မိုးအခါတွင် ဧရာဝတီမြစ်သည် စစ်ကိုင်းခရိုင်၏မြေနိမ့်ဒေသများတွင် ရေလွှမ်းမိုးလေ့ရှိသည်။ ဧရာဝတီမြစ်ကမ်းနှင့်မြစ်အတွင်းရှိ ကျွန်းကြီးကျွန်းငယ်များမှာ နှစ်စဉ်ရေလွှမ်းမိုးရာတွင် တင်ကျန်ရစ်သော နုံးတင်မြေနုများကြောင့် မြေသြဇာကောင်းပေသည်။ တောင်ကုန်းဒေသများမှာမူ၊ ခြောက်သွေ့၍ သစ်ပင်ဝါးပင်ကင်းမဲ့လျက်ရှိ၏။

မိုးနည်းပါးသောဒေသဖြစ်သည့်အတိုင်း၊ ဂျုံစပါး၊ လူး၊ ဆပ်၊ ပဲ၊ ဝါဂွမ်း၊ မြေပဲ၊ နှမ်းစသည်တို့ကို အများဆုံးစိုက်ပျိုးကြ၍မြေနုလွင်ပြင်များတွင် စပါး၊ ဆေးရွက်နှင့်ပဲအမျိုးမျိုးကိုစိုက်ကြသည်။ တောင်ကုန်းများနှင့် ခြောက်သွေ့သောဒေသများတွင် ဝါဂွမ်းကိုအများအပြား စိုက်ပျိုးကြသည်။ စစ်ကိုင်းနှင့်မြင်းမူနယ်များမှာ မြေပြန့်လွင်ပြင်များဖြစ်သည်။ မြင်းမူနယ်မှ ဝါဂွမ်းအများဆုံးထွက်ရာ ဝါစက်ကြီးများမြင်းမူမြို့တွင်ရှိသည်။ တံငါလုပ်ငန်းနှင့် ထုံး[illegible]ခြင်း၊ အိုးလုပ်ခြင်း၊ ထန်းတက်ခြင်း၊ ငွေ[illegible] လုပ်ငန်းများကိုလည်း လုပ်ကိုင်ကြသည်



သူတော်စင်တို့မွေ့လျော်ရာ စစ်ကိုင်းတောင်ရိုး

အင်းဝနယ်မှ သဲဆပ်ပြာကို အရပ်ရပ်သို့တင်ပို့ရောင်းချသည်။ စစ်ကိုင်းခရိုင်၊ စစ်ကိုင်းမြို့နယ်အတွင်း ဆားတောင်၊ ပဒူတောင်ကြား၊ ရေခါးစသောဒေသများတွင် ဆားချက်ကြသည်။ ကောင်းမှုတော်၊ တေယော်နှင့် ရွာသစ်ကြီးအင်းများတွင်ကား တံငါလုပ်ငန်းအကြီးအကျယ်လုပ်ကိုင်ကြလေသည်။

စစ်ကိုင်းခရိုင်သည် မိုးနည်းပါး၍ အပူပိုင်းဒေသဖြစ်သော်လည်း၊ ဧရာဝတီ၊ မူး၊ ချင်းတွင်းစသောမြစ်ကြီးများကြောင့် လေအေးတိုက်ခတ်၍ မျှတသောရာသီဥတုရှိ၏။ တပေါင်း၊ တန်ခူးနှစ်လတွင်သာ အနည်းငယ်ပူအိုက်သည်။

စစ်ကိုင်းခရိုင်တွင် ရှေးမြန်မာမင်းများ၏နေပြည်တော်ဖြစ်သော စစ်ကိုင်း၊ ပင်းယ၊ အင်းဝ စသည့်မြို့တော်ဟောင်းများရှိသောကြောင့် • ထင်ရှားကျော်စောသည်။ ထိုမြို့ဟောင်းနေရာများနှင့် စစ်ကိုင်းမြို့၊ စစ်ကိုင်းတောင်ရိုးများတွင် မင်းအဆက်ဆက်တို့တည်ခဲ့သော တန်ခိုးကြီးဘုရားစေတီများပေါများလှပေသည်။ စစ်ကိုင်းတောင်ရိုးမြောက်ဖက် မန္တလေးမြို့အထက် တဖက်ကမ်းရှိ မင်းကွန်းစေတီတော်ကြီးမှာ ကမ္ဘာပေါ်ရှိအုတ်ဖြင့်ဆောက်လုပ်သော အကြီးဆုံး အဆောက်အအုံများတွင် အပါအဝင်ဖြစ်သည်။ ဘုရားကြီး၏မြောက်ဖက်ရှိ မင်းကွန်းခေါင်းလောင်းကြီးမှာလည်း ကမ္ဘာပေါ်ရှိ ချိတ်ဆွဲထားသည့် ခေါင်းလောင်းများတွင်အကြီးဆုံးဖြစ်၍ ထင်ရှားလေသည်။ (ခေါင်းလောင်း—ရှု။)

၁၉၃၄ ခုနှစ်တွင် ဆောက်လုပ်ခဲ့သော အင်းဝတန်တားကြီးသည် စစ်ကိုင်းမြို့နှင့်အမရပူရမြို့ဖက်ကမ်းကို ဆက်သွယ်ထား၍ မီးရထား၊မော်တော်ကားတို့ဖြတ်ကူးနိုင်သည်။ ဤတန်တားကြီးဖြင့် ရန်ကုန် မြစ်ကြီးနား မီးရထားသည် တောက်လျှောက်သွားနိုင်ခဲ့ရာမှ ဒုတိယကမ္ဘာစစ်အတွင်းက ဖျက်ဆီးခြင်းခံခဲ့ရသည်ကို မြန်မာနိုင်ငံတော်အစိုးရတို့က ပြန်လည်ပြင်ဆင်ခဲ့ရာ၊ ၁၉၅၄ ခုနှစ်တွင် ပြီးစီးခဲ့သည်။ ထိုနှစ် အောက်တိုဘာလ ၂၄ ရက်နေ့တွင် နိုင်ငံတော်သမတကြီး ဒေါက်တာဘဦးကိုယ်တိုင် တန်တားကြီးကိုအခမ်းအနားဖြင့် ဖွင့်လှစ်ခဲ့လေသည်။

**စစ်ကိုင်းမြို့။** ။စစ်ကိုင်းတိုင်းမင်းကြီးနှင့် ခရိုင်ဝန်တို့၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ 'သာယာဝိုင်း၊စစ်ကိုင်းတည်'ဟူသော သင်္ကေတအတိုင်း မြန်မာသက္ကရာဇ် ၆၇၄ ခုနှစ်တွင်



စစ်ကိုင်းတောင်ရိုးရှိ ဥမင်သုံးဆယ်ဘုရား

အသင်္ခယာစောယွန်းသည် စစ်ကိုင်းမြို့နေရာတွင် ဇေယျာပူရ(အောင်မြို့)အမည်ဖြင့် စတင်တည်ထောင်ခဲ့လေသည်။ စစ်ကိုင်းတောင်ရိုးတခုလုံးမှာ ရဟန်းများ၊ သူတော်စင်များ တရားကျင့်သုံးရာ ဂူကျောင်း၊ချောင်များ၊ သီလရှင်များ၏ ချောင်များနှင့် တောင်ထွတ် တောင်ထိပ်တိုင်းတွင် တည်ထားသော စေတီများဖြင့် အလွန်ပင်ကြည်နူးဖွယ်ကောင်းပေသည်။

ရှေးအခါက စစ်ကိုင်းမြို့အောက်ပိုင်းသည် ရေလွှမ်းမိုးခြင်း ခံခဲ့ရသော်လည်း ၁၈၈၉ ခုနှစ်တွင် ရေကာတာကြီးဆောက်လုပ်လိုက်သဖြင့် ယခုရေလွှမ်းမိုးခြင်းဘေးမှ သက်သာရာရရှိနေပေသည်။ မြို့၏စည်ပင်ရေးကို မျူနီစီပယ်အဖွဲ့ကဆောင်ရွက်သည်။

၁၈၇၁ ခုနှစ်တွင် စစ်ကိုင်းမှ ရွှေဘိုမီးရထားလမ်းကိုစတင်ဖွင့်လှစ်ခဲ့ရာ ယခုအခါ စစ်ကိုင်းမှ ကသာနှင့်မြစ်ကြီးနားသို့ ရင်း၊ အနောက်ပက်မုံရွာနှင့် ရေဦးမြို့သို့ရင်း၊ မီးရထားလမ်းများပေါက်နေလေပြီ။ စစ်ကိုင်းမှ ရွှေဘိုသို့လည်း မော်တော်ကားလမ်းရှိလေသည်။

ရှေးအခါက ရန်ကုန် မြစ်ကြီးနားမီးရထားလမ်းမှာ အမရပူရနှင့် စစ်ကိုင်းတွင် သင်္ဘောဖြင့် ကူးပြောင်း၍ စီးကြရသော်လည်း၊ ၁၉၃၄ ခုနှစ်တွင် ဧရာဝတီမြစ်ကိုဖြတ်၍ အင်း၀ တန်တားကြီးကိုဆောက်လုပ်ပြီးစီးခဲ့သဖြင့် တောက်လျှောက်ဖြတ်ကူးနိုင်ခဲ့လေသည်။ သို့ရာတွင် အင်း၀ တန်တားကြီးမှာ ဒုတိယကမ္ဘာစစ်အတွင်း ဖျက်ဆီးခြင်းခံခဲ့ရသောကြောင့် မီးရထားဌာနက ၁၉၅၃ ခုနှစ်တွင် ပြန်၍ပြင်ဆင်ခဲ့ရာ ၁၉၅၄ ခုနှစ် အောက်တိုဘာလတွင် ပြီးစီးခဲ့သည်။

စစ်ကိုင်းပိုးထည်နှင့် စစ်ကိုင်းရေအိုးများမှာ အထူးကျော်ကြားသည်။ စစ်ကိုင်းမြို့နယ်အတွင်း ဆားတောင်နှင့် အနီးအနားရွာများတွင် ဆားချက်လုပ်သည်။ စစ်ကိုင်းမြို့အနီး ရွာထောင်ရွာကြီးမှ ငွေထည်များမှာလည်း ထင်ရှားပေသည်။

စစ်ကိုင်းမြို့တွင် တန်ခိုးကြီးဘုရားများ ပေါများလှရာ သာလွန်မင်းတရားကြီးတည်ခဲ့သော ကောင်းမှုတော်ဘုရား၊ ဘိုးတော်မင်းတရား တည်ခဲ့သော မင်းကွန်းဘုရား၊ ငါးထပ်ကြီးဘုရား၊ စစ်ကိုင်းတောင်ရိုးရှိ ပုညရှင်၊ ဥမင်သုံးဆယ်၊ ပတ္တမြားစေတီ၊ ရှင်ပင်နံ့ကိုင်းစေတီတို့မှာ အထူးပင်ထင်ရှားကြ၍ ပွဲတော်များ နှစ်စဉ်ကျင်းပကြသည်။

စစ်ကိုင်းမြို့တွင် မြန်မာလူမျိုးများအပြင် မြန်မာမွတ်စလင်များ၊ကသည်းလူမျိုးများ၊ ရှမ်းတရုပ်၊ဟိန္ဒူ၊မဒရာစီ၊အူရိယာ စသောလူမျိုးပေါင်းစုံနေထိုင်ကြသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ မြို့၏လူဦးရေမှာ ၁၅,၄၃၉ ယောက် ရှိလေသည်။

စစ္စလီကျွန်း။ ။စစ္စလီကျွန်းသည် ဣတာလီကျွန်းဆွယ်၏တောင်ဖက်တွင်တည်ရှိသည်။ မက်ဆီးနာ ရေလက်ကြားသည် စစ္စလီကျွန်းကို ဣတလီကျွန်းဆွယ်နှင့် ပိုင်းခြားထားသည်။ ရှေးအခါက ဣတလီနှင့်အာဖရိကတိုက်တို့သည် ရေဝေကုန်းတန်းဖြင့် ဆက်စပ်လျက်ရှိခဲ့ဘူးသည်ဖြစ်ရာ၊ စစ္စလီကျွန်းသည် ထိုရေဝေကုန်းတန်း၏ အစိတ်အပိုင်းတခု အဖြစ်ကျန်ရှိခဲ့သောကျွန်းတကျွန်းပင်ဖြစ်၏။ စတုရန်းမိုင် ၉,၉၂၆ မိုင်ကျယ်ဝန်း၍၊ လူဦးရေ ၄,၄၀၀,၀၀၀ ခန့်ရှိသည်။

စစ္စလီကျွန်း၏သမိုင်းတခုလုံးသည် မင်းအပြောင်းအလဲများနှင့် ထိုမင်းတို့၏အောင်နိုင်မှုများ၊ရက်စက်ကြမ်းကြုတ်မှုများ၊ ဖိနှိပ်ချုပ်ချယ်မှုများဖြင့်သာ ပြီးသောပုံပြင်ကြီးနှင့်တူလှပေသည်။ ထိုကျွန်းသည် ရှေးနှစ်ပေါင်း ၃၀၀၀ နီးပါးလောက်က ဖိနီရှန်လူမျိုးတို့၏လက်အောက်သို့ကျရောက်ခဲ့သည်။ ဂရိလူမျိုးများရောက်ရှိလာကြသော ၈ ရာစုနှစ်များအတွင်းတွင် ထိုကျွန်း၌ အတတ်ပညာ များစွာထွန်းကားခဲ့၏။

ထိုနောက် ကားသေ့လူမျိုးတို့သည် ထိုကျွန်းသို့ ရောက်ရှိလာကြ၍ မကြာမီပင် သူတို့လက်မှ ရောမလူမျိုးတို့ကတဖန်တိုက်ခိုက်လုယူခဲ့ကြပြန်သည်။ ဗင်းဒေါနှင့်ဂေါ့သလူမျိုးတို့သည်လည်း ဣတလီကျွန်းဆွယ်မှ မက်ဆီးနာ ရေလက်ကြားကိုဖြတ်ကျော်ကာ စစ္စလီကျွန်းသို့ ရောက်ရှိခဲ့ကြ၏။ ထိုနောက်တွင်မူကား၊ ကွန်စတန်တီနိုပယ်မြို့မှ ဗိုင်ဇင်းတိုင်ဘုရင်တို့သည် ထိုသို့ လှည့်လည်တိုက်ခိုက်နေကြသူများ၏ ဘေးရန်မှ ကျွန်းကို ကာကွယ်စောင့်ရှောက် ပေးခဲ့ကြသည်။

၉ ရာစုနှစ်များတွင် စစ္စလီကျွန်းသည် အစ္စလမ် အယူဝါဒီတို့၏လက်အောက်သို့ကျရောက်ခဲ့ရသည်။ ဒုတိယဖရက်ဒရစ်ဘုရင် (ခရစ် ၁၁၉၄ – ၁၂၅၀ ခုနှစ်)၏လက်အောက်တွင် စစ္စလီကျွန်းသည် အကောင်းဆုံးသောအခြေအနေသို့ရောက်ရှိခဲ့၏။ ဖရက်ဒရစ်ဘုရင်နတ်ရွာစံပြီးနောက် ၁၆ နှစ်အကြာတွင် အန်ဇူမင်းသား ချားသည် စစ္စလီကျွန်း၌မင်းပြု၏။ သို့ရာတွင် ထိုမင်းသား၏ ရက်စက်ကြမ်းကြုတ်မှုကြောင့် စစ္စလီကျွန်းသူ ကျွန်းသားအများသည် မခံမရပ်နိုင်ဖြစ်လာကြ၍ ထကြွပုန်ကန်ကြ၏။ ပါလာမိုမြို့သားတို့သည် ပြင်သစ်လူမျိုး ၄၀၀၀ ကိုသတ်ဖြတ်ပစ်ကြသည်။ အခြားမြို့များတွင်လည်း အလားတူ သတ်ဖြတ်မှုများ ပေါ်ပေါက်ခဲ့သည်။ ထိုနောက် စစ္စလီကျွန်းသည် ပြင်သစ်တို့၏လက်အောက်မှလွတ်မြောက်ခဲ့ပြီးလျှင် အာရဂွန်မင်းသား တတိယ ပီဒရိုအား မင်းအဖြစ်တင်မြှောက်ကြလေသည်။

စပိန်၊ပြင်သစ်၊ဩစတြီးယားဘုရင်တို့က သက်ဦးဆံပိုင် စိုးမိုးအုပ်ချုပ်ခဲ့သည့်ခေတ်သည်ကား စစ္စလီကျွန်း၏အမှောင်ခေတ်ဟူ၍ခေါ်ရပေမည်။ ၁၇၃၄ – ၃၅ ခုနှစ်များသို့ ရောက်သောအခါတွင် ဒွန်ကာလိုသည် နေပယ်မြို့နှင့်စစ္စလီကျွန်းတို့ကိုပေါင်းစပ်ကာ ဗူးဗွန်မင်းဆက်တည်ထောင်ခဲ့ပြန်လေသည်။ ဤသို့အားဖြင့် ဗူးဗွန်ဘုရင်များသည် ၁၈၆၀ ပြည့်နှစ်တိုင်အောင် စစ္စလီကျွန်းကို စိုးမိုးအုပ်ချုပ်ခဲ့ကြရာ နောက်ဆုံးတွင် ဣတလီမျိုးချစ်ခေါင်းဆောင်ကြီး ဂယ်ရီဗော်ဒီသည် စစ္စလီကျွန်းသူကျွန်းသားတို့အား လူမျိုးခြားအနှောင်အဖွဲ့မှ ကယ်တင်ကာ ဣတလီဘုရင် ဗစ်တာအီမန်းနျူအယ်၏ အင်ပိုင်ယာနိုင်ငံတော်ကြီးထဲသို့ သွတ်သွင်းပေးခဲ့လေသည်။ (ဂယ်ရီဗော်ဒီ, ဂျီ — ရှု။)

(ဂယ်ရီဗော်ဒီ, ဂျီ — ရှု။)

စစ္စလီကျွန်းကား မြေထဲပင်လယ်ထဲ၌အကြီးဆုံးကျွန်းဖြစ်သည်။ ထိုကျွန်းပေါ်ရှိ အက်တနာတောင်ထွတ်ဆီမှမျှော်၍ကြည့်လိုက်လျှင် ကွေ့ကောက်လျက်ရှိသောပင်လယ်အော်များ၊ အရောင်တောက် နေသောကမ်းပါးစောက်ကြီးများနှင့် တကွတံငါရွာကလေးများဖြင့် သာယာသောရှုခင်းကို တွေ့မြင်နိုင်လေသည်။



စစ္စလီကျွန်းတည်နေရာပြမြေပုံ

စစ္စလီကျွန်း၏အရှေ့ဖက်ကမ်းခြေတွင် မက်ဆီးနားမြို့ကြီးသည် အက်တနာတောင်ကြီးကိုနောက်ခံပြုလျက်တည်ရှိ၏။ ထိုမြို့ကား အလွန်စည်ကား သာယာလှသော မြို့တမြို့ဖြစ်၏။ ထိုပင်လယ်ဆိပ်ကမ်းမြို့ကြီးကို ဂရိလူမျိုးတို့သည် ဘီစီ ၆၀၀ ပြည့်နှစ်က တည်ထောင်ခဲ့၏။ ရှေးခေတ်သမယက ပင်လျှင် မက်ဆီးနာမြို့ကြီး သည် ကုန်သန်းရောင်းဝယ်ရေးဖက်တွင် များစွာအရေးပါအရာရောက်ခဲ့သည်။ ယခုအခါ လူဦးရေ ၂၃၁,၄၃၀ ရှိ၍၊ စက်မှုလက်မှုလုပ်ငန်းရပ်များဖြင့် စည်ကားလျက်ရှိသည်။ မြို့သူမြို့သားများမှာ ရှေးအခါက မကြာခဏ ဆင်းရဲဒုက္ခရောက်ခဲ့ကြရ၏။ ၁၉၀၈ ခုနှစ်တွင် အကြီးအကျယ် မြေလျှင်တုန်လှုပ်သဖြင့် လူပေါင်း ၇၆,၀၀၀ ခန့်မျှ သေဆုံး၍ ၉၅,၀၀၀ ခန့် ဒဏ်ရာရခဲ့ကြ၏။ လျှင်လှုပ်ပြီးနောက် ဒုတိယကမ္ဘာစစ်ကြီး ဆိုက်ခဲ့ရာ လူထောင်ပေါင်းများစွာသေကြေပျက်စီးခဲ့လေသည်။ အနောက်မြောက်ကမ်းခြေတွင်ရှိသော ပါလာမိုမြို့သည်ကား စစ္စလီတကျွန်းလုံးတွင် အကြီးကျယ်ဆုံးမြို့ပင်ဖြစ်၍ ဣတလီနိုင်ငံတခုလုံး၏ ပဥ္စမမြောက်မြို့ကြီး လည်းဖြစ်၏။ လူဦးရေ ၅၀၆,၀၀၀ ခန့်ရှိ၏။ ဤမြို့မှာ ရှေးခေတ်အခါကပင် ကြီးကျယ်စည်ကားသော မြို့ဖြစ်သည့်အလျောက် ဖိနီရှန်လူမျိုး၊ ကားသေ့လူမျိုး၊ ဂရိလူမျိုး၊ ရောမလူမျိုး၊ ဂေါ့သလူမျိုး၊ ဆာရဆင်လူမျိုး၊ နော်မန်လူမျိုး၊ ပြင်သစ်လူမျိုး၊ စပိန်လူမျိုးတို့သည် ထိုမြို့ကို အဆက်ဆက်အုပ်စိုးခဲ့ကြဘူးလေသည်။ ပါလာမိုမြို့ရှိ တက္ကသိုလ်ကျောင်းကြီးကို ၁၇၇၉ ခုနှစ်ကတည်ထောင်ခဲ့သည်။ စစ်ဗဟိုဌာနချုပ်တည်ရှိရာ မြို့ဖြစ်၍ လက်နက်တိုက်ကြီးတခုလည်းရှိသည်။ စစ္စလီကျွန်းမှထွက်ကုန်များမှာ ကန့်ကျောက်၊ လိမ်မော်သီး၊ ရှောက်သီး၊ စပျစ်၊ သံလွင်ဆီ အစရှိသည်တို့အပြင် စည်သွတ်ငါးများ၊ ဝိုင်အရက်၊ ဆီ၊ ဆားနှင့်သန္တာတို့ဖြစ်သည်။

**စစ်စလီငှက်။** ။စစ်စလီသည် မြန်မာနိုင်ငံတွင်တွေ့ရသော ဝမ်းဘဲအမျိုးမျိုးအနက် တမျိုးဖြစ်၏။ ပါဏဗေဒအမည်မှာ 'ဒင်ဒရိုစိုင်နာ ဂျာဗန်နိကား' ဖြစ်သည်။

စစ်စလီကို အရှေ့တိုင်းဒေသများတွင် အများအပြားတွေ့ရသည်။ ယခင်က မြန်မာနိုင်ငံတွင် အများအပြား တွေ့ရသော်လည်း ဖမ်းယူသတ်ဖြတ်ကြသောကြောင့် ယခုအခါ နည်းပါးကျက်ရှိ၏။ မိုးရာသီတွင်စစ်စလီကိုပို၍တွေ့ရသည်။

စစ်စလီ၏ အလျားမှာ ၁၇ လက်မရှိသည်။ အတောင်သည် ဝိုင်း၍တကိုယ်လုံးမှာ ညိုရောင်လွှမ်းနေသည်။ ပျံသန်းရာတွင် မမြန်လှ သော်လည်း တောင်ပံကို အားစိုက်၍ ရိုက်ခတ်တတ်သည်။

စစ်စလီသည်အနီးအနားၷ သစ်ပင် ထူထပ်သော ရေအိုင်များတွင်ကျက်စားသည်။ ဖိုမတွဲ၍ဖြစ်စေ၊ အအုပ်အသင်းနှင့်ဖြစ်စေနေတတ်သည်။ ရေကူးရာတွင် လျင်မြန်၍ ရေငုပ်ကျင်လျှင်သည်။ ခရု၊ ပက်ကျိမျာ းနှင့်အသီးအရွက်များကို စားတတ်သည်။ ရေတိမ်၌ အစာရှာဖွေစဉ် ဦးခေါင်းနှင့်လည်တိုင်ကိုဆန့်ထားတတ်သည်။ ကုန်းပေါ်၌မူ တည့်တည့်မတ်မတ်နေတတ်သည်။ ပျံသန်းနေစဉ် လေချွန်တတ်သည်။



စစ်စလီငှက်

စစ်စလီသည် ဇွန်လမှ စက်တင်ဘာလအတွင်း သားပေါက်သည်။ အများအားဖြင့် အသိုက်ကို မြေပြင်မှပေ ၂၀ ခန့်မြင့်သော နေရာတွင်ပြုလုပ်သည်။ တခါတရံ မြေပေါ်တွင် အသိုက်လုပ်သည်။ ကျီးသိုက်ဟောင်းများ၊ သစ်ပင်ခေါင်းများကိုလည်း အသိုက်လုပ်လေ့ရှိတတ်သည်။ တမြုံလျှင် ၈ ဥမှ ၁၀ ဥအထိရှိသည်။ ဥမှာဖြူဖွေးသည်။

သာမန်စစ်စလီထက် ကြီးသော စစ်စလီကြီး မျိုးလည်းရှိသည်။ စစ်စလီကြီး၏ ပါဏဗေဒအမည်မှာ 'ဒင်ဒရိုစိုင်နာ ဖိုင်ကာလာ' ဖြစ်သည်။

စစ်စလီကြီးကို အမေရိကတိုက်တောင်ပိုင်းနှင့် အလယ်ပိုင်း၊ အာဖရိကတိုက်၊ အိန္ဒိယ၊ မြန်မာနှင့် သီဟိုဠ်နိုင်ငံများတွင် တွေ့နိုင်သည်။ မြန်မာနိုင်ငံတွင် ဧရာဝတီမြစ် အလယ်ပိုင်းနှင့် စစ်တောင်းမြစ်ဝှမ်းများ၌ အမြဲနေ၍ တောင်ပိုင်းရှမ်းပြည်တွင်လည်းတွေ့ရတတ်သည်။

အလျားလက်မ ၂၀ ရှိသည်။ ခေါင်း၊ နှုတ်သီးနှင့် ခြေထောက်များကြီးမားသောကြောင့် အချိုးအစားမပြေပြစ်လှချေ။ တကိုယ်လုံး၏အရောင်မှာ သစ်ကျားခွံရောင်ပင်ဖြစ်သော်လည်း၊ ကိုယ်အထက်ပိုင်းသည် နက်၍ သစ်ကျားခွံရောင်အစင်းများရှိသည်။ တောင်ပံနက်၍ အမြီးဖြူသည်။ ပျံသန်းရာတွင်သန်မာ၍လျင်မြန်သည်။

လူကိုကြောက်၍တတ်သဖြင့် ရွာအနီးရှိ ရေအိုင်၊ ချောင်းမြောင်းများသို့လာလေ့မရှိချေ။ အလေ့အကျင့်မှာ သာမန်စစ်စလီနှင့်အတူတူပင်ဖြစ်သည်။ ပျံသန်းနေစဉ် ရှူးရှူးလေချွန်တတ်သည်။

ဇွန်လမှ စက်တင်ဘာလအတွင်း သားပေါက်သည်။ အသိုက်မှာ စစ်စလီ၏အသိုက်နှင့်တူသည်။ တမြုံလျှင် ၆ ဥမှ ၇ ဥအထိရှိသည်။ ဥခွံရောင်မှာ ဖြူဖွေး၍ချောမွတ်သည်။

**စစ်တလိုင်းငှက်။** ။စစ်တလိုင်းငှက်ကို ချေါင်းတလိုင်းဟူ၍လည်းခေါ်သည်။ ထိုငှက်သည် တစ်တီတူးနှင့်အတူ 'ဗင်နယ်လင်နေး' မျိုးရင်းခွဲတွင်ပါဝင်သည်။ ပါဏဗေဒအမည်မှာ 'ဟော့လော့တာရပ်စပိုင်နိုဆပ်ဒျူဗိုးဆဲလီ' ဖြစ်သည်။ အလျား ၁၂ လက်မရှိ၏။ တောင်ပံတွင်ထူးထူးဆန်းဆန်း အတက်ပါရှိသည်။ ထိုအတက်ကို နားနေခိုက်တွင်မတွေ့မြင်ရချေ။ မည်ကဲ့သို့အသုံးချမှန်းလည်း မသိရသေးချေ။



စစ်တလိုင်းငှက်

စစ်တလိုင်း၏အသံမှာ တစ်တီတူး၏အော်သံနှင့်တူသော်လည်း တစ်တီတူးအသံလောက်မစူးရှပေ။ စစ်တလိုင်းသည် သဲထူထပ်သော မြစ်ကမ်းပါးတွင်ကျက်စား၏။ မြစ်ရေကြီးသောအခါတွင် ဥယျာဉ်နှင့်မြက်ခင်းပြင်များသို့ ရွှေ့ပြောင်း၍နေ၏။ ရေကူးကျင်လျင်၏။ ယင်းကိုတောတွင်းရှိချောင်းများတွင်တွေ့ရသည်။

စစ်တလိုင်းငှက်ကလေးများသည် နွေရာသီတွင်ပေါက်ကြသည်။ အသိုက်ကို ကမ်းစပ်သဲမြေတွင်ငှင်း၊ကျောက်စရစ်အကြားတွင်ငှင်း၊ ပြုလုပ်လေ့ရှိသည်။ တမြုံလျှင် ၃ ဥမှ ၄ ဥအထိရှိ၏။ ဥမှာ တစ်တီတူးဥနှင့်တူသော်လည်း အနည်းငယ်ပိုရှည်၍၊ အညိုရောင်များသည်။

ထိုငှက်မျိုးကို အိန္ဒိယ၊ မြန်မာ၊ အင်ဒိုချိုင်းနားနိုင်ငံများတွင်တွေ့ရ၏။ မြန်မာနိုင်ငံတွင် မြစ်ချောင်းများ၌ကျက်စားလေ့ရှိသည်။ တခါတရံ တောင်များပေါ်၌တွေ့ရသည်။ မေမြို့ရှိ ရေကန်များ၌လည်း တွေ့ရတတ်သည်။

**စစ်တက္ကသိုလ်။** ။ကမ္ဘာပေါ်ရှိ တပ်မတော်ကြီးများတွင် စစ်ဖက်အရာရှိများ လေ့ကျင့်မွေးထုတ်ပေးရာ စစ်တက္ကသိုလ်များဖွဲ့စည်းတည်ထောင်ထားကြမြဲဖြစ်၏။ အမေရိကန်ပြည်ထောင်စု ဝက်စပွိုင့်မြို့ရှိ စစ်တက္ကသိုလ်၊အင်္ဂလန်ပြည် ဆင်းဟတ်မြို့ရှိ စစ်တက္ကသိုလ်၊အိန္ဒိယနိုင်ငံပူးနားမြို့ရှိစစ်တက္ကသိုလ်တို့မှာ ထင်ရှားသော စစ်တက္ကသိုလ်အချို့ဖြစ်၏။ သင်တန်းချိန်မှာ အင်္ဂလန်တွင် ၂ နှစ်၊ အိန္ဒိယတွင် ၃ နှစ်ဖြစ်၍၊ ဥပစာအဆင့် အတန်းလောက်ရှိသော တက္ကသိုလ်စာပေပညာကို တွဲဖက်၍သင်ကြားပေးသည်။ အမေရိကန်ပြည်ထောင်စုတွင် ၄ နှစ်သင်ကြား၍ သိပ္ပံဘွဲ့အထိသင်ပေး၏။ အခြားနိုင်ငံများ၏စစ်တက္ကသိုလ်များသည်လည်း ထိုကဲ့သို့ ၂ နှစ်ဖြစ်စေ၊ ၄ နှစ်ဖြစ်စေရှိကြပေသည်။ မည်သို့ပင်ဖြစ်စေ စစ်တက္ကသိုလ်တိုင်း၏ရည်မှန်းချက်နှင့်လုပ်ငန်းတို့မှာ နိုင်ငံတော်ကာကွယ်ရေးတပ်များတွင် တာဝန်ထမ်းဆောင်မည့်အရာရှိလောင်းလူငယ်ယောကျ်ားကောင်းများကို မြင့်မြတ်ခိုင်မြဲသောစိတ်ဓာတ်၊လုံလောက်သောအခြေခံစစ်ပညာနှင့် တိုင်းပြည်၏အကျိုးကိုအမြင်ကျယ်ကျယ်နှင့် ထိရောက်စွာဆောင်ရွက်နိုင်စွမ်းသော လူမှုရေးရာပညာများကို သင်ကြားပေး၍၊ ခေါင်းဆောင်ကောင်းများဖြစ်လာရန်လည်း ပံ့သွင်းပေးခြင်းဖြစ်၏။ အချို့သောနိုင်ငံကြီးများ၌ ကြည်း၊ ရေ၊ လေ ဆိုင်ရာစစ်တက္ကသိုလ်များ သီးခြားထူထောင်ထားနိုင်ကြသော်လည်း၊ အချို့တပ်မတော်၊ အချို့နိုင်ငံများတွင်မူကား ကြည်း၊ ရေ၊ လေ သုံးရပ်စလုံးအတွက် စစ်တက္ကသိုလ်တခုတည်းကိုသာတည်ထောင်နိုင်ကြ၏။ မြန်မာနိုင်ငံသည် များမကြာမီကမှတပ်မတော်များထူထောင်ခဲ့ရာ၊ ခေတ်အယူအဆ အတိုင်း နိုင်ငံတခု၏ကာကွယ်ရေးတာဝန်ကို ကြည်း၊ ရေ၊ လေ တပ်များပေါင်းစပ်၍ တခုတည်းသောတပ်အဖြစ်ဆောင်ရွက်ကြရသည်ဖြစ်၍၊ စစ်တက္ကသိုလ်ကိုဖွဲ့စည်းတည်ထောင်ရာတွင် တခုတည်းသောကောလိပ်ကျောင်းကြီးကို ကာကွယ်ရေးတပ်ပေါင်းစု စစ်တက္ကသိုလ်အမည်ဖြင့် ၁၉၅၅ ခုနှစ်တွင်တည်ထောင်ခဲ့၏။

အထက်တွင် ဖော်ပြခဲ့သော မြန်မာနိုင်ငံ၏တပ်မတော်စစ်တက္ကသိုလ်ကို အနှောင့်အရှက်ကင်းမဲ့စွာဖြင့် ဗိုလ်လောင်းများပညာဆည်းပူးနိုင်စေရန် ရည်ရွယ်သောကြောင့်ငှင်း၊ ဗိုလ်လောင်းများ၏ကျန်းမာရေးအတွက် ရာသီဉတုကောင်းမွန်ရေးကို ရွေးရှုသောကြောင့်ငှင်း၊ စစ်ဖက်သင်တန်းများပေးရာ၌ လေ့ကျင့်ရေးမြေပြင်အခြေအနေသင့်တော်မှုကို ဦးစားပေးသောကြောင့်ငှင်း၊ ရှမ်းပြည်တောင်ပိုင်း၊ လောက်ဆောက်နယ်၊ ဗထူးတပ်မြို့တွင်ထားရှိ၏။ မြို့ကြီးများနှင့်အလှမ်းကွာသည့်အားလျော်စွာ ဗထူးတပ်မြို့ကို ငယ်ငယ်နှင့်အစစအရာရာ ပြည့်စုံသော တပ်မြို့တခုဖြစ်အောင် စီမံထား၏။ (ဗထူးမြို့ — ရှ။)







### တခုတည်းသောမြန်မာ့စစ်တက္ကသိုလ်

(အပေါ်–ဝဲ) စစ်ပညာကိုစုပေါင်းပို့ချ၍၊

(အပေါ်–ယာ) သိပ္ပံပညာကိုမူ တဦးချင်းလက်တွေ့လေ့လာစေသည်။

(အလယ်ပုံ) တိုက်ပွဲမှာကဲ့သို့ အမြောက်ကြီးငယ်များကိုတာဝန်ယူ၍ ပစ်ခတ်လေ့ကျင့်ကြရသည်။

(အောက်–ဝဲ) စက်သေနတ်၏ အစိတ်အပိုင်း များကို တခုစီ လေ့လာပြီးနောက် ပစ်ခတ်နည်းကိုလက်တွေ့သင်ယူကြရသည်။

(အောက်–ယာ) မြေအနေအထားကို မြေပုံထောက်၍ လေ့လာ မှတ်ယူကြရသည်။





ထိုတပ်မတော် စစ်တက္ကသိုလ်ကိုတည်ထောင်ရခြင်း၏ရည်ရွယ်ချက်မှာ ကြည်း၊ ရေ၊ လေ တပ်မတော်တို့တွင် အနာဂတ်၌ခေါင်းဆောင် ကြမည့် အရာရှိကောင်းများ ရရှိရန် အတွက်ဖြစ်၏။ အခြားစစ်တက္ကသိုလ်များနည်းတူ စာပေပညာနှင့်စစ်ပညာများကို သင်ကြား၍ မျှတသောအယူအဆ၊ ကျယ်ဝန်းသောအမြင်၊ ပြည့်ဝသောဗဟုသုတ၊ ကြံ့ခိုင်သောစိတ်ဓာတ်တို့နှင့် ပြည့်စုံ၍၊ နိုင်ငံ တော် သား တယောက် အနေဖြင့်ရင်း၊ စစ်သည်တော်တယောက် အနေဖြင့်ရင်း၊ စာရိတကောင်းကောင်း စည်းကမ်းရှိရှိနှင့် ပေးအပ်သောတာဝန်ကို ဦးလည်မသုန်ထမ်းဆောင်မည့်သူများဖြစ်စေရန်မျှော်မှန်း၏။

တပ်မတော်စစ်တက္ကသိုလ်ကို ကြည်း၊ရေ၊လေ၊တပ်မတော်သုံးရပ်စလုံးအတွက်သတ်မှတ်ထားသည့်အားလျော်စွာ၊ တပ်မတော် တရပ် ရပ် အ တွက် ရည်စူး ရွေး ချယ် ထား သော ဗိုလ်လောင်းတို့အား သင်တန်း၏နောက်ဆုံးနှစ်များတွင် ထိုတပ်မတော်ဆိုင်ရာ ပညာရပ်များကိုပိုမိုလေ့လာခွင့်ပေး၏။ ပမာအားဖြင့်၊ ကြည်း တပ်မတော် အင်ဂျင်နီယာတပ်ဖွဲ့ အတွက်ရည်စူးရွေးချယ်ထားခြင်းခံရသူသည် အင်ဂျင်နီယာနှင့်ပတ်သက် သည့် ဘာသာရပ်များကို ပိုမိုလေ့လာနိုင်ခွင့် ရ၏။ ရေတပ်မတော်၊ လေတပ်မတော်တို့ အတွက် ရည်စူးရွေးချယ်ခြင်းခံရသောသူများသည်လည်း အလားတူပင် ရေတပ်၊ လေတပ်နှင့်ပတ်သက်သည့်ဘာသာရပ်များကို ပိုမိုလေ့လာနိုင်ခွင့်ရ၏။

၁၉၅၃ ခု၊ ရန်ကုန် တက္ကသိုလ် (ပြင်ဆင်ချက်) အက် ဥပဒေအရ တပ်မတော် စစ်တက္ကသိုလ်သည် ရန်ကုန်တက္ကသိုလ်၏လက်အောက်ခံ ကောလိပ်ကျောင်းတခုဖြစ်၏။ သို့ဖြစ်ရာ ဗမာ့တပ်မတော် စစ်တက္ကသိုလ်၏ သင်တန်းချိန်ကိုလည်း ၄ နှစ်သတ်မှတ်ထားပေ၏။ ၂ နှစ်ပြီးဆုံးလျှင် ဥပစာ စာမေးပွဲနှင့်ညီမျှသောစာမေးပွဲကိုရင်း၊ ၄ နှစ်ပြီးဆုံးလျှင် ဝိဇ္ဇာသိပ္ပံဘွဲ့ရ စာမေးပွဲနှင့်ညီမျှသော စာမေးပွဲကိုရင်း ဖြေဆို၍၊ စစ်တက္ကသိုလ်မှအောင်မြင်ပြီးဆုံးသူများအား ဒုတိယဗိုလ်အဖြစ်ခန့်ထားခြင်း ခံရမည့်အပြင်၊ ရန်ကုန်တက္ကသိုလ်မှဝိဇ္ဇာသိပ္ပံဘွဲ့ကိုလည်းရမည်ဖြစ်၏။ စစ်တက္ကသိုလ်တွင် စစ်ဖက်ဆိုင်ရာပညာရပ်များကို စစ်ဖက်အရာရှိများကသင်ကြားပို့ချပေး၍၊တက္ကသိုလ်ပညာရပ်များဖြစ်သော ဝိဇ္ဇာနှင့်သိပ္ပံပညာတို့တွင် အကျုံးဝင်သော မြန်မာစာ၊ အင်္ဂလိပ်စာ၊ သင်္ချာ၊ ဓာတုဗေဒ၊ ရူပဗေဒ၊ ပထဝီ၊ နိုင်ငံသမိုင်းနှင့် ဘောဂဗေဒတို့ကိုမူ ရန်ကုန်တက္ကသိုလ်နှင့် ပြင်ပမှ ရွေးချယ် ခန့်အပ်ထားသော ဝိဇ္ဇာ၊ သိပ္ပံဖက်ဆိုင်ရာ ပညာရှိများကသင်ကြားပို့ချပေး၏။

အသက် ၁၆ နှစ်နှင့် ၁၈ နှစ်အကြားရှိ၍၊ကျန်းမာခြင်းအဆင့် အတန်းနှင့် ပြည့်စုံသော ပြည်ထောင်စုသားတိုင်းသည် ရွေးချယ်ရေး စာမေးပွဲ အောင်မြင် ပါက၊ တပ်မတော် စစ်တက္ကသိုလ်သို့ဝင်ရောက်နိုင်ခွင့်ရှိ၏။ ဤစာမေးပွဲသည် မက်ထရစ်အဆင့်အတန်း နှင့်ညီမျှ၏။ ရွေးချယ်ရေး စာမေးပွဲကို မြန်မာပြည်အနှံ့ အပြား မြို့ကြီး များ၌ နှစ်စဉ် ဒီဇင်ဘာလလောက်တွင် ကျင်းပပြုလုပ်၍၊ ဖြေဆိုနိုင်သူများ ကို တပ်မတော်ဗိုလ်ရွေးအဖွဲ့က ထပ်မံစစ်ဆေးရွေးချယ်ပေးသည်။ ထိုအဖွဲ့က ရွေးချယ်ခြင်းခံရသူသည် စစ်တက္ကသိုလ်သို့ ဇူလိုင်လ ၁ ရက်နေ့တွင် စတင်ဝင်ရောက်ရသည်။

စစ်တက္ကသိုလ်ဒုတိယနှစ်ပြီးဆုံးအောင်မြင်သောအခါ အင်ဂျင်နီယာတပ်၊ လျှပ်စစ် နှင့် စက်မှုအင်ဂျင်နီယာတပ်စသောစက်မှုလက်မှုတပ်ဖွဲ့အတွက်ပညာဆက်လက်သင်ရန် ရွေးချယ်ခံရသော ဗိုလ်လောင်းတို့သည် ဘီ၊အက်စ် အင်ဂျင်နီယာဘွဲ့ကိုရယူရန် အတွက် ရန်ကုန်တက္ကသိုလ် အင်ဂျင်နီယာ သိပ္ပံ၌ဖြစ် စေ၊ အခြား အလားတူသိပ္ပံတခုခု၌ဖြစ်စေ ဆက် လက်တက်ရောက်ကြရ၏။ ရေတပ်မတော်၊ လေတပ်မတော်တို့အတွက်ရွေးချယ်ခြင်းခံရသူများကား ဝိဇ္ဇာ၊ သိပ္ပံပညာများကိုဆက်သင်၍ သက်ဆိုင်ရာ တပ်မတော်များ၏ လေ့ကျင့်ရေးကိုလည်းသင်ယူရ၏။ ကြည်းတပ်မတော်အတွက်ရည်စူးရွေး ချယ်ခြင်း ခံရသော ဗိုလ်လောင်း များ သည် ဝိဇ္ဇာ၊သိပ္ပံပညာများ ကို ဆက်သင်၍၊ ကြည်း တပ်မတော် အခြေခံ စစ်ပညာကိုလည်း သင်ကြားကြရ၏။ ထိုသို့သင်ကြားလေ့ကျင့်ခြင်း ပြီးဆုံး အောင်မြင်သည့် အခါ၊ ခြေလျင် တပ်နှင့် အခြားလက်ရုံးတပ်များအတွက်ရွေးချယ်ခြင်းခံရသောဗိုလ်လောင်းသည် ဒုတိယဗိုလ်အဆင့်အတန်းနှင့် ပြန်တမ်းဝင်အရာရှိ အဖြစ် ခန့်အပ်ခြင်းခံရပြီးနောက်၊ သက်ဆိုင်ရာ လက်ရုံးတပ်ဖွဲ့လေ့ကျင့်ရေးကျောင်းများတွင် တိုက်ခိုက်ရေးစစ်ပညာများကို အဆင့်ဆင့်တက်ရောက်သင်ကြားကြရ၏။ ရန်ကုန်တက္ကသိုလ် အင်ဂျင်နီယာသိပ္ပံတွင်ဖြစ်စေ၊ အခြားအလားတူသိပ္ပံတွင်ဖြစ်စေ ပညာဆက်လက်သင်ကြားကြရသော ဗိုလ်လောင်း တို့ပြီးဆုံး အောင်မြင်၍၊ အင်ဂျင်နီယာသိပ္ပံဘွဲ့ ရကြသည့်အခါတွင်၊ ဗိုလ်အဆင့်အတန်း နှင့် ပြန်တမ်းဝင်အရာရှိအဖြစ် ခန့်အပ်ခြင်း ခံရပေသည်။ (ကြည်း တပ် — ရှု။) တပ်မတော် ရေတပ်နှင့် လေတပ်တို့ အတွက် ပညာသင်ကြားနေသော ဗိုလ်လောင်းများ သည်လည်း ၄ နှစ်ပြည့်သော် ဝိဇ္ဇာ၊ သိပ္ပံဘွဲ့များရရှိ၍၊ သက်ဆိုင်ရာတပ်မတော်တွင် ဒုတိယဗိုလ်ရာထူးများဖြင့် ခန့်ထားခြင်းခံရ၏။

တပ်မတော်တိုင်း နိုင်ငံတော် လုံခြုံရေး အတွက် တာဝန်ရှိသည်။ ထိုတာဝန်ကိုကျေပြွန်စွာထမ်းဆောင်နိုင်ရန်အတွက် အရာရှိကောင်း များစွာရှိပြီးလျှင် အကယ်ပင် တောင့်တင်း သန့်ရှင်းသော တပ်မတော်ဖြစ်ရန်လို၏။ နိုင်ငံတိုင်းတွင် အမြဲတမ်းတပ်မတော်အပြင် အရေးရှိက အလျင်အမြန်တိုးချဲ့နိုင်ရန်အတွက် ပြည်သူ့စစ်မှု ဝန်ထမ်းကိုလည်း တည်ထောင်ဖွဲ့စည်းထားရလေရာ၊ ဤအရာရှိကောင်းတို့သာလျှင် စစ်မှုရေးရာဖြစ်သောတိုက်ရေးခိုက်ရေးသာမက၊အခြားအုပ်ချုပ်ရေး၊

ခေါင်းဆောင်ရေးတို့တွင် ပင်ကိုယ်ဉာဏ်၊ ထိုးထွင်းဉာဏ်တို့နှင့်ယှဉ်၍၊ ဝေမှန်ချင့်ချိန်မှုကိုလက်ကိုင်ပြုကာ၊ နိုင်ငံတော်၏အကျိုးကို ဆတက်ထမ်းပိုး သည်ပိုးဆောင်ရွက်နိုင်မည်ဖြစ်ပေသည်။ သို့ဖြင့် ယခုအခါ ပြည်ထောင်စုမြန်မာနိုင်ငံတော်ကြီး၏ အဓွန့်ရှည်စွာတည်မြဲမှုကို စစ်တက္ကသိုလ်ကြီး၌စတင်အုတ်မြစ်ချလျက်ရှိ၏။ ဦးမောင်မောင်

စစ်တမ်း။ ။မြန်မာမင်းအုပ်ချုပ်ပုံ — ရှု။

စစ်တွေခရိုင်။ ။စစ်တွေခရိုင်သည် ပြည်ထောင်စုမြန်မာနိုင်ငံ၌ အနောက်ဖက် အကျဆုံး ခရိုင်ဖြစ်၍၊ ရခိုင်တိုင်းမြောက်ဖက် အစွန်ဆုံးရှိခရိုင်ဖြစ်သည်။ စစ်တွေ ခရိုင်၏ အနောက်နှင့် အနောက်မြောက်စွန်းဖက်တွင် အရှေ့ပါကစ္စတန်ပြည်၊ စစ်တကောင်းနယ်ရှိသည်။ နတ်မြစ် (ဝါ) တော်မြစ်သည် စစ်တွေခရိုင်နှင့် ပါကစ္စတန်ပြည်တို့၏ နယ်ခြားမြစ်ဖြစ်သည်။ စစ်တွေခရိုင်၏မြောက်ဖက်တွင် ပြည်ထောင်စုမြန်မာနိုင်ငံ၏ ချင်းဝိသေသတိုင်းရှိ၍၊ စစ်တွေခရိုင်၏ အရှေ့ဖက်နယ်နိမိတ်မှာ ရခိုင်ရိုးမတောင်တန်းကြီးဖြစ်၏။ အရှေ့ဖက်တွင် မင်းဘူးခရိုင်နှင့် ၁၀ မိုင်ခန့်မျှ နယ်နိမိတ်ချင်း ဆက်စပ်နေသော်လည်း၊ တောင်ကြီးများ ကာဆီးလျက်ရှိသဖြင့် မင်းဘူးခရိုင်မှစစ်တွေခရိုင်တွင်းသို့ဖြတ်သန်းကူးလူးခြင်းမပြုနိုင်ပေ။ စစ်တွေခရိုင်၏တောင်ဖက်တွင် ကျောက်ဖြူခရိုင်ရှိ၍၊ အနောက်ဖက်တွင် ဟန်းတား ပင်လယ်အော်မှ နတ်မြစ်ဝအထိ ရှည်လျားသော ပင်လယ်ကမ်းရိုးတန်းသည် ဗင်္ဂလားပင်လယ်အော်နှင့်ဆက်စပ်လျက်ရှိသည်။ စစ်တွေခရိုင်သည် စတုရန်းမိုင် ၅,၁၃၆ မျှကျယ်ဝန်းသည်။

စစ်တွေခရိုင်မှာ ရခိုင်တိုင်း၏အကြီးဆုံးအပိုင်းဖြစ်၍၊ခရိုင်အတွင်းရှိ ဓညဝတီဟု ရှေးကတွင်ခဲ့သည့် မြို့ဟောင်းမှာ ရှေးအခါက ရခိုင်ပြည်၏မြို့တော်ဖြစ်ခဲ့သည်။ ယခုတိုင် ရှေးဟောင်း အဆောက်အအုံပျက်များ ကိုတွေ့မြင် နိုင်သေး၏။ စစ်တွေခရိုင်အတွင်းရှိ ကျောက်တော်မြို့နယ်၊မဟာမုနိဒေသမှ မြတ်စွာဘုရားရုပ်ပွားတော်တဆူကို ခရစ် ၁၇၈၄ ခုနှစ်တွင် မြန်မာတို့ပင့်ဆောင်လာခဲ့၏။ ထိုရုပ်ပွားတော်မှာ ယခုအခါမန္တလေးမြို့တွင် သီတင်းသုံးနေတော်မူသော မဟာမုနိဘုရားပင်ဖြစ်သည်။

အင်္ဂလိပ်မြန်မာပဌမစစ်ပွဲအတွင်း ၁၈၂၅ ခုနှစ်တွင် ဂျင်နရယ် မော်ရီဆန်၏ တပ်တတပ်သည် စစ်တကောင်းမှ နတ်မြစ်ကိုဖြတ်လျက် မြို့ဟောင်းမြို့ကိုတိုက်ခိုက်သိမ်းပိုက်ခဲ့လေသည်။ ထို ပဌမအင်္ဂလိပ်မြန်မာစစ်ပွဲကို ၁၈၂၆ ခုနှစ် ဖေဖွာရီလ ၂၆ ရက်နေ့တွင်ချုပ်ဆိုသော ရန္တပိုစာချုပ်ဖြင့်စစ်ပြေငြိမ်းခဲ့ရာ၊ ရခိုင်တိုင်းမှာ ထိုစဉ်က အင်္ဂလိပ်လက်အောက်သို့ကျရောက်ခဲ့လေသည်။ (အင်္ဂလိပ်မြန်မာစစ်ပွဲ — ရှု။) ထိုအခါအင်္ဂလိပ်တို့က ရခိုင်တိုင်း၏အုပ်ချုပ်ပုံနည်းစနစ်များကိုပြင်ဆင်လိုက်၏။ နည်းစနစ်သစ်အရ၊ ရခိုင်တိုင်းကို ရခိုင်တိုင်းတောင်တန်း ဒေသခရိုင်၊ကျောက်ဖြူခရိုင်၊ စစ်တွေခရိုင်၊သံတွဲခရိုင်ဟူ၍ ခရိုင် ၄ ခုခွဲလိုက်လေသည်။ ထိုခရိုင် ၄ ခုတွင် စစ်တွေခရိုင်မှာ အကြီးဆုံးနှင့် အရေးပါအရာရောက်ဆုံးခရိုင်ဖြစ်သည်။ စစ်တွေခရိုင်သည် မြောက်ဖက်လတ္တီတွဒ် ဒီဂရီ ၁၉.၁၇ နှင့် ၂၁.၂၇ ဒီဂရီအကြားတွင် ရှိသော်လည်း၊ ပင်လယ်ကမ်းခြေတွင် တည်ရှိသဖြင့် ထိုလတ္တီတွဒ်အတွင်းရှိ မြန်မာနိုင်ငံ အထက်ပိုင်းဒေသများကဲ့သို့ အပူအအေးလွန်ကဲခြင်းမရှိပေ။ တနှစ်ပတ်လုံးပျမ်းမျှအပူချိန် ၇၈ ဒီဂရီမျှသာရှိ၏။ မိုးရွာသွန်းချိန်တွင် သည်းထန်စွာရွာသွန်းသည်။ လေမုန်တိုင်းများလည်းကျရောက်တတ်သည်။



စစ်တွေခရိုင်ပုဏ္ဏားကျွန်းရှိ ဦးရစ်တော်စေတီ

၁၉၄၁ ခုနှစ် သန်ကောင်စာရင်းအရ ခရိုင်တွင်းရှိ လူဦးရေမှာ ၇၆၀,၇၀၅ ဖြစ်၏။ ထိုအထဲတွင် ဗုဒ္ဓဝါဒီများမှာ အများဆုံးဖြစ်သည်။ ဗုဒ္ဓဝါဒီများမှ လွဲလျှင် မွတ်စလင်များမှာ အများဆုံးဖြစ်၏။ စစ်တွေခရိုင်တွင်း၌ ရခိုင်၊ မြန်မာ၊ ခမီး၊ မြို၊ ချင်း၊ ဒိုင်းနက်၊ ချောင်းသား၊ သက်ဟူသော တိုင်းရင်းသားတို့နေထိုင်ကြသည်။ ခရိုင်တွင်းရှိလူများသည် အများအားဖြင့် လယ်ယာလုပ်ကိုင်ကြသည်။

စစ်တွေခရိုင်သည် မြေဩဇာကောင်းမွန်၍၊ မိုးလုံလောက်စွာရွာသောကြောင့် စိုက်ပျိုးရေးလုပ်ငန်းများ ကောင်းမွန်၏။ ခရိုင်တွင်းရှိ မြေပြန့်တို့တွင် ဆန်စပါးစိုက်ပျိုးရန်သင့်လျော်၍၊ တောင်ခြေဒေသများတွင် ဥယျာဉ်များလုပ်ကိုင်ရန်သင့်လျော်၏။ တောင်ပေါ်တွင်မူကား၊ တောင်ယာများလုပ်ကိုင်ကြ၏။ စစ်တွေခရိုင်အတွင်း၌ လယ်ယာစိုက်ပျိုးရေးအတွက်စရိတ်မှာ မြန်မာနိုင်ငံအောက်ပိုင်းထက် ပိုမိုကြီးလေးသည်။ ခရိုင်တွင်းတွင် အသုံးပြုသောစိုက်ပျိုးနည်းများမှာ မြန်မာနိုင်ငံအောက်ပိုင်းအခြားဒေသများနှင့် အနည်းငယ်ကွဲပြား၏။ ဆန်စပါးကိုအများဆုံးစိုက်ပျိုး၏။ ဆေးနှင့်ကြံကို အနည်းငယ်စိုက်ပျိုးလုပ်ကိုင်ကြ၏။ ဒီရေအတက်အကျရှိသောဒေသများတွင် ဓနိပင်များပေါက်သည်။

စစ်တွေခရိုင်တွင် တောင်ထူထပ်သောနေရာတို့၌ အမြဲတမ်း စိမ်းလန်းသော သစ်တောကြီးများရှိ၏။ သို့ရာတွင် မိုးများ၍စိုစွတ်လွန်းသဖြင့် ကျွန်းသစ်များစွာမပေါက်ရောက်ချေ။ ပျဉ်းကတိုးများသာ အများအပြားပေါက်ရောက်လေသည်။ ပျဉ်းကတိုးသည် ဇလီဖားတုံးလုပ်ရန်အသုံးဝင်၏။ အခြားပေါက်ရောက်သောသစ်များမှာ ပျဉ်းမ၊ သစ်ကတိုး စသည်တို့ဖြစ်၏။ ကျွန်းစိုက်ပျိုးရေးလုပ်ငန်းကို ၁၇၇၂–၄ ခုနှစ်ခန့်ကမှစတင်ခဲ့သည်။ သစ်တောကြီးများအပြင်၊ ဝါးရုံတောကြီးများလည်း ကျယ်ပြန့်စွာတည်ရှိလေသည်။ ထိုသစ်တောများတွင် ဆင်၊ ပြောင်၊ ကျား၊ ကျားသစ်တို့ရှိကြ၏။ သမင်အမျိုးမျိုးကို မြေပြန့်တောများတွင် တွေ့ရလေသည်။

စစ်တွေခရိုင်အတွင်းမှ ကျောက်မီးသွေးတူးဖော်တွေ့ရှိရသော်လည်း၊ အမျိုးညံ့သဖြင့်အသုံးမပြုနိုင်ချေ။ ဒုတိယကမ္ဘာစစ်မဖြစ်မီက အရှေ့ပိုင်း ဖရုံကာကျွန်းတွင် ရေနံတူးဖော်ရရှိရာ၊တနှစ်လျှင် ဂါလံ ၅၀,၀၀၀ ကျော်မျှထွက်သည်။ ခရိုင်တွင်းမှ တနှစ်လျှင် ဆားတန်ချိန် ၂၂၀ မျှထွက်၏။

စစ်တွေခရိုင်တွင် ဆန်စပါးကို အဓိက ကုန်သွယ်ရောင်းဝယ်သည်။ ခရိုင်တွင်းမှထွက်သော ဆန်စပါးကို ရေလမ်း၊ ကုန်းလမ်း ခရီးတို့ဖြင့် စစ်တွေမြို့သို့ သယ်ဆောင်လာကာ စစ်တွေမြို့မှတဆင့် တင်ပို့ရောင်းချလေသည်။ ခရိုင်တွင်း ကူးသန်းရောင်းဝယ်ရေးတွင် ကုန်ချင်းဖလှယ်မှုစံနစ်မျိုးကို ခရိုင်အစွန်အဖျားရှိ တောင်ပေါ်သားများက အသုံးပြုသည်။

စစ်တွေခရိုင်၏လမ်းပန်းဆက်သွယ်ရေးသည် မြေမျက်နှာပြင် အနေအထားပေါ်တွင် တည်ရှိသည်။ စစ်တွေခရိုင်၏ မြေမျက်နှာပြင်မှာ ကမ်းရိုးတန်းဖက်နီးလာသောအခါ၊ မြေနိမ့်လွင်ပြင်များဖြစ်လာသဖြင့် မြစ်များသည် ဖြာထွက်ကာစီးဆင်းကြသောကြောင့် ချောင်းငယ် မြောင်းငယ်အများအပြားရှိနေ၏။ ထို့ကြောင့် ခရိုင်၏မြေပြန့်အရပ်များတွင် ပိုက်ကွန်သဖွယ် ယှက်သန်းနေသော ချောင်းငယ်များရှိရာ၊ မိုးရာသီတွင် ကုန်းလမ်းခရီးဖြင့် အသွားအလာမဖြစ်နိုင်လောက်အောင် ခဲယဉ်းလေသည်။ ကုလားတန်မြစ်သည် ခရိုင်အတွင်းအသုံးအဝင်ဆုံးမြစ်ဖြစ်၍၊ တန် ၄၀၀ အထိအလေးချိန်ရှိသော သင်္ဘောများသည် မြစ်ဝမှမိုင် ၄၀ အထိ ဆန်တက်သွားလာနိုင်သည်။ ကုလားတန်မြစ်ဝလက်ျာဖက်ကမ်းတွင် စစ်တွေမြို့တည်ရှိသည်။ စစ်တွေမြို့မှ ရေလမ်းခရီးဖြင့် အခြားခရိုင်များသို့ ခရီးလမ်း ဆက်သွယ်နိုင်၏။ စစ်တွေမြို့သည် ပင်လယ်ဆိပ်ကမ်းမြို့ဖြစ်သည်။ စစ်တွေမြို့မှ ကျောက်ဖြူ၊သံတွဲ၊ ရန်ကုန်၊ စစ်တကောင်း၊ ကာလကတ္တားမြို့များသို့ သင်္ဘောများခုတ်မောင်းသွားလာခြင်းရှိလေသည်။ စစ်တွေမြို့တွင် လေဆိပ်ရှိသဖြင့် ဝေဟင်ခရီးဖြင့် လမ်းပန်းဆက်သွယ်မှုလည်းရှိလေသည်။

စစ်တွေ သင်္ဘောဆိပ်သို့ အဝင်တွင် ဆဲဗစ်ကျွန်းပေါ်၌ မီးပြတိုက်တခုရှိသည်။ ယင်းမီးပြတိုက်မှာ ကျောက်တုံးများဖြင့်တည်ဆောက်ထားလျက် အမြင့် ၁၃၈ ပေရှိ၏။ ထိုမီးပြတိုက်ကို ၁၈၄၂ ခုနှစ်တွင်တည်ဆောက်ခဲ့သည်။ စစ်တွေသင်္ဘောဆိပ်မှ ၁၄ မိုင်အကွာတွင်ရှိသော အိုက်စတာကျွန်း၌ မီးပြတိုက်တခုရှိသေးသည်။ ထိုမီးပြတိုက်ကို ၁၈၉၂ ခုနှစ်ကမှ စတင်တည်ဆောက်ခဲ့လေသည်။

စစ်တွေခရိုင်ကို အုပ်ချုပ်ရေးအတွက် စစ်တွေနယ်၊မင်းပြားနယ်၊ မြို့ဟောင်းနယ်၊ မောင်းတောနယ်ဟူ၍ နယ် ၄ နယ်ခွဲထား၏။ စစ်တွေနယ်ကို စစ်တွေ မြို့နယ်၊ ရသေ့တောင်မြို့နယ်၊ ပေါက်တောမြို့နယ်ဟူ၍၎င်း၊ မင်းပြားနယ်ကို မင်းပြားမြို့နယ်နှင့် ကျောက်တော်မြို့နယ်ဟူ၍၎င်း၊ မြို့ဟောင်းနယ်ကို မြို့ဟောင်းမြို့နယ်နှင့် ဘူးသီးတောင်မြို့နယ်ဟူ၍၎င်း၊ မောင်းတောနယ်ကို မောင်းတောမြို့နယ်နှင့် ပုဏ္ဏားကျွန်းမြို့နယ်ဟူ၍၎င်း၊ မြို့နယ်ပေါင်း ၉ ခုခွဲထား၍အုပ်ချုပ်သည်။ မြို့နယ်တခုစီတွင် မြို့ပိုင်တယောက်ကျရှိ၏။ စစ်တွေမြို့တွင် တိုင်းမင်းကြီးမှစ၍ မြို့ဖက် နယ်ဖက်အုပ်ချုပ်ရေးအရာရှိများရှိကြသည်။ စစ်တွေခရိုင်ဝန်သည် ရာထူးအလျောက်၊အကောက်တော်ဝန်၏တာဝန်ကိုလည်း ထမ်းရွက်ရ၏။ စစ်တွေမြို့တွင် စက်ရှင်တရားသူကြီးရုံးစိုက်၍၊ စိုက်ပျိုးရေးဖက်ဆိုင်ရာအရာရှိများ၊ သစ်တော၊ စာတိုက်၊ လူဝင် လူထွက် စသည့်ဌာနဖက်ဆိုင်ရာအရာရှိများလည်းရှိသည်။

**စစ်တွေမြို့။** ။စစ်တွေမြို့သည် ရခိုင်တိုင်းနှင့်၊စစ်တွေခရိုင်တို့၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ ရခိုင်တိုင်းတွင် တည်နေရာအကောင်းဆုံးမြို့လည်းဖြစ်သည်။

၁၈၂၆ ခုနှစ်တွင် ချုပ်ဆိုခဲ့သော ရန္တပိုစာချုပ်မတိုင်မီက ရခိုင်ပြည်၏မြို့တော်မှာ မြောက်ဦးမြို့ဖြစ်၍၊ စစ်တွေမြို့ကား မထင်ရှားသော တံငါရွာငယ်ကလေးမျှသာ ဖြစ်ခဲ့၏။ ပဌမ အင်္ဂလိပ်မြန်မာစစ်ပွဲအပြီး အင်္ဂလိပ်တို့ရခိုင်ပြည်ကိုသိမ်းခဲ့ပြီး



စစ်တွေမြို့တောင်ဖက်ကမ်းခြေရှိ ပွိုင့်ခေါ် ခံတပ်ဟောင်းနေရာ

နောက်၊ ပင်လယ်နှင့်မိုင် ၅၀ ဝေးသောမြောက်ဦးမြို့တွင်ရုံး မစိုက်တော့ဘဲ၊ ဗဂ်လားအော်ကမ်းခြေ၊ ကုလားတန်မြစ်ဝရှိ တံငါရွာကလေးကိုမြို့တည်၍ ရုံးစိုက်ခဲ့ကြလေသည်။

ထိုနေရာတွင် အင်္ဂလိပ် မြန်မာစစ်အတွင်းက စစ်တပ်များ ချထားခဲ့သောကြောင့် စစ်တွေမြို့ဟုတွင်ကြောင်း အဆိုရှိသည်။ ထိုမှတပါး ပင်လယ်ဖက်မှ ကောင်းစွာမြင်ရသော 'အကျဲတ်တော်' ဘုရားကိုအစွဲပြု၍ 'အကျတ်' ခေါ်တွင်သည်ဟုလည်းဆိုလေသည်။

စစ်တွေမြို့တည်ရှိရာကုလားတန်မြစ်ဝသည် ၆ မိုင်ခန့်ကျယ်ဝန်း၍၊ လှေသင်္ဘောများအတွက် လေ၊ လှိုင်းဘေးမှ ကာကွယ်ပေးနိုင်သဖြင့်၊ ရခိုင်တိုင်းတွင် အကောင်းဆုံး သင်္ဘောဆိပ်တခုဖြစ်သည်။ အိန္ဒိယနှင့်အနီးကပ်ဆုံး သင်္ဘောဆိပ်ကမ်းလည်းဖြစ်၏။ ထိုပြင် မြို့မှာ ပင်လယ်ရေပြင်ထက် ၁၅ ပေမျှသာမြင့်၍ ဒီရေလွှတ်လောက်အောင် လမ်းမြင့်ကြီးများဖေါက်လုပ်ထားရ၏။ ဆိပ်ကမ်းအဝင် ကျွန်းပေါ်တွင် မီးပြတခုရှိသည်။ ကုလားတန်မြစ်ကြောင့် စစ်တွေမြို့သည် ဆိပ်ကမ်းကောင်းတခုဖြစ်၏။ မြို့၏တဝိုက်တွင် ကုန်းတွင်းရေလမ်းခရီးဖြင့် ကျောထောက်နောက်ခံနယ်များမှ အသွားအလာ လွယ်ကူသောကြောင့် ဆန်စပါး အရောင်းအဝယ်တွင်ကျယ်သည်။ ထိုသို့အရောင်းအဝယ်ဖွံ့ဖြိုးလာသောအခါ စစ်တကောင်း၊ ရာမူး၊ မြို့ဟောင်းစသောအရပ်တို့မှလူများသည် စစ်တွေမြို့သို့ဝင်ရောက်နေထိုင်ကြလေသည်။ ဤသို့လျှင် စစ်တွေမြို့သည် နှစ်အနည်းငယ်အတွင်း အရေးပါအရာရောက်သော ဆိပ်ကမ်းမြို့ကြီးတမြို့ဖြစ်လာခဲ့၏။

စစ်တွေမြို့တွင် အစိုးရရုံးကြီးများသာမက၊ ကျောင်းများ၊ ဆေးရုံကြီးများ၊ ဆန်စက်ကြီးများနှင့် ဘဏ်များရှိသည်။ မြို့ရွာသန့်ရှင်းစည်ပင်ရေးအတွက် မျူနီစီပယ်အဖွဲ့ကို ၁၈၇၄ ခုနှစ်မှစ၍ ဖွဲ့စည်းဆောင်ရွက်လာခဲ့သည်။

စစ်တွေမြို့နှင့် ပတ်ဝန်းကျင် ဆက်သွယ်ရေးအတွက် မြစ်ကြောင်းခရီးသည် ကောင်းမွန်လွယ်ကူသည်။ မော်တော်ကားသွားလာနိုင်သောလမ်းအနည်းငယ်ရှိသည်။ထိုပြင် ပင်လယ်ကူး သင်္ဘောကြီးများနှင့် အစိုးရ ကမ်းရိုးတန်း သွားသင်္ဘောများ ဆိုက်ကပ်ရာ ဆိပ်ကမ်းဖြစ်ရုံမျှမက၊ လေယာဉ်စခန်းကောင်းတခုလည်းဖြစ်၍ အရေးပါ အရာရောက်သောမြို့တမြို့ဖြစ်သည်။ ၁၉၅၃ ခုနှစ်သန်ကောင်စာရင်းအရ စစ်တွေမြို့၏လူဦးရေမှာ ၄၂,၃၂၉ ယောက်ဖြစ်လေသည်။

**စစ်ပညာ။** ။စစ်ပညာဟူသည် စစ်ကို အောင်မြင်စွာ တိုက်ခိုက်နိုင်ရန် လိုက်နာကျင့်သုံးရသောစစ်တိုက်နည်းများနှင့် စစ်သဘောတရားများဖြစ်သည်။ ယခုခေတ်တွင် စစ်ပညာကိုလေ့လာ ဆည်းပူးကြရာ၌၊ (၁)စစ်ဦးဆောင်ညွှန်ကြားရေး၊ (၂)စစ်ဆင်ယင်ရေး (စစ်ပရိယာယ်)၊ (၃) တိုက်ပွဲခင်းကျင်းရေး(သေနင်္ဂဗျူဟာ)၊ (၄)စစ်ဖွဲ့စည်းအုပ်ချုပ်ရေးဟူ၍ ပိုင်းခြားကာလေ့လာဆည်းပူးကြလေသည်။ စစ်ပညာကို ဤသို့ပိုင်းခြားလေ့လာ၍ စစ်ပညာ ကျမ်းကြီးကျမ်းခိုင်များပြုစုခဲ့ကြသည်မှာ အနှစ် ၃၀၀ ခန့်သာရှိသေး၏။ ကမ္ဘာ့ယဉ်ကျေးမှုထွန်းကားသောခေတ်မှစ၍၊ ၁၆ ရာစုနှစ်များခန့်အထိကား စစ်ပညာ(ယုဒ္ဓဗေဒ)သည် ဤသို့သိပ္ပံနည်းကျ ရှင်းလင်းစွာခွဲခြားမှုမရှိခဲ့ချေ။ ထိုခေတ်များတွင် စစ်ဦးဆောင်ညွှန်ကြားရေးနှင့် စစ်ဆင်ယင်ရေး(စစ်ပရိယာယ်)တို့မှာ တိုက်ပွဲကို ကိုယ်တိုင်ဦးစီးတိုက်ခိုက်လေ့ရှိသော မင်းကြေးရာဇ်များ၏ လုပ်ရည်ကြံရည်များသာဖြစ်၍၊ တိမ်တောင်သဖွယ် မင်းရေးကျယ် ဆိုသော စကား၌သာ အကျုံးဝင်လေ့ရှိလျက်၊ ပညာရပ်အဖြစ် တိုးတက်ထွန်းကားမှုမရှိလှချေ။ သို့သော် တိုက်ပွဲခင်းကျင်းရေး(သေနင်္ဂဗျူဟာ) အရာ၌မူ တိုက်ပွဲဝင် တပ်များဖြန့်ခွဲပုံ ဥပဒေများဖြင့် (ပဒုမ၊ စက္က၊ သကဋနှင့် ရထဗျူဟာစသည်များကဲ့သို့) ဗျူဟာအပြားပြားကို ယတိကျသတ်မှတ်ထားလေ့ရှိ၏။

စစ်ပညာ၏ပြောင်းလဲ တိုးတက်လာမှု သမိုင်းကို လေ့လာလျှင်၊ ရှေးခေတ်ကျဉ်းမြောင်းသော အယူအဆ အခြေအနေမှ ယခုခေတ်ကျယ်ပြန့်သောအယူအဆအခြေအနေသို့ မည်သို့ရောက်ရှိလာသည်ကို ထင်ရှားစွာတွေ့ရ၍၊ စစ်ပညာ၏အခြေခံသဘောတို့ကိုလည်းသိမြင်နိုင်ပေလိမ့်မည်။ စစ်ပညာ၏တိုးတက်မှု သမိုင်းကို ပြန်ပြောင်းလေ့လာလျှင်၊ ခေတ်ကာလအားဖြင့် ခေတ်ကြီး ၅ ခေတ်ရှိသည်ကိုတွေ့ရ၏။ ထိုခေတ်အသီးသီး၏ ဝိသေသအင်္ဂါများကို အကျဉ်းချုံး၍ အောက်၌ဖော်ပြထား၏။

### စစ်ပညာ၏တိုးတက်မှုသမိုင်း

**ယမ်းမီးလက်နက်များမသုံးမီခေတ်။** ။ဤကာလသည် အီဂျစ်၊ ဗက်ဗီလုံးနိုင်ငံ၊ ဂရိ၊ ပါးရှား၊ ရောမယဉ်ကျေးမှုတို့မှစ၍ ရောမအင်ပိုင်ယာပြိုကွဲပြီးနောက်၊ဥရောပနိုင်ငံငယ်များပေါ်စနှင့် တပင်ရွှေထီး၊ ဘုရင့်နောင်တို့ခေတ် ၁၆ ရာစုနှစ်များအထိပင်ဖြစ်၏။ ယမ်းဖော်စပ်နည်းကို ၁၂၅၂ ခုနှစ်က ကျမ်းတခုတွင် ဖော်ပြခဲ့သော်လည်း၊ ယမ်းမီးလက်နက်များကို စစ်ပွဲတွင်အများအပြားသုံးလာသည်မှာ ၁၆ ရာစုနှစ်များမှပင်ဖြစ်၏။ (ယမ်း — လည်းရှု။) ဤသို့ မသုံးမီရှေးကာလများ၌ကား ဓား၊ လှံ၊ လေးမြားတို့ကိုသာသုံးကြသည်ဖြစ်၍၊ တိုက်ခိုက်နည်းများသည်လည်း အနီးကပ်၍ လူအလုံးအရင်း၏အားကို အသုံးများခဲ့၏။ သို့ဖြင့် စစ်မြေပြင်တွင်အလုံးအရင်းသိပ်သိပ်ကြပ်ကြပ်စီကာ၊ လေးလံစွာရန်သူထံချဉ်းကပ်၍ အစည်းမပြေဘဲတိုက်ခိုက်ခြင်းကိုအဓိကပြုကြ၏။ မြင်းတပ်တို့၏ချီတက်မှုမြန်သော်လည်း၊ အနီးကပ်လက်နက်သာသုံးနိုင်၍၊ ယင်းမြင်းတပ်တို့ကို အလုံးအရင်းလိုက်ပင်အသုံးပြု၏။ အကြမ်းအားဖြင့် တပ်ဖြန့်ပုံမှာ မြင်းတပ်များကိုဝဲယာ၌ထား၍ အလယ်တွင် ခြေလျင်တပ် အင်အားကိုစုဝေးလျက်၊ ‘မုံမာန်ရွှဲရွှဲ စစ်ခြေမြဲ’ ဟူသောစကားအရ စစ်ခြေကျမြဲစေ၏။ ဤခေတ်တွင် နယ်ချဲ့သောတိုင်းပြည်များသည် မြင်းတပ်အင်အားကြီးမားကြ၏။ သို့မှ မြေပြင်ထုကိုလျင်မြန်စွာကျော်လွှားနိုင်မည်ဖြစ်၏။ ၁၂ ရာစုနှစ်ခန့်ကစ၍ အဆောက် အအုံ ပညာများတိုး တက် လာသည့်အလျောက်၊မြို့ရိုး၊ရဲတိုက်၊ ခံတပ်၊ သစ်တပ်တို့ဖြင့် စစ်တိုက်ခြင်းကိုတွေ့ရ၏။ ထို့ပြင် မြင်းစစ်သည်တို့သည် ချပ်ဝတ်တန်ဆာသုံးလာကြ၏။ ဤခေတ်ကား မြေရှင် မြို့စားကြီးများခေတ်ဖြစ်၍၊ ထိုသူတို့သာလျှင် စစ်မှုရေးရာ ကျွမ်းကျင်လျက်မြင်းစီးသူရဲများကို ကြေးစားတပ် သဖွယ် ဖွဲ့စည်း ထား၏။ စစ်ဖြစ်သော်၊ ပြည်သူလူထုကို အိမ်သုံး လက်နက်(ဓား၊ လှံ၊ လေးမြား)ကိုစွဲစေ၍ ဆင့်ခေါ်ကာအသုံးပြုကြ၏။ သို့ဖြင့် ခြေလျင်တပ်၏စွမ်းအင်ကား မတိုးတက်ပေ။ ထိုအခါများက စစ်တိုက်ခြင်းသည် တိုင်းသူပြည်သားများစွာ နစ်နာစေရန်ရည်မှန်း၍တိုက်ကြ၏။ တိုက်ပွဲတခု၏ အနိုင်အရှုံးအရ စစ်ပြေငြိမ်းမှုစကားဆိုခြင်းပြုကြ၏။ စစ်ကြီးတခုကို အပြီးအဆုံး တပြည်လုံးအရှုံးခံရသည်အထိတိုက်ကြခြင်းနည်း၏။ ထိုအခါက စစ်များသည် မင်းကြေးရာဇ်ချင်း စစ်ထိုးခြင်းများဖြစ်၍၊ နိုင်ငံတခုနှင့်တခုစစ်ဖြစ်သည်ဟူ၍ မဆိုနိုင်ချေ။

**ယမ်းမီးလက်နက်များသုံးလာသောခေတ်။** ။ယမ်းမီးပေါ်ပြီးစအနှစ် ၃၀၀ ခန့်တွင် လူတယောက်ကိုင်သေနတ်ထက် အမြောက်ပြုလုပ်၍သုံးခြင်းက ပိုမိုထိရောက်ခဲ့၏။ အကြောင်းမှာ ထိုခေတ်သေနတ်တို့သည် မီးတို့၍ပစ်ခတ်ရခြင်းကြောင့် ချိန်မပစ်နိုင်၍ရင်း၊ ယမ်းနှင့်ကျည်ညံ့သေး၍ အဝေးမရောက်ခြင်းကြောင့်ရင်း ဖြစ်၏။ စစ်ဆင်ရာတွင် အမြောက်များကို ခြေလျင်တပ်၏နောက်မှထား၍သုံး၏။ ထိုခေတ်မှ နပိုလီယန်ခေတ်အထိပင် စစ်ပွဲတွင်သုံးသော အမြောက်ဦးရေမှာ လူတထောင်လျှင် ၁ လက်ခန့်မှ ၃ လက်ခန့်ထိသာရှိ၏။ ဤခေတ်အဆုံးပိုင်းတွင် မြို့ရိုးခံတပ်တို့ကိုအားကိုး၍ စစ်တိုက်ခြင်းထက် လျင်မြန်စွာချီတက်တိုက်ခိုက်ကာ စစ်မြေပြင်တွင် ရန်သူ့အင်အားကို ချေမှုန်းရန် ရည်ရွယ်သောလှုပ်ရှားချီတက် စစ်ဆင်နည်းမျိုး ခေတ်စားစပြုလာ၏။ အမြောက်၏ အာနိသင်သည် ရေတပ်ကိုပိုမိုအကျိုးပြုလာ၏။ ရှေးခေတ်က အဝေးပစ် လက်နက်ကြီး မတပ်ဆင်နိုင် သဖြင့် သင်္ဘော်ချင်း စစ်တိုက်ရန် ခက်ခဲသော်လည်း၊ ထိုအခါမှစ၍

ရေတပ်သည် ကမ္ဘာကို စိုးမိုးထားသည့် စစ်အင်အားတရပ်အဖြစ် ကြည်းတပ်၏အရိုက်အရာကိုခံယူလာတော့၏။ နိုင်ငံတို့၏ စစ်တိုက်နိုင်စွမ်းအားသည် ထိုနိုင်ငံ၏ ဓနအင်အားပေါ်၌တည်လာ၏။ ကူးသန်းရောင်းဝယ်ရေးသည် ရေကြောင်းဖြင့်သာ ပိုမိုတွင်ကျယ်၍၊ အမြတ်အစွန်းများကာ ကမ္ဘာအနှံ့ အပြားကိုလည်းရောက်၏။ သို့ဖြင့် ရေတပ်သည် နိုင်ငံတော်စီးပွားရေး ကြမ္မာကို ဖန်တီးနိုင်လာတော့၏။ သို့သော် ထိုခေတ်က ဤအချက်ကိုဂရုပြုသောနိုင်ငံနည်း၏။ ဤအချက်ကို ဗြိတိသျှတို့သာလျှင် အထူးအရေးပေးကြ၏။ ထို့ကြောင့်လည်း ဗြိတိသျှတို့သည် သူတို့၏အလျင် သင်္ဘောဖြင့်ကုန်ကူးနေသော ဟော်လန်၊ ပေါ်တူဂီ၊ စပိန်၊ ပြင်သစ်တို့ကို ရေကြောင်းတွင် တစိမ့်စိမ့် အနိုင်ယူကာ၊ ကမ္ဘာ့ကူးသန်းရောင်းဝယ်ရေးကို သူတို့၏ရေတပ်ဖြင့် လုံးဝ လက်ဝါးကြီးအုပ်နိုင်ခဲ့၏။ ထိုခေတ်ကား အင်ပိုင်ယာ ချဲ့သောခေတ်ဖြစ်၏။ ဥရောပအတွင်းပိုင်းတွင်ကား ပရပ်ရှားပြည်သည် မင်းလေးဆက်အတွင်း ထိပ်တန်းလက်နက်ကိုင်နိုင်ငံကြီး အဖြစ် ထူထောင်နိုင်ခဲ့၏။ ဖရက်ဒရစ်မင်းဆက်သည် မိမိပြည်၏ စစ်တပ်ကိုပြန် လည်ဖွဲ့စည်း၍၊ စည်းကမ်းကြီးစွာဖြင့် စစ်တပ်တို့၏ ချီတက်လှုပ်ရှားမှု၊ တပ်ဖြန့်၍ နေရာရွှေ့မှုတို့ကို အထူးတိကျဖျတ်လတ်စေရန် စစ်ရေးပြခြင်းကိုအဓိကထား၍ လေ့ကျင့်ပေးသဖြင့် စစ်တိုက်ရာတွင်အရေးသာခဲ့၏။ ဖရက်ဒရစ် – သ – ဂရိတ်သည် တပ်များကိုခွဲ၍ ချီတက်ကာ၊ တိုက်ပွဲပြုမည့်နေရာသို့ မရောက်မီတွင် ပြန်စုခြင်းကိုလည်း အထူးအသုံးပြု၏။ သို့ဖြင့်သူသည် စစ်ဆင်ယင်ရေး (စစ်ပရိယာယ်)၏အခြေခံကို လက်တွေ့ဖော်ထုတ်ခဲ့၏။ ကျော်စောသောစစ်ပညာကျမ်းကိုလည်းပြုခဲ့၏။

ပြင်သစ်တော်လှန်ရေးခေတ်။ ။ပြင်သစ်တော်လှန်ရေးတွင် ပြင်သစ်လူထုအစိုးရသည် လူထုတရပ်လုံးကိုစည်းရုံးစေ၍၊ မဝင်မနေရစစ်မှုဖြင့် တပ်များထူထောင်ခဲ့၏။ (ပြင်သစ်တော်လှန်ရေး — ရှု။) စစ်အောင်နိုင်ရေးအတွက် နိုင်ငံတခုလုံးအား စီမံခန့်ခွဲခြင်းကို ပြင်သစ်တော်လှန်ရေးသမားတို့က စတင်ဆောင်ရွက်ခဲ့ကြ၏။ ပြင်သစ်တော်လှန်ရေးတပ်များသည် လက်နက်ပစ္စည်းချို့တဲ့သော်လည်း၊ ဝါဒရေးစိတ်ဓာတ်ပြင်းပြစွာဖြင့် တိုက်ခိုက်ကြသူများဖြစ်၍၊ အောင်မြင်မှုများစွာရခဲ့၏။ သို့ဖြင့် စစ်ဆင်ရေးတွင် ရုပ်ပစ္စည်းထက် စိတ်ဓာတ်သည် သုံးဆမျှတန်ဖိုး ပိုရှိသည်ဟုစကားတွင်ခဲ့၏။ ထိုပြင် တပ်မတော် အင်အားအလုံးအရင်းကို တပ်မများအဖြစ်ခွဲစိတ်ခြင်းကို ပြင်သစ်တို့ပင်တီထွင်ခဲ့ကြ၏။ ဤသို့စစ်ပညာ ပြောင်းလဲမှုများကိုအသုံးပြု၍၊ နပိုလီယန်သည် ထူးထူးခြားခြားအောင်မြင်မှုများသော စစ်ပွဲတို့ဖြင့် ဥရောပတတိုက်လုံးကိုလွှမ်းမိုးရန်ကြိုးစားခဲ့၏။ ဗြိတိသျှရေတပ်ကြောင့်သာလျှင် နောက်ဆုံး၌စစ်ရှုံးရပေသည်။ ရေတပ်သည် ဤသို့ထင်ထင်ရှားရှားအစွမ်းပြပြီးသည်မှစ၍၊ ကမ္ဘာကြီး၏ငြိမ်းချမ်းရေးကို ထိန်းခဲ့သည်မှာ ပဌမကမ္ဘာစစ်ကြီးအပြီးအထိပင်ဖြစ်၏။ ၁၈၆၀ ပြည့်နှစ်ကစ၍၊ ရေတပ်တို့တွင် သင်္ဘောများကို သံဖြင့်ပြုလုပ်၍၊ ရေနွေးငွေ့စက်များဖြင့် မောင်းနှင်လာကြကာ၊ ကြီးမားသောအမြောက်ကြီးများ တပ်ဆင်လာကြသဖြင့်၊ ရေတပ်၏အာနိသင်မှာ တိုးတက်ခဲ့၏။ ပြင်သစ်တော်လှန်ရေးနှင့် နပိုလီယံစစ်ကြီးအပြီးတွင် ထိုစစ်များ၌ အမှုထမ်းခဲ့ဘူးသော ပရပ်ရှင်းလူမျိုး ကားလဖွန် ကလော့ဇဗစ်နှင့် ဆွစ်လူမျိုး အွန်တွန် အန်းရီ ဇော်မီးနီးတို့သည် နပိုလီယန်၏စစ်ဆင်နည်းများကိုလေ့လာ၍ယုဒ္ဓဗေဒကျမ်းများရေးသားခဲ့ကြ၏။ ထိုကျမ်းကြီးများ၌ ယုဒ္ဓဗေဒ၏ပညာရပ်အပိုင်းအခြားလေးခုကို ရှင်းလင်းစွာဖော်ထုတ်၍၊ စစ်၏တရားကိုယ်သဘောများကို ကြံစည်ချမှတ်ခဲ့ကြ၏။ သို့ဖြင့် ကမ္ဘာ့တပ်မတော်များတွင် ယခုအနုမြူခေတ်အထိ မမှားနိုင်ဟုလက်ခံထားရသည့်စစ်အောင်ရာအကြောင်းများဟူသော စစ်၏တရားကိုယ်သဘောများကား နိုင်ငံအလိုက် အနည်းငယ်စီမျှ ကွဲပြားသော်လည်း၊ မူအားဖြင့်အတူတူပင်ဖြစ်၏။

ယင်းတို့သည် (၁) ရည်ရွယ်ချက်တိကျခိုင်မြဲရသည့်သဘော၊ (၂) စိတ်ဓာတ်ခိုင်မြဲကောင်းမွန်ရသည့်သဘော၊ (၃)အလုံးအရင်းနှင့်သွန်ချရသည့်သဘော၊ (၄)အင်အားကိုခြိုးခြံရသည့်သဘော၊ (၅)တိုက်စစ်ကိုသာရည်ရွယ်ရင်းရှိရသည့်သဘော၊ (၆)လျင်မြန်စွာ စစ်ကစားနိုင်ရသည့်သဘော၊ (၇)လုံခြုံမှုပြည့်စုံရသည့်သဘော၊ (၈)ရန်သူအင်္ဂါကိုဖမ်းနိုင်ရသည့်သဘော၊ (၉)ပူးပေါင်းဆောင်ရွက်ရသည့်သဘော၊ (၁၀)အုပ်ချုပ်ကွပ်ကဲမှုစေ့စပ်ကောင်းမွန်ရသည့်သဘောတို့ဖြစ်၏။ စစ်မျက်နှာဖွင့်ခြင်း၊ စစ်နယ်ဝှန်းရွေးခြင်း၊ စစ်ချီစစ်တက်ပြုခြင်းစသည်တို့ကိုလည်း ထိုကျမ်းတို့ကိုမှီး၍ ခေတ်အလိုက်ပြုပြင်ကာ ဆောင်ရွက်လျက်ရှိကြ၏။ ၁၈၀၀ ပြည့်နှစ်ခန့်တွင်လည်း ပရပ်ရှင်းတို့သည် စစ်ဦးစီးခြင်းစံနစ်ကို တီထွင်၍ အထူးလေ့ကျင့်ခြင်းပြုခဲ့ရာ၊ ၁၈၆၆ ခုနှစ် ဩစတြီးယားနှင့်စစ်ဖြစ်ရာ၌၎င်း၊ ၁၈၇၀ ပြည့်နှစ်ပြင်သစ်နှင့်စစ်ဖြစ်ရာ၌၎င်း၊ စစ်ဦးစီးချုပ်မော်လကေ လက်ထက်တွင် မိမိတို့က စစ်အင်အားနည်းလျက်နှင့်ပင် အောင်မြင်မှုကြီးများကို ဥရောပတိုက်တခွင်လုံးအံ့မခန်းလိုလိုထင်ရှားစွာရခဲ့ကြ၏။ ထိုစစ်ဦးစီးစံနစ်ကား စစ်ပရိယာယ်ရေး၊ သေနင်္ဂဗျူဟာရေးဟူသော စစ်ပညာရပ်တို့၌ စက်ယန္တရားမောင်းနှင် သကဲ့သို့ကျွမ်းကျင်အောင် လေ့ကျင့်ထားသောစစ်ဦးစီးဗိုလ်များသည် စစ်တပ်များကို စက်ရုပ်ကဲ့သို့ ရွှေ့ပြောင်းလှုပ်ရှားစစ်ဆင်နိုင်သော စံနစ်အရ လုပ်ဆောင်နည်းများ၊ စစ်တပ်ကြီးများအား ရိက္ခာပစ္စည်းအရှိန်မပျက်အောင်ထောက်ပံ့နည်းများ၊ တိုက်ခိုက်မည့်အခြေအနေများ

ကို စစ်မဖြစ်မီငြိမ်းချမ်းသောကာလများက လေ့လာ၍ အချိန်ပိုင်းအထိတွက်၍ စီမံချက်များပြုလုပ်နည်းများ၊ စစ်ကြီးအတွက်လိုအပ်သော တပ်အင်အားအလုံးအရင်းကို ရက်ပိုင်းအတွင်း ခေါ်ယူဖွဲ့စည်းသောနည်းများပင်ဖြစ်၏။

ပဌမကမ္ဘာစစ်ကြီးခေတ်။ ။ဤခေတ်သည် လေယာဉ်ခေတ် အစပိုင်းဖြစ်၏။ ၁၉ ရာစုနှစ်နှင့် ၂၀ ရာစုနှစ်အစတွင် လောကဓာတ်ပညာနှင့် စစ်မှုပညာတို့သည် တဟုန်တည်းတိုးတက်ခဲ့သည်။ ထို့ကြောင့် ပဌမကမ္ဘာစစ်အတွင်းတွင် မီးရထား၊ မီးသင်္ဘော၊ မော်တော်ယာဉ်၊ ကြိုးမဲ့ကြေးနန်း၊ စက်သေနတ်၊ အမြောက်၊ တင့်ကား၊ လေယာဉ်ပျံတို့ကိုသုံးစွဲခဲ့ကြ၏။ ယင်းကဲ့သို့ ထိုပစ္စည်းနှင့် လက်နက်တို့ကို အသုံးပြုခဲ့ကြသော်လည်း၊ ယင်းတို့ကို စစ်ပရိယာယ်နှင့် သေနင်္ဂဗျူဟာအရေးအရာတို့၌ ထိရောက်စွာ သုံးသောနည်းနိဿယတို့မထွန်းကားခဲ့ချေ။ ထိုအရေးတို့၌ အသစ်အဆန်း ထွင်နိုင်သောအစွမ်းများမပေါ် ပေါက်ခဲ့သေးချေ။ စက်သေနတ်နှင့် ခေတ်ပေါ် အမြောက်တို့၏ယမ်းမီးအားပြင်းထန်မှုကြောင့်၊ စစ်မြေပြင်တွင် စစ်သည်တို့သည် တဖက်နှင့်တဖက်ရွေ့သို့ချီတက်နိုင်ခြင်းမရှိဘဲ၊မြေကတုတ်တူးကာ စစ်တန့်၍နေခဲ့ရသောအခြေအနေကို တင့်ကားများဖြင့်ကျော်လွှန်နိုင်ခဲ့သည်။ ဤကဲ့သို့စွမ်းအင်ရှိလာသော်ငြားလည်း၊ တင့်ကားကို စတင်တီထွင်သော ဗြိတိသျှတို့သည်ပင်လျှင်၊တင့်ကားများကို စွမ်းအားရှိသလောက် ပြည့်ပြည့်ဝဝအသုံးမချနိုင်ခဲ့ပေ။ (တင့်ကားများ — လည်းရှု။) ထိုနည်းတူစွာ လေယာဉ်ပျံ၏အာနိသင်ကို ပြည့်ပြည့်ဝဝမသုံးစွဲနိုင်ခဲ့ချေ။ စစ်ခေါင်းဆောင်တို့၌ စစ်ပညာ ထိုးထွင်းဉာဏ်ခေါင်းပါးခဲ့၏။ လေယာဉ်ပေါ်သည်မှစ၍ ကြည်းတပ်၊ ရေတပ်တို့ စစ်ဆင်ရာတွင် လေကြောင်းအရေးသာမှု မရှိက မအောင်မြင်နိုင်ကြောင်းကို လုံးဝမရိပ်မိခဲ့ကြပေ။ အမှန်မှာ ပဌမကမ္ဘာစစ်ကြီး ပြီးစမှပင် လေတပ်သည် ရေတပ်အရိုက်အရာကို ခံယူပြီးဖြစ်၍၊ ထိုနောက်ကာလတွင် လေတပ်၏ စွမ်းအင်ဖြင့်သာလျှင် ကမ္ဘာကိုစိုးမိုးနိုင်ပေတော့၏။ သို့သော် ၁၉၂၀ နှစ်စုများကပေါ်သော လေယာဉ်တို့၏ ပျံသန်းနိုင်စွမ်းကိုသာကြည့်၍ ထိုစဉ်က စစ်ခေါင်းဆောင်များယုံကြည်မှုမရှိခဲ့ကြပေ။ ဤစစ်ကြီး၏တိုးတက်ခြင်းတခုကား နိုင်ငံခေါင်းဆောင်မှုဖြစ်၏။ ပြင်သစ်တော်လှန်ရေးကပင်လျှင် စစ်အောင်မြင်ရေးအတွက် နိုင်ငံ တခုလုံးအား စည်းလုံးခန့်ခွဲရေးအထူးလိုအပ်သည်မှာ ပေါ်လွင်ခဲ့၏။ ဤပဌမ ကမ္ဘာစစ်ကြီးကား စစ်ကြီးတခု၏ အနိုင်အရှုံးကို စစ်မြေပြင်၌ တိုက်ခိုက်ရေး သာလွန်မှုဖြင့် မဆုံးဖြတ် ရတော့ဘဲ၊ နောက်ပိုင်း မှ နိုင်ငံ၏စွမ်းရည်၊ မန အင်အား၊ စက်ကရိယာတိုးတက်မှုစသော လူထုနှင့်ပစ္စည်းတို့အား ခန့်ခွဲစီမံမှုကောင်းမွန်ခြင်းဖြင့်သာဆုံးဖြတ်ခဲ့သော စစ်ပွဲကြီးဖြစ်၏။ သို့ဖြင့် နိုင်ငံတော်အုပ်ချုပ်မှု ခေါင်းဆောင်ကြီးများသည် စစ်ဦးဆောင်မှု၏သဘောတရားများကို ကောင်းစွာနားလည်လာကြကာ စစ်မှုရေးရာအတွက် နိုင်ငံတော်အုပ်ချုပ်မှုကို စီမံခန့်ခွဲနည်းများ စတင်တီထွင် ခဲ့ကြ၏။ (ကမ္ဘာစစ်၊ ပဌမ — ရှု။)

ဒုတိယကမ္ဘာစစ်ကြီးခေတ်။ ။ဤခေတ်ကို အနုမြူခေတ်အစပိုင်းဟု ခေါ်နိုင်၏။ လေတပ်၏စွမ်းအင်ဖြင့်သာ တိုက်ခိုက်မှုများ အောင်မြင်နိုင်ကြောင်းကို ဤစစ်ကြီးဖြစ်မှပင်ကောင်းစွာနားလည်လာကြ၏။ သို့သော် စစ်အပြီး၌ကား အနုမြူဗုံးများ၊ တုံးပျံ၊ တုံးယာဉ် (မြေပြင်မှ ဓာတ်အားဖြင့် ထိန်းညွှန်၍ လွှတ်သော လေယာဉ်၊ တုံးပျံများ) စသောလက်နက်များကိုလည်း အသုံးပြုနိုင်လာပြီဖြစ်ရာ၊ ယင်းလက်နက်တို့သည် စစ်ပညာကိုအဆပေါင်းများစွာ ကျယ်ပြန့်သွားစေ၏။ တင့်ကားတပ်များ၊ သံချပ်ယန္တရားတပ်ကြီးများ၊ လေထီးတပ်များ၊ လေယာဉ်တင်တပ်များသည်လည်း ကြည်းကြောင်းစစ်ဆင်မှု၏ သေနင်္ဂဗျူဟာနှင့် စစ်ပရိယာယ်ရေး လက်နက်များဖြစ်လာပေတော့၏။ ယခုအခါ တပ်များတွင် အမှုထမ်းသော စစ်သားများနှင့် ပြည်တွင်း စက်မှုလက်မှုစသည်တို့တွင်တာဝန်ယူကြသောလူထုမှာ အနုမြူဗုံးဒဏ်၊ တုံးပျံဒဏ်၊ လေယာဉ်စက်သေနတ်ဒဏ်၊ ရန်သူ့ လေထီး တပ်၊ ပြောက်ကျားတပ်၏ဘေးရန်တို့ကို ညီတူနီးပါးမျှ ရင်ဆိုင်ကြရတော့၏။ လေယာဉ်တို့သည် ယခုအခါ တနာရီလျှင်မိုင် ၁၄၀၀ ခန့်အထိ ပျံနိုင်၍ငင်း၊ ကောင်းကင်တွင် လေယာဉ်အချင်းချင်း ဓာတ်ဆီထည့်နိုင်၍ငင်း၊တုံးယာဉ်၊တုံးပျံတို့သည် တိုးတက်လာသဖြင့် ခရီးဝေးသို့ မှန်ကန်စွာလွှတ်နိုင်ပြီဖြစ်၍ငင်း၊ အနုမြူ၊ ဟိုက်ဒရိုဂျင်ဗုံး၊ အမြောက်ဆန်တို့ကိုအသေးအကြီး အမျိုးမျိုးပြုလုပ်ကြပြီဖြစ်၍ငင်း၊ သေနင်္ဂဗျူဟာနှင့် စစ်ပရိယာယ်တွင် ကြီးစွာသော ပြောင်းလဲမှုများရှိလာ၏။ သေနင်္ဂဗျူဟာတွင် တပ်မဟာတခုပင် မြေပြင်၌စု၍မနေအပ်ဟုယူဆလာကြ၏။ သို့ဖြင့် စစ်ဆင်ရာတွင် ဟယ်လီကော့ပတာလေယာဉ်များစွာဖြင့် တပ်များကိုရွှေ့ပြောင်းခြင်း၊စုရုံးခြင်းပြုလုပ်ရန်လိုသည်ဟုယူဆလာ၏။ စစ်ဖွဲ့စည်းမှုကိုလည်း များစွာပြောင်းလဲကာ ပြီးခဲ့သောစစ်ကြီး၌ သုံးခဲ့သောတပ်မ၏ဖွဲ့စည်းပုံကို ယခုအခါ မသင့်လျော်ဟု ယူဆလာတော့၏။ နာဇီ ဝါဒနှင့် ကွန်မြူနစ်ဝါဒတို့သည် ပြင်းထန်ကြမ်းတမ်းသောဝါဒများ ဖြစ်ရကား၊ စာရွက်စာတမ်းဖြန့်၍ငင်း၊ရေဒီယိုမှငင်း၊တရားဟော၍ငင်း၊ဝါဒဖြန့်ခြင်းသာမကသူလျှို လွှတ်၍ဝါဒဖြန့်ခြင်း၊ရန်သူ့နယ်အတွင်းတို့င် မိမိဖက်ညွတ်သူများမွေးယူခြင်း၊ ယင်းတို့အား အတွင်းမှ လှုပ်ရှားစေခြင်း၊ ပုန်ကန်ထကြွစေခြင်း၊ ပြောက်ကျားစစ် ဆင်ခြင်းများကို ဝါဒစစ်ဆင်ရေးအဖြစ် အသုံးပြုလာကြ၏။ ဤနည်းကို ယခုအခါ သမားရိုးကျ စစ်ဆင်နည်းကဲ့သို့ပင် ယုဒ္ဓဗေဒ၏ပညာရပ်တခုဟူ၍ အသိအမှတ်ပြုကြရ၏။ နိုင်ငံ

ကြီးတိုင်းတွင် ဤသို့စစ်ဆင်နိုင်သော တပ်အဖွဲ့အစည်းများ ထားရှိရလေပြီ။ (ကမ္ဘာစစ်၊ ဒုတိယ — ရှု။)

## စစ်ပညာ၏ပညာရပ်အပိုင်းအခြားများ

အထက်ပါတို့ကား ကမ္ဘာ့သမိုင်း၌စစ်ပညာပြောင်းလဲလာခြင်းကို အကျဉ်းဖော်ပြခြင်းဖြစ်၏။ စစ်ပညာကျယ်ဝန်းလာသည်နှင့်အမျှ စစ်ပညာ၏အစိတ်အပိုင်းဖြစ်သော ပညာရပ်များသည်လည်း ကွဲပြားခြားနားလာလေသည်။ စစ်ပညာ၏အခြေခံ သဘောတရားများနှင့် ကျင့်သုံးမှုနည်းနိဿယများလည်း တိကျစွာ ပေါ်လွင်လာသည်။ ဤနေရာတွင် အကျယ်တဝင့် ပြည့်စုံစွာ မရေးသားနိုင်သော်လည်း၊ အရေးအကြီးဆုံးသော စစ်ပညာ၏ အပိုင်းကြီးများအကြောင်းကို အတိုချုံး၍ရှင်းလင်းရန်လိုအပ်ပေ၏။

**စစ်ဦးဆောင်ညွှန်ကြားရေး။** ။ဤကား ပညာတရပ်အဖြစ် သီးသန့်ပြတ်သားစွာ မပေါ်ပေါက်သေးသော်လည်း၊ ယခုအခါ အတော်ပြည့်စုံသော ကျမ်းများ ပြုစုလာကြပြီ။ ဤပညာသည် နိုင်ငံ၏ခေါင်းဆောင်ကြီးများဖြစ်သောအစိုးရအဖွဲ့က မိမိနိုင်ငံနှင့်မဟာမိတ်နိုင်ငံ၏အခြေခံ စစ်စွမ်းရည်ဖြစ်သော လူအင်အား၊ရုပ်ပစ္စည်းအင်အား၊စက်မှုလက်မှုစွမ်းရည်စသည်တို့ကို စစ်အောင်နိုင်ရေးအတွက်စည်းရုံးခန့်ခွဲခြင်းနှင့် တိုက်ခိုက်ရေးကို ညွှန်ကြားကြိုးကိုင်ခြင်းဟူသော ပညာရပ်ပင်ဖြစ်၏။ နိုင်ငံခေါင်းဆောင်ရေး၊ဓနဗေဒရေး၊ အုပ်ချုပ်ခန့်ခွဲရေး တို့နှင့် အများဆုံး သက်ဆိုင်ပေသည်။ ၁၉ ရာစုနှစ်ထိ စစ်ပွဲ၌ နိုင်ငံခြားရေးပရိယာယ်ဖြင့် မိမိတို့အောင်မြင်ရေးကိုဆောင်ရွက်ခဲ့ကြသော်လည်း၊ ယခုအခါမှာမူကား နိုင်ငံရေး၊ ဝါဒရေးနှင့် ဓနဗေဒရေးဆောင်ရွက်မှုတို့ဖြင့် မိမိနိုင်ငံ၏ အောင်မြင်မှုကိုရင်း၊ ရန်သူနိုင်ငံ၏ ကျဆုံးမှုကိုရင်း၊ ကြားနေနိုင်ငံများကို မိမိအလိုကျလိုက်စေရန်ရင်း ဆောင်ရွက်လာ၏။ ဤကားအထူးပြောင်းလဲချက်ကြီးပင် ဖြစ်၏။

**စစ်ပရိယာယ်(စစ်ဆင်ယင်ရေး)။** ။စစ်ပွဲတခုအောင်မြင်ရန် တပ်အင်အားအလုံးအရင်းကို စီမံစစ်ဆင်ခြင်းသည် စစ်ဆင်ရေးဖြစ်၏။ အများအားဖြင့် တပ်အင်အားတို့နေရာရွှေ့ပြောင်းခြင်း၊ တပ်ဖြန့်ခန့်ခွဲခြင်းတို့ဖြင့် တိုက်ပွဲဝင်ခြင်းသည် မိမိတို့က လုံးဝအောင်မြင်မှုရနိုင်သော အခြေအနေကို ဖန်တီးခြင်းပင်ဖြစ်၏။ သို့ဖြင့် အကောင်းဆုံး စစ်ပရိယာယ်ကား ရန်သူကိုအသေအကြေ မတိုက်ရဘဲ၊ ယင်းတို့ အရှုံးပေးစေရန်စီမံမှုဖြစ်၏။ လက်တွေ့အားဖြင့် တိုက်ပွဲများစွာကို အစုအစည်းပြု၍၊ နောက်ဆုံးတွင် ရန်သူ လုံးဝကျဆုံးစေခြင်း အထိသာလျှင် ဆင်ယင်စီမံနိုင်လေ့ရှိ၏။ တနည်းဆိုရသော်၊ စစ်ပရိယာယ်သည် တိုက်ပွဲများကို အသုံးပြုခြင်းဖြင့် စစ်အောင်မြင်မှုကိုရစေသောအတတ်ဖြစ်၏။

**သေနင်္ဂဗျူဟာ(တိုက်ပွဲခင်းကျင်းရေး)။** ။သေနင်္ဂဗျူဟာကို တိုက်ပွဲအောင်မြင်မှုပညာဟုဆိုနိုင်၏။ စစ်ပရိယာယ်သည် တိုက်ပွဲအောင်မြင်မှုရရန် အခြေအနေ အားလုံးကို ဖန်တီးပေးသော်လည်း၊ တိုက်ခိုက်ကြသောအခါ အောင်မြင်မှုရရန် ကြံစည်ပြုလုပ်မှု အားလုံးသည်ကား သေနင်္ဂဗျူဟာဖြစ်၏။ တိုက်ပွဲတခုတွင်တပ်များ၊ လက်နက်များကို နေရာဖြန့်ခွဲချထားခြင်း၊ လှုပ်ရှားခြင်း၊တာဝန်ပေးခြင်းဖြင့် ရန်သူတို့အား သတ်ဖြတ်ချေမှုန်းသောအကြံအစည်နှင့် ယင်းအတတ်သည်ကား သေနင်္ဂဗျူဟာဖြစ်၏။ တနည်းဆိုရသော်၊ တိုက်ပွဲတွင်စစ်၏တရားကိုယ်သဘော ၁၀ ချက်ကျင့်သုံးခြင်းကို သေနင်္ဂဗျူဟာခင်းကျင်းသည်ဟုခေါ်၏။ (မြင်သစ်တော်လှန်ရေးခေတ် ခေါင်းစဉ်ဖြင့် စာပိုဒ်ကိုကြည့်လေ။)

**စစ်ဖွဲ့စည်းအုပ်ချုပ်ရေး။** ။အုပ်ချုပ်မှု ဆိုရာ၌ စစ်ပရိယာယ်နှင့်သေနင်္ဂဗျူဟာ အကြံများအရ တပ်များရွှေ့ပြောင်းခြင်း၊ ခန့်ခွဲနေရာချထားခြင်း၊ ယင်းတို့အား ခဲယမ်းမီးကျောက်၊ ရိက္ခာပစ္စည်း၊ ယာဉ်၊ ဆီ၊ လက်နက်တို့ထောက်ပံ့ခြင်း၊ လူအင်အားဖြည့်တင်းပေးခြင်း၊ လူနာသယ်ယူခြင်း၊ ဆေးကုခြင်းစသော လုပ်ငန်းအားလုံးကို လက်တွေ့ဆောင်ရွက်ခြင်းဖြစ်၏။ စစ်သူကြီးသည် စစ်ပရိယာယ်နှင့် သေနင်္ဂဗျူဟာတို့ ပြောင်မြောက်၍ ထင်ရှားသော အကြံကြီးကို ကြံစည်သော်လည်း၊ အုပ်ချုပ်မှုကောင်းမှ ထိုအကြံသည် လက်တွေ့တကယ့်အဖြစ်သို့ရောက်၍ အောင်မြင်မှုရပေမည်။ ဖွဲ့စည်းခြင်းမှာကား ခေတ်ပေါ်လက်နက်များနှင့်အညီ ထိရောက်သော သေနင်္ဂဗျူဟာနည်းများကို တီထွင်လျက် ထိုသေနင်္ဂဗျူဟာနည်းများကိုအခြေပြု၍ တပ်များဖွဲ့စည်းခြင်းကိုဆိုလို၏။ ဖွဲ့စည်းခြင်းတွင် သင့်လျော်သောလက်နက်ပစ္စည်း တပ်ဆင်ခြင်းနှင့် အုပ်ချုပ်ရေးအတွက်အဆောက်အအုံများ တည်ဆောက်စီမံခြင်းလည်း ပါဝင်၏။

## နိဂုံး

အထက်ပါတို့ကို ကြည့်ခြင်းအားဖြင့် ရောမ အင်ပိုင်ယာခေတ်က ထိုအင်ပိုင်ယာကြီးကို ကမ္ဘာတလွှားက ချီးမွမ်းရလေအောင် တိုက်ပွဲများဆင်၍ ထူထောင်ထိန်းသိမ်းခဲ့သော တပ်မတော်များ၏အရာရှိများ၊ တပ်သားများတို့ လေ့ကျင့်ခဲ့ရသောစစ်ပညာနှင့် ယခုကာလတွင် မိမိနိုင်ငံအားကာကွယ်ရုံမျှသာရည်စူး၍ သေးငယ်သော နိုင်ငံကလေးတခု၏ တပ်မတော်ဝင်အရာရှိ၊ တပ်သားတို့လေ့လာ လေ့ကျင့်ရသော စစ်ပညာသည် များစွာကွာခြားခြင်းကို ထင်ရှားစွာမြင်နိုင်ပေပြီ။ ယခုအခါကား စစ်ပညာသည် များစွာကျယ်ပြန့်ရုံမျှမက၊ ရှေးခေတ်များကမှန်းဆခြင်းပင်မပြုခဲ့ကြသော အစစတိကျသေချာရခြင်း၊ လျင်မြန်စွာပြုလုပ်နိုင်ရခြင်း၊ စက်မှုလက်မှုအခြေခံလိုအပ်ခြင်း၊ ဗဟုသုတအကြားအမြင်နှင့် လောကလူမှုရေးရာပညာများအခြေခံရရှိခြင်း၊ နိုင်ငံရေးဝါဒ

ဌ်လည်း ကြံ့ကြံ့ခံနိုင်ရည်ရှိအပ်ခြင်းတို့ပင် ပါဝင်နေလေပြီ။ ဤသို့စစ်ပညာကျယ်ပြန့်၍ အဆင့်အတန်း မြင့်လာသည်နှင့် အမျှ နိုင်ငံ တခု၏ စစ် တပ် ဆောက် တည် ရေး၏ စရိတ် စက လည်း ကြီးမားလာပေတော့၏။ သို့ဖြင့် ကမ္ဘာ့သမိုင်း အစမှ အင်ပိုင်ယာချဲ့သော ခေတ်များအထိ စစ်တိုက်ခြင်း သည် (မားပြတိုက်သကဲ့သို့ပင်) နိုင်သောသူ၌အမြတ်အစွန်း ထွက်သောလုပ်ငန်းတရပ်ဟုအယူရှိခဲ့ကြသဖြင့် စစ်ဆင်ရန်ဦး မလေးကြသော်လည်း၊ ပြီးစီးခဲ့သော ကမ္ဘာစစ်ကြီး နှစ်ခုမှ စ၍ ယခုအခါကား စစ်ရှုံးသူနှင့်နိုင်သူနှစ်ဦးစလုံးမှာ အခေါ် သာကွဲ၍ ဆုံး ရှုံး နစ် နာမှု၌ကား အတူတူပင် ဖြစ်ပြီး လျှင်၊ ယခုရှိပြီးလက်နက်များဖြင့်စစ်ဆင်လျှင် ကမ္ဘာသူကမ္ဘာသား တို့ပင် ပျောက်ကွယ် သွားနိုင်လိမ့်မည်ဟု စိုးရိမ်ဖွယ်ရာ ဖြစ်လာပေတော့၏။ ဦးမောင်မောင်

**စစ်ပင်**။ ။စစ်ပင်သည် ' လီဂူမီနိုးစီး 'မျိုးစဉ်တွင်ရင်း၊ ' မိုင်မိုစီး 'မျိုးစဉ်ခွဲတွင်ရင်း ပါဝင်သည်။ ယင်းကို သိပ္ပံအမည်အားဖြင့် ' အယ်လဗစ်ဇီယာ ပရိုစာရာ 'ဟုခေါ်သည်။ အမြင့်ပေ ၈၀ ရှိ၍၊ ပင်စည်ရှည်လျားသည်။ ပင်စည်ကိုင်းနေသည်ကို အများအားဖြင့်တွေ့ရသည်။ အပင်၏အမြင့်ပိုင်းတွင် အကိုင်းအလက်များဖြာထွက်သည်။ အရွက်များ အုပ်အုပ်ဆိုင်းဆိုင်းမရှိချေ။ နွေရာသီတွင် အရွက်များကြွေသည်။ အရွက်မှာ ငှက်မွေးကဲ့သို့သောရွက်ဆိုင်များ နှစ်ထပ်ရှိ၍၊ ရုက္ခဗေဒအလိုအားဖြင့် နှစ်ခါငှက်မွေးရွက်ပေါင်း ဟုခေါ်သည်။ ထိုအရွက်တွင် ငှက်မွေးပုံ ရွက်ငယ်သုံးစုံမှ လေးစုံထိပါရှိသည်။ အပွင့်အရောင်မှာ အဖြူရောင်ဖြစ်သော်လည်း၊ အဝါရောင်သန်းနေသည်။ အပွင့်ငယ်၍ အခိုင်လိုက်ပွင့်သည်။ အသီးမှာ သီးတောင့်မျိုးဖြစ်၍ အညိုရောင်ရှိသည်။ အလျား ၄ လက်မမှ ၆ လက်မထိရှိ၍ အနံ ၁/၂ လက်မမှ ၁/၁၀ လက်မထိရှိသည်။ အခေါက်မှာ ချောမွတ်၍ အဝါနုရောင် သို့မဟုတ် အစိမ်းရောင်သန်းလျက်ရှိသည်။ အကာမှာ ထူ၍ ခပ်ဖြူဖြူအရောင်ရှိသည်။ အညိုရောင် အနှစ်တွင် အရေးကြောင်းများပါရှိသည်။ အိမ်ဆောက်လုပ်ရာတွင် စစ်ပင်၏အနှစ်ကို အိမ်တိုင်အဖြစ်အသုံးပြုလေ့ရှိသည်။ ထို့ပြင် လယ်ယာစိုက်ပျိုး ကရိယာ များပြုလုပ် ရာတွင် လည်း ယင်းကိုအသုံးပြုလေ့ရှိသည်။

စစ် ပင် သည် ရင့် သန် လွယ် သော အပင် မျိုး ဖြစ် သည်။ ကုက္ကိုပင်ထက်ပင် လျင်မြန်စွာ ကြီးထွားလာတတ်သည်။ သို့သော် အရွက်များအုပ်အုပ်ဆိုင်းဆိုင်းမရှိသဖြင့် ကုက္ကိုပင်လောက်အရိပ်မကောင်းလှချေ။ စစ်ပင်သားသည် ဆန်ထောင်းမောင်းပြုလုပ်ရန်အတွက်ကောင်းသည်။ စစ်ပင်ကို ကုက္ကိုပင်ကဲ့သို့ မျိုးစေ့မှရင်း၊ အကိုင်းများကို ဖြတ်၍ရင်း၊ မျိုးပွားယူနိုင်သည်။ စစ်ပင်ကို နုံးမြေပေါ်များရာ ချောင်းကမ်းပါး၌ အများအားဖြင့် တွေ့ရသည်။ စိမ့် ပေါ သော နေရာများ၌လည်းတွေ့ရတတ်သည်။

ဟိမဝန္တာတောင် အနိမ့်ပိုင်းတွင် စစ်ပင်ကိုတွေ့ရသည့်ပြင် ယမုနာ မြစ်ဝှမ်း အရှေ့ဖက် မှ အာသံပြည် နယ်၊ ဗင်္ဂလား၊ ချိတာနဂ္ဂပူ၊ အိန္ဒိယကျွန်းဆွယ်၊ မြန်မာနိုင်ငံ၊ ကပ္ပလီကျွန်းတိုင်အောင် အနှံ့အပြားတွေ့ရသည်။ မြန်မာနိုင်ငံနှင့် အာသံပြည်နယ်တွင် စစ်ပင်များသည်ထန်းတောအုန်းတောကဲ့သို့ စုရုံး၍ ပေါက်လျက်တွေ့ရှိရသည်။

# ခုံငယ်ပေါ်တွင် စစ်ပြိုင်ယှဉ်

**ထိုးထွင်းဉာဏ်ချင်း ယှဉ်ပြိုင်ကစားရာ၌ ရှေးအကျဆုံးဖြစ်၍၊ ကမ္ဘာအနှံ့အပြားတွင် ကစားလျက်ရှိသော ကစားနည်းမှာ စစ်ဘုရင်ထိုးခြင်းဖြစ်သည်။ မြန်မာစစ်ဘုရင်တွင် တပ်ဆင်ပုံကအစ အရေးကြီး၍၊တပ်ဆင်နည်းလွဲလျှင် ရှုံးရန်သေချာပေသည်။ သို့းဆောင်းတို့၏စစ်ဘုရင်ကစားနည်းကိုလည်း ဤဆောင်းပါး၌ဖော်ပြထားသည်။**

**စစ်ဘုရင်ကစားခြင်း**။ ။ယခုအခါ စစ်ဘုရင်ဟုခေါ်ဝေါ် နေကြသော ကစားနည်းမှာ ပင်း ယ ခေတ် တွင် ထွန်းကားနေပြီဟု ခိုင်လုံသော အထောက်အထားများရှိသည်။ ထို့ပြင် ပုဂံခေတ်၌လည်းရှိနေပြီဟု ယူဆနိုင်ဖွယ်အကြောင်းလည်းရှိ၏။ သို့သော် ထိုအချိန်အခါများက စစ်ဘုရင်ဟုခေါ် မခေါ်ကို တိကျသေချာစွာမသိရချေ။ စစ်ဘုရင်ဟူသောအရေးအသားကိုမူ ပင်းယစတုရင်္ဂဗလအမတ်ကြီးပြုစုသော အဘိဓာန်ဋီကာပါဠ်တွင် ' ဒေသန္တရရေဟိ စတုရင်္ဂသေဝပဌိကာယံ ပါသက ဇူတမပိဝတ္တတေ ' ဟူ၍ တွေ့ရသည်။ ယင်းသို့ စတုရင်ဟူသော ရေးထုံးများကိုမူ မောင်းထောင်ဆရာတော်၏ဋီကာနိသျတွင် ' စတုရင်္ဂသ၊ စတုရင်၏ ' ဟုရင်း၊ မန်လည်ဆရာတော်၏ မဃ ဒေဝလင်္ကာသစ်တွင် ' လေးပါးသေနင်၊စတုရင်ဖြင့် ' ဟူ၍ရင်း၊မုံရွေးဆရာတော်၏ ကုသပျို့တွင် ' ခြောက်ဆဲ့လေးအင်၊စတုရင်၌ 'ဟုရင်း၊အသီးအသီးတွေ့ရှိရ၏။ ဟင်ဒီစကားတွင် ' စတုရံဂ '၊ ပဿျူးစကားတွင် ' စတုရံ 'ဟူသော ရေးပုံတို့သည် စဓာရင်ဟူသော အရေးအသားနှင့် နီးစပ်သော အရေးအသားများဖြစ်၏။

ထိုကစားနည်းကို ' စစ်တုရင် 'ဟူ၍ရေးသားကြသည်ကိုလည်း အများအပြားတွေ့ရ၏။ ရှင်ထွေးညို၏ ပြည်စုန်မော်ကွန်းတွင် ' လေးပါးစစ်အင်၊ စစ်တုရင်၌ ' ဟုရင်း၊ ရှင်မဟာရဋ္ဌသာရ၏ဘူရိဒတ်လင်္ကာကြီးတွင် ' လေးပါးစုံအင်၊စစ်တုရင်ဖြင့် ' ဟုရင်း၊ရှင်မဟာရဋ္ဌသာရ၏ပုံတောင်နိုင်မော်ကွန်းတွင်



စစ်ဘုရင်

ထိုးထွင်းဥာဏ်သုံးရသော ကစားနည်းတို့တွင် ရှေးအကျဆုံး ကစားနည်းတခုဖြစ်သည်။ အနောက်နိုင်ငံနှင့်မြန်မာဟူ၍ ကစားနည်း အသီးသီး ရှိကြသော်လည်း တဖက်သားကို အကြပ်ကိုင်ရန်ဟူသောရည်ရွယ်ချက်မှာမူ အတူတူဖြစ်သည်။



အနေ့ာက်နိုင်ငံကစားနည်းအရ စစ်ဘုရင်ရုပ်များတပ်ဆင်ထားပုံ

'ခြောက်ဆဲ့လေးခွင်၊ စစ်တုရင်ဥ္ဒြ၊ မြင်းဆင်နယ်ကပ်၊ စစ်ချက်ထပ်သို့' ဟုရင်း၊ ရှင်အဂ္ဂသမာဓိ၏ နေမိမဃ္ဃ စိုး ခဏ်း ပျို့တွင် 'တယောက် တပြန်၊ ကြွေအန် လက်ပစ်၊ တကျစ်လည်းဆင်၊စစ်တုရင်နှင့်' ဟူ၍ရင်း၊ နဝဒေးကြီးဆိုမနေ့ာဟရိပျို့တွင် 'လေးပါးစုံအင်၊ စစ်တုရင်နှင့်၊ မြင်းဆင်ခြေသည်၊ ရံစည်မကွေ့၊ချီတုံလေသော်' ဟူ၍ရင်း၊ တရုပ်မြို့စား သခ်ယာရေး မဟာဥပရာဇာချေင်းတွင် 'မင်းတို့ထားရိုး၊အဘိုးခဲ့ညို၊ ရှည်တို့စုံစေ့၊ကြွေ့ကြွေ့တသွန်၊ ကြွေအန်စစ်တုရင်၊ စကြာပြင်နှင့် ပျော် ရှင် စေကြောင်း' ဟူ၍ရင်း၊ 'စစ်တုရင်' ဟူသော အရေးအသားများကို တွေ့ရလေသည်။

ယင်းသို့ စတုရင်၊ စစ်တုရင်ဟုအရေးအသားရှိသော ထိုကစားနည်းကို အရပ်ခေါ်အားဖြင့် 'စစ်ဘုရင်' ဟူ၍ ယခုအခါခေါ်ဝေါ်လျက်ရှိကြသည်။ အလောင်းဘုရား လက်ထက်တွင်ရေးသားသည်ဟုထင်မှတ်ရသော မနုကျယ်ဓမ္မသတ်တွင်ရင်း၊ လှိုင်ထိပ်ခေါင်တင်၏ ကုလ္လာဝံသနန်းတွင်းဇာတ်တော်ကြီးတွင်ရင်း၊ ၁၂၆၆ ခုနှစ်လောက်တွင်ထုတ်ပြန်သော ဓမ္မဝိနယအမိန့်တော် ပြန်တမ်းတွင်ရင်း၊ 'စစ်တုရင်' ဟူသော အသုံးကိုတွေ့ရသည်။

ယင်းသို့ စတုရင်၊ စစ်တုရင်၊ စစ်ဘုရင်ဟူ၍ အခေါ်အမျိုးမျိုးကွဲပြားနေသည့် ကစားနည်းသည် ထိုးထွင်းဉာဏ် သုံးရသော ကစားနည်းတို့တွင် ရှေးအကျဆုံး ကစားနည်းဟုယူဆရလေသည်။ စစ်ဘုရင်ကစားခြင်းသည် ဉာဏ်ပညာ စိတ်ကူးကိုထက်မြက်စေပြီးလျှင် စိတ်ကိုတည်ငြိမ်စေသောကစားနည်းဖြစ်သည်။ စိတ်တူ၊ ဉာဏ်တူ၊ အကွက်တူ၊ ကစားရပါလျှင်၊ အလွန်စိတ်ဝင်စားဖွယ်ကောင်း၍ အကွက်ရှေ့ရန်သာ အာရုံစောနေကြသဖြင့် စိတ်တည်ငြိမ်မှုကို အထူးရစေပေသည်။ စစ်ဘုရင်ကစားခြင်းကို ကမ္ဘာအနှံ့အပြားတွင် ကစားကြသည်။ သို့သော် စစ်ဘုရင်ကစားနည်းမှာမူ သူ့လူမျိုးနှင့် သူ့နည်းဟူ၍ အမျိုးမျိုးရှိ၏။ စစ်ဘုရင်ကစားခြင်း၏ မူလစတင်ရာဒေသနှင့် အချိန်ကာလကိုမူ သေချာစွာမသိကြရ၍ အယူအဆအမျိုးမျိုးကွဲပြားလျက်ရှိသည်။ သို့သော် သုတေသီအများက ယင်းသည် လွန်ခဲ့သော နှစ်ပေါင်း ၅၀၀ဝ ခန့်ကအိန္ဒိယနိုင်ငံတွင်စတင်ပေါ်ပေါက်လာခဲ့သည်ဟုဆိုကြ၏။ စစ်ဘုရင်ကစားနည်းကို အိန္ဒိယနိုင်ငံရှိ ဟိန္ဒူလူမျိုးများမှ ပါးရှင်းလူမျိုး၊အာရပ်လူမျိုးများသို့ အဆင့်ဆင့်ရောက်ရှိခဲ့၍၊ ထိုမှတဆင့် ၁၀ ရာစုနှစ်မတိုင်မီတွင် ဥရောပတိုက်သို့ ပြန့်ပွားခဲ့သည်ဟုဆိုကြသည်။

စစ်ဘုရင်ကစားနည်းတွင် အနေ့ာက်နိုင်ငံ ကစားနည်းနှင့် မြန်မာ စစ်ဘုရင်ကစားနည်းတို့မှာ လူမျိုးဓလေ့ထုံးတမ်းအရ မတူညီကြချေ။ အနေ့ာက်နိုင်ငံကစားနည်းမှာ စစ်ဘုရင်ခုံသို့မဟုတ် စက္ကူချပ်ထူရှိ အကွက် ၆၄ ကွက်ကို အဖြူ အနက်ဖြင့် အကွက်ဖော်ထားသည်။ အရုပ်များကိုလည်း အဖြူအနက်ခွဲခြားထား၏။ ကစားရာတွင် ကစားသူ၏ လကျာ်ဖက်၌ အဖြူကွက်ရှိသော ထောင့်ရှိနေအောင် ခုံကိုထားရသည်။ အရုပ်များကိုစီရာ၌လည်း၊နေ့ာက်ဆုံးတန်း၌ ကစားသူ၏လက်ဝဲမှစ၍ လကျာ်ဖက်သို့၊ ရဲတိုက်၊ မြင်းစီးသူရဲကောင်း၊ ဂိုဏ်းချုပ်၊ မိဖုရား၊ ဘုရင်၊ ဂိုဏ်းချုပ်၊ မြင်းစီးသူရဲကောင်းနှင့် ရဲတိုက်တို့ကို အကွက် ၈ ကွက်တွင် အစဉ်အတိုင်းစီသွားရသည်။ ရှေ့တန်းတွင်မူ နယ် ၈ ရုပ်ကိုစီရ၏။ ယင်းသို့စီရာတွင် မိဖုရားရုပ်သည် အရောင်တူကွက်တွင် ရှိရမည်။ ပုံစံအားဖြင့် မိဖုရားအဖြူသည် အဖြူကွက်ပေါ်တွင်ရင်း၊ မိဖုရားအနက်သည် အနက်ကွက်ပေါ်တွင်ရင်းရှိရမည်ဖြစ်၏။

ထို စစ်ဘုရင်ရုပ် အသီးအသီးကို ရွှေ့ပြောင်း သွားလာနိုင်သည့်အကွက်တို့မှာ ရှင်ဘုရင်သည် ဘေးပတ်လည် မည်သည့်ဖက်သို့မဆို တကွက်သာသွားနိုင်၏။ သို့သော် ဘုရင်အရုပ် ၂ ရုပ်သည် ဘေးချင်းကပ်လျက်ရှိသော အကွက်များပေါ်တွင် တချိန်တည်း တည်ရှိမနေနိုင်ပေ။ မိဖုရားရုပ်မှာ အကွက်အများဆုံးသွားနိုင်၏။ ပတ်လည်ရှိ မည်သည့်ဖက်သို့မဆို ရွှေ့နိုင်သည်။ လမ်းရှင်းနေလျှင် သွားလိုသည့်ဖက်၌ ရှိသည့် အကွက်ကုန်သွားနိုင်၏။ သွားလိုရာ လမ်းတွင် ရန်သူရှိလျှင် စား၍ ထိုနေရာကိုယူရသည်။ သို့သော် သွားလိုသည့်လမ်း၌ မိမိဖက်သားအရုပ်ရှိနေပါမူ ကျော်လွန်မသွားရချေ။ ရဲတိုက်ကမူ ရှေ့နော်က်ဝဲယာအကွက်တို့သို့သာသွားနိုင်၏။ အတားအဆီးမရှိလျှင် ထိုလမ်းရှိ အကွက်ကုန်သွားနိုင်သည်။ ဂိုဏ်းချုပ်ကမူ ထောင့်ဖြတ်ရွှေ့၍ ထိုလမ်းမှင်း

လျှင် အကွက်ကုန်သွားနိုင်သည်။ မြင်းစီးသူရဲကောင်းမှာ မူရွှေနေရာကဝဲယာကြိုက်ရာသို့ တကွက်သွားပြီးနောက် မည်သည့်ဖက်သို့ဖြစ်စေ ထောင့်ဖြတ်တကွက် ထပ်၍ သွားနိုင်သည်။ မြန်မာမြင်းသွား အတိုင်းဖြစ်သည်။ မြင်းစီးသူရဲကောင်းသွားရာတွင် သွားတိုင်း သွားတိုင်း၌ အရောင်မတူသော အကွက်ပေါ် သို့ကျရသည်ကိုသတိပြုရ၏။ မြင်းစီးသူရဲကောင်း သည် လမ်းတွင်ရှိသော အဆီးအတားများကိုကျော်လွှားသွားနိုင်သည့် ထူးခြားသော အခွင့်အရေးရှိသည်။ နယ်သည် ဦးစွာသွားသည့်အကြိမ်တွင် ရှေ့သို့နှစ်ကွက်အထိသွားနိုင်၏။ ထိုနောက် ရှေ့သို့တကွက်သာသွားနိုင်သည်။ နောက်ပြန်မဆုတ်ရချေ။ အကွက်သွားရာတွင် ရှေ့တည့်တည့်သို့ သွားရသော်လည်း၊ ရန်သူကို စားရာတွင် ထောင့်ဖြတ်တက်၍စားရသည်။

ဘုရင်၊မိဖုရား၊ဂိုဏ်းချုပ်နှင့် ရဲတိုက်တို့သည် မိမိတို့သွားနိုင်ရာ အကွက်တွင် ကျရောက်နေသော ရန်သူဟူသမျှကိုစားနိုင်ကြ၏။ သို့သော် ဘုရင်သည် နောက်မှအရံပြုကာ ထိန်းသိမ်းစောင့်ရှောက်ထားသော ရန်သူကိုမူမစားနိုင်ချေ။ မြင်းစီးသူရဲကောင်း သည် သူခုန်သွားနိုင်သော အကွက်တွင်ရှိနေသည့် ရန်သူကို စားနိုင်၏။ စစ်ဘုရင်ရုပ်တိုင်းသည် ရန်သူကိုစားပြီးခဲ့သော်၊ အစားခံရသောအရုပ်နေရာကိုယူရသည်။

နယ်သည် သူ့ အကွက်အတိုင်း တက်သွားရာမှ တဖက် ရန်သူ၏နောက်ဆုံးတန်းသို့ရောက်သွားခဲ့လျှင်၊ကစားသူက မိမိကြိုက်ရာအရုပ်တခုနှင့် နယ်ကိုလဲပေးရန်တောင်းပိုင်ခွင့်ရှိ၏။ ဤသို့ဖြင့် တချိန်တည်းတွင် မိဖုရားစသည့်အခြားအရုပ်များကို ၂ ရုပ်၊ ၃ ရုပ်ထား၍ ကစားသွားနိုင်လေသည်။ နောက်ဆုံးတန်းတွင်ရှိနေသော ဘုရင်နှင့် ရဲတိုက်အကြား အကွက်များ လစ်လပ်နေခဲ့လျှင်၊ ဘုရင်နှင့်ရဲတိုက်သည် ဗယ်ညာပြောင်းရွှေကစားနိုင်ကြ၏။ ထိုသို့နေရာပြောင်းပုံမှာ ဘုရင်သည် ရဲတိုက်ရှိရာဖက်သို့ နှစ်ကွက်ရွှေလိုက်၍၊ ထို ရဲတိုက်က ဘုရင်ကိုကျော်ကာ ကပ်နေသည့်အကွက်တွင် နေရာယူရသည်။ ယင်းသို့ ဗယ်ညာပြောင်းရွှေရာတွင် ထိုအရုပ် ၂ ခုသည် မိမိတို့မူလနေရာမပြောင်းမရွှေသေးဘဲရှိနေမှသာလျှင် ဖြစ်နိုင်သည်။ အကယ်၍ အရုပ်တခုခုသည် ရွှေပြီးဖြစ်ခဲ့သော်၎င်း၊ ဘုရင်သည် အခွေခံရသည့်အခါတွင်၎င်း၊ ရန်သူအရုပ်တခုခုကို တလှည့်ရွှေရုံဖြင့် ဘုရင်နှင့်ရဲတိုက်အကြားသို့ ရောက်လာနိုင်ခဲ့သော်၎င်း၊ ယင်းအခါမျိုးများတွင် နေရာပြောင်းလဲ၍မဖြစ်နိုင်တော့ချေ။

ဤသို့အခွင့်အရေးအသီးအသီးရှိသော အနောက်နိုင်ငံစစ်ဘုရင်ကစားနည်းနှင့် မြန်မာစစ်ဘုရင်ကစားနည်းမှာ မတူချေ။ မြန်မာစစ်ဘုရင်ကစားနည်းသည် တဘာသာ သက်သက်ဖြစ်၏။ မြန်မာစစ်ဘုရင်ခုံမှာ အင်္ဂလိပ်စစ်ဘုရင်ခုံကဲ့သို့ပင် အကွက် ၆၄ ကွက်ရှိသော်လည်း၊ အဖြူအမည်းကွက်များပေါ် ရန်မလိုပေ။ ပိုမိုထူးခြားချက်မှာ စစ်ဘုရင်ခုံ၏ ထောင့်များမှ အလယ်အူကြောင်းမျဉ်းတွင်ဖြတ်သွားသော ထောင့်ဖြတ်မျဉ်းနှစ်ကြောင်းပါခြင်းပင်ဖြစ်သည်။ စစ်ဘုရင်ရုပ်များမှာ တဖက်တွင် မင်းကြီး ၁၊ ရထား ၂၊ မြင်း ၂၊ ဆင် ၂၊ စစ်ကဲ ၁ နှင့် နယ် ၈၊ အစုစုအရုပ်ပေါင်း ၁၆ ရုပ်စီရှိသည်။ ထိုအရုပ်များကို တဖက်နှင့်တဖက် ကွဲပြားစေရန် အရောင်ခွဲခြားထားရ၏။ ယင်းသို့ အရောင်ခွဲရာတွင် အနောက်နိုင်ငံ စစ်ဘုရင်ကဲ့သို့ အဖြူနှင့်အနက်ကိုအသုံးမပြုဘဲ၊ မြန်မာစစ်ဘုရင်သည် အများအားဖြင့် အနက်နှင့်အနီရောင်ကိုအသုံးပြုလေ့ရှိသည်။

မြန်မာစစ်ဘုရင်တွင် စစ်ဘုရင်ရုပ်များစီ၍ချခြင်းကို တပ်ဆင်သည်ဟုခေါ်သည်။ တပ်ဆင်ရာ၌ အင်္ဂလိပ်စစ်ဘုရင်ကဲ့သို့ စစ်ဘုရင်ရုပ်များ၏နေရာ အတိအကျ သတ်မှတ်ထားခြင်းမရှိပေ။ ကစားသူ၏ဖက်မှ ရှေ့သို့အတန်း ၄ တန်းအတွင်းရှိ အကွက်များသည် မိမိနယ်မြေဖြစ်၏။ ထိုနယ်မြေအတွင်း၌ မိမိတပ်ကို မိမိကြိုက်သလိုဆင်နိုင်သည်။ ယင်းသို့တပ်ဆင်ရာတွင် တပ်ဆင်နည်းလွဲလျှင် မကစားခင်ကပင် ရှုံးရန် သေချာနေတတ်သည်။ ထိုအတွက် ရှေးအခါက တဖက်နှင့်တဖက်စစ်ဆင်စကပင် စစ်ကွက်အသာမယူနိုင်ကြစေရန် နယ်မြေခြားမျဉ်းပေါ်မှ ကန့်လန့်ကာကိုကာလျက် တပ်ဆင်စေသည်။ တပ်ဆင်ပြီး၍၊ စတင်ကစားသည့်အချိန်မှာမှ ထိုကန့်လန့်ကာကို ဖွင့်ကစားစေသည်ဟုဆိုကြ၏။ တပ်ဆင်ရာတွင် မိမိကြိုက်သလို ဆင်နိုင်သည် ဆိုသော်လည်း နယ်ရုပ် ၈ ရုပ်ကိုမူ သူတို့၏နေရာတွင်အမြဲစီရသည်။ နယ်ရုပ် ၈ ရုပ်၏သတ်မှတ်ထားသောနေရာများမှာ ကစားသူဖက်မှစ၍ရေလျှင် စတုတ္ထအတန်းတွင် လက်ျာဖက်အစွန်ကွက်မှစ၍ နယ်ရုပ် ၄ ရုပ်ကိုစီရသည်။ ကျန်လေးရုပ်ကိုမူ တတိယအတန်းတွင် လက်ဝဲဖက်အစွန်ဆုံးကွက်မှစလျက်စီရသည်။ ကျန်အရုပ်များကိုမူ ဖော်ပြခဲ့သည့်အတိုင်း မိမိကြိုက်နှစ်သက်သလို အကွက်ဆင်နိုင်၏။

ထိုသို့တပ်ဆင်ထားသောစစ်ဘုရင်ရုပ်များ၏ သွားလာနိုင်သော အကွက်များမှာ၊ မင်းကြီးသည် မိမိအနီးတဝိုက်ရှိ အကွက် ၈ ကွက်လုံးသို့သွားနိုင်၏။ စစ်ကဲမှာမူ သွားရာ၌၎င်း၊ စားရာ၌၎င်း၊ ထောင့်ကွက် ၄ ကွက်ကိုသွားရသည်။ ဆင်သည် စစ်ကဲရွှေနိုင်သည့် ထောင့်ကွက် ၄ ကွက်အပြင် ရှေ့တည့်တည့်မှတကွက်ကိုပါ သွားနိုင်၏။ သို့ဖြစ်၍ စစ်ကဲသည် ဆင်ထက်တကွက်သာလျော့သဖြင့်၊ ဆင်နီးပါးအဖိုးတန်သည်ဟုပြောကြသည်။ ဆင်ဦးကို စစ်ချီရာဖက်သို့အမြဲလှည့်ထားရ၏။ ဆင်ဦး အလှည့်များပါက အကွက်ယောင်ကာ စစ်မရှုံးသင့်ဘဲရှုံးတတ်သည်။ ဆင်သည် နောက်၊ ဘေးသို့ မသွားနိုင်ချေ။ မြင်းသည် တည့်တည့်တကွက်ရွှေပြီး၊ ဆက်၍ထောင့်တကွက်စီသွားနိုင်သည်။ ထိုအတွက်

မြင်းကွက်မှာ ဂ ကွက်ရှိသည်။ ရထားသည် အနောက်နိုင်ငံ စစ်ဘုရင်ကစားနည်းမှ ရဲတိုက်ကဲ့သို့ပင် သွားရာလမ်းကြောင်း၌ အဆီးအတား မရှိလျှင် ဘေးတိုက်သော်ရင်း၊ အထက်အောက်သော်ရင်း၊ တကွက် သို့မဟုတ် အဆုံးအထိသွားနိုင်၏။ လမ်းတွင်ရှိနေသောအရုပ်သည် မိမိဖက်သားအရုပ်မဟုတ်က၊ စားလိုမှစားရသည်။ နယ်မှာ အနောက်နိုင်ငံ စစ်ဘုရင်နယ်ရုပ်၏ ရှေးဦးစွာသွားနိုင်သော အကွက်မှတပါး ကျန်အကွက်များတွင် တူညီလေသည်။ နယ်ရုပ်သည် သွားရာ၌ ရှေ့တည့်တည့်သို့သာသွားရ၍ စားလိုလျှင် ထောင့်လိုက်တက်၍စားရသည်။ စားကွက်တွင် ရှိနေသော မည်သည့်အရုပ်ကိုမဆို စားနိုင်၏။ သွားကွက်ရှိ အရုပ်များကိုမူ မစားနိုင်ချေ။

ယင်းကဲ့သို့ စစ်ဘုရင်ရုပ် အသီး အသီး၏ ရွှေ့ပြောင်းသွားခြင်းတို့ကိုရည်လျက် ‘မင်းရှစ်မျက်နှာ၊ ကောကွက်စီ၊ အညီမလွဲ၊ စစ်ကဲထောင့်လေး၊ ဆင်ရေးရင်း၊ ရှေ့တစ်လျှောင်းလျက်၊ မြင်းကြောင်းရှစ်ကွက်၊ ထောင့်တက်မြင်းသွား၊ ရထားတူရှု၊ နယ်မူရှေ့တစ်၊ တဆစ်ထိုပြင်၊ ဆင်မဏ္ဍာရေး၊ လေးဆဲ့လေးက၊ ခေါ်ရှေးမယွင်း၊ မြင်းမဏ္ဍာရေး၊ ခြောက်ဆဲ့လေးသာ၊ ရထားမှာမူ၊ ဆဲ့ခြောက်ဟူသား၊ မှတ်ယူအာဂုံ၊ လက်စွမ်းယုံတို့’ ဟူ၍ မန်လည်ဆရာတော်ဘုရားကြီးက မဃဒေဝလင်္ကာသစ် အပိုဒ် ၁၃၄ တွင် ထည့်သွင်းစပ်ဆိုထားခဲ့လေသည်။

ယင်းသို့ ကစားနည်းအသီးအသီးရှိကြသော အနောက်နိုင်ငံစစ်ဘုရင်တွင်ရင်း၊ မြန်မာစစ်ဘုရင်တွင်ရင်း ကစားရာ၌ တဖက်သားကို အကျပ်ကိုင်ရန်မှာ ကစားပွဲ၏ ရည်ရွယ်ချက်ဖြစ်သည်။ အထူးသဖြင့် ဘုရင်ရုပ်ကို မရွှေ့နိုင်အောင်ချိန်လိုက်ခြင်းကိုခွေသည်ဟုခေါ်သည်။ ဘုရင်ရုပ်သည် အခွေခံရ၍ အကွက်မှ မလွတ်မြောက်ခဲ့သော် အရှုံးပေးရသည်။ ဘုရင်ရုပ်ကိုမူ စားနိုင်ခွင့်မရှိပေ။ ညပ်၍ပိတ်မိနေလျက်၊ မရွှေ့နိုင်အောင်သာ ပြုလုပ်ရသည်။ ယင်းသို့ ပိတ်မိနေနိုင်အောင် အရုပ်များမကျန်တော့သည့်အခါ၊ သရေပွဲဖြစ်သွားလေ၏။ စစ်ဘုရင်တွင် တဖက်ရန်သူရုပ်များသည် စားကွက်တွင် ရောက်ရှိနေစေကာမူ၊ မစားလိုက နေနိုင်ခွင့် ရှိသည်။ မစားလျှင် ဒဏ်တပ်ရသည်ဟူ၍မရှိချေ။

**စည်**။ ။အခေါင်းပါသောသစ်သား သို့မဟုတ် အလားတူပစ္စည်းကို သားရေဖြင့်ပိတ်၍ တင်းအောင်ကြက်ပြီးလျှင်၊ ထိုသားရေမျက်နှာပြင်ကို လက်ဖြင့်ဖြစ်စေ၊ တုတ်တံ၊ လက်ခတ် စသည်တို့ဖြင့်ဖြစ်စေ တီးခတ်အသံမြည်စေသော တူရိယာများမှာ စည်ဖြစ်သည်။ စည်သည် လူတို့ ရှေးဦးစွာပြုလုပ်သုံးစွဲခဲ့သောတူရိယာတမျိုးဖြစ်သည်။ ကမ္ဘာပေါ်ရှိ လူမျိုးအများအပြားပင် စည်တူရိယာကို အမျိုးသားတူရိယာအဖြစ်ဖြင့် သုံးစွဲကြသည်။ (တူရိယာ — ရှု။)

သို့ရာတွင် အဘိဓာန်များ၌ တူရိယာငါးမျိုးကို စည်ငါးမျိုးဟု ပြဆိုထားသည်။ အဘိဓာန်နိသျအရ၊ ထိုစည်ငါးမျိုးမှာ အာတတစည်၊ ဝိတတစည်၊ အာတတ ဝိတတစည်၊ ဃနစည်၊ သုသိရစည်ဟူ၍ဖြစ်၏။ အာတတစည်သည် အိုးစည်၊ စည်ပုတ်အစရှိသည်တို့ကဲ့သို့ တဖက်ပိတ်စည်ဖြစ်၏။ ဝိတတစည်သည် မုရိုးစည်ကဲ့သို့ နှစ်ဖက်ပိတ်သော စည်ဖြစ်၏။ အာတတ ဝိတတစည်ဆိုသည်ကား ထံက်စည်ကဲ့သို့အလုံးစုံ သားရေပိတ်၍ကြက်သောစည်ဖြစ်၏။ ဃနစည်မှာ ခွက်ခွင်းကြေးနင်းတို့ကဲ့သို့ တခဲနက်သောစည်ဖြစ်၍၊ သုသိရစည်မှာ ပြွေ၊ခရုသင်း၊နှဲ တို့ကဲ့သို့အခေါင်းရှိသောစည်ဖြစ်၏။ အထက်ပါငါးမျိုးအနက် အာတတစည်၊ ဝိတတစည်၊ အာတတ


ဝိတတစည်မျိုးဖြစ်သော ၂ ဖက်ပိတ်သားရေကြက်စည်

ဝိတတစည်ဟူသော စည်သုံးမျိုးမှာ ယခုခေတ်ပေါ်စည်ဟူသော အသုံးအနှုန်းနှင့်ကိုက်ညီ၏။

ဦးကုလား မဟာရာဇဝင်ကြီးနှင့် မှန်နန်းရာဇဝင်တို့တွင်လာသော တူရိယာစာရင်း၌ စည်မျိုး ၁၂ ပါးဟုပြသည်။ ယင်းတို့ကား (၁)မြှောက်စည် (၂)သံလွင် (၃)စည်ပြော (၄)စည်ကြီး (၅)ဒိုးမင်း (၆)စည်ဝန်း (၇)စည်သေး (၈)စည်ပုတ် (၉)စည်ပန်းတောင်း (၁၀)ပတ်သာ (၁၁)တဖက်စည် (၁၂)စည်အိုင်တို့တည်း။

ကဗျာဗန္ဓသာရကျမ်းတွင်ကား၊ မြန်မာပြည်ဖြစ် စည် ၁၂ မျိုး၊ နိုင်ငံခြားမှရသော စည်မျိုးစုံ ၁ ဟူ၍ စည် ၁၃ မျိုးပြသည်။ မြန်မာပြည်ဖြစ်စည် ၁၂ မျိုးကား (၁)စည်ပြော (၂)မုရားစည် (မုရိုးစည်) (၃)မြှောက်စည် (၄)စည်ဝန်း (၅)စည်ပုတ် (၆)စည်သေး (၇)စည်အိုင် (၈)စည်ဒိုး (၉)စည်ပန်းတောင်း (၁၀)တဖက်ပိတ်စည် (၁၁)စည်သံလွင် (၁၂)စည်ဒိုးမင်းတို့ဖြစ်သည်။

စည်တူရိယာမျိုးကို ၃ မျိုး ၃ စားခွဲခြားနိုင်၏။ ပဌမတမျိုးမှာ တိုးရိုပေါက် အခေါင်းတွင် ထိပ်ဝ နှစ်ဖက်လုံးသားရေပိတ်သောစည်မျိုးဖြစ်၍ ယင်းစည်မျိုးသည် နှစ်ဖက်

လုံး တီးခတ်ရသောစည်၊ တဖက်တည်းသာ တီးခတ် ရသော စည်ဟူ၍ အမျိုးကွဲပြားသည်။ ဒုတိယတမျိုးမှာ တိုးရို ပေါက်အခေါင်းတွင် မျက်နှာဝ တဖက်ကိုသာ သားရေပိတ် ၍ကြက်သော စည်မျိုးဖြစ်၏။ မြန်မာတို့ တီးလေ့ရှိသော အိုးစည်မှာ ထိုအမျိုးတွင်ပါဝင်သည်။ တတိယတမျိုးမှာ အိုး ကဲ့သို့ မျက်နှာဝ တခုတည်းရှိသော အခေါင်းကို သားရေပိတ် ၍ကြက်သော ပလုတ်တုတ်စည်မျိုးဖြစ်သည်။

စည်များကို သားရေကြက်ရာ၌ စည်မျက်နှာပြင် တင်း၍ နေရန်၊ သားရေကြိုးဖြင့်လည်း ဆွဲကြသည်။ ဝက်အူရစ်ပါ သော ချိတ်များဖြင့်လည်း ဆွဲကြသည်။ ဥရောပတိုက်၌သုံး သောစည်များသည် အများအားဖြင့် ဝက်အူရစ်နှင့်ဆွဲ၍ အတင်းအလျော့လုပ်နိုင်သော စည်များဖြစ်သည်။ မြန်မာ နိုင်ငံအပါအဝင်ဖြစ်သော အရှေ့တိုင်းတွင်သုံးသောစည်များ မှာ အများအားဖြင့် သားရေကြိုးဖြင့်ဆွဲ၍ကြက်သော စည် များဖြစ်ကြသည်။

စည်ကို နှဲ၊ ပြွေ၊ စောင်းညှင်း စသည်တို့နှင့်တွဲဖက်၍လည်း တီးနိုင်သည်။ သို့မဟုတ် တခုချင်းလည်းတီးနိုင်သည်။ စည် ၏သဘောမှာ တုန်သံ ဟည်းသံဖြင့် လူတို့၏စိတ်ကိုလှုပ်ရှား စေရန်ဖြစ်သည်။ အသံအမျိုးမျိုး၊ တီးခတ်ပုံအမျိုးမျိုးဖြင့် လူ၏စိတ်ကိုလှုပ်ရှားစေ၏။ ထို့ကြောင့် ကမ္ဘာအရပ်ရပ်ရှိ လူအမျိုးမျိုးတို့သည် စစ်ချီတက်ရာတွင်ရှင်း၊ သုမင်္ဂလာ ဒုမင်္ဂလာ ကိစ္စများတွင်ရှင်း၊ ကခုန်ပွဲများတွင်ရှင်း၊ မိမိတို့ ဓလေ့ထုံးစံများအရ စည်များကိုတီးခတ်ကြသည်။



အိုးစည်၊ ပုံစသည်ဘို့ကိုတည်ခင်းရောင်းချသော တူရိယာဆိုင်



အနောက်နိုင်ငံမှစည်တမျိုး

စည်ကို တူရိယာဝိုင်း၌ထည့်သွင်း အသုံးပြုသောအခါ၊ တ ရော၊စောင်း၊ပြွေ၊ခရာစသည်တို့ကဲ့သို့ အဆက်မပြတ်တီးမှုတ် ရသည်မဟုတ်၊ စည်းချက်သဖွယ်သာတီးခတ်ရသည်။ ခေတ် ဦးနိုင်ငံတို့တွင် စည်တမျိုးတည်းကိုသာ တီးခတ်၍ သီဆို ကခုန်ခြင်းပြုလေ့ရှိသော်လည်း၊ ယခုခေတ်၌ များစွာသော နိုင်ငံတို့တွင် စည်ကို အခြားတူရိယာများဖြင့် တွဲဖက်၍ အသုံးပြုလျက်ရှိကြသည်။

မြန်မာတို့တွင် စည်သဘော သက်ရောက်သော သားရေ ကြက်တူရိယာများရှိသည့်အနက်၊ စည်များကိုအကြီးအငယ် ခွဲ၍ အသံအမျိုးမျိုးညှိကာ အခြားတူရိယာများကဲ့သို့ သီ ချင်းသံ ဖြစ်အောင် တီးသောစည်များကို ‘ပုံ’ သို့မဟုတ် ‘ပတ်’ ဟုခေါ်သည်။ တီးကွက်၏အပိုင်းအခြား သို့မဟုတ် သီချင်း၏အပိုင်းအခြား သို့မဟုတ် အချိန်၏အပိုင်းအခြားကို တီးခတ်သော အခြားစည်များလည်း ရှိသေးသည်။ ပုံစံပြ ရမည်ဆိုသော်၊ အိုးစည်ကို လုံးချင်းတီးသည့်အခါ တီး၍၊ တီးကွက်၏အပိုင်းအခြားတွင်တီးသည့်အခါလည်းတီးသည်။ ပုံကြီးကိုကား သီချင်း၏အပိုင်းအခြားအတွက်သာ တီး၏။

မြန်မာဘုရင်များသည် နန်းသုံးတူရိယာများအဖြစ် စည် များကိုအသုံးပြုခဲ့၏။ မြန်မာမင်းသုံး စည်များအနက် စည် တော်နှင့်ပဟိုရ်စည်များသည် ပမာဏအားဖြင့် ကြီးသော စည်ကြီးများဖြစ်၏။ ပဟိုရ်စည်ကဲ့သို့စည်ကြီးများကို ယခု ခေတ်အချို့ဘုန်းကြီးကျောင်းများတွင်တွေ့ရှိရ၏။ ထိုစည် များသည် ထိပ်ဝအချင်း ၂ ပေခွဲမှ ၃ ပေအထိရှိတတ်၍ အလျား ၅ ပေအထိ ရှိတတ်သည်။

စည်ပြောကို အလှူဒါန ပြုသောအခါ အသုံးများ သည်။ သိချင်းသွားကို နှဲဖြင့်မှုတ်၍ လင်းကွင်းတီးသည်ကို ပြော နှစ်လုံးသုံးလုံးဖြင့်စည်းချက်လိုက်ပေးရသည်။ ယင်းစည်တီး ရာတွင် ပလုတ်တုတ်စည်ကိုလည်း ထည့်သွင်း တီးလေ့ရှိ၏။ ကရင်လူမျိုးတို့တွင် ဖားစည်ခေါ် စည်ဝိုင်းတမျိုးရှိ၏။ ယင်း စည်ကို မိုးဦးကျအခါများတွင် ပွဲတော်များ၌ တီးကြ၏။ (ဖားစည်ပွဲ — ရှု။) ဖားစည်ဟုခေါ်ခြင်းမှာ စည်နှုတ်ခမ်း တွင် ဖားရုပ်ကလေးများရှိ၍ခေါ်ခြင်းဖြစ်သည်ဟု အချို့က ဆိုသည်။ အချို့ကမူ မိုးခေါ်ရန်တီးခတ်သောစည်ဖြစ်ခြင်း ကြောင့် ဖားစည်ခေါ်သည်ဟုဆို၏။

ကမ္ဘာပေါ်ရှိ လူအမျိုးမျိုးတီးသည့်စည်များနှင့်စပ်လျဉ်း ၍ ယုံကြည်မှုအမျိုးမျိုးရှိကြ၏။ ဤမည်သောစည်ကို တီး လျှင် စစ်အောင်သည်။ ဤမည်သောစည်ကိုတီးလျှင် မိုးရွာ သည် စသည်ဖြင့် အထူးပြု၍တီးသောစည်များကို ရှေးက ထားရှိခဲ့သော်လည်း၊ ယခုအခါ အချို့နိုင်ငံများတွင် ကွယ် ပျောက်ခဲ့ပြီဖြစ်၏။ အချို့နိုင်ငံများတွင်ကား ယနေ့တိုင် ရှိနေသေး၏။


စည်သွတ်မည့်နာနတ်သီးများကို ရှေးဦးစွာအခွံနွာရသည်။


နာနတ်သီးအူတိုင်ကို စက်ဖြင့်ဖောက်ထုတ်နေစဉ်


နာနတ်သီးကို အကွင်းလိုက် စက်ဖြင့်ညီညာစွာလှီးဖြတ်နေပုံ

**စည်သွတ်လုပ်ငန်း။** ။အစားအသောက်များကိုကြာ ရှည်ခံအောင်ပြုလုပ်နည်းတနည်းမှာ စည်သွတ်၍ထားနည်း ပင်ဖြစ်သည်။ ထိုနည်းမှာ အအေးခာတ်ပေး၍ကြာရှည် ခံအောင်ထားနည်းထက် ရှေးကျလေသည်။ (အအေးဓာတ် ပေးကရိယာများ — လည်းရှု။) အစားအသောက်များ ကို စည်သွတ်ထားပြီးသောအခါ နောက်ထပ်အထူးဂရုစိုက် ပြုပြင်ပေးရန်မလိုတော့ချေ။ စည်သွတ်ထားခြင်းဖြင့် ရက် အကန့်အသတ်မရှိ ကြာရှည်စွာထား၍ သုံးနိုင်သည့်ပြင် သယ်ယူရာ၌လည်း လွယ်ကူလှပေသည်။

လွန်ခဲ့သည့်နှစ်ပေါင်း ၁၅၀ ခန့်က ပြင်သစ်လူမျိုး စား တော်ချက်တဦးဖြစ်သူ နစ်ကလတ် အက်ပတ်ဆိုသူသည် အ စားအသောက်များကို ပူအောင်ချက်ပြီးလျှင် ပုလင်းတွင် ထည့်၍ လေလုံအောင်ပိတ်ထားပါက အချိန်ကြာမြင့်စွာခံ ကြောင်းကို မကြုံဆဘဲနှင့် ကံအားလျော်စွာ တွေ့ရှိခဲ့လေ သည်။ ထိုအခါမှစ၍ စားစရာများကို စည်သွတ်ခြင်းနည်း ပေါ်ပေါက်လာသည်ဟု ယူဆရပေမည်။

သို့ရာတွင် နစ်ကလတ် အက်ပတ်မှာ မည်သို့သောအ ကြောင်းတရားကြောင့် ဤသို့သောအကျိုးတရား ဖြစ်လာ ကြောင်း သိပ္ပံနည်းကျကျ မသိရှာချေ။ သိပ္ပံပါရဂူကြီး ပါးစ တား၏လက်ထက်ကျမှသာ အစားအသောက်များကို အ ပူဓာတ်ပေးလိုက်ခြင်းဖြင့် အစားအသောက်များကို ပုပ်သိုး စေသော ဗက်တီးရီးယားများ ပျက်စီးကုန်ကြပြီးလျှင် ထိုအ ပူဓာတ်ပေးပြီးသားကို လေလုံအောင်ပိတ်ထားလိုက်သော အခါ ဗက်တီးရီးယားများနောက်ထပ်မဝင်ရောက်နိုင်တော့



နာနတ်သီးအကွင်းများကို သံဗူးထဲသို့ထည့်နေကြပုံ

ဘဲ၊ အစားအသောက်များ ကြာရှည်စွာခံသည်ကို တွေ့ရှိလာလေသည်။ (ပါးစတား,လူဝီ။ ဗက်တီးရီးယား — ရှု။)

သို့ရာတွင် စားစရာများကို စည်သွတ်သည့် လုပ်ငန်းမှာ ချက်ခြင်းဖွံ့ဖြိုးလာသည်မဟုတ်ပေ။ ၁၉ ရာစုနှစ် နောက်ပိုင်းလောက်အထိ အမေရိကန်ပြည်ထောင်စု၌ပင် အိမ်တွင်းလုပ်ငန်းတခုမျှသာဖြစ်နေသေးသည်။ ပြုလုပ်ပုံမှာလည်း စံနစ် မကျ သေး ပေ။ စည် သွတ် မည့် အသီး အရွက် များ၊ သားငါးများကို လက်ဖြင့်ပင်ကိုင်တွယ်ပြုလုပ်ကြလေသည်။ သံဗူးများကိုလည်း လက်ဖြင့်သာပြုလုပ်ကြသည်။ ထိုနောက် တဖြည်း ဖြည်း စက်မှု လက်မှု လုပ်ငန်းများ တိုးတက်လာ၍ သံဗူးသံခွက်များကို စက်ဖြင့်ပြုလုပ်နိုင်သောအခါမှာမှ စည်သွတ် စား စရာ များ လုပ် ငန်း သည် ကြီး ကျယ် လာခဲ့ လေသည်။ စားစရာထည့်သော သံဗူး သံခွက်များကို သံမဏိ



နာနတ်သီးထည့်ပြီးသောသံဗူးများကို ဤသို့အဖုံးပိတ်ရသည်။

ပြား ပါးပါး ကလေးများဖြင့် ပြုလုပ်၍ သံဖြူရည် စိမ်ထားရသည်။ ထို့အပြင် အစားအသောက်များ ထည့်သည့်အခါ အချဉ်ဓာတ်မပေါက်စေရန် ဆေးသုတ်ထားရလေသည်။

ယခုအခါတွင်မူကား စည်သွတ်စားစရာလုပ်ငန်းမှာ ကြီးကျယ်လာ၍ အသီးအရွက်များကို ခူးဆွတ်သည်မှအစ စည်သွတ်ပြီး တံဆိပ်များတပ်သည်အထိ စက်ဖြင့်သာပြုလုပ်ကြလေသည်။ ရှေးဦးစွာ ထည့်စရာ သံဗူးသံခွက်များကို စားစရာများ ထည့်သည့်အခန်းသို့ စက်ဖြင့်ပို့သည်။ ထိုအခန်းတွင် စည်သွတ်မည့် သစ်သီး၊ သား၊ ငါး စသည့်ပစ္စည်းတို့ကို ဖြတ်တောက် လှီး စိတ် ထား၍ သံဗူးများရောက်လာသောအခါ တဗူးစီတဗူးစီ အပိုအလိုမရှိ စက်ဖြင့်ချိန်တွယ်၍ထည့်ပေးသည်။ ထိုသို့ ထည့်သွင်းသည့်အခါတွင် အစစအရာရာ သန့်ရှင်းစင်ကြယ်စွာရှိစေရန် သန့်ပြန့်စွာစက်ဖြင့်ဆေးကြောပြီးမှ ထည့်ရသည်။ အသီး အရွက်များကို စည်သွတ်လျှင် ဆားနှင့်သကြား ရောထားသော အရည်တမျိုးကို ထည့်ပေးရလေသည်။

စားစရာများ ထည့်ပြီးသောအခါ ဗူးထဲမှ လေများ ထွက်ကုန်အောင် မိနစ်အနည်းငယ်မျှ အပူဓာတ်ပေးရသည်။ ထိုနောက် အဖုံးများဖြင့် ပိတ်လိုက်ပြီးလျှင် အစားအစာများထဲမှ ဗက်တီးရီးယားများ ပျက်စီးကုန်အောင် အပူရှိန် ခပ်ပြင်းပြင်းပေးသည့်ဌာနသို့ ပို့ရပြန်သည်။ ထိုဌာနတွင် အစား အစာ၏ အမျိုး အစား အလိုက် အပူဓာတ် ပေး ရသည်။ သစ်သီးနှင့် ဟင်းသီး ဟင်းရွက် ဖြစ်လျှင် မိနစ်အနည်းငယ်မျှသာ အပူရှိန်ပြင်းပြင်းပေး၍၊ သားငါးဖြစ်လျှင် နာရီပိုင်းမျှကြာအောင် အပူဓာတ်ပေးကာ ချက်ရလေသည်။ ချက်ပြီးသောအခါတွင်လည်း အစားအစာများ အရောင် အဆင်း မပျက်စေရန် ရေဖြင့်လျှင်မြန်စွာ အေးအောင်ပြုလုပ်ရလေသည်။ နောက်တွင် ဗူးများကို ခြောက်သွေ့စေ၍တံဆိပ်ကပ်ပြီးလျှင် ရောင်းချရန် အသင့်ပြုလုပ်ပြီးဖြစ်လေသည်။

စည်သွတ်စားစရာများကို အစပဌမတွင် ဈေးကြီးပေး၍ ဝယ်ယူစားသောက်ရလေသည်။ သို့ရာတွင် ယခုအခါ ကြီးကျယ်သောစက်မှုလုပ်ငန်းတခုဖြစ်လာ၍ အများအပြားလုပ်ကိုင်လာသောကြောင့် ဈေးပေါပေါနှင့် ဝယ်ယူစားသောက်နိုင်ကြသည်သာမက အချိန်အခါ ရာသီမရွေး စားလိုသော သားငါး၊ အသီး၊ အရွက်၊ သစ်သီးများကိုစားသောက်နိုင်ကြပေသည်။ အထူးသဖြင့် စည်သွတ်စားစရာများပေါ် ပေါက်လာသည့်အတွက် စစ်တပ်များအဖို့ အလွန်အသုံးဝင်သော ရိက္ခာများဖြစ်လာလေသည်။ ထို့ကြောင့်ပင် စစ်ဖြစ်ပွားသည့်အခါတိုင်း စည်သွတ်စားစရာလုပ်ငန်းမှာ တိုးတက်ဖွံ့ဖြိုးလာလေသည်။

အချို့က စည်သွတ်စားစရာများသည် ဩဇာဓာတ်များ ပျက်စီးနေ၍ ခွန်အား ဖြစ်စေသော ဗီတာမင်များ မပါရှိ



အပူရှိန်ပြင်းပြင်းပေး၍ အစားအစာပုပ်သိုးစေတတ်သော ဗက်တီးရီးယားများကိုသေစေသည်။

တော့ဟုယူဆကြသည်။ (ဗီတာမင် — လည်းရှု။) စင်စစ်အားဖြင့် စည်သွတ်စားစရာများမှာ အစားအစာကို သာမန်ချက်ပြုတ် သကဲ့သို့ ပြုလုပ်ထားခြင်း မျှသာ ဖြစ်၍ ဩဇာဓာတ်ပျက်စီးခြင်းမဖြစ်နိုင်ပေ။ ထိုပြင် စည်သွတ်စားစရာလုပ်ငန်း၌ ဓာတုဗေဒပါရဂူကြီးများက ကြီးကြပ်စစ်ဆေး၍



သံဗူးတွင်တံဆိပ်ကပ်ပြီးသောအခါ တင်ပို့ရောင်းချရန်အသင့်ဖြစ်ပြီ။

အာဟာရတန်ခိုးအနည်းငယ်မျှ မယုတ်လျော့စေဘဲ ကောင်းသည်ထက်ကောင်းအောင် ကြံစည်လုပ်ကိုင်လျက်ရှိကြ၏။

စည်သွတ်စားစရာများ လုပ်ငန်းမှာ သိပ္ပံပညာနည်းများကို အများဆုံးအသုံးပြုသောစက်မှုလုပ်ငန်းများတွင် အကြီးကျယ်ဆုံးဖြစ်၏။ အမေရိကန်ပြည်ထောင်စုသည်ကား စည်သွတ်စားစရာများ လုပ်ငန်းကို အကြီးကျယ်ဆုံး လုပ်ကိုင်သောနိုင်ငံဖြစ်လေသည်။ ဥရောပတိုက်နိုင်ငံများ၊ ဩစတြေးလီးယား၊ နယူးဇီလန်၊ ဂျပန်၊ ဟာဝိုင်းယန်းကျွန်းတို့တွင်လည်း စည်သွတ်စားစရာလုပ်ငန်းကို အကြီးအကျယ်လုပ်ကိုင်လျက်ရှိရာ ထိုလုပ်ငန်းမှာ တိုးတက်လျက်ရှိလေသည်။

**စည်းတပြစ်။** ။စည်းတပြစ်သည် ရှေးမြန်မာမင်းတို့၏ လက်ထက် မင်းမှုထမ်း ရာထူးတခုနှင့် တွဲဖက်နေသော ဘွဲ့အမည်ဖြစ်၏။ စည်းတပြစ်ကို စဉ်းတပြစ်ဟူ၍လည်း ရေးသားသည်။ စည်းတပြစ်မှာ စန္ဒပဇ္ဇောတသဒ္ဒါကို အစွဲပြု၍ ခေါ်ဝေါ်ခြင်းဖြစ်သည်။ စန္ဒပဇ္ဇောတမင်းဟူ၍ ဥဇ္ဇေနီပြည်တွင် ယာဉ်လျင် ၅ ပါးရသော မင်းတပါးရှိခဲ့ကြောင်းကို ဓမ္မပဒအဋ္ဌကထာတွင် ဖော်ပြထားလေသည်။ ယင်း စန္ဒပဇ္ဇောတ၏ အနက်မှာ လ၏အရောင်ကဲ့သို့ ထွန်းလင်းသောသူဟု ဝေါဟာရလိနတ္ထဒီပနီတွင် ပြဆိုထား၏။

စည်းတပြစ်အမည်ကို စတင်ပေးထားသည့် အချိန်ကာလကိုမူ အတိအကျမသိရပေ။ သို့သော် မဟာရာဇဝင်ကြီးတွင် 'မင်းကြီးစွာစော်ကဲကား သက္ကရာဇ် ၇၃၀ ပြည့်နှစ်တွင် နန်းတက်တော်မူသည်။ နန်းတက်တော်မူသောအခါ၊ နေတော်မူသော ကန္နားတော်နိမ့်၍ ကန္နားတော်နှင့် ထိလျှင် ဗေါင်းတော်ကျွတ်၍ မြေသို့ကျလေ၏။ မင်းကြီးစွာလည်း ဗေါင်းတော်ကိုစွပ်ပြန်၍ ထန်းရွက်ယပ်ကို ကိုင်တော်မူလျက်၊ နန်းတက်တော်မူ၏။ ထိုအကြောင်းကို ပညာရှိ စည်းတပြစ်ကြီးမြင်လတ်သော်၊ ဘုန်းတော်ကြီးလှသောဘုရား ဗေါင်းတော်ကျွတ်သည်အလိုကား၊ ဗေါင်းဖျင် သိမ်းတော်မမူနိုင်အောင် သက်တော်ရှည်မည်။ ယပ်ကိုင်၍ တက်တော်မူသည်အလိုကား၊ ပြည်ထဲ ချမ်းငြိမ်း သာယာ အံ့ သည် ဟူ၍ နားတော်လျှောက်၏။ မင်းကြီးစွာလည်း အားရတော်မူ၍ စည်းတပြစ်ကြီးကို ဆင်မတစီးဆုပေးတော်မူ၏' ဟူ၍ တွေ့ရသည်။ (မင်းကြီးစွာစော်ကဲ — ရှု။) ယင်းကိုထောက်သော် သက္ကရာဇ် ၇၃၀ ပြည့်နှစ်မတိုင်မီကပင် စည်းတပြစ်အမည်ရှိနှင့်နေသည်ဟု ဆိုနိုင်ပေသည်။ မြန်မာနိုင်ငံသမိုင်း အင်းဝခေတ် မင်းကြီးစွာစော်ကဲလက်ထက်တွင်သာ စည်းတပြစ်ရာထူးဘွဲ့အမည်အကြောင်းကိုတွေ့ရ၍၊ ထိုခေတ်မတိုင်မီနှင့် ထိုခေတ်နောက်ကာလများတွင်မတွေ့ရချေ။ သို့သော် ထိုရာထူးမှာ ပုဂံခေတ်၊ စစ်ကိုင်းခေတ်လောက်က စ၍ နိုင်ငံသမိုင်းတလျှောက် ရှိနေခဲ့ပြီးဖြစ်လိမ့်မည်ဟု မှန်းဆရသည်။

မဟာရာဇဝင်ကြီး၌ပင်၊ ‘ ဘုရင်မင်းကြီးစွာလည်း ဝန်ဇင်း အသည်သား လျှောက်သောစကားသည် ငါ့ကိုယ်တော်ရေး သာမဟုတ်၊ သားတော်အစဉ် မြေးတော်အဆက် မြစ်တော် အညွန့်တိုင်အောင် အကျိုးတော်များမည်အကြောင်းကို လျှောက်ပေသည်ဟု စည်းတပြစ်ကြီး မရှိသည်ဖြစ်၍ စည်းတပြစ်အမည်နှင့် အဆောင်အယောင်ပေးတော်မူ၏။ ဆင်ပေါက်တစီး၊ ရွှေဖလား တဆယ်သားခုတ် ပေးတော်မူ၏ ’ ဟု တွေ့ရသည်။ (ဖိုးရာဇာ — ရှု။) ထိုပြင် သက္ကရာဇ် ၁၁၄၃ ခုနှစ်တွင် ရှင်စန္ဒလင်္ကာသူမြတ် ပြုစုအပ်သော မဏိရတနာပုံကျမ်း၊ မင်းရာဇာ၏ အကြောင်းတွင် ‘နှလုံးကောင်း လက်ရုံးကောင်းကို ချစ်ခင်မြတ်နိုးလှအပ်သည်ဟု ဆုလာဘ်များစွာ သနားတော်မြတ်ခံစေ၍ စည်းတပြစ်ဟူသောအမတ်လတ်တို့ အမည်နှင့် သူကောင်းပြုတော်မူပြီးလျှင်၊ အင်းဝပြည်သို့ ခေါ်ယူတော်မူခဲ့သည်ဟု အစဉ်ပြောထုံးရှိသည် ’ ဟူ၍တွေ့ရ၏။ ယင်းသို့မင်းကြီးစွာလက်ထက်၊ပဌမစည်းတပြစ်ကြီး၏နိမိတ်ဖတ်မှုအတွက် ဆင်မတစီး ဆုချခြင်းကို ထိုစည်းတပြစ်ကြီး မရှိသည့်နောက် ဝန်ဇင်းအသည်ကဲ့သို့ ပညာဉာဏ်ရှိသူအား စည်းတပြစ် အမည်ပေးခြင်း၊ ဆင်ပေါက်ဆုချခြင်းတို့ အပြင် မင်းကြီးစွာစော်ကဲ လက်ထက်၌ ပြည်ရေး၊ ပြည်ရာ၊ သားတော်သမီးတော်တို့အရေးများကို စည်းတပြစ်အား တိုင်ပင်ခြင်း၊ စည်းတပြစ်၏ တင်လျှောက်ချက်တို့ကို နာယူဆောင်ရွက်ခြင်းတို့ကို ထောက်ထား၍ စည်းတပြစ်ဘွဲ့ရရှိသော အမတ်တို့မှာ ဘုရင်မင်းမြတ်၏ အတိုင်အပင်အများဆုံး ခံရသောသူဖြစ်မည်ဟု ယူဆဖွယ်ရှိ၏။

**စည်းပုံ။** ။မကိုဋ် — ရှု။

**စည်းဝါးကိုက် ကိုယ်လက်လေ့ကျင့်ခြင်း။** ။ကိုယ်လက်လေ့ကျင့်ခြင်း၌ ကိုယ်အင်္ဂါအစိတ်အပိုင်းတို့၏လှုပ်ရှားခြင်းသည် ညီညွတ်စေရန် အရေးကြီးသည်။ လှုပ်ရှားမှု ညီညွတ်မှ နှလုံးသွေး အညီအညွတ်ပျံ့နှံ့၍ ကြွက်သားများ ဖွံ့ဖြိုးလာနိုင်သည်။ ယင်းညီညွတ်မှုကို ရရှိနိုင်ရန် စည်းချက်ဝါးချက်ရှိဖို့ လိုလေသည်။ စည်းချက်ဝါးချက်ဖြင့် ကိုယ်လက်လှုပ်ရှားကစားခြင်းကို စည်းဝါးကိုက် ကိုယ်လက်လေ့ကျင့်ခြင်းဟု ခေါ်သည်။

စည်းဝါးကိုက် ကိုယ်လက်လေ့ကျင့်ခြင်းကို စတင် တီထွင်သူမှာ ဆွစ်လူမျိုး ပါမောက္ခကြီး ဒါးလခရိုးဆိုသူဖြစ်သည်။ ဒါးလခရိုးသည် ဤစည်းဝါးကိုက်ကိုယ်လက်လေ့ကျင့်ခြင်းကို ဂီတပညာရပ်ကိုမှီး၍ တီထွင်ခြင်းဖြစ်သည်။ ဂီတပညာရပ်၌ ပညာသည်များသည် စည်းနှင့် ဝါးကို နားလည်ရသည်။ စည်းဝင် စည်းထွက်ကို တတ်သိရသည်။ စည်းချက် ဝါးချက်နှင့် ညီညွတ်စွာ ကိုယ်လက်များလည်းလှုပ်ရှားရသည်။ ယင်းအချက်များကိုမှီး၍ ခရစ် ၁၉၀၅ ခုနှစ်လောက်၌ ဒါးလခရိုးသည် စည်းဝါးကိုက် ကိုယ်လက်လေ့ကျင့်နည်းကို သင်ကြားပြသပေးနိုင်လေအောင် တီထွင် လိုက်ရာ၊ ဥရောပတိုက်နှင့် အမေရိကတိုက်များတွင် ထိုလေ့ကျင့်နည်းသည် များစွာ ခေတ်စားလာခဲ့သည်။

ယင်းလေ့ကျင့်နည်း၌ စည်းချက်ကျအောင် လှုပ်ရှားတတ်ရသည်။ နားအာရုံ ဖွံ့ဖြိုးစေရှုဖို့လည်း လိုသည်။ မိမိသည် အများနှင့်အတူ ယှိမ်းကရာ၌ကဲ့သို့ ညီညာစွာလှုပ်ရှားတတ်ဖို့လည်း လိုပေသည်။ အထက်ပါ အချက် သုံးချက်အနက် စည်းချက်ကျလှုပ်ရှားခြင်းသည်အဓိကအခြေခံပင်ဖြစ်သည်။

ဤ စည်း ဝါးကိုက် ကိုယ်လက်လေ့ကျင့်ခြင်း၏ ရည်ရွယ်ချက်မှာ အလုပ်လုပ်ကိုင်ရာ၌ စိတ်သွားတိုင်း ကိုယ်ပါနိုင်မှု၊ စိတ်နှင့်လိုက်၍ကိုယ်ခန္ဓာကလည်း စွမ်းလွန်း တမံလျှင်မြန်စွာ ဆောင်ရွက်နိုင်မှုတို့ တိုးတက်ဖွံ့ဖြိုးလာစေရန်ဖြစ်သည်။

လေ့ကျင့်ခဏ်းများကို ပြုလုပ်ရာ၌ လှုပ်ရှားနေသောစိတ်ကို ကိုယ်ခန္ဓာအစိတ်အပိုင်းများက အမှီလိုက်၍ လှုပ်ရှားနိုင်ရန်ကြိုးစားရသည်။ ဤတွင် ဂီတသံဖြင့် စည်းချက် တိုင်ပေးနေသည်ကိုဖမ်းမိရန် နားအာရုံစိုက်မှုသည်အရေးကြီးသည်။ ဂီတသံစည်းချက်မြန်လျှင်မြန်သကဲ့သို့၊နှေးလျှင်နှေးသကဲ့သို့၊ စိတ်ရောကိုယ်ပါလိုက်၍လှုပ်ရှားလေ့ကျင့်ရသည်။ လေ့ကျင့်ခဏ်း တခဏ်းနှင့် တခဏ်း အကူးအပြောင်း၌ ဆရာဖြစ်သူက အမိန့်ပေးရန်လိုလေသည်။ စည်းဝါးကိုက် ကိုယ်လက်လေ့ကျင့်ခြင်း သည် စည်းချက် ဝါးချက်ကို သိနားလည်စေသောကြောင့် ဂီတနှင့် ပန်တျာ အနုပညာ တို့ကို လေ့လာဆည်းပူးရာ၌ အဖိုးတန်သောလေ့ကျင့်ခြင်းဖြစ်သည်။

**စဥ့်ကူးမင်း။** ။စဥ့်ကူးမင်းသည် ကုန်းဘောင် မင်းဆက်တွင် စတုတ္ထမင်းဖြစ်သည်။ ခမည်းတော် ဆင်ဖြူရှင်မင်း လက်ထက်တွင် အိမ်ရှေ့အရာရရှိ၍၊ သက္ကရာဇ် ၁၁၃၈ ခုနှစ်တွင် ခမည်းတော်နတ်ရွာစံသောအခါ နန်းတက်သည်။

ခမည်းတော်ဆင်ဖြူရှင်မင်းနတ်ရွာစံသောအခါ၊ ဆင်ဖြူရှင်၏ညီတော် နောင်တော်များဖြစ်သော ဗဒုံမင်းသား၊ အမြင့်မင်းသား၊ ပုခန်းမင်းသား၊ ပင်းတလဲ မင်းသား၊ စည်သာမင်းသားတို့မှာ အလောင်းမင်းတရားကြီး၏အမိန့်တော်အရ ထီးနန်း ဆက်ခံခွင့်ရှိသူများဖြစ်နေ၍ စဥ့်ကူးမင်းသည် မိမိအန္တရာယ်မှ လုံခြုံစေရန်၊ ဗဒုံမင်းကို စစ်ကိုင်းတွင်လည်းကောင်း၊ ပုခန်း မင်းကို ပင်းယတွင် လည်း ကောင်း၊ ပင်းတလဲမင်း ကို ရွှာသစ်ကြီးတွင်လည်းကောင်း ခွဲခြား၍နေစေသည်။ အမြင့်မင်းကို မသင့်မတင့်ကြံသည်ဟူ၍ ကွပ်မျက်သည်။ နောင်တော်ကြီးမင်း၏သားတော် မောင်မောင်ကို ဖောင်းကားရွာသို့ပို့ထားသည်။ ဝန်ကြီး မဟာသီဟသူရကို အရာကနှုတ်၍ စစ်ကိုင်းသို့ပို့သည်။



ရွှေတိဂုံစေတီရင်ပြင်တော်ရှိ စဉ့်ကူးမင်း၏ ကုသိုလ်တော်

စဉ့်ကူးမင်းသည် မှူးငယ်မတ်ငယ်တို့နှင့် အပျော်အပါး များ၍ အရက်သေစာသောက်စားသည်။ ကြွေအန် ပစ် ခြင်း၊ ကြက်တိုက်ခြင်း၊ ငါးမျှားခြင်း၊ တောလည်ခြင်းတို့ကို လည်း ဝါသနာရှိသည်။

သက္ကရာဇ် ၁၁၄၃ ခုနှစ်တွင် စဉ့်ကူးမင်းသည် အညာ သီဟတောသို့ဘုရားဖူးထွက်တော်မူခိုက်ညတညတွင် ဖောင်း ကားစားမောင်မောင်သည် နောက်ပါလူတစုတို့နှင့် စဉ့်ကူး မင်းဟန်ဆောင်၍ နန်းတွင်းသို့ ဝင်ရောက်ကာ ထီးနန်းသိမ်း ယူသဖြင့်နန်းကျရသည်။ ထိုနောက် ဗဒုံမင်းသားက ဖောင်း ကားစားမောင်မောင်ကို လုပ်ကြံပြီးနောက် စဉ့်ကူးမင်း ကိုပါ ဖမ်းဆီးကွပ်မျက်ပြန်သဖြင့် ထိုနှစ်၌ပင် အနိစ္စရောက်ရ သည်။ နန်းစံ ၅ နှစ်မျှသာ ရှည်ကြာသည်။ စဉ့်ကူးမင်း သည် ရွှေတိဂုံစေတီတော်ကြီးအရံအတွင်း အနောက်မျက် နှာတွင် ၁၁၄၀ ပြည့်နှစ် တပို့တွဲလဆန်း ၁ ရက်ဗုဒ္ဓဟူးနေ့ တွင် ကြေးချိန် ၁၅၅၅၅၊ အချင်း ၅ တောင်၊အရပ် ၇ တောင် ၂ မိုက်၊လုံးပတ် ၁၅ တောင်၊အထု ၂ မိုက်ရှိသော ခေါင်း လောင်းတော်ကြီးကို လှူဒါန်းတော်မူခဲ့သည်။

**စဉ့်ကူးမြို့။** ။စဉ့် ကူး မြို့ သည် မန္တလေး မြောက် ဖက် မိုင် ၄၀ အကွာ ဧရာဝတီမြစ်ပေါ်၌တည်ရှိ၏။ မန္တလေးခရိုင် မတ္တရာမြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်၍၊ မြို့နယ်အကျယ်အဝန်းမှာ စတုရန်းမိုင် ၈၀၀ မျှရှိလေသည်။ စကျဉ်တောင်မှ ကျောက် ဖြူနှမျှားကို ရရှိနိုင်၍ ဘုရား ရုပ်တုတော် များ၊ ကျောက်စာ ချပ်များပြုလုပ်ကြသည်။

**စဉ့်ကိုင်မြို့။** ။ကျောက်ဆည် ခရိုင် စဉ့်ကိုင်မြို့နယ်၏ရုံး စိုက်ရာမြို့ဖြစ်သည်။ မြို့နယ် အကျယ်အဝန်းမှာ ၈၂၅ စတု ရန်းမိုင်ဖြစ်သည်။ ကျောက်ဆည်မြို့၏မြောက်ဖက် ၁၀ မိုင် မျှဝေး၍ မီးရထားလမ်းမြို့တမြို့ဖြစ်သည်။ မြို့နယ်အတွင်း အခြားထင်ရှားသော မြို့ကလေးတမြို့မှာ ပလိပ်မြို့ဖြစ်၍၊ ပ လိပ်မှ မြင်းခြံသို့ မီးရထားလမ်းခွဲတခု ဖောက်လုပ်ခဲ့ရာမှ ထင်ရှား၍စည်ကားလာခဲ့သည်။ ပလိပ်မြို့သည် မြစ်ငယ်မြစ် ကို ရန်ကုန်မန္တလေးမီးရထားလမ်းဖြတ်ကျော်သည့်တန်တား အနီး၌ရှိသည်။

စဉ့်ကိုင်မြို့၏လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်း အရ ၁,၇၂၁ ယောက်မျှရှိလေသည်။

**စဉ့်သုတ်ခြင်း။** ။အိုးခွက်လုပ်ငန်း — ရှု။

# အာရုံကိုသိခြင်း

ဤစွယ်စုံကျမ်းကိုဖတ်၍၊ သိခြင်းဖြစ်ပေါ်လာရ၏။ သို့သော် အဘိဓမ္မာနည်းအရ အသိဟူသည်အဘယ်နည်း။ စာကိုကြည့် သော် စက္ခုဝိညာဏ်၌မြင်၏။ မြင်သောအာရုံကိုဆင်ခြင်၏။ ခံယူ၏။ စူးစမ်း၏။ ဝေဖန်၏။ သိ၏။ သိမှုကိုအတည် ပြု၏။ ဤသို့သောစိတ်အစဉ်ကို အဘိဓမ္မာနည်းဖြင့်ပြ၍၊ အနောက်နိုင်ငံ စိတ္တဗေဒနှင့်ယှဉ်ဆာ ဘူတပညာရှင်ဘို့၏ အယူအဆ တို့ကို ဤစာမူတွင်ယှဉ်ပြထားသည်။

**စိတ်။** ။အဘိဓမ္မာ သဘော အရ စိတ်ကို ‘အာရမ္မဏံစိန္တေ တီတိစိတ္တံ’ ဟုဝိဂြိုဟ်ပြုကြသည်။ အာရုံကိုသိခြင်းသဘော သည် စိတ်မည်၏ဟူလေသည်။ အာရုံနှင့် အာရမ္မဏိကတို့ တခုနှင့်တခု တွေ့ဆုံ၍ အချင်းချင်း အထောက်အပံ့ပြုကြ သောအခါဖြစ်ပေါ်လာသော သိခြင်းသဘောသည် စိတ်ဖြစ် ၏။ ထိုပြင် စိတ်ဟူသည်မှာ ဆန်းကြယ်သော သဘောရှိ သောကြောင့်လည်း စိတ်မည်၏။

စိတ်ကိုဖြစ်စေသော အာရုံတို့မှာ ခြောက်ပါးအပြားရှိကုန် ၏။ ယင်းတို့ကား၊ ရူပါရုံ(အဆင်း)၊ သဒ္ဒါရုံ(အသံ)၊ ဂန္ဓာရုံ (အနံ့)၊ရသာရုံ(အရသာ)၊ဖောဋ္ဌဗ္ဗာရုံ(အတွေ့)နှင့် ဓမ္မာရုံ (တရားသဘော)တို့တည်း။ (၁)စိတ် ၈၉ ပါး၊ (၂)စေ တသိက် ၅၂ ပါး၊ (၃)ပသာဒရုပ် ၅ ပါး၊ (၄)သုခုမရုပ် ၁၆ ပါး၊ (၅)ပညတ်၊ (၆)နိဗ္ဗာန်ဟူသော တရားအပေါင်းသည် ဓမ္မာရုံမည်၏။

ဆိုအပ်ပြီးသော စိတ်တို့သည် အမှတ်မဲ့ဖြစ်ကြသည်မဟုတ် ကုန်။ ရူပါရုံ၊ သဒ္ဒါရုံ၊ ဂန္ဓာရုံ၊ ရသာရုံ၊ ဖောဋ္ဌဗ္ဗာရုံ၊ ဓမ္မာရုံ ဟူ

**စိတ်ခွဲခြားစိတ်စစ်ရေးပညာ။** ။လူ့သဘာဝနှင့်လူ့ဘဝ အတွေ့အကြုံမှ ပေါ်ပေါက်လာသော ကိုယ်တွင်းအင်္ဂါများ ဖောက်ပြန်မှု၊ စိတ်အနှောင့်အရှက်ဖြစ်မှု၊ အာရုံကြောများ ချောက်ချားမှုတို့၏ အကြောင်းရင်းများကို ခွဲစိတ် ရှာဖွေ စိစစ်၍ ကုစားပေးသောဆေးပညာနည်းကို စိတ်ခွဲခြားစိတ်စစ် ရေးပညာဟုခေါ်လေသည်။ ယင်းကို အင်္ဂလိပ်ဘာသာဖြင့် 'ဆိုင်ကိုအနာလစ်ဆစ်' ပညာဟုလည်းခေါ်သည်။ ထိုအ မည်မှာ ဗီယင်နာမြို့သား ဆရာဝန် ဇိဂမွန့် ဖရွိုက်သည် စိတ်ချောက်ချားရောဂါနှင့် အခြားစိတ်ရောဂါများကို ကုသရာတွင် ရရှိခဲ့သော အတွေ့အကြုံ ဗဟုသုတများ ကိုမှီး၍ မှည့်ခေါ်ထား သောအမည်ဖြစ်လေသည်။ (ဖရွိုက်,အက်(စ)။ စိတ် ရောဂါပညာ — ရှု။) ဖရွိုက် သည်ဗရွိုင်ယာဆိုသူဆရာဝန် တဦးနှင့်အတူ စိတ်ရောဂါ စွဲကပ်သူ လူနာများကို စိတ် ညှို့ကာကုသခဲ့ရာမှစ၍ လူ တို့၏ 'အသိစိတ်' တွင်မမှတ်မိ တော့သော အချို့အတွေ့ အကြုံ အဖြစ်အပျက်များ သည် 'မသိစိတ်' တွင်ဆက် လက်ကိန်းအောင်းနေသေး သည်ဟူသောအချက်ကို တစတစ ရိပ်စားမိလာခဲ့လေသည်။ (စိတ်ညှို့ပညာ — ရှု။) ပဌမတွင် ဤတိမ်မြုပ်ဖုံးကွယ်နေသော အချက်များကို အသိစိတ်မှတ်ဉာဏ်ရှိရာသို့ ပြန်လည်ဝင်ရောက်လာအောင် စိတ်ညှို့ခြင်းအကူအညီဖြင့် ဖန်တီးရလေသည်။ ယင်းသို့ နဂိုခံစားရသော အာရုံဟောင်းများကို နှိုးဆွလိုက်ခြင်း ကြောင့်အချိန်ကြာမြင့်စွာအသိစိတ်တွင်မမှတ်မိတော့သော ခံစားမှုများသည် ပြန်လည် ပေါ်ပေါက် ခံစားလာရ သဖြင့် ကိုယ်စိတ်နှစ်ဖြာကို အပန်းပြေစေနိုင်လေသည်။ ဤ နည်းဖြင့် ဆရာဝန်ကြီးဖရွိုက်သည် ဝေဒနာရှင်များကို ဆက်လက်ကုသလာခဲ့ရာတွင် စိတ်ညှို့ကုသနည်းသည် လုံးဝ ကျေနပ်ဖွယ်ကောင်းသော နည်းမဟုတ်သည်ကို ရိပ်စားမိ လာပြန်လေသည်။ အဘယ်ကြောင့်ဆိုသော် လူနာအများ သည် စိတ်ညှို့မရသူများဖြစ်သည်ကို တွေ့ရသောကြောင့်ဖြစ် လေသည်။ ထိုပြင် စိတ်ညှို့လိုက်ပြီးနောက် အာရုံဟောင်း များပြန်လည်ပေါ်ပေါက်လာစဉ်တွင် ယင်းတို့ကို အသိစိတ် ၌ စွဲမြဲကျန်ရစ်အောင် ပြုလုပ်ရန် ခက်ခဲသည်ကို တွေ့ရလေ သည်။ ဝေဒနာရှင်ကလည်း စုံစမ်းခွဲစိတ်နေသော ပြဿနာ နှင့်ဆိုင်သည့် အခက်အခဲ အချက်အလက်များကို မိမိဉာဏ် ဖြင့်တတ်နိုင်သမျှကြိုးစားကာ 'အသိစိတ်' တွင်ပြန်လည် ပေါ်ပေါက်ခံစားမှတ်မိရလေအောင် ကူညီမှသာလျှင် ကုသ ရန်ပိုမိုလွယ်ကူသည်ကိုတွေ့ရသဖြင့် ဖရွိုက်သည် ဆရာဝန် နှင့်ဝေဒနာရှင်တို့ ဒွေးကထက်ပိုမိုပူးပေါင်းဖြေရှင်းကုသရ မည်ဟူသောစံနစ်ကို လိုလား ခဲ့ပြန်လေသည်။ ယင်းသည့် စံနစ်မှာ ပဌမစံနစ်ထက်နှေး ကွေးသော်လည်း၊ ပိုမိုအကျိုး သက်ရောက်စေ၍ လူမရွေး အသုံးပြုနိုင်လေသည်။ များ စွာသောအာရုံဟောင်းတို့ကို ပြန်လည်ဖော်ထုတ်ရန်မှာ စိတ်ရှည်လက်ရှည်နှင့် ဝေဒနာ ရှင်၏အတွင်းသဘောကိုနား လည်အောင်ကြိုးစားရန်လို သည့်ပြင် ကြာမြင့်စွာက တိမ်မြုပ်သယောင်ယောင် ဖြစ်နေခဲ့သော အာရုံဟောင်း များသည် အလွန်ပြင်းထန် သဖြင့် ယင်းတို့ကိုဖော်ထုတ် ရာ၌ နိုင်နိုင်နင်းနင်း ရှိသင့် ရကား၊ ဆရာဝန်သည် လူနာ ကို အချိန်အမျိုးမျိုးပြောင်း ၍၊ ပုစ္ဆာအမျိုးမျိုးမေးကာ မကြာခဏတွေ့ဆုံရန်လိုလေသည်။



စိတ်ရောဂါကုပါရဂူ ဇိဂမွန့် ဖရွိုက်

### မသိစိတ်

စိတ်ကိုခွဲခြားစိတ်စစ်ရာတွင် အရေးကြီးဆုံးမှာ လူတို့၏ဘဝ အတွေ့အကြုံ အဖြစ်အပျက်များနှင့်ဆိုင်သည့် များစွာသော အာရုံများ တည်ရှိကိန်းအောင်းရာ 'မသိစိတ်' ရှိသည်ဟူ သောအချက်ကို လက်ခံယုံကြည်ရန်ဖြစ်ပေသည်။ 'မသိ စိတ်' တွင်ကိန်းအောင်းနေသောအာရုံများသည် အတိတ် ကာလ အတွေ့အကြုံ အဖြစ်အပျက်များမှ ပေါ်ပေါက်သိုမှီး ထားသော အာရုံများဖြစ်၍ လူတယောက်၏အသိ၊ အတွေး အခေါ်၊ မျက်မှောက်ကာလရှိအလေ့အကျင့်၊ အလုပ်အကိုင် များကို နောက်ဆွယ်မှအဆက်မပြတ်ပံ့သွန်းနေသည့် တန်ခိုး ကြီးသော အာရုံများဖြစ်လေသည်။ 'မသိစိတ်' မှ အာရုံ ဟောင်းများကို 'အသိစိတ်' သို့ လိုသလိုရွေးချယ်စေလွှတ် နိုင်ရန် ကောင်းမွန်စွာ လမ်းဖွင့်ထားဖို့လိုပေသည်။ တဖက်

မှုလည်း အာရုံဆိုးများ မဝင်လာနိုင်အောင် ထိန်းသိမ်းထား ရမည်။ ထိုကြောင့်ပင် မသင့်လျော်သော အာရုံဆိုးများမဝင်လာနိုင်အောင် စိတ်ကိုချုပ်တည်းထိန်းသိမ်းမှုလိုအပ်၏။ (စိတ် — ၅။)

လူတို့၏ 'မသိစိတ်' တွင်ကိန်းအောင်းနေသော အတိတ်ကာလ အဖြစ်အပျက် အတွေ့အကြုံများမှ ပေါက်ဖွားလာသည့်အယူအဆများ၊ အာရုံများ သည် အများအားဖြင့် အချိုးအစားမကျ၊ တခုနှင့်တခုအဆက်အသွယ်မရှိဘဲတည်နေတတ်၏။ အနည်းကို အများထင်ခြင်း၊ အမှားကို အမှန်ထင်ခြင်းစသည်ဖြင့် ဖောက်လှဲဖောက်ပြန်ဖြစ်နေတတ်၏။ စိတ်ခွဲခြားစိစစ်ခြင်း ပညာ အလိုအရဆိုသော်၊ ဤကဲ့သို့အာရုံတခုခု လွန်ကဲနေခြင်း သည် စိတ်နှင့် ဆိုင်သော ဝေဒနာစွဲကပ်နေခြင်းပင်ဖြစ်ပေသည်။ လူတယောက်သည် ငယ်ရွယ်စဉ်က အာရုံတခုခုကို ခံစားခဲ့ရ၏။ မိမိ ကိုယ်တိုင် ဂရုမမူမိသော်လည်း၊ 'မသိစိတ်' ကမူ ထိုအာရုံကိုအလွန်အမင်းစွဲလမ်းနေ၏။ ကြီးပြင်းလာသောအခါတွင်လည်း ပေါင်းသင်း ဆက်ဆံရေး အခြေအနေ၊ အမှား အမှန် ဝေဖန် သိမြင် တတ် သော ဉာဏ် စသည်တို့ကြောင့် မိမိအာရုံသည် လူအဖွဲ့အစည်း ပတ်ဝန်းကျင်နှင့်ဆန့်ကျင်သည့် မသင့်လျော်သောအာရုံဖြစ်မှန်း သိလာ၏။ ထိုကြောင့် ယင်းအာရုံကို ဆက်လက်၍ ချုပ်တည်းထား၏။ အလွန်အမင်းချုပ်တည်းထားရသဖြင့် စိတ်အနှောင့်အရှက်ဖြစ်၏။ ချုပ်တည်းထားရသော အာရုံများကို ပြန်လည်ဖေါ်ထုတ်ခွင့်၊ သက်သာခွင့်မပေးဘဲ၊ဆက်လက်ချုပ်တည်းထားလျှင် တနေ့တခြား ဆိုးရွားလာ၍ စိတ်ကို ဒုက္ခပေးလေသည်။ ထိုကြောင့်ပင် စိတ်ခွဲခြားစိစစ်ရေး၌ တတ်ကျွမ်းသူ ဆရာသည် ဝေဒနာရှင်၏ 'မသိစိတ်' တွင် လျှို့ဝှက်ကိန်းအောင်းနေသော အာရုံဟောင်းများကို နားလည်အောင်အဓိပ္ပါယ် ခွဲခြားရှာဖွေ ထုတ်ဖေါ် ၍၊ ကလေး၊ လူကြီး အလိုက် ဆိုင်ရာဆိုင်ရာ ကြီးပြင်းခြင်း၊ တိုးတက်ခြင်းအခြေအနေ၊ ဘဝနောက်ကြောင်း အဖြစ်အပျက် များနှင့် ဟပ်ကာ လေ့လာရလေသည်။ အာရုံဟောင်းများကို ရှာဖွေထုတ်ဖေါ်ခြင်း၊ မှန်ကန်စွာအမျိုးအစားခွဲခြင်း၊ ပြန်လည်နေထားတကျဖြစ်အောင် စီစဉ်၍ ပေါင်းသင်းဆက်ဆံရေး ပတ်ဝန်းကျင်၏အမြင်မှန်နှင့် ပနာရအောင် လူနာသည် စိတ်ခွဲခြားစိစစ်သူ ဆရာဝန်၏ လမ်းညွှန်မှု အကူအညီဖြင့် ကြိုးစားပြုလုပ်ရပေသည်။

## အိပ်မက်

ညအခါမက်သော အိပ်မက်များကိုကြားနာ၍ 'မသိစိတ်' ကို အများအားဖြင့် လေ့လာတတ်ကြလေသည်။ 'အသိစိတ်' မရှိသော ညအိပ်ပျော်နေသည့်အခါတွင် 'မသိစိတ်' သည် လွတ်လပ်စွာလှုပ်ရှားပေါ်ပေါက်နေသည်ဟု စိတ်ခွဲခြားစိစစ်သူ ဆရာတို့က ယုံကြည်ကြလေသည်။ နိုးလာသောအခါ၊ 'အသိစိတ်' သည် ပြန်လည်နိုးကြားလာ၍ အိပ်မက်ကို အမှတ် ရသော်လည်း၊ ထင်ယောင် ထင် မှားဖြစ်နေတတ်သဖြင့် 'မသိစိတ်' ၌ ပေါ်ပေါက်သော ဆန္ဒကို အသေအချာမမှတ်မိလိုက်ဘဲရှိနေတတ်သည်။ ထိုကြောင့်ပင်လျှင် အိပ်မက်များကို ဆက်စပ် လေ့လာရာ၌၊ လူနာနှင့်ဆရာဝန် လွတ်လပ်စွာ ဆွေးနွေးမှုသည် စိတ်ခွဲခြားစိစစ်ခြင်းအတတ်တွင် အထူးလိုအပ်ပေသည်။ အိပ်မက်များကိုလေ့လာခြင်းသည် တစိတ်တဒေသမျှသာဖြစ်၍ မပြည့်စုံသေးပေ။ အကြောင်းမူကား အိပ်မက်များကိုဖြစ်ပေါ်လာစေသော ဝေဒနာရှင်၏ နောက်ခံစိတ် အခြေ အနေကို အကဲ ခတ်မိရန် မှာ ကွင်းဆက်ပမာ တခုနှင့်တခုဆက်စပ်နေသော စိတ်၏ ဆက်စပ်ပုံကို နားလည်ရန်လိုသောကြောင့်ဖြစ်ပေသည်။ စိတ်ခွဲခြားစိစစ်သူ၏အဓိကကြိုးပမ်းရန်အချက်မှာ အာရုံများကို သေချာစွာ သည်းခံစောင့်ကြည့်နေ၍ ပေါ်ပေါက် လာစဉ်တွင် အတွင်းသဏ္ဍာန်ကို အကဲခတ်မိ၍ အဓိပ္ပါယ်ကွဲပြားစွာ သိရှိအောင် လုပ်ရန်ဖြစ် လေသည်။ စိတ်ကူးယဉ်ခြင်းများသည် လည်း 'အသိစိတ်' ၏ အုပ်ချုပ်မှု အနည်းငယ်ပါဝင်သည်မှတပါး၊ အိပ် မက် များ နှင့် အတူတူပင် ဖြစ် လေသည်။ မျက်နှာ အမူအရာ အပြောင်းအလဲ၊ နေထိုင်ပုံ အပြောင်းအလဲ၊ စကားပြောမှားခြင်း၊ ရုတ်တရက်မေ့လျော့ခြင်းစသည့် အဆက် မပြတ် ပြောင်းလဲနေသော စိတ် အာရုံ များ သည်လည်း အိပ်မက်အာရုံများနှင့် အတူတူပင်ဖြစ်၏။ ဤအာရုံအားလုံးသည် နက်လှစွာသော 'မသိစိတ်' အတွင်းမှ 'အသိစိတ်' အပေါ် ယံသို့ အမှတ်မထင်ပေါ် ထွက်လာသော အာရုံများဖြစ်ကြ၍ တိမ်မြုပ်နေသောအာရုံဟောင်းများကို နားလည်နိုင်ရန်နှင့် ဖော်ထုတ်နိုင်ရန် ယင်းတို့ကိုသေချာစွာ လေ့လာမှတ်သားထားရပေသည်။

## စိတ်ရောဂါကုနည်း

စိတ်ခွဲခြားစိစစ်ခြင်းဖြင့် လူတို့၏စိတ်သောကဝေဒနာများကိုပျောက်ကင်းအောင်ကုသနိုင်ခြင်းသည် အမှန်စင်စစ်အံ့ဩဖွယ်မဟုတ်ချေ။ လူတဦးစီ၏ ငယ်ရွယ်စဉ်က အတွေ့အကြုံ အဖြစ်အပျက်များကြောင့်သော်၎င်း၊ မျိုးရိုးအလိုက်သော်၎င်း၊ ဖြစ်ပေါ် လာတတ်သည့် လူသူနှင့်မဆက်ဆံလိုသော အလေ့အထဆန်း၊ အယူအဆဆန်း၊ တိမ်မြုပ်ပုန်းကွယ်နေသော အာရုံဆိုး စသည် များ ကို ရှာ ဖွေ ထုတ်ဖော်၍ နား လည်အောင် ရှင်းပြလိုက်ရုံမျှဖြင့် အလွယ်တကူ ပျောက်ကင်း နိုင်လေသည်။ အတွင်းသဏ္ဍာန် 'မသိစိတ်' တွင် ကိန်းအောင်းနေသော အာရုံများ၏ သဘာဝကို အသေအချာ သိရှိသောအခါ၊ တနည်းဆိုသော်၊ တန်ခိုးပြင်းထန်သည့် အတွင်းခံ အာရုံများ၏သဘောကို ရိပ်စားမိသောအခါတွင် ဝေဒနာရှင်၏

ဖောက်လွဲဖောက်ပြန်ဖြစ်နေသောဘဝကို ကောင်းမွန်သော လမ်းစဉ်ဖြင့် တနည်းတဖုံ ပြန်လည်တည်ဆောက်ပေးရန်မှာ လွယ်ကူနိုင်ပေသည်။ သို့ပင်ဖြစ်လင့်ကစား၊ အတွင်းခံ 'မသိစိတ်' ၏ရှုပ်ထွေးနက်နဲမှုကြောင့် အလွယ်တကူ လျင်မြန်စွာနားလည်ပြင်ဆင်ရန် မဖြစ်နိုင်အောင် ရှိရသည်။ ထိုကြောင့်ပင် စိတ်ခွဲခြားစိစစ်သူ ဆရာဝန်၏ ကြီးလေးသော တာဝန်မှာ နက်နဲသောစိတ်ပညာ၊ယခုခေတ်လူအမျိုးမျိုးတို့၏လက်ရှိဘဝနှင့်ဆိုင်သော ကျယ်ပြန့်သည့်ဗဟုသုတ၊နောက်ကြောင်းအဖြစ်အပျက်နှင့် လူမျိုးများတဖြည်းဖြည်းပြောင်းလဲ တိုးတက်လာပုံတို့ကို နားလည်ထားရန် ဖြစ်ပေသည်။ စိတ်တန်ခိုးအာရုံများဖြင့် ကာလတလျှောက် ပြောင်းလဲတိုးတက်အောင်ကြိုးပမ်းလာသော လူ့သမိုင်းနှင့် လူ၏ထူးခြားချက်များ၊ ပြောင်းလဲချက်များကို လေ့လာထားရပေသည်။ အကြောင်းမှာမူ၊ အာရုံအားလုံးတို့၏အစအနကို လူတဦးစိ၏ စိတ်တွင် တွေ့ရတတ်၍၊ ထိုတွေ့ရသော အာရုံတခုခုသည်လည်း စိတ်ရောဂါအကြောင်းရင်းကို နားလည်အောင် ရှာဖွေရာတွင် တနည်းနည်းနှင့် တစုံတခုသော အကူအညီ ဖြစ်စေတတ်သောကြောင့်တည်း။

စိတ်ခွဲခြားစိစစ်ခြင်း စနစ်ကို စိတ်အာရုံများ ချွတ်ယွင်းသည့်အခါတွင်သာ အသုံးပြုကြ၏။ ကိုယ်ခန္ဓာချွတ်ယွင်းမှုများတွင် ဤပညာကိုအသုံးမပြုကြပေ။ သာမန်ဆေးပညာစနစ်များဖြင့် အတွင်းစိတ် ဖောက်ပြန်ခြင်းကို မကုစားနိုင်ချေ။ ဆင်ခြင်တုံတရားနှင့် အတွင်းအာရုံများပူးပေါင်းပါဝင်သည့် စိတ်ခွဲခြား စိစစ်ခြင်းကဲ့သို့သော နည်းဖြင့်သာ ကုစားရန်သင့်လျော်သည်။ စိတ်ခွဲခြားစိစစ်ခြင်းနည်းမှာ လူတဦးစီ၏အခက်အခဲကို အသေးစိတ် စုံစမ်းခြင်း၊ အခက်အခဲဖောက်လွဲဖောက်ပြန် ဖြစ်နေသော အချက်များကို တခုပြီးတခု ဆင်ခြင်တုံတရားဖြင့် ကုစားခြင်းစသည်ဖြင့် ကုသသူ ဆရာဝန်နှင့်ဝေဒနာရှင်တို့ကိုယ်တိုင် သည်းခံကာ စစ်ဆေး၍၊ နှစ်ဦးနှစ်ဖက် ပူးပေါင်းဖြေရှင်းပေးရသည်။

အကယ်ပင် ဆိုးရွားဖောက်ပြန်သော စိတ်ရောဂါကြီးများကို ခွဲခြားစိစစ်ခြင်းဖြင့် ထာဝစဉ်မကုစားနိုင်သော်လည်း၊ အများအပြားကုသနိုင်သည်ကိုတွေ့ရ၏။ အထူးသဖြင့် လူနာ၌ ဆင်ခြင်တုံတရား အနည်းငယ်ကျန်ရှိသေးသဖြင့် ဆရာဝန်နှင့် ပူးပေါင်းဆောင်ရွက်နိုင်သောအခါများတွင် ကုစားနိုင်ခဲ့သည်သာဖြစ်ပေသည်။ ဝေဒနာရှင်၏ အဓိပ္ပါယ်မရှိသော အယူအဆ၊ အပြုအမူများကို အဓိပ္ပါယ်ရှာဖွေခြင်း၊ စိတ်လှုပ်ရှားမှုများကိုလေ့လာခြင်း၊ ချွတ်ယွင်းချက်များကိုနားလည်အောင်ဆင်ခြင်ခြင်းတို့ဖြင့် စိတ်ခွဲခြားစိစစ်နည်းသည် အဖိုးမဖြတ်နိုင်သောနည်းစနစ်တခုဖြစ်ကြောင်း သာဓကများစွာရှိလေသည်။ စိတ္တဗေဒ၊ အနာတမီပညာရပ်များတွင် ကိုယ်နှင့်စိတ် တခုနှင့်တခုအလွန်နီးစပ်ဆက်သွယ်နေသောအချက်အလက်များကို အဆက်မပြတ်ရှာဖွေတွေ့ရှိ၍၊ ယခုအခါ ပညာရှင်တို့မှတ်တမ်းတင်နေကြပြီဖြစ်သောကြောင့်၊ နောင်တခေတ်တွင် စိတ်ခွဲခြားစိစစ်နည်းကို ကိုယ်ကာယနှင့်ဆိုင်သောရောဂါများတွင်အသုံးပြုရန်နည်းလမ်းများ ပေါ်ပေါက်လာပြီဖြစ်သည်။ ကလေးသူငယ်များ၏ကျန်းမာရေး၊ ကြီးပွားရေး၊ မိမိ၏ တိမ်မြုပ်ဖုံးကွယ်နေသော တန်ခိုးကြီးသည့် စိတ်အာရုံများကိုရှင်းလင်းစွာနားလည်ရေး စသည်တို့၏အရေးကြီးပုံကို စိတ်ခွဲခြားစိစစ်ရေးပညာသည် ပြသခဲ့လေပြီ။ ကလေးများသည် မိမိတို့အသက်ရှင်နေထိုင်ရမည့် လူ့လောကကြီးနှင့်သင့်လျော်သောအချက်အလက်များကို ပို၍နားလည်၍ လျောက်ပတ်စွာ နေထိုင်တတ်ရန်လိုအပ်သည့် ကိုယ်စိတ်နှစ်ဖြာချမ်းသာရေး ညွှန်ကြားချက်များကို စိတ်ခွဲခြားစိစစ်ရေးပညာ၏ အကူအညီဖြင့် ပေးဝေဖြန့်ဖြူးနိုင်၏။ ထိုကြောင့်ပင် ဤစနစ်သည် ဆေးပညာမှပေါက်ဖွားလာသော်လည်း၊ အခြားပညာရပ်များသို့ ပျံ့နှံ့သွားရန် အလားအလာရှိသည်ဟုဆိုရပေမည်။ ဆေးပညာနှင့် အခြားပညာရပ်အသီးသီးတို့ မည်ကဲ့သို့ဆက်စပ်လျက်ရှိသည်ကို စိတ်ခွဲခြားစိစစ်ရေးပညာသည် ပဌမဦးစွာဖော်ပြခဲ့၏။ (ဆေးပညာနှင့်ခွဲစိတ်ကုသခြင်းပညာ — ရှု။) ဆေးပညာနည်းတနည်းအနေဖြင့်အသုံးပြုသောအခါတွင်လည်း ဝေဒနာရှင်သည် လူတဦးအနေနှင့် မည်ကဲ့သို့သော ပြဿနာများကို ရင်ဆိုင်၍ မည်ကဲ့သို့ စိတ်အာရုံများ ခံစားရပုံ၊ ဆရာဝန်သည် လူ့ဘဝပြဿနာများကို လုံးဝဥဿုံ မည်သို့နားလည်ရန် လိုအပ်ပုံ၊ 'မသိစိတ်' တွင် မည်ကဲ့သို့ ကိန်းအောင်းနေပုံ၊ 'မသိစိတ်' တန်ခိုးကြီးပုံ၊ အနုပညာဖန်တီးမှု၊ကိုးကွယ်မှု၊ဘာသာစကား၊ သမိုင်းအမျိုးမျိုးတို့ကို ထိုးထွင်းတီထွင်တတ်သော ဉာဏ်သည် လူတို့၏ 'မသိစိတ်' မှပင် ပေါ်ပေါက်လာပုံစသည်များကို အံ့မခန်းဖော်ပြခဲ့လေသည်။ အချုပ်အားဖြင့်ဆိုသော်၊ လူတို့၏ပြဿနာမှန်သမျှသည် စိတ်ခွဲခြားစိစစ်ခြင်းဖြင့်သာလျှင် အဓိပ္ပါယ်ပေါ်လာနိုင်ပုံကို တန်ဖိုးမဖြတ်နိုင်အောင်ဖော်ပြခဲ့ပေသည်။

## စိတ်ခွဲခြားစိစစ်ရေးပညာရပ်

စိတ်ခွဲခြားစိစစ်ရေးပညာသမိုင်းသည် ၁၈၉၃ ခုနှစ် (ဝါ) ၁၉ ရာစုကုန်လောက်တွင် ဆရာဝန်ကြီး ဖရွိုက်လက်ထက်မှစတင်ခဲ့ပေသည်။ ဗီယင်နာ၊ ဗရွိုင်ယာဆိုသူဆရာဝန်ကြီးတဦး၏ ယခင်က စိတ်ချောက်ချားရောဂါကုထုံးကို မိမိကိုယ်ပိုင်ကုသနည်းများနှင့်ပေါင်းကာ ဖရွိုက်သည် စိတ်ခွဲခြားစိစစ်ရေးပညာရပ်ကိုအစဖေါ်ခဲ့၏။ စိတ်ရောဂါများကို စိတ်ခွဲခြားခြင်း အကူအညီဖြင့်ကုသနိုင်သည်ဟု ယုတ္တိတန်သော ယုံကြည်ချက်ဖြင့် သူသည် ဤပညာကို တိတ်တဆိတ်စတင်စမ်းသပ်ခဲ့၏။ သူ၏အယူအဆများ၊ မြော်မှန်းချက်များသည်



စိတ်ခွဲခြားစိတ်စစ်ရေးပညာဖက်တွင် ထင်ရှားသော ကားလယွန်း

ခေတ်ရှေ့ပြေးနေသဖြင့် သူ့စံနစ်ကို အတိုက်အခံလုပ်သူများ ပေါ်ပေါက်ခဲ့၏။ သို့ရာတွင် သူသည် တဦးတည်းကျေနပ်စွာ ကြိုးစားနေလျက်၊မိမိစံနစ်မှန်ကန်အသုံးဝင်ကြောင်းပြရမည့် အချိန်ကိုသာ စောင့်စား နေခဲ့လေသည်။ မျှားမကြာမီ ပင်လျှင် ဆရာဝန်များသည် ဖရွိုက်၏စမ်းသပ်ချက်များကို စိတ်ဝင်စားလာကြ၍၊ စိတ်ခွဲခြားစိတ်စစ်ခြင်းကို ဆေးပညာ လောကပြင်ပ၌ ကျယ်ပြန့်စွာ အသုံးပြုရန် စိတ်စောလာကြ၏။ ဗလိုင်လာနှင့် ယွန်းတို့မှာ ဆရာဝန်ကြီးဖရွိုက်၏ ပဌမဆုံးတပည့်များဖြစ်ကြ၏။ သူတို့နှစ်ဦးကတဖန် ငူးရစ်ဆိုသူအား သင်ပေးကြပြန်သဖြင့် ကမ္ဘာတဝှန်းသို့ ပျံ့နှံ့ခဲ့လေသည်။ သို့သော်လည်း သူတို့နှစ်ဦး၏နည်းသည် ဆရာကြီးဖရွိုက်၏နည်းနှင့် အတော်အတန်ကွဲလွဲလေသည်။

အခြားပညာသည်များမှတဆင့် ဂျာမနီ၊ ရုရှ၊ ဟော်လန်၊ ပြင်သစ်၊ ဣတလီနှင့် ဥရောပရှိ အခြားနိုင်ငံများသို့ ပျံ့နှံ့ခဲ့လေသည်။ အင်္ဂလန်ပြည်ကမူ တဖြည်းဖြည်းမှသာလက်ခံယုံကြည်လာခဲ့၏။ စိတ်ခွဲခြားစိတ်စစ်ခြင်းကို အမေရိကန်ပြည်ထောင်စုနိုင်ငံသည် အမြန်ဆုံးလက်ခံသောနိုင်ငံဖြစ်၏။ ဒေါက်တာ ဗရီးဆိုသူက ဤပညာကို အမေရိကန်ပြည်သို့ ပဌမဆုံး ယူဆောင်လာခဲ့လေသည်။

၁၉၀၈ – ၁၉၀၉ ခုနစ်လောက်တွင် ဆရာဝန်ကြီး ဖရွိုက်ကိုယ်တိုင် အမေရိကန်ပြည်ထောင်စုရှိ ကလတ်တက္ကသိုလ်၌ ဤပညာနှင့် စပ်လျဉ်းသော ဟောပြောပွဲများကို ကျင်းပ၍ ပညာပြန့်ပွားခဲ့၏။ ထိုနောက် ဆရာဝန်ကြီး စတန်လေဟော က ဤပညာကိုပိုမိုပျံ့နှံ့စေခဲ့ပြန်၏။ ဤသို့လျှင် စိတ်ခွဲခြားစိတ်စစ်ခြင်းသည် ဆေးပညာလောကတွင် အစပျိုးခဲ့၍၊ ဆေးပညာလောက တခုလုံး တဖြည်းဖြည်းအသိအမှတ်ပြုကာ လက်ခံလာကြလေသည်။ အမေရိကန် နိုင်ငံလုံးဆိုင်ရာ စိတ်ခွဲခြားစိတ်စစ်ရေး ပညာအသင်း၊ စိတ်ခွဲခြားစိတ်စစ်ရေး ပညာဂျာနယ်၊ ၃ လတကြိမ်ထုတ် စိတ်ခွဲခြားစိတ်စစ်ရေးပညာဆိုင်ရာ မဂ္ဂဇင်းစသည်တို့ပေါ်ပေါက်လာ၍၊ ယင်းပညာနှင့်ဆိုင်သော စာပေများ ကျယ်ပြန့်စွာထွန်းကားလာလေသည်။ ဆရာကြီး ဖရွိုက်ရေးသောစာအုပ်များကိုဘာသာပြန်ဆိုကြ၏။ စိတ်ခွဲခြားစိတ်စစ်ခြင်းကို အချို့ဆရာဝန်တို့သည် ဆေးပညာ၌သာ အသုံးပြုကြ၍၊ အချို့ကား အခြားပညာရပ်များတွင်သုံးရန် ကြိုးစားလျက်ရှိကြလေသည်။

**စိတ်ညှို့ပညာ။** ။မျက်လှည့်ပြပွဲများတွင် မျက်လှည့်ဆရာကြီးက လူကိုအိပ်မွေ့ချ၍၊ တစုံတရာပြုလုပ်အောင်စေခိုင်းသည်ကိုမြင်ဘူးကြပေမည်။ အိပ်မွေ့ချခြင်းသည် လူကိုအလိုရှိရာပြုမူစေရန်စိတ်ညှို့ခြင်းပင်ဖြစ်၏။ အိပ်မွေ့ချခံရသူသည် အိပ်ပျော်သကဲ့သို့ရှိသည်။ သို့သော် သူသည် အမိန့်ပေးရာကိုလိုက်နာ၍ စကားပြောဆို၊ သွားလာလုပ်ကိုင်နိုင်သည်။ အမိန့်ပေးသူ၏စကားကိုကြားနာရသည့်အခါ၊ အိပ်မွေ့ချခြင်းခံရသူသည် ခြေလက်အင်္ဂါစသည်တို့၌ ဝေဒနာကိုမခံစားနိုင်တော့သဖြင့် အပ်ဖြင့်ထိုးခြင်းခံရသည်ကိုပင် နာကျင်ရမှန်းမသိချေ။ နှလုံးခုန်သည်ကို အိပ်မွေ့ချခြင်းဖြင့် တိုးအောင်သော်၎င်း၊ လျော့အောင်သော်၎င်း၊ ပြုလုပ်ပေးနိုင်သည်။ ကိုယ်ပူခြင်း၊ ချွေးထွက်ခြင်းတို့ဖြစ်လာအောင်လည်း အိပ်မွေ့ချ၍ပြုလုပ်နိုင်၏။ အသားအရေတို့မှ သွေးစိမ့်၍ထွက်လာအောင်လုပ်သည့် သာဓကများပင်ရှိသည်။ အိပ်မွေ့ချခံရသူသည် သာမန်အားဖြင့် သတိရှိနေစဉ် မပြုမလုပ်နိုင်သော အလုပ်ကို ပြုလုပ်နိုင်ပေသည်။ သာမန်မျှသာ အိပ်မွေ့ချထားခြင်းခံရသူသည် အိပ်မွေ့ပြေသောအခါ၊ အိပ်မွေ့ချခြင်းခံခဲ့ရစဉ်က မိမိပြုလုပ်သောအမှုတို့ကို ပြန်၍သတိရနိုင်သည်။သို့ရာတွင် ပြင်းထန်စွာအိပ်မွေ့ချခြင်းခံရသည်ရှိသော်၊ အိပ်မွေ့ချသူက ပြန်လည်သတိရစေရန် အမိန့်ပေးထားသောအချက်မှတပါး အခြားသော အပြုအမူ ဟူသမျှကို ပြန်လည်သတိမရနိုင်တော့ချေ။ ဖမာအားဖြင့် အမိန့်ပေးသူက အိပ်မွေ့ကြောင့် အိပ်ပျော်နေသူအား အိပ်ရာမှနိုးလာလျှင်၊ လေချွန်သံကြားပါက၊ အင်္ကျီကိုချွတ်ပစ်ရမည်ဟုအမိန့်ပေးထားလျှင်၊ အိပ်မွေ့ပြေလာသောအခါ၊ အမိန့်ပေးခြင်းခံရသူသည် မည်သည့်အတွက်ကြောင့်ဟု မစဉ်းစားနိုင်ဘဲ၊ လေချွန်သံကြားသည်နှင့်တပြိုင်နက် အင်္ကျီချွတ်ပစ်မည်ဖြစ်၏။

ဤအချက်ကိုအကြောင်းပြု၍ အထူးဆေးပညာရှင်တို့သည် ဘိန်းဘင်းကဇော်စသည့် သုရာမေရယတို့၌စွဲနေသောလူနာရှင်နှင့် စိတ်ရောဂါသည်တို့ကို အိပ်မွေ့ချနည်းဖြင့် အစွဲပျောက်အောင်ချတ်၍ကုသလေ့ရှိကြသည်။

ယခုခေတ် သိပ္ပံပညာနည်းအရ အိပ်မွေ့ချခြင်း၏အကြောင်းကို ရှေးကထက်ပို၍တိကျအောင် စူးစမ်းလေ့လာနိုင်ကြပြီ။ စိတ်ညှို့ပညာအကြောင်းကိုနားလည်နိုင်ရန်အလို့ငှာ၊ စိတ်နှင့် ကိုယ် ဆက်စပ်နေသည်ကို သိထားနှင့်ရန်လိုပေသည်။ (စိတ်ပညာ။ စိတ်လှုပ်ရှားမှု — ရှု။) ဦးနှောက်သည် နဗ်ကြောများဆုံးရာဗဟိုဌာနကြီးဖြစ်၍ ကိုယ်နှင့်စိတ်သည်နဗ်ကြောခေါ် အာရုံကြောများဖြင့် တခုနှင့်တခု ဆက်သွယ်လျက်ရှိ၏။ အိပ်ပျော်နေစဉ် ဦးနှောက်၏အာရုံအစွမ်းတို့သည် လေးလံ ထိုင်းမှိုင်းလျက်ရှိပြီးလျှင်၊ နဗ်ကြောနှင့်ကိုယ်သည်၎င်း၊ နဗ်ကြော အချင်းချင်းသည်၎င်း ယာယီအားဖြင့် အဆက်ပြတ်၍နေတတ်၏။ သို့သော် ထိုနဗ်ကြောဖြင့် ခံစား၍ရသောအာရုံတို့ကို မနိုး တနိုးထား၍ရနိုင်သည်ဟု စိတ်ပညာဆရာတို့ကယူဆကြသည်။ (နဗ်ကြောများ — ရှု။) ပမာဆိုသော် နံနက် အရုဏ်တက်အချိန်တွင် နိုးအောင်သတိထားပြီးအိပ်လေ့ရှိသူတို့သည် အခြားအသံများကြောင့်အိပ်ရာမှ မနိုးသော်လည်း အရုဏ်ကြက်တွန်သံ သို့မဟုတ် ဘုန်းကြီးကျောင်းမှ တုံးခေါက်သံကြားသည်နှင့် တပြိုင်နက် အလိုအလျောက်နိုးတတ်ပုံကိုထောက်လျှင်၊ ဦးနှောက်ကခံယူသော အာရုံအချို့ကို တဝက်တပျက်နိုးထားနိုင်ကြောင်းထင်ရှားလေသည်။ ထိုအတိုင်းပင် အိပ်မွေ့ချ၍အိပ်ပျော်နေသူတဦးတွင်လည်း သာမန်အိပ်ပျော်နေသူကဲ့သို့ လုံးလုံးလျားလျား အိပ်ပျော်နေခြင်းမရှိဘဲ၊ စိတ်ညှို့ဆရာခိုင်းစေသည့်အတိုင်း၊ သွားလာ ပြောဆိုလှုပ်ရှားနိုင်သောအာရုံအစွမ်းသတ္တိများသည် နိုးလျက်ရှိပေသည်။ အိပ်မွေ့ချထားသည့်အခါ၊ အိပ်မွေ့ချခံရသူ၏စိတ်ဆန္ဒသည် အမိန့်ပေးသူ၏စိတ်ဆန္ဒအတိုင်းသာလျှင် လိုက်၍တည်နေရသည်။ အိပ်မွေ့ချခံရသူက အမိန့်ပေးသည့်အတိုင်း မလိုက်နာဘဲ ငြင်းဆန်လိုသည့်စိတ်တို့သည် 'အိပ်ပျော်' လျက်ရှိသောကြောင့် 'နိုးကြား' လျက်ရှိသောခန္ဓာကိုယ်သည် စိတ်ညှို့ဆရာ၏အမိန့်ပေးရာကို နာယူလေသည်။

စိတ်ညှို့ဆရာသည် လူတယောက်ကို အိပ်မွေ့ချမည်ဟုဆိုလျှင်၊ ထိုသူအား အရာဝတ္ထုတခုခုကို စိုက်၍ကြည့်ခိုင်းသည်။ အညှို့ခံရသူသည် မိမိ၏စိတ်တွင် မည်သည့်အာရုံကိုမျှမစွဲရဘဲ၊ စိတ်အားကိုလျှော့၍ထားရသည်။ ထိုနောက်စိတ်ညှို့ဆရာသည် စကားကို သာယာညင်းပျောင်းပြော၍၊ အိပ်အောင် 'သိပ်' ပေးသည်။ တခါတရံ ဦးခေါင်းကိုလက်ဖြင့်ညင်သာစွာသပ်ပေးသည်။ တခါတရံ မျက်နှာကို သပ်ပေးရသည်။ ထိုအခါ စိတ်ညှို့ခံရသူ၌ အိပ်ပျော်နေသူ၏လက္ခဏာများပေါ်လာလေသည်။ လူအများက ယုံကြည်ကြသည်မှာ စိတ်ညှို့ဆရာသည် မည်သူကိုမဆို အိပ်မွေ့ချ၍စေခိုင်းနိုင်သည်ဟူ၏။ သို့ရာတွင် အကယ်စင်စစ်၌ စိတ်ခိုင်သူများကို အိပ်မွေ့ချ၍ ယင်းတို့ မလုပ်ချင်သောအရာကိုလုပ်အောင်စေခိုင်း၍မရနိုင်ချေ။

စိတ်ညှို့ပညာကို အာရှနှင့် အာဖရိကတိုက်များတွင် နှစ်ပေါင်းများစွာကပင်လျှင်လေ့ကျင့်ခဲ့ကြသည်။ ဟိန္ဒူ ယောဂီများနှင့် ဒါးဗစ်ရသေ့တို့သည် သံဆူးများပေါ်တွင် အိပ်ခြင်းစသော သာမန်လူတို့ မပြုဝံ့သည့်အမှုတို့ကိုပြုကြသည်။ ဤသို့အံ့ဖွယ်သရဲပြုမှုကြသည်တို့ကို ကြားဘူးကောင်းကြားဘူးကြပေလိမ့်မည်။ ဤအချက်ကို အနောက်တိုင်းစိတ်ပညာရှင်တို့က မိမိကိုယ်ကို မိမိစိတ်ညှို့ထားခြင်းကြောင့်၊ အံ့ဖွယ်သရဲပြုမှုနိုင်သည်ဟု ပြောဆိုလေ့ရှိကြသည်။ စိတ်ညှို့ပညာကို ပဌမဦးစွာစူးစမ်းလေ့လာခဲ့သူမှာ ၁၈ ရာစုနှစ်များတွင် စိတ်ရောဂါကုသခြင်း၌ထင်ရှားခဲ့သော ဗီယင်းနားမြို့သား ဒေါက်တာမက်ဇမား (၁၇၃၄ – ၁၈၁၅) ဖြစ်သည်။ သို့ရာတွင် သူ၏အယူအဆတို့ကို ပြင်သစ်နိုင်ငံအစိုးရက ဖွဲ့စည်းသည့် သိပ္ပံပညာရှင်နှင့် သမားတော်များ၏ကော်မရှင်အဖွဲ့က လက်မခံခဲ့ချေ။

**စိတ်ပညာ။** ။စိတ်ပညာသည် လူ၏အပြုအမူကိုင်၎း၊ လူ၏သိခြင်းကို၎င်း၊ လေ့လာသော သိပ္ပံပညာရပ် တခုဖြစ်သည်။ စိတ်ပညာလေ့လာသော ကိုယ်ကာယအပြုအမူသည် လူ၏သိခြင်းနှင့် ဆက်စပ်သောအပြုအမူမျိုးဖြစ်သည်။ ထိုကြောင့် လူ၏သိခြင်းကိုလေ့လာရာ၌ အပြုအမူကိုလေ့လာရသည်။ အပြုအမူကို လက်တွေ့စမ်းသပ်ခြင်းအားဖြင့်၎င်း၊ တိုင်းတာခြင်းအားဖြင့်၎င်း၊ လေ့လာရသဖြင့် သိပ္ပံနည်းကိုအသုံးပြုရလေသည်။ ဤသို့ စံနစ်တကျလေ့လာခြင်းအားဖြင့်၊ လူ၏သဘောအပြုအမူကိုသိနားလည်၍၊ လူတို့၏ အပြုအမူကို ထိန်းအုပ်ပြုပြင်နိုင်ရန်ရည်ရွယ်သည်။ စိတ်ပညာရှင်များသည် မိမိတို့စိတ်ပါဝင်စားသော အကြောင်းအချက်များကို အထူးလေ့လာကြရာ၌ စိတ်ပညာအမျိုးအစား အများကို ခွဲခြားထားလေသည်။ ထိုအမျိုးအစားအချို့မှာ၊

(၁)ယေဘုယျစိတ်ပညာသည် စိတ်အမျိုးမျိုးတို့နှင့်ဆိုင်ရာ ပဓာနသဘောတရားများကိုဖေါ်ပြသည်။ ထိုပြင်အရွယ်ရောက်သောလူသတ္တဝါအကြောင်းကိုအထူး လေ့လာသည်။

(၂) ဇီဝကိစ္စစိတ်ပညာသည် သတ္တဝါတို့၏ အပြုအမူနှင့်၎င်း၊ သိခြင်းနှင့်၎င်း၊ ဆက်စပ်သော နဗ်ကြောစုများနှင့် အင်ဒိုကရင်းဂလင်း (အတွင်းစိမ့် ဂလင်း) များ၏လုပ်ငန်းများကိုလေ့လာသည်။

(၃) ကလေးစိတ်ပညာသည် ကလေးများ တိုးတက်ကြီးထွားရေးအကြောင်းကို၎င်း၊ စစ်ဆေးခြင်းဖြင့် ကလေးတို့၏

စွမ်းအား အခြေအနေကိုရင်း၊ ကလေး တို့၏ စွမ်းအား သည် မျိုးရိုးပေါ်၌ဖြစ်စေ၊ ပတ်ဝန်းကျင်ပေါ်၌ဖြစ်စေ၊ မည်မျှ တည်ရှိသည်ကိုရင်း၊ ကလေးများ အဆင်ပြေအောင် ပြုလုပ် ခြင်းကိုရင်း၊ လေ့လာသည်။

(၄) တိရစ္ဆာန်စိတ်ပညာသည် တိရစ္ဆာန်များ၏အပြုအ မူကို လေ့လာသည်။

(၅) ဓမ္မတာလွဲ စိတ်ပညာ သည် အရွယ်ရောက်သော လူများ ၏ ဓမ္မတာ အလျောက် မဟုတ်သော အပြုအမူကို လေ့လာသည်။

(၆) လူမှုရေး စိတ်ပညာ သည် အစုအဝေး နှင့် ဆက်ဆံ ခြင်းအားဖြင့် လူတဦးတယောက်၏အပြုအမူနှင့် သိခြင်း မည်သို့ပြောင်းလဲတတ်ကြောင်းကိုရင်း၊ အစုအဝေး အချင်း ချင်းဆက်ဆံခြင်းဖြင့် ဖြစ်ပေါ်လာသော အချက်အလက် များကိုရင်း၊ လေ့လာသည်။ မိသားစုများ၊ လူစုများ၊ အ သင်းအဖွဲ့များ၊ လူအုပ်များ၊ ခေါင်းဆောင်နှင့်နောက်လိုက် များ အကြောင်းကိုလေ့လာသည်။

(၇) ပညာရေးစိတ်ပညာသည် စိတ်ပညာအားဖြင့်သိနား လည်ရသော ကလေး၏ တိုးတက်ကြီးထွားမှုကို ထောက်၍ ပညာသင်ကြားမှုကိုစိစစ်၏။ သင်ကြား ခြင်း၊ စေ့ဆော် တိုက်တွန်းခြင်း တို့နှင့် ဆိုင်သော စိတ်ပညာ သဘောတရား များကိုလည်း အသုံးချရန်ရည်ရွယ်၏။

(၈) စက်မှုလက်မှုစိတ်ပညာသည် စိတ်ပညာနည်းများ ကိုအသုံးပြု၍ အလုပ်သမားများကို ရွေးချယ်ခြင်း၊ အလုပ် လုပ်နည်းသင်ကြားခြင်း၊ စွမ်းရည်များတိုးတာခြင်းစသည် တို့ကိုလေ့လာသည်။ ကုန်သန်းရောင်း ဝယ်ရေး တွင် ကြော် ငြာသောကိစ္စနှင့် ကုန် တွင်ကျယ်အောင် ပြုလုပ်နည်း တို့ကို လေ့လာသည်။

(၉) စိတ်ကုပညာသည် စိတ်ပညာဖြင့် စိတ်ရောဂါကုသ နည်းများကိုလေ့လာသည်။ ဓမ္မတာလွဲစိတ်ပညာကိုအခြေ ပြုသည်။

### စေ့ဆော်တိုက်တွန်းမှု

လူတို့ သဘာဝ အလျောက် ပြုမူကြ သည်မှာ အဘယ် အ ကြောင်းကြောင့်နည်း ဟူသောအချက်ကိုလေ့လာခြင်းသည် စိတ်ပညာတွင် အရေးကြီးသော လေ့လာချက်ဖြစ်၏။ စိတ် ပညာအရ ထိုအကြောင်းကိုရှာသော်၊ စေ့ဆော်တိုက်တွန်း မှုကြောင့်ဖြစ်သည်ဟု တွေ့ရသည်။ စေ့ဆော် တိုက်တွန်း မှုသည် နဂိုဇာတိပါ ကိုယ်တွင်းစေ့ဆော်မှုများကြောင့်ရင်း၊ လူမှုဆက်ဆံရေး အားဖြင့် လေ့လာယူရသော စေ့ဆော်မှု များကြောင့်ရင်း ဖြစ်သည်။ နဂိုဇာတိပါကိုယ်တွင်းစေ့ဆော် မှုများမှာ ဆာလောင်ခြင်း၊ ရေငတ်ခြင်း၊ ဖိုမဇာတိစိတ်၊ မိမဇာတိစိတ်၊ သင်းပင်းဇာတိစိတ်၊ မိမိကိုယ်ကိုထင်ပေါ်လို သောဇာတိစိတ် စသည်များ ဖြစ်သည်ဟု စိတ်ပညာရှင် အ များက ယူဆကြသည်။ စိတ်ပညာရှင် ဖရွိုက်ကမူ လူ၏အပြု အမူအားလုံးသည် ဖိုမဇာတိစိတ်၏စေ့ဆော်မှုပေါ် တွင်တည် နေသည်ဟုဆိုသည်။ အချို့စိတ်ပညာရှင်များကလည်း မိဖ စိတ်၊ သင်းပင်းစိတ်တို့မှာ လူမှုဆက်ဆံရေးမှ ဖြစ်ပေါ်လာ သော စေ့ဆော်မှုများဖြစ်သည်ဟုယူဆကြသည်။ အရွယ် ရောက်သော လူ၏အပြုအမူများသည် နဂိုဇာတိပါသော စေ့ ဆော်မှုများကြောင့် ဖြစ်သည်ထက် လေ့လာယူရသော စေ့ ဆော်မှုများမှ ရအပ်သည့် စွဲလမ်း စိတ် များ ကြောင့် ဖြစ် သည်ဟု အများပင်သဘောကြိုက်ညီကြ၏။ စွဲလမ်းစိတ် များမှာ ချစ်ခြင်း၊ မုန်းခြင်းစသော စိတ်မျိုးကိုဆိုလိုသည်။ စွဲလမ်းစိတ် နှစ်မျိုးနှစ်စားခွဲခြားနိုင်သည်။ တမျိုးမှာ ဝတ္ထု စွဲလမ်းစိတ်ဖြစ်သည်။ လူတဦး တယောက် သည် လူတ ယောက်ကို ခင်မင်ခြင်း၊ မုန်းတီးခြင်းသည်ရင်း၊ အဆောက် အအုံတခုကို ခင်တွယ်ခြင်းသည်ရင်း၊ ဤစွဲလမ်းစိတ်မျိုးဖြစ် ၏။ အခြားအမျိုးအစားမှာ ဝတ္ထုမဲ့ စွဲလမ်းစိတ်ဖြစ်သည်။ သစ္စာတရားကိုခင်တွယ်ခြင်း၊ တရားမျှတမှုကိုခင်တွယ်ခြင်း၊ အမျိုးသားချစ်ခြင်း၊ အကျင့်တရားစွဲလမ်းခြင်း၊ အယူဝါဒ စွဲလမ်းခြင်းစသည်များသည် ဝတ္ထုမဲ့စွဲလမ်းစိတ်များဖြစ်၏။ ဝတ္ထုမဲ့ စွဲလမ်းစိတ်ထက် ဝတ္ထုစွဲလမ်းစိတ်သည် ပိုမိုအင်အား ရှိသည်။ ထိုကြောင့် လူအများသည် ဝတ္ထုမဲ့ စွဲလမ်းစိတ် ဖြစ်သော သစ္စာတရား ခင်တွယ်ခြင်းကြောင့်ကြိုးပမ်းသည် ထက်၊ ဝတ္ထုစွဲလမ်းစိတ်ဖြစ်သော ပုဂ္ဂိုလ်ခင်တွယ်ခြင်း၊ မုန်း တီးခြင်း တို့ကြောင့် ပိုမို အားထုတ် ဆောင် ရွက် တတ် ကြ သည်။ ပုဂ္ဂိုလ်တဦး တယောက်တွင် စွဲလမ်းစိတ်များစွာရှိ တတ်ရာ၊ တချို့သော ပုဂ္ဂိုလ်တို့တွင် ပဓာနစွဲလမ်းစိတ်တခု သည် အခြားစွဲလမ်းစိတ်များကို ဖိနှိပ်လွှမ်းမိုးတတ်၏။ ထို သို့သော ပုဂ္ဂိုလ်များသည် အရာရာတွင် ပဓာနစွဲလမ်းစိတ်၏ စေ့ဆော်သည့်အတိုင်း ပြုမူဆောင်ရွက်တတ်၏။ ပမာအား ဖြင့် ဂျာမန်အာဏာရှင် ဟစ်တလာ၌ မိမိ၏တန်ခိုးကြီးလို သောစွဲလမ်းစိတ်သည် သားမယားခင်မင်စိတ်၊ မိတ်ဆွေခင် မင်စိတ်စသည်တို့ကို လွှမ်းမိုးသွားသဖြင့်၊ မေတ္တာခေါင်းပါး လျက် ကမ္ဘာတခွင်၌ အာဏာရှင်ဖြစ်ရန် အစွမ်းကုန် အား ထုတ်ခဲ့လေသည်။ ထိုသို့ပဓာနစိတ်တခုတည်းရှိသောပုဂ္ဂိုလ် များမှာ စိတ်ပဋိပက္ခမှုများကင်း၍၊စိတ်တည်ကြည်စည်းလုံး သောပုဂ္ဂိုလ်များဖြစ်ကြသည်။ ပဓာနစွဲလမ်းစိတ် မရှိသော ပုဂ္ဂိုလ်များ၌ စိတ်ပဋိပက္ခမှုများဖြစ်တတ်သည်။ လူတဦး တယောက်၏ ပဓာနစွဲလမ်းစိတ်ကို သိရှိသောအခါ၊ ထိုသူ၏ အကျင့်စာရိတ္တကို သိနိုင်သည်။ စိတ်ပညာရှင် ကတဲက ရေး သားခဲ့သည်မှာ 'လူတဦးတယောက်သည် မည်သည့်အရာ ကိုရှိသေလေးမြတ်သည်၊ မည်သည့် အရာများ ကို စက်ဆုပ် သည်၊ ခင်မင်သည်၊ မုန်းတီးသည်၊ မြတ်နိုးသည်ဟုသိရှိသော

အခါ ထိုသူ၏အပြုအမူကို အသင့်အတင့်ခန့်မှန်းနိုင်ချေပြီ' ဟူ၍ဖြစ်သည်။

## စိတ်လှုပ်ရှားမှုနှင့်ဝေဒနာ

စိတ်လှုပ်ရှားမှုဆိုသည်မှာ ကြောက်ခြင်း၊ ဒေါသထွက်ခြင်း၊ ဝမ်းမြောက်ခြင်း၊ ဝမ်းနည်းခြင်းစသည်တို့ကို ဆိုလိုသည်။ မွေးဖွားစကလေးများ၌ စိတ်လှုပ်ရှားမှုတခု၊ နှစ်ခုမျှသာရှိသည်။ အသက်နှစ်နှစ် အတွင်းတွင် များစွာသော စိတ်လှုပ်ရှားမှုတို့ ဖြစ်ပေါ်လာသည်ကို တွေ့မြင်နိုင်သည်။ အစကနဦးတွင် စိတ်လှုပ်ရှားစေသော အကြောင်းအနည်းငယ်သာရှိသည်။ တစထက် တစ စိတ်လှုပ်ရှားစေသော အကြောင်းအရာများ သည် များပြားလာရာ၊ အသက်အရွယ်ကြီးပြင်းလာသောအခါ၊ အစ၌စိတ်လှုပ်ရှားမှုမဖြစ်စေသော အရာများပင် စိတ်လှုပ်ရှားမှုကိုဖြစ်ပေါ်လာစေနိုင်သည်။ ပမာအားဖြင့်၊ အစ၌ကလေးသည် မြွေတိရစ္ဆာန်ကိုမကြောက်သော်လည်း၊ အသက်အရွယ်ကြီးထွားလာသော အခါ၌ ကြောက်စိတ်ဖြစ်တတ်သည်။ လူကြီးတို့အတွက် ကြောက်စရာများစွာရှိလာသည်မှာ၊ သင်ယူခြင်းကြောင့်ပင် ဖြစ်သည်။ စိတ်လှုပ်ရှားမှု အပြုအမူများသည် ယဉ်ကျေးမှုကိုလည်းလိုက်၍ဖြစ်တတ်သည်။ လူမျိုးစု တစုတွင် ပါဝင်သူအများသည် ဒေါသစိတ်ဖြစ်လျှင် အပြုအမူတမျိုးတစားတည်းကိုသာပြုမူတတ်သည်။ ယင်းမှာ မိမိအပေါင်းအစု ပတ်ဝန်းကျင်မှသင်ယူခြင်းကြောင့်ဖြစ်သည်။ အပြုအမူ အားဖြင့် စိတ်လှုပ်ရှားမှုတမျိုးနှင့်တမျိုး ခွဲခြားသိသာနိုင်ရန် ခဲယဉ်းသည်။ လူများ၏မျက်နှာအမူအရာ ကိုယ်ဟန်နှင့် အသံကိုထောက်၍ စိတ်ဆိုးခြင်း၊ ကြောက်ရွံ့ခြင်း၊ အံ့အားသင့်ခြင်းစသည်တို့ကို တမျိုးနှင့်တမျိုး တထစ်ချခွဲခြား၍မသိနိုင်ပေ။

စိတ်လှုပ်ရှားမှု ဖြစ်ပေါ်လာသောအခါ ကိုယ်ခန္ဓာအတွင်း၌လည်း ပြောင်းလဲလှုပ်ရှားမှုများဖြစ်လာသည်။ ထိုကြောင့် အသက်ရှူရှိုက်ခြင်း၊ သွေးအားတိုးခြင်း၊ သွေးခုန်ခြင်း၊ လက်ခြေလုံးပတ်ကြီးထွားခြင်း၊ နှလုံးကြွက်သားလှုပ်ရှားခြင်း၊ အရေပြားသည် လျှပ်စစ်ဓာတ်ကိုတွန်းလှန်ခြင်းများ ဖြစ်လာသဖြင့်၊ ယင်းလှုပ်ရှားမှုတို့ကို တိုင်းတာခြင်းအားဖြင့်သိသာနိုင်သည်။ သာမန်အားဖြင့်ကား လူတဦးတယောက်၏ပြင်ပလက္ခဏာများဖြင့် စိတ်လှုပ်ရှားမှုတို့သည် မထင်ရှားချေ။ အထက်ပါ ကိုယ်လှုပ်ရှားမှုကို တိုင်းထွာသော ကရိယာကို 'မုသား စုံထောက်' ဟု ခေါ်သည်။

## သင်ယူခြင်း

စိတ်ပညာတွင် သင်ယူခြင်းသည် အလွန်အရေးကြီးသော ကဏ္ဍတခုဖြစ်သည်။ အရွယ်ရောက်သော သူ၏အပြုအမူသည် သင်ယူခြင်းဖြင့် ဖြစ်လာသော အပြုအမူချည်းနှင့်နှင့်ဖြစ်သည်။ အရွယ်ရောက်သူ၏ စိတ်စေ့ဆော်တိုက်တွန်းမှု၊ စိတ်လှုပ်ရှားမှု၊ ကျွမ်းကျင်မှု၊ ဆင်ခြင်မှုတို့သည် သင်ယူခြင်းအပေါ်တွင်တည်နေသည်။

ကျွန်ုပ်တို့၏အစကနဦးသင်ယူသော အပြုအမူများ သည် အကြောင်းဆက် တုံ့ပြန်မှုများဖြစ်သည်။ နို့ဗူးတိုက်သောကလေးသည် အစ၌ နို့ဗူးကိုမြင်လျှင်နို့စို့ခြင်းမပြုချေ။ နို့သီးကို မိမိ၏ပါးစပ်တွင်းသို့ထည့်မှ နို့စို့သည်။ အခါခါ နို့ဗူးကိုမြင်ရပြီးနောက်၊ ပါးစပ်တွင်းသို့ နို့သီးထည့်၍ ခံတွင်းကိုလှုံ့ဆော်ပေးလျှင်၊ နို့ဗူးကိုမြင်သော အာရုံသည် နို့စို့သည့်တုံ့ပြန်မှုကိုဖြစ်လာစေလေသည်။ ဤသို့ နို့စို့ခြင်းသည် အကြောင်းဆက်တုံ့ပြန်မှုဟုခေါ်သည်။

ဤသင်ယူခြင်းမျိုးကို ရုရှစိတ်ပညာရှင် ဗတ်ဗလပ် စတင်သိရှိသည်။ ခွေးတကောင်ကို အစာမကျွေးမီအနည်းငယ်အချိန်တွင် ခေါင်းလောင်းတီးခြင်းကို ထပ်ခါထပ်ခါ ပြုလုပ်သောအခါ၊ နောက်တွင် အစာမပေးသော်လည်း၊ ခေါင်းလောင်းတီးလျှင် သွားရည်ယိုကြောင်းကို ဗတ်ဗလပ်သည် တွေ့ရှိခဲ့၏။ ယင်းသို့တွေ့ရှိခဲ့သည့်အတိုင်း စမ်းသပ်ကြည့်ရာ ခေါင်းလောင်းသံသာမဟုတ်၊ အလင်းရောင်သော်၎င်း၊ အနံ့သော်၎င်း၊ ထိတို့ခြင်းသော်၎င်း၊ သွားရည်ယိုခြင်းကိုဖြစ်စေနိုင်ကြောင်း ထပ်မံသိရှိရပြန်သည်။ တဖန်တုံလည်း ဤသို့ဖြစ်ပေါ်လာသော အကြောင်းဆက်တုံ့ပြန်ခြင်းကို ဖျောက်ဖျက်နိုင်သည်။ အစာမကျွေးဘဲ ခေါင်းလောင်းကိုသာ တီးနေလျှင်၊ ခွေးသည်သွားရည် မယိုတော့ချေ။ သို့ရာတွင် အချိန်အနည်းငယ်ကြာသောအခါ ထိုခွေးကို အစာပြ၍ အားဖြည့်ခြင်းအားဖြင့် သွားရည်ယိုခြင်း သည် ပြန်၍ပေါ်လာနိုင်သည်။

တိရစ္ဆာန်များနှင့် ကလေးများ၌ အကြောင်းဆက်တုံ့ပြန်မှုများ ဖြစ်ပေါ်လာစေနိုင်သော်လည်း၊ လူကြီးများကို စမ်းသပ်ရာတွင် ဖြစ်ပေါ်ရန် ခဲယဉ်းကြောင်းကို သိရပြန်သည်။ စကားစပြောခြင်းသည်၎င်း၊ သဘောထားများဖြစ်ပေါ်လာခြင်းသည်၎င်း၊ များစွာသောကြောက်ရွံ့ခြင်းများသည်၎င်း၊ ဆိုခဲ့ပြီးသောနည်းအတိုင်းသင်ယူခြင်းမျိုးကြောင့်ဖြစ်သည်။

အခြား သင်ယူနည်း တမျိုးမှာ အကြိမ်ကြိမ် စမ်းသပ်သင်ယူခြင်းဖြစ်သည်။ တိရစ္ဆာန်တကောင်သည် ကိုယ်တွင်းစေ့ဆော်မှုကြောင့် အကြိမ်ကြိမ်စမ်းသပ်သော အပြုအမူမျိုးကို ပြုလုပ်တတ်၏။ ဤသို့စမ်းသပ်ပြုမူရာတွင် အသုံးမကျသော အပြုအမူ များစွာကို ပြုလုပ်၍၊ နောက်ဆုံး၌ မိမိလိုအင်ပြည့်မြောက်စေသော အပြုအမူကိုသာ ပြုလုပ်လာသည်။ အကြိမ်ကြိမ်ထိုသို့ပြုလုပ်လာသောအခါ၊ အသုံးမဝင်သော အပြုအမူတို့ကိုစွန့်လွှတ်ပြီးလျှင် လိုအင်ပြည့်မြောက်စေသော အပြုအမူကိုသာ ပြုတော့သည်ဖြစ်၍၊ သင်ယူခြင်းလည်း ပြီးမြောက်လေသည်။

လူများမှာ တိရစ္ဆာန်ကဲ့သို့မဟုတ်။ အကြိမ်ကြိမ် စမ်းသပ်သောအခါ၊ သင်ယူရသောအကြောင်းကို သဘောပေါက်၍၊ ပိုမိုလျင်မြန်စွာသင်ယူနိုင်သည်။ ဝင်္ကပါထဲတွင် ထည့်သွင်းထားသော ကြွက်သည် အထက်နည်းအတိုင်းပြုလုပ်တတ်သော်လည်း၊ လူတဦးသည် ဝင်္ကပါထဲတွင်ရောက်နေလျှင်၊ ထိုသူသည် စိတ်ထဲ၌ စကားလုံးများကိုဖွဲ့၍၊ ဆင်ခြင်စဉ်းစားလျက် ထွက်ပေါက်ကိုရှာကာ၊ ထွက်မြောက်ရန်သင်ယူတတ်သည်။

တိရစ္ဆာန်များ၌လည်း သဘောပေါက်သင်ယူခြင်းမျိုးဖြစ်နိုင်သည်။ ဤသဘောပေါက်သင်ယူမှုကို စိတ်ပညာရှင်ကားလားသည် စုံစမ်းခဲ့ဘူး၏။ ထိုစုံစမ်းချက်မှာ ဤသို့တည်း။ မြောက်ဝံများကို လှောင်အိမ်ကြီးတခုထဲတွင် ထည့်သွင်းပြီးလျှင်၊ ငှက်ပျောသီးကို မြောက်ဝံ မမှီနိုင်သော အမိုးတွင်ချိတ်ဆွဲသည်။ လှောင်အိမ်ကြီး၏ တနေရာတွင်သေတ္တာတခုကိုချထား၏။ မြောက်ဝံများသည် ငှက်ပျောသီးကိုရရန် ခုန်ပေါက်၍ အမျိုးမျိုး ကြိုးစားကြ၏။ သို့သော် အထမမြောက်ချေ။ ထိုအခါ အချို့ မြောက်ဝံများသည် သေတ္တာကို ငှက်ပျောသီးအောက်သို့ရွှေ့ပြီးလျှင်၊ ငှက်ပျောသီးကို ခုန်ပေါက်ဆွဲငင်၍ ယူလေသည်။ ဤအခြင်းအရာအရ၊ ထိုမြောက်ဝံများသည် သေတ္တာနှင့် ငှက်ပျောသီးတို့ တခုနှင့်တခုဆက်သွယ်ခြင်းကို သဘောပေါက်ကြောင်း ထင်ရှား၏။ သဘောပေါက်သောအခါရုတ်ခြည်း သင်ယူခြင်းတိုးတက်လေသည်။ အကြောင်းဆက်သင်ယူခြင်းနှင့် အကြိမ်ကြိမ် စမ်းသပ်သင်ယူခြင်းများမှာ တဖြည်းဖြည်းသာ တိုးတက်စေလေသည်။

## မှတ်မိခြင်းနှင့်မမှတ်မိခြင်း

သင်ယူခြင်း၌ မှတ်မိခြင်းပါဝင်၏။ မှတ်မိခြင်း၌ အပိုင်း ၄ ပိုင်းရှိသည်။ မှတ်မိရန်အစ၌ (၁) သင်ယူရ၏။ သင်ယူသောအရာကိုမပျောက်ပျက်စေရန် (၂) လက်ခံထားရ၏။ လက်ခံထားသည်ကို (၃) သတိရ၍၊ (၄) မှတ်မိရသည်။ သတိရခြင်းနှင့် မှတ်မိခြင်းခွဲခြားရန်ရှိသည်။ တခါတရံ သတိရသော်လည်း၊ မှတ်မိခြင်း မရှိတတ်ချေ။ လက်ဘတပုဒ်ကို သတိရ၍ ရွတ်ဆိုနိုင်သော်လည်း၊ မည်သည့်လင်္ကာ၊ မည်သူရေးသည်တို့ကို မမှတ်မိတတ်ချေ။ မှတ်မိခြင်းသည် သတိရခြင်းထက်လွယ်ကူပေသည်။ လူတယောက်ကို မှတ်မိငြားလည်း၊ ထိုသူ၏နာမည်ကိုသတိမရတတ်ချေ။

မမှတ်မိခြင်းသည် ပဓာနအကြောင်း ၂ ခုကြောင့်ဖြစ်သည်။ (၁) အချိန်ကြာရှည်၍မမှတ်မိခြင်းနှင့် (၂) တားဆီးခြင်းတခုခုကြောင့်မမှတ်မိခြင်းဖြစ်တတ်သည်။ လေ့ကျင့်မှုများနှင့် တွေ့ဆုံ ကြုံခဲ့ခြင်း များ ကို သာမန်အားဖြင့် သတိမရနိုင်သော်လည်း၊ စိတ်ညှို့ခြင်းဖြင့် ပြန်လည်သတိရနိုင်သည်။ (စိတ်ညှို့ပညာ — ၅။) လေ့ကျင့်ခြင်း တခုခုကိုပြုပြီးနောက် အခြားတခုကိုဆက်၍ လေ့ကျင့်လျှင်၊ ပဌမလေ့ကျင့်ခြင်းကို ပိုမိုမမှတ်မိနိုင်တော့ချေ။ လေ့ကျင့်ခြင်းကိုပြုပြီးနောက် နားနေလျှင်၊ ပိုမိုသတိရတတ်သည်။ စိတ်ပညာရှင် ဖရွိုက်က မမှတ်မိခြင်းသည် မမှတ်မိချင်သောစိတ်ကြောင့်ဟုဆို၏။ လူတဦးတယောက်၏နာမည်ကို မမှတ်မိခြင်းသည် ထိုသူကိုမလိုလားသောစိတ်က သိစိတ်မှဖယ်ခြင်းကြောင့်ဟုဆို၏။ အချို့မမှတ်မိခြင်းများမှာ ဤနည်းအတိုင်းဖြစ်သည်ကို မငြင်းဆိုနိုင်ပေ။ တခါတရံ ကြောက်ခြင်း၊ စိုးရိမ်ခြင်း၊ စိတ်မငြိမ်သက်ခြင်းစသည့် စိတ်လှုပ်ရှားမှုတို့ကြောင့် မမှတ်မိခြင်းဖြစ်တတ်သည်။

## ကောင်းစွာမှတ်မိရန်စာကျက်နည်း

မှတ်ဉာဏ်ကောင်းရန်နည်းလမ်းမှာ သင်ယူရာတွင် နည်းလမ်းကောင်းကို လိုက်နာခြင်းဖြစ်သည်။ ထိုနည်းလမ်းကောင်းမှာ စာကိုကျက်သောအခါ (၁) သင်ယူလိုစိတ်ရှိရမည်။ သို့မှသာစိတ်မပျံ့လွင့်ဘဲ၊ ကျက်မှတ်ရန်စာကို စူးစိုက်အာရုံပြု၍လေ့လာပေမည်။ (၂) စာကျက်သောအခါ တချိန်တည်း မှတ်မိရန် ကြိုးစားမည့်အစား တချိန်စီ ခွဲ၍ သင်ယူလေ့ကျင့်ရမည်။ စာကျက်သောအခါ တနေ့လျှင်



မှန်ရိပ်မြင်ပုံဆွဲနည်းဖြင့် ကလေး၏ သင်ယူမှုစွမ်းရည်ကို အကဲဖြတ် စစ်ဆေးနိုင်သည်။

နာရီဝက်မျှ ခြောက်ရက်ခွဲ၍ကျက်မှတ်ခြင်းသည် တနေ့တည်းတွင် တထိုင်တည်း သုံးနာရီကျက်မှတ်ခြင်းထက် ပိုမိုမှတ်မိနိုင်သည်။ (၃) သင်ယူရာတွင် တနည်းနည်းဖြင့် ထုတ်ဖော်ရွတ်ဆိုရန် ကြိုးစားရမည်။ ဘာသာစကားတခုကို ကျက်မှတ်ရာတွင် ထိုဘာသာစကားကို ပြောဆိုခြင်းသည် ကျက်မှတ်သောစကားများကိုမှတ်မိစေသည်။ (၄) ကျက်မှတ်ရသောစာကို တခုလုံးဖတ်၍ သဘောပေါက်အောင်ပြုလုပ်ပြီးလျှင်၊ တခုလုံးကိုခွဲ၍လေ့လာခြင်းသည် စာကိုပိုင်း၍လေ့လာခြင်းထက်ပိုမိုမှတ်မိစေသည်။ ဤအချက်များကို လိုက်နာလျှင် ကောင်းစွာမှတ်မိစေနိုင်သည်။

## စဉ်းစားခြင်း

ထွေရာစိတ်ကူးခြင်း၊ စိတ်ကွန့်မြူးခြင်း၊ ဆင်ခြင်ခြင်းတို့မှာ စဉ်းစားခြင်းအမျိုးမျိုးဖြစ်သည်။ တိရစ္ဆာန်များသည် ဆင်ခြင်နိုင်သော သတ္တဝါများဖြစ်လေသလောဟု စစ်ဆေးကြည့်ကြပါစို့။ စိတ်ပညာစုံစမ်းချက်အရ မြောက်ဝံများသည် ဆက်သွယ်ခြင်းကိုသိမြင်ခြင်းဖြင့် အခက်အခဲများကိုဖြေရှင်းတတ်ကြောင်းဖော်ပြခဲ့ပြီ။ အချို့တိရစ္ဆာန်တို့သည် အမှတ်အသားကို စဉ်းစားနိုင်ကြသည်။ ဤအချက်နှစ်ရပ်ကို ထောက်ရှုခြင်းဖြင့်၊ တိရစ္ဆာန်တို့၏ဆင်ခြင်မှုသည် လူတို့၏ ဆင်ခြင်ပုံနှင့်ထပ်တူ ထပ်မျှဖြစ်၏ဟု ဆိုရန် ခဲယဉ်းသော်လည်း၊ သူတို့၏သဘာဝနှင့် လျော်စွာ ဆင်ခြင်တတ်သော သဘောရှိသည်ဟုဆိုနိုင်ပေသည်။

ဆင်ခြင်ခြင်းသည် အခက်အခဲတခုကို ဖြေရှင်းရန်ရည်ရွယ်ချက်ရှိသော စဉ်းစားခြင်းဖြစ်သည်။ ဤသို့ဖြေရှင်းရန် စဉ်းစားခြင်း၌ အစီအစဉ်ရှိခြင်း၊ ပြဿနာနှင့် သက်ဆိုင်သော ပညတ်များ ရွေးချယ်ခြင်းတို့ပါဝင်သည်။ စိတ်ပညာရှင် ဒျူးဝီးက ဆင်ခြင်ခြင်း၌အဆင့် ၅ ဆင့်ရှိသည်ဟု ဖော်ပြထားသည်။ (၁) အခက်အခဲပြဿနာသည် ဆင်ခြင်ခြင်းကို အစပြု၍နှိုးဆော်ပေး၏။ (၂) ပြဿနာအခြေအနေကို သေချာစွာသိရှိရန်ပြုလုပ်ပေး၏။ (၃) ပြဿနာကိုအဖြေပေးသော အတွေးရှိစေ၏။ (၄) အတွေးတခုစီသည် ပြဿနာကို လုံးဝဖြေရှင်းနိုင်အောင် ပြုပြင်ရသည်။ ယင်းမှာ ဆင်ခြင်ခြင်း၏အနှစ်သာရဖြစ်သည်။ (၅) နောက်ဆုံးအမှားအမှန် စိစစ်ခြင်းအားဖြင့် ဆင်ခြင်ခြင်းသည် ပြီးမြောက်သည်။

## အာရုံသိခြင်း

စဉ်းစားခြင်းသည် အာရုံသိခြင်းပေါ်တွင် အခြေခံပြုထားသည်။ အကြောင်းအရာများကိုကြည့်ရှု၍ အခက်အခဲတွေ့သောအခါ၊ ဆင်ခြင်ခြင်းဖြစ်ပေါ်လာသည်။ နောက်ဆုံးအဖြေ မှန်မမှန်စိစစ်ရာ၌လည်း ကြည့်ရှုခြင်းဖြင့် ပြုလုပ်ရသည်။ အာရုံသိခြင်းမှာ အာရုံခံစားမှုနှင့် ခြားနားသည်။ အာရုံသိခြင်း၌ ကျွန်ုပ်တို့ အာရုံများကို အသုံးပြုရသည်မှန်သော်လည်း၊ အတိတ်ကာလအတွေ့အကြုံများ၊ စိတ်ကူးရုပ်များ၊ ပစ္စုပ္ပန်ကာလ စိတ်သဘောထားများတို့လည်းပါဝင်ပေသည်။ အချုပ်အားဖြင့်ဆိုသော်၊ အာရုံသိခြင်းသည် အာရုံခံစားမှုကို အဓိပ္ပါယ်ဖော်ယူခြင်းဖြစ်သည်။ ဥဒါဟရဏ်အားဖြင့်၊ သရက်သီးဟူသော ဝတ္ထုပစ္စည်းတခုကို အာရုံဖြင့်မြင်ရာတွင်၊ သရက်သီးဟုသိခြင်းသည် အရောင်၊ အနံ့၊ အရသာစသည့် အာရုံများ စုပေါင်းထားခြင်းထက် ပိုမိုကြီးကျယ်လေသည်။

## အမြင်မှားခြင်း

အကယ်စင်စစ် မလှုပ်ရှားသော်လည်း လှုပ်ရှားသည်ကို မြင်ခြင်း၊ အရှည်တူညီသောမျဉ်းများကို မတူညီဟုမြင်ခြင်း၊ မျဉ်းဖြောင့်ကို မျဉ်းကောက်ဟုမြင်ခြင်းစသည်တို့မှာ အမြင်မှားခြင်းများဖြစ်သည်။ ဤအခြင်းအရာများကို လူတိုင်းအမြင်မှားတတ်ရကား၊ ယင်းတို့သည် ကျွန်ုပ်တို့အတွေ့အကြုံပေါ်၌ မတည်ကြောင်း ယူဆရသည်။ အချို့မှာ အတိတ်ကာလအတွေ့အကြုံကြောင့်ဖြစ်သည်။ စစ်အတွင်းတွင် ငှက်သတ္တဝါကို လေယာဉ်ပျံဟု အမြင်မှားခြင်းသည် အတွေ့အကြုံကိုမှီ၍ စိတ်စောနေခြင်းကြောင့်ဖြစ်သည်။ အမြင်မှားမှုကိုဆင်ခြင်သော်၊ အာရုံအားဖြင့်သိခြင်းသည် အာရုံများပေါ်တွင်သာမက အခြားအကြောင်းများပေါ်တွင်လည်း တည်နေကြောင်း ထင်ရှားသည်။

## လူတဦးနှင့်တဦးခြားနားခြင်း

အထက်တွင် လူတိုင်းဖြစ်တတ်သော အခြင်းအရာများကို ဖော်ပြခဲ့ပြီ။ လူတဦးနှင့်တဦး အပြုအမူနှင့် သိခြင်းတူသော အကြောင်းများရှိသော်လည်း၊ ခြားနားခြင်းလည်းရှိသည်။ အသိဉာဏ်သည်၎င်း၊ စွမ်းရည်သည်၎င်း၊ ကိုယ်ရည် ကိုယ်သွေးသည်၎င်း၊ လူတဦးနှင့်တဦး မတူညီကြပေ။ စိတ်ပညာဆရာတို့သည် ဉာဏ်စွမ်းရည်စစ်ဆေးလွှာများဖန်တီး၍ များစွာ အသုံးပြုလျက်ရှိလေသည်။ စစ်ဆေးလွှာများကို အသုံးပြုခြင်းအားဖြင့် လူတယောက်၏ ဉာဏ်ဖျတ်လတ်မှုနှင့်




'ခ' မျဉ်းသည် 'က' မျဉ်းထက် ပိုရှည်ပုံရသော်လည်း၊ စင်စစ်အရှည်တူမျဉ်းမတ်များသာ ဖြစ်ပေသည်။

သင်ယူစွမ်းရည်ကိုပြသနိုင်ပေသည်။ စွမ်းရည်ထူးများကို စစ်ဆေးရာ၌ အတော်အတန်တိကျစွာ တိုင်းတာနိုင်ပေသည်။ လူငယ်တယောက်အား သင့်လျော်သော လုပ်ငန်းသို့ လမ်းညွှန်ခြင်း၊ အလုပ်သမားတယောက်အား သက်ဆိုင်ရာအလုပ်နှင့် သင့်လျော်သည်ကိုဖေါ်ပြခြင်း၊ တာဝန်ဝတ်တရားများတွင် ထူးချွန်စွာ ဆောင်ရွက်နိုင်သူကို ရွေးချယ်ခြင်း၊ စက်မှုလက်မှုနှင့် လက်နက်ကိုင်တပ်များအတွက် သင့်လျော်သူတို့အားရွေးချယ်ခြင်းများ၌ စစ်ဆေးလွှာတို့ကိုအသုံးချကြ၏။

ကိုယ်ရည်သွေးကိုလည်း စိတ်ပညာဆရာများက စုံစမ်းကြသည်။ ကိုယ်ရည်ကိုယ်သွေး မေးခွန်းလွှာများဖြင့် ကိုယ်ရည်ကိုယ်သွေးအခြေအနေကို အသင့်အတင့်ဖေါ်ထုတ်စေနိုင်၏။ စိတ် အခြေအနေကို ပြင်ပအမူအရာဖြင့် စုံစမ်းနည်းများလည်း အသုံးပြုကြသည်။ အများသိကျွမ်းသော နည်းတခုမှာ ရိုရှပ်ဆိုသူ တည်ထွင်သော မင်စက် စစ်ဆေးနည်းဖြစ်သည်။ လူတဦးတယောက်ကို အကဲဖြတ်ရာတွင် အသိဉာဏ်စစ်ဆေးလွှာ၊ စွမ်းရည်စစ်ဆေးလွှာ၊ ကိုယ်ရည်ကိုယ်သွေးနှင့် အကျင့်စာရိတများကို အကဲဖြတ်ချက်တို့ကို ပေါင်းစပ်ကာ လေ့လာရပေသည်။

## လူ၏ဆက်ဆံရေးအပြုအမူ

ကျွန်ုပ်တို့၏အပြု အမူသည် လူများနှင့် ဆက်ဆံ ပြုမူခြင်းဖြစ်သည်။ လူ တဦးတယောက်က အစုအဝေးတွင် ပါဝင်သောအနေဖြင့် ပြုမူခြင်းသည် တဦးတည်းပြုမူခြင်းနှင့် ကွာခြားသည်။ အစုအဝေး၏ညွှန်ခြင်းသည် လူ၏အပြုအမူကို ပြောင်းလဲစေသည်။ လူအုပ်တွင်ပါဝင်သော လူတယောက်သည် လူအုပ်အလိုက်ပြုမူတတ်သဖြင့် ဆင်ခြင်ကင်းမဲ့သော အပြုအမူမျိုးကိုပြုလုပ်တတ်သည်။ တဦးကို တဦး အတုခိုးတတ်သည်။ ကျွန်ုပ်တို့သည် အများအားဖြင့် ကျွန်ုပ်တို့နှင့်ဆိုင်ရာလူစု၏အနေအထိုင်အတိုင်း တူညီအောင်နေတတ်ကြလေသည်။

လူတမျိုးနှင့် တမျိုး စိတ် အခြေအနေ ခြားနားခြင်းရှိသလော၊ရှိခဲ့လျှင်ဇာတိအတိုင်းဖြစ်ပေါ်လာသလော၊သို့မဟုတ် ယဉ်ကျေးမှုထုံစံများကြောင့်ပင်လော။ ယင်းအချက်တို့ကို စဉ်းစားလိုက်သော်၊ ပတ်ဝန်းကျင် ခြားနားခြင်းကြောင့်







(အထက်ပုံ) ကလေး၏ အသိဉာဏ်စွမ်းကို သစ်သားပုံစံများဖြင့် စမ်းသပ်နေပုံ

(အလယ်ပုံ) ' တည်ငြိမ်မှုတိုင်းကရိယာ ' ဖြင့် လက်၏တည်ငြိမ်မှုကို စမ်းသပ်နေပုံ

(အောက်ပုံ) ' မှသားစုံထောက် ' ခေါ်ကရိယာဖြင့် လူတဦး သွေးတိုးခြင်း၊ နှလုံးခုန်ခြင်းကို စုံစမ်းလေ့လာနေပုံ

လူတမျိုးနှင့်တမျိုး ခြားနားကြသည်ဟု စိတ်ပညာရှင် တို့က သဘောရကြ၏။ လူမျိုးချင်း ခြားနားသည်ထက် လူမျိုး တစုထဲတွင် တဦးနှင့်တဦး ပိုမိုခြားနားတတ်သည်။

စိတ်ပညာလေ့လာချက်များဖြင့် လူ၏အကြောင်းကို ပိုမို နားလည်လာသည်ဖြစ်ရကား၊ လူသတ္တဝါတို့ ကြီးပွား တိုး တက် ငြိမ်းချမ်းသာယာရေးကို ရှေးရှုလျက် လူတို့၏အပြုအမူ များကို ပြုပြင်ရန် စိတ်ပညာကို အသုံးချနိုင်ပေသည်။ (စိတ်။ စိတ်ခွဲခြားစိစစ်ရေးပညာ။ စိတ်ရောဂါပညာ — လည်းရှု။) ဒေါက်တာ ဦးလှဖူး

**စိတ်ရောဂါပညာ။** ။စိတ်နှင့် ဆိုင်သော ရောဂါများ အ ထူး များပြားလာသည့်အလျောက် စိတ်ရောဂါ ပညာသည် ဆေးပညာ၏ အရေးပါသော အစိတ်အပိုင်း တခုဖြစ်လာလေ သည်။ (ဆေးပညာနှင့် ခွဲစိတ်ကုသခြင်းပညာ — ရှု။) ယင်းစိတ်ရောဂါပညာကို အင်္ဂလိပ်လို 'ဆိုင်ကီအက်ထရီ' ဟု ခေါ်သည်။ စိတ်ရောဂါပညာ၏ အခြေခံပြဿနာမှာ စိတ် ဓာတ်လှုပ်ရှားမှု၊ စိတ်မကျေနပ်မှုနှင့် မကျန်းမာသဖြင့် ဖြစ် ပွားတတ်သော စိတ်ရောဂါများ၏အကြောင်းရင်းများကိုရှာ ဖွေကုသရန်ဖြစ်လေသည်။ ဤကဲ့သို့ကုသရာတွင် ဖေါက်လွဲ ဖေါက်ပြန်ဖြစ်မှုများ၏ အခြေခံ အချက်အလက်များ ကို လူနာအား အတိတ်က အကြောင်းများနှင့် စပ်လျဉ်း၍ စိတ်ရှည် လက်ရှည် မေးမြန်းခြင်းဖြင့် ထုတ်ဖေါ်နိုင်ရန် ရည်သန်လေသည်။

လူကောင်းများဟု ထင်ရသူများ၌ စိတ် မသိမသာ ဖေါက် ပြန်နေသူ အများအပြားရှိလေသည်။ အကြောင်းမူကား၊ အချို့သော သူတို့သည် မိမိတို့၏ စိတ်တွင် ဖြစ်ပေါ် ခံစားရ သောအာရုံများကို ချုပ်တည်းဖိနှိပ်ရလွန်းသဖြင့် အခဲမကျေ ချက်အမျိုးမျိုးသည် 'မသိစိတ်' ၌ကိန်းဝပ်နေတတ်၏။ ထို မကျေနပ်ချက်များစုပေါင်း၍ အင်အားများလာသောအခါ စိတ်ကိုဒုက္ခပေးသဖြင့် သောကပိုခြင်း၊ မပျော်ပိုက်ခြင်း၊ မ ကြည်နူးခြင်းစသော ပြင်းထန်သည့် စိတ်ရောဂါများစွဲကပ် လာတတ်၏။ ဤဝေဒနာများကို နားလည်အောင် ကြိုး စားကုသရန် အထူးလိုအပ်လှပေသည်။

အချို့သောသူများသည် အရက်သေစာကို အလွန်အကျွံ သောက်စားကြသဖြင့် အရက်သေစာတွင်ပါသော အရက်ပျံ ကြောင့် ဦးနှောက်အင်အား ကုန်ခန်းနွမ်းနယ်လာတတ်၏။ ထိုသူမျိုးများသည်လည်း စိတ်နှင့် ဆိုင်သော ဝေဒနာ စွဲကပ် တတ်သဖြင့် တင်ကြိုသတိထားကာကုသရန်လိုအပ်၏။

မိဖနှင့် သားသမီး ဆက်ဆံပုံ ချွတ်ယွင်းမှုကြောင့် အချို့ သူငယ်များသည် စိတ်ပျက်ပြား၍ စာရိတ္တပေါ့တန်ကာ ရာဇဝတ်မှုကျူးလွန်တတ်ကြ၏။တကြိမ်မှနှစ်ကြိမ်ရာဇဝတ်မှု ကျူးလွန်မိသောအခါတွင်လည်း လူဆိုးကြီးများ ဖြစ်သွား တတ်၏။ ဤသူငယ်များအား သူတို့၏ပတ်ဝန်းကျင် အခြေ အနေက မည်ကဲ့သို့ပြုပြင်ခဲ့၍ ဤသို့ဖြစ်ရသည်ကို သေချာစွာ လေ့လာကုစားပေးရန် လိုပေသည်။ ထို့ကြောင့်ပင်လျှင် ကလေးသူငယ်များ စိတ်ကြံ့ခိုင်အောင်ပြုပြင်မှု၊ အသက် မွေးဝမ်းကျောင်းအတွက် အလုပ်အကိုင် လမ်းညွှန်မှုစသည် များ ပြုလုပ်ပေးရန်လိုအပ်၏။ ဤပြဿနာမျိုးများတွင် ကလေးတို့၏စိတ်ကို စိတ်ရောဂါပညာအကူအညီဖြင့် ကုစား ဖြေရှင်းပေးရလေသည်။

ထို့ပြင် စက်မှုလက်မှုထွန်းကားသောနိုင်ငံများရှိ စက်ရုံအ လုပ်သမားများသည် လုပ်သက်ရှည်လာသည်နှင့်အမျှ အ ဆက်မပြတ် ကြားနေရသော စိတ်တုန်လှုပ်ဖွယ်စက်သံကြီး များကြောင့် စိတ်နှင့်ဆိုင်သည့် ရောဂါဝေဒနာစွဲကပ်ခံစားရ တတ်၏။ ထိုအခါတွင် အလုပ်ရှင်သည် အလုပ်သမားအား သင့်လျော်သော လျော်ကြေးများပေးရန်လိုပေသည်။ ထို ပြင် အလုပ်ရှင်နှင့် လုပ်သား ဆက်ဆံမှု တိုးတက် လာစေနိုင် သည့် နည်းစနစ်များကိုလည်း ရှာဖွေရန်လို၏။ အခြား အ ခြားသော အလုပ်သမားပြဿနာများ စွာ တို့ကိုလည်း ဖြေ ရှင်းရန်လို၏။ ဖော်ပြပါ ပြဿနာကြီးငယ်များသည် စိတ် ရောဂါပညာ အကူအညီကို ယူ၍ ဖြေရှင်းရန် လိုအပ်သော ပြဿနာများဖြစ်၏။ အချို့ခေတ်မှီ နိုင်ငံကြီးများတွင် ဤ ပြဿနာမျိုးကို စိတ်ရောဂါပညာ အကူအညီဖြင့် လေ့လာ ဖြေရှင်းနေကြပေပြီ။

စိတ်ရောဂါကုနည်း အမျိုးမျိုးရှိ၏။ ခေတ်သစ် ဆရာဝန် များသည် ဝေဒနာရှင်၏ အတိတ်ကာလ အတွေ့အကြုံ၊ အဖြစ်အပျက်များကို မေးမြန်း လေ့လာခြင်းဖြင့် ရောဂါ၏ အကြောင်းရင်းကို ဖော်ထုတ်ကုသရန်ကြိုးစားကြ၏။ (စိတ် ခွဲခြားစိစစ်ရေးပညာ — ရှု။) အချို့ဆရာဝန်များကား လူ နာကိုရုတ်တရက်တုန်လှုပ်နာကျင်အောင်လုပ်သောနည်းဖြင့် ရောဂါအကြောင်းရင်းကိုရှာဖွေကုသကြ၏။ အင်ဆူလင် ကဲ့ သို့သောဆေးမျိုးထိုး၍ဝေဒနာရှင်၏ကိုယ်ခန္ဓာ၌ ရုတ်တရက် နာကျင် တုန်လှုပ်မှု ခံစားရအောင် ဖန်တီးကြ၏။ ယခုအ ခါ၌မူ၊ ထိုးဆေးအစား လျှပ်စစ်ဓာတ်အားကို အသုံးပြု၍ ကုသကြ၏။ အချို့ကလည်း ဆိုဒီယမ် ကဲ့သို့သော အိပ်မွေ့ ဆေးများကိုသုံး၏။ ဆေးထိုးလိုက်လျှင် လူနာသည် အတိတ် ကာလက မိမိ တွေ့ကြုံခဲ့ရသော အဖြစ် အပျက်များကို လွတ် လပ်စွာ ပြန်လည်ပြောဆိုလေတော့သည်။

အချို့ စိတ်ရောဂါဆိုင်ရာ ဆရာဝန်များ သည် စိတ်ညှို့နည်း ဖြင့်ကုသကြ၏။ နောက်ဆုံးပေါ် နည်းတနည်းမှာ ပြဇာတ် တဇာတ်ဖန်တီး၍ လူနာကိုပါဝင်ကပြစေလျက် ကိုယ်နှုတ် အ မူအရာများကို အကဲခတ် လေ့လာခြင်း ဖြင့် အတွင်း သဘော ရောဂါ၏အကြောင်းရင်းကို သိရှိအောင် ကြိုးစားထုတ်ဖော် ၍ကုသသောနည်းဖြစ်လေသည်။

စိတ်ရောဂါပညာသည် ယခုအခါ စစ်တပ်များအတွက် အလွန်အရေးပါသောပညာဖြစ်၏။ အဘယ်ကြောင့်ဆိုသော် စစ်အတွင်းထိတ်လန့်တုန်လှုပ်ဖွယ် အဖြစ် အပျက်များနှင့် ရင်ဆိုင်ခဲ့ရသော စစ်သားတို့တွင် စိတ်နှင့် ဆိုင်သော ဝေဒနာ အမျိုးမျိုးစွဲကပ်နေတတ်၏။ ထို့ကြောင့်ပင် စစ်တွင်းကာလ၌ရင်း၊ စစ်ပြီးကာလ၌ရင်း၊ စစ်သားတို့၏စိတ်ရောဂါများကို ဂရုစိုက်ကုစားရန် အလွန်လိုအပ်ပေသည်။

ရှေးခေတ်က စိတ်မကောင်းသူများကို မကောင်းဆိုးရွားဝင်ရောက်ပူးကပ်နေသည်ဟူ၍ ရက်ရက်စက်စက်ပြုမူတတ်ကြ၏။ သို့ရာတွင် မည်သို့မျှဆေးကုသပေးခြင်းမရှိခဲ့ချေ။

စိတ်နှင့်ဆိုင်သောရောဂါများရှိသည်ဟု စတင်ရိပ်စားမိသူမှာ ယိုဟန်း ဗိုင်ယာ ဆိုသူဖြစ်၏။ ၁၆၀၀ ပြည့်နှစ်တွင် ဗိုင်ယာက စုန်းမများသည် စိတ်မနှံ့သူများသာဖြစ်သည်ဟု ပြောဆိုခဲ့၏။ ထို့ကြောင့်ပင် သူ့အား ခေတ်သစ်စိတ်ရောဂါပညာကို ပဌမဆုံး စတင်လိုက်စားသူဟု ခေါ်ကြ၏။ အမေရိကန်တော်လှန်ရေးစစ်ပွဲများတွင် ဂျော့ ဝါရှင်တန်၏တပ်၌ အမှုထမ်းခဲ့ဘူးသော ဗင်ဂျမင် ရတ် ဆိုသူသည်လည်း စိတ်ရောဂါပညာကို ပဌမဆုံးစတင်လိုက်စားသူများတွင် တဦးအပါအဝင်ဖြစ်၏။ ထို့နောက် ပြင်သစ်လူမျိုး ဖိလစ် ပီနယ်သည် စိတ်ရောဂါကုထုံးများကို ပိုမို တိုးတက်အောင်ပြုပြင်ကြိုးပမ်းခဲ့၏။ ၁၇၀၀ ပြည့်နှစ်တွင် ဂျီအင်း မာတင် ရှားကိုး ဆိုသူသည် အာရုံကြောနှင့်ဆိုင်သောရောဂါများ၊ စိတ်ချောက်ချားရောဂါများအတွက် အခြေခံသုတေသနများပြုခဲ့လေသည်။ ထို့နှင့်တချိန်တည်းလောက်တွင် အမေရိကန်ပြည်နယ်များ စစ်ပွဲ၌ ပါဝင်ဆင်နွှဲခဲ့ဘူးသူ ဝီယာ မစ်ချယ်သည် စိတ်ရောဂါပညာ၏အခြေခံသဘောတရားများကို ရှာဖွေတွေ့ရှိခဲ့၏။ စိတ်ရောဂါပညာလောကတွင် အရေးပါအရာရောက်ဆုံးသောသူကား၊ ဩစတြီးယန်းလူမျိုး ဇီဂမွန် ဖရွိုက် (၁၈၅၆–၁၉၃၉) ဖြစ်၍၊ စိတ်ရောဂါသုတေသနများပြုခြင်း၊ စိတ်ခွဲခြားစိစစ်ခြင်း၊ စိတ်ရောဂါ လက္ခဏာ အကြောင်းရင်းများကို ရှာဖွေခြင်းစသည်တို့ဖြင့် ပညာကြီးတရပ်ဖြစ်လာအောင်ဖန်တီးခဲ့ လေသည်။ (ဖရွိုက်၊အက်(စ)။ စိတ်ပညာ — ရှု။)

**စိတ်လှုပ်ရှားမှု။** ။လူ့စိတ်သည် အမြဲတည်ငြိမ်၍မနေ၊ အစဉ်ပြောင်းလဲလျက်ရှိသည်။ ချစ်စိတ်၊ မုန်းစိတ်၊ ဝမ်းသာစိတ်၊ ဝမ်းနည်းစိတ်၊ ကြောက်စိတ်၊ မနာလိုစိတ် ဟူသည်တို့မှာ စိတ်၏ပြောင်းလဲခြင်း အခြင်းအရာများဖြစ်ကြသည်။ အနောက်နိုင်ငံ စိတ်ပညာအလို၌၊ ဤအခြင်းအရာတို့သည် စိတ်လှုပ်ရှားမှုပင်ဖြစ်သည်ဟု ယူဆကြကုန်သည်။ စိတ်နှင့် ကိုယ်တို့သည် တခုပေါ် တခု အမှီသဟဲပြု၍ အစဉ်အမြဲ ယှဉ်တွဲနေသည်ဟုလည်း အနောက် နိုင်ငံ စိတ်ပညာဆရာတို့ကဆို၏။ ထို့ကြောင့် စိတ်၌ ဝိပလ္လာသဖြစ်လျှင်၊ ကိုယ်၌လည်း ဝိပလ္လာသဖြစ်သည်။ ဝိပလ္လာသမှာ ဖောက်ပြန်မှုပင်ဖြစ်၏။ စိတ်ပညာသဘောအားဖြင့် ဆိုရလျှင်၊ စိတ်လှုပ်ရှားမှုနှင့်တဆက်တည်း၊ ကိုယ်လှုပ်ရှားမှုလည်း ဖြစ်ပေါ်သည်ဟု ဆိုရချိမ့်မည်။

စိတ်လှုပ်ရှားမှုအမျိုးမျိုးရှိသည်တွင်၊ ကြောက်ခြင်း၊ စိတ်ဆိုးခြင်းနှင့် ချစ်ခြင်းဟူသော ဤသုံးမျိုးသည် အရင်းခံ တရားများဖြစ်သည်ဟု စိတ်ပညာပါရဂူများကယူဆကြသည်။ ကြောက်ခြင်းဟူသောတရားကြောင့်၊ ကြောင့်ကြခြင်း၊ စိုးရိမ်ခြင်းစသည်တို့ဖြစ်ပေါ်လာရ၏။ စိတ်ဆိုးခြင်းကြောင့် အနှောင့်အရှက်ဖြစ်ခြင်း၊ မုန်းတီးခြင်း စသည်တို့ ဖြစ်ပေါ်လာရ၏။ ချစ်ခြင်းကြောင့် သနားခြင်း၊ ကရုဏာသက်ခြင်း၊ နူးညံ့သိမ်မွေ့စွာ ဆက်ဆံလိုခြင်းစသည်တို့ဖြစ်ပေါ်လာရ၏။ ဤစိတ်လှုပ်ရှားမှုတို့မှာ စိတ်လှုပ်ရှားစေရန်စေ့ဆော်သောအကြောင်းတခုခုကြောင့်သာလျှင် ဖြစ်ပေါ်လာရ၏။

စိတ်ပညာပါရဂူတို့သည် စိတ်လှုပ်ရှားမှုကို တိရစ္ဆာန်တို့၏သဘာဝမှအစပြု၍ လေ့လာစူးစမ်းခဲ့ကြသည်။ ကျွန်ုပ်တို့သည် တိရစ္ဆာန်၏အတွင်းစိတ်ကို ဖောက်ထွင်း၍မမြင်နိုင်စေကာမူ၊ ယင်းတို့၏ ကိုယ် အမူအရာကို အကဲခတ်ခြင်းဖြင့် စိတ်အမူအရာကိုသိနိုင်ကြပေသည်။ ပမာအားဖြင့် ကြောင်တကောင်သည် သူ၏ကျောက်ကုန်းကိုကြွ၍ လက်သည်းကိုထုတ်ကာ၊ အမွေးအမှင်တို့ကိုထောင်၍ပြလျှင်၊ ထိုကြောင်သည် ကြောက်စိတ်ဖြင့် လှုပ်ရှား၍နေသည်ကို သိရသည်။ ခွေးတကောင်သည် သခင်ကိုမြင်သောအခါ အမြီးတနန့်နန့်နှင့် ခုန်ပေါက်ပြေးလွှားနေသည်ဟုဆိုလျှင်၊ သူ၏အမူအရာမှာ ဝမ်းသာသော စိတ်ဖြင့် လှုပ်ရှားနေသည့် အမူအရာဖြစ်သည်ဟုသိရသည်။ လူတို့ကား အတွင်းစိတ် လှုပ်ရှားနေပုံကို အမူအရာဖြင့် သိသာပေါ်လွင်အောင်ပြတတ်ကြ၏။ ပြုံးခြင်း၊ ရယ်ခြင်း၊ လက်ခုပ်တီးခြင်းစသည်တို့မှာ ဝမ်းသာသော စိတ်အမူအရာ၊ အကြောအခြင်များ တင်းခြင်း၊ အံကြိတ်ခြင်းတို့မှာ စိတ်ဆိုးသည့် အမူအရာ၊ ငိုခြင်းမှာ ဝမ်းနည်းသောအမူအရာ၊ အသီးအသီးဖြစ်ကြသည်။ (စိတ်ပညာ — ရှု။)



ကမ္ဘာလုံးပန်းချီကျော် လီယိုနာဒို ဒါဗင်းချီ၏
ဆန့်ကျင်ဖက်စိတ်လှုပ်ရှားမှုနှစ်မျိုး သရုပ်ပြပုံများ



အလိုကျခြင်း အမူအရာ

စိတ်လှုပ်ရှားမှုကြောင့် ပြင်ပကိုယ်အမူအရာသာ လှုပ်ရှားပြောင်းလဲသည်မဟုတ်၊ ကိုယ်ခန္ဓာတွင်းရှိ ဆိုင်ရာ အင်္ဂါတို့သည်လည်း လှုပ်ရှားပြောင်းလဲကြသည်။ စိုးရိမ် ကြောင့်ကြသူသည် ချွေးသီးချွေးပေါက်ကျလာတတ်သည်။ ဒေါသဖြစ်သူ၏ မျက်နှာသည် နီလာပြီးလျှင်၊ နောက်ဆုံး၌ ဖြူဖတ်ဖြူရော်ဖြစ်လာသည်။ ကြောက်ရွံ့ထိတ်လန့်သော ကလေးမှာ တကိုယ်လုံးတုန်လှုပ်လာသည်။ ထိုပြင်လည်း ကိုယ်ခန္ဓာတွင်း၌ သွေးတိုးသဖြင့် နှလုံးတုန်၊ ရင်ခုန်လာ၏။ အသက်ရှူမှား၏။ မြန်၏။ အစာချေသောအင်္ဂါတို့ဖောက်ပြန်မှုကြောင့်၊ အစာမကြေဖြစ်၏။ (အစာချေခြင်း — လည်းရှု။) ကျောက်ကပ်စီးဂလင်းသည် အက်ဒရီနယ်လင်ရည်ကို သွေးအယဉ်ထဲသို့ပို့၍စီးဆင်းစေသောကြောင့်၊ သွေးထဲ၌ဓာတုဒြပ်ပေါင်းစည်းမှုသည် တမျိုးတဖုံဖောက်ပြန်လာလေသည်။

စိတ်လှုပ်ရှားမှုသည် ကောင်းသော အကျိုးကိုလည်း ဖြစ်စေနိုင်၏။ မကောင်းသော အကျိုးကိုလည်း ဖြစ်စေနိုင်၏။ ပမာအားဖြင့် လူတို့၌ဒဏ်ရာအနာတရဖြစ်သည့်အခါ၊ ထိတ်လန့်ကြောက်ရွံ့သောစိတ်သည် လှုပ်ရှားလာသောကြောင့်၊ အထက်က ပြဆိုခဲ့သည့်အတိုင်း အက်ဒရီနယ်လင်သည် သွေးထဲသို့စီးဝင်သောအခါ ဒဏ်ရာ၏သွေးသည် ခဲလွယ်၏။ ဤအချက်ကြောင့် သာမန်အားဖြင့် ဒဏ်ရာမှ သွေးလွန်ခြင်းကို တားဆီးနိုင်သည်။ သို့ရာတွင် စိတ်လှုပ်ရှားမှုကြောင့် စိတ်၏တည်ငြိမ်သော သမာဓိသည်မဖြစ်နိုင်ချေ။ ထိုကြောင့် ကျိုးကြောင်း ဆင်ခြင်တုံတရား လက်လွတ် ဖြစ် တတ် သည်။ ဒေါသသည် အကျိုးအကြောင်း အဆိုးအကောင်းကို မသိတတ်ဟု ဆိုရိုးစကားပင်ရှိသည်။ ထိုကဲ့သို့သော သတိလက်လွတ်ဖြစ်သည်တို့ကို ထိန်းသိမ်းရန်မှာ၊ စိတ်ကိုချုပ်တည်းနိုင်မှသာ ထိန်းသိမ်းနိုင်လိမ့်မည်။ မြတ်စွာဘုရား၏တရားတော်အလိုအားဖြင့်လည်း စိတ်ကိုနိုင်အောင်ထိန်းဘို့လိုပေသည်။ ဆင်းရဲသော်လည်း ဝမ်းမနည်း၊ ချမ်းသာသော်လည်း ဝမ်းမသာ ဟူသောစိတ်မျိုးကို မွေးမြူနိုင်မှသာလျှင်၊ ကျွန်ုပ်တို့သည် လောကဓံတရားတို့ကို ကြံ့ကြံ့ခံနိုင်မည်ဖြစ်လေသည်။

ဆိုင်ကိုအနာလစ်ဆစ် ပညာအရဆိုလျှင် စိတ်လှုပ်ရှားမှုတို့ကို ငယ်စဉ်က ချုပ်ချယ်ဖိနှိပ်ထားခဲ့ပါလျှင်၊ စိတ်၏အစွဲများဖြစ်ပေါ်လာတတ်သည်။ ဆိုင်ကိုအနာလစ်ဆစ် ဟူသည်မှာ စိတ်တို့ကိုသရုပ်ခွဲ၍ ပိုင်းခြားဝေဖန်စစ်ဆေးခြင်းပင်ဖြစ်၏။ ထိုပညာအလို၌ ကြောက်စိတ်၊ မခံချင်စိတ်ဟူသည်တို့သည် ကလေးအရွယ်၌ မကြာခဏဖြစ်ပေါ်လာတတ်သည်။ ထိုစိတ်တို့ကို ဖိနှိပ်ချုပ်ချယ်လိုက်လျှင်၊ ထိုကလေးငယ်တို့ကြီးပြင်းလာသောအခါ အညစ်စွဲစိတ်များပေါ်လာပြီးလျှင် လူထဲသူထဲသို့ မဝင်ရဲအောင်ဖြစ်တတ်သည်။ ဤအချက်ကို ဆရာသမားနှင့် မိဖများတို့သည် အထူးသတိချပ်အပ်ပေသည်။ တခါတရံ နှိပ်ကွပ်မှုတို့ကြောင့် အကြောက်စွဲစိတ်များလည်း ကပ်ရောက်တတ်သည်။

စိတ်လှုပ်ရှားမှုသည် ထိုသို့ လူတို့အားပုဂ္ဂိုလ်အနေဖြင့် အရေးကြုံသည့်အခါ၌သာ အကျိုးသက်ရောက်စေသည် မဟုတ်၊ အခြားသောအချိန်အခါမျိုး၌လည်း အကျိုးသက်ရောက်စေသည်။ လူတို့အချင်းချင်း ချစ်ခင်စွာပေါင်းသင်းဆက်ဆံမှု၊ ဂီတ၊ ကဗျာ၊ ပန်းချီမှုစ၍၊ သစ်ပင်ပန်းမာလ်၊ တောတောင်ရေမြေဟူသမျှတို့၌ ကြည်နူးကြခြင်းမှာ စိတ်လှုပ်ရှားမှုမှ ကင်း၍ မဖြစ်နိုင်ချေ။ ထို စိတ်လှုပ်ရှားမှုမျိုးကြောင့် သုခုမအနုပညာရပ်များ ပေါ်ထွန်းလာရသည်။ စိတ်လှုပ်ရှားမှုကြောင့်ပင်လျှင်၊ ကမ္ဘာပေါ်ရှိ နိုင်ငံအသီးသီးတို့တွင် မျိုးချစ်ခေါင်းဆောင်များ၊ အာဇာနည်ပုဂ္ဂိုလ်များပေါ်ပေါက်ခဲ့ကြသည်။ လူတို့သည် အမျိုးနှင့် နိုင်ငံကိုချစ်



အလိုမကျခြင်း အမူအရာ

ခင်သော စိတ်ဓာတ်လှုပ်ရှားမှုကြောင့် နိုင်ငံအတွက်တိုက်ပွဲတို့တွင် အသက်စွန့်လှုတ်ရဲကြသည်။ ကိုယ်ကျိုးမဖက်သော ပရဟိတ လုပ်ငန်းအနေဖြင့် နိုင်ငံနှင့် လူမျိုး၏အကျိုးကို သည်ပိုးထမ်းရွက်ကြ၏။ ကြီးမားသောကိစ္စတခုကိုဆောင်ရွက်လိုသောသူသည် မဖြစ်မနေဟူသောစိတ်ဓာတ် အမြဲတစေ လှုပ်ရှားထကြွနေမှသာလျှင် အောင်မြင်ခြင်းကိုရနိုင်မည်ဖြစ်၏။ မခံချင်စိတ်၊ မျိုးချစ်စိတ်၊ သနားကြင်နာစိတ်၊ ချစ်စိတ်၊ မုန်းစိတ်တို့က တိုက်တွန်းစေ့ဆော်သောအခါ မဖြစ်နိုင်ဟုထင်မြင်ရသောကိစ္စများပင်လျှင်၊ အထမြောက်၍လာကြရပေသည်။ (စိတ် — လည်းရှု။)

**စိတ်အားချို့တဲ့ခြင်း။** ။ဗြိတိသျှ နိုင်ငံ စိတ်အားချို့တဲ့ခြင်းအက်ဥပဒေ (၁၉၂၇) တွင်၊ စိတ်အားချို့တဲ့ခြင်းဟူသည်မှာ၊ အသက် ၁၈ နှစ်အရွယ်မတိုင်မီကာလအတွင်း မျိုးရိုးကြောင့်ဖြစ်စေ၊ ရောဂါကြောင့်ဖြစ်စေ၊ ဒဏ်ရာအနာတရကြောင့်ဖြစ်စေ၊ စိတ်အားပြည့်ပြည့်ဝဝ မဖွံ့ဖြိုးခြင်း၊ သို့မဟုတ် ဖွံ့ဖြိုးမှုတန့်ရပ်နေခြင်းအခြေအနေဖြစ်သည်ဟု ဖေါ်ပြထားလေသည်။ လူမှုရေးသိပ္ပံပညာသဘောအရ ပြောရလျှင်၊ စိတ်အားချို့တဲ့သူဟူသည်မှာ လူအများနှင့် ခြားနားသီးသန့်၍၊ အထူး ကျွမ်းကျင်စွာ ကြီးကြပ် ကွပ်ကဲပေးရလောက်အောင်၊ စိတ်အားဖွံ့ဖြိုးမှုများတန့်ရပ်နေသဖြင့် လူ့ဘောင်အဖွဲ့အစည်းတွင် မနေတတ် မထိုင်တတ် ဖြစ်ရသူကို ဆိုလိုသည်။

စိတ်အားချို့တဲ့ခြင်းသည် ရူးသွပ်ခြင်းနှင့်တခြားစီဖြစ်၏။ စိတ်အား ချို့တဲ့ခြင်း ဖြစ်ရသော အကြောင်း တရပ်ကို ပုံစံအားဖြင့် ပြဆိုရလျှင်၊ သိုင်းရွိုက်ဂလင်းမှ စိမ့်ရည် ကျဆင်းခြင်းသည် မလုံမလောက်သောကြောင့် စိတ်အား ချို့တဲ့ရသည်ဖြစ်၏။ စိတ်အား မဖွံ့ဖြိုးခြင်း ဖြစ်ရသည်မည်၏။ (ဂလင်း — ရှု။) ရူးသွပ်ခြင်း၌ကား၊ စိတ်သည်ဖောက်ပြန်လျက်ရှိသည်။

စိတ်အားချို့တဲ့ခြင်း၌ စိတ်နှမ်းခြင်း၊ စိတ်နုံ့ခြင်းနှင့် စိတ်အားပျော့ခြင်းဟူ၍သုံးမျိုးရှိသည်။ စိတ်နှမ်း သူတို့တွင် ဝမ်းတွင်းပါစိတ်နှမ်းသူများလည်းပါဝင်၍၊ ထိုသူတို့သည် အရွယ်ရောက်သည့်တိုင်အောင် သာမန် သုံးနှစ်သား ကလေးငယ်တို့၏အသိဉာဏ်ကိုမမှီချေ။ ထိုသူတို့သည် မိမိတို့ကိုယ်တိုင် ထမင်းစားခြင်း၊ အဝတ် ဝတ်ခြင်းတို့ကို မပြုနိုင်ချေ။ စကားကိုလည်းကျနစွာမပြောတတ်ကြချေ။ စိတ်နုံ့သူများမှာမူ အရွယ်ရောက်သည်တိုင်အောင် သာမန်သုံးနှစ်သားနှင့် ခုနစ်နှစ်သားတို့၏အသိဉာဏ်မျှသာရှိသည်။ သူတို့ကို စာသင်ပေး၍ တတ်ရန်ခက်သော်လည်း၊ လွယ်ကူသည့်လက်မှုပညာရပ်တို့ကို စနစ်တကျသင်ပေး၍ရနိုင်သည်။ သူတို့သည် စကားကို အသင့်အတင့် ပြောတတ်သော်လည်း စိတ်ကူး ဉာဏ်မှာ နုံ့သည်။ စိတ်အားပျော့သူတို့မှာ အရွယ်ရောက်သည့်တိုင်အောင် သာမန်ရှစ်နှစ်မှ တဆယ့်နှစ်နှစ်သားမျှသာ အသိဉာဏ်ရှိသည်။ သာမန်ကျောင်းတွင် အတော်အသင့် ပညာသင်ကြားပေး၍ရနိုင်သော်လည်း၊ ထိုသူတို့သည် မိမိတို့၏ကိုယ်ရေးကိစ္စများတွင် မဆုံးဖြတ်တတ်ကြချေ။

ရှေးက စိတ်အားချို့တဲ့ခြင်းကို ရူးသွပ်ခြင်းနှင့် ခွဲခြားခြင်း မပြုဘဲ၊ ချို့တဲ့သူတို့ကို စိတ္တဇဆေးရုံစသည့်ဂေဟာတို့၌ ထားလေ့ရှိသည်။ သို့ရာတွင် လူမှုဝန်ထမ်းလုပ်ငန်းများ ဖွံ့ဖြိုးလာသောအခါ၊ စိတ်အားချို့တဲ့သူတို့မှာ လူသာမန်တို့ ခံစားနေသော အခွင့်အရေးများကို မခံစားရသော 'စိတ္တဗလခွင့်မဲ့သူ' များဖြစ်၍၊ ယင်းတို့ကိုအထူးပညာသင်ကြားပေးသော ကုမနည်းဖြင့် ကုစားရမည်ဟုယူဆလာကြသည်။ ယခုအခါ စိတ်အား ချို့တဲ့သူများကို လူမှုဝန်ထမ်း ပြဿနာ တရပ်ဟု သဘောထားကာ၊ ထိုသူတို့ကို ဂေဟာတွင်း စောင့်ရှောက်ရေးစနစ်ဖြင့် လူမှုဝန်ထမ်းဌာနတို့က ကူညီစောင့်ရှောက်ကြသည်။ (လူမှုရေးရာပညာ — လည်းရှု။)

**စဇ်။** ။ထိုးကွင်းထိုးခြင်း — ရှု။

**စဏ္ဍာလ။** ။စဏ္ဍာလမှာ ပါဠိစကားဖြစ်၍၊ အလုပ်ကြမ်းကိုပြုလုပ်သောသူဟု အနက်ထင်သည်။ ယင်းကို ဒွန်းစဏ္ဍားဟု မြန်မာမှုပြုကာခေါ် ဆိုကြ၏။ စဏ္ဍာလ၏ဇာစ်မြစ်ကို ရှာဖွေရာ၊ ဝိနည်းတော်ဘိက္ခုပါစိတ်၊ မုသာဝါဒဝဂ်၊ ဩမသဝါဒသိက္ခာပုဒ်တွင် အမျိုးမြတ်အမျိုးညံ့ကိုခွဲခြားရာ၌ အမျိုးညံ့တွင် စဏ္ဍာလကို ထည့်သွင်းဖေါ်ပြထားသည်ကို တွေ့ရ၏။ ထို့ကြောင့် စဏ္ဍာလသည်မြတ်စွာဘုရားသခင်လက်ထက်တော်၌ပင်ရှိနေသည်ဟု ယူဆရသည်။

ကျောက်စာဝန် တော်စိန်ခို၏မှတ်တမ်းနှင့် ယုဒသန်အဘိဓာန်တွင် စဏ္ဍာလကို (၁) ပြည့်တန်ဆာတစ္စိ၊ (၂) သေသူမစွမ်းတစ္စိ၊ (၃) သူတောင်စားများတစ္စိ၊ (၄) သူကောင်ထမ်းမြေမြှုပ် သုဘရာဇာတစ္စိဟူ၍ ၄ စုခွဲကာပြသထားသည်။ သို့သော် မန်လည်ဆရာတော်ဘုရားကြီးက မဃဒေဝလင်္ကာကျမ်းတွင် 'စဏ္ဍာလငါး၊ အစုံများက' ဟူ၍ စဏ္ဍာလ ငါးစု ရှိကြောင်းကိုရင်း၊ မြန် မာ မင်း အုပ်ချုပ်ပုံ စာတမ်းတွင်လည်း စဏ္ဍာလ ငါးစု ရှိကြောင်းကိုရင်း၊ ဖေါ်ပြထားသည်ကိုတွေ့ရ၏။ ထိုစဏ္ဍာလငါးစုမှာ (၁) စပ်၊ (၂) အမှမ်း၊ (၃) သူကောင်ထမ်း၊ (၄) တွင်းတူး၊ (၅) သင်္ချိုင်းကိုင်တို့ဖြစ်ကြသည်။ ယင်းငါးစု၌ စပ် ဆိုသည်မှာ လူသေအလောင်းထည့်သော ခေါင်းပျဉ်၊ ကျင်ပု၊ ခံ၊ ဇာတာအိမ်၊ တလား၊ စမြင်းတိုင်အလောင်းစင်၊ ဗိတာန် ကြာကလပ်၊ လောင်တိုက်၊ ငှက်ကြီးကာ၊ စသော အထည်ကိုယ် ဝါးသစ်သားများကိုလုပ်ရသောသူကိုခေါ်၏။ အမှမ်း ဆိုသည်မှာ

လူသေအလောင်းစင်စသည်တို့လုပ်ထားသောသစ်သား၊ ဝါး အထည်ကိုယ်များတွင်ဆင်ယင်ရန် ပိုးဖဲ၊ ဗုဇွန်ဆီ၊ ကတ္တီပါ၊ ဇာရှဲ၊ ရွှေညောင်ရွက်၊ ကျောက်စီ၊ သတောင်းလည် ကြာဆံ ကြာရပ် စသည်များကို အဆင့် အတန်း စာတမ်းထွက်နှင့်အညီ လုပအောင် လုပ်ဆောင်ရသောသူဖြစ်သည်။ သူကောင်ထမ်းဆိုသည်မှာ လူသေကောင် မသာလောင်း ရွှေ့ပြောင်းခြင်း နှင့် စပ်သမျှ လုပ်ဆောင်ရသောသူဖြစ်သည်။ တွင်းတူးဆိုသည်မှာ လူသေကောင်ကိုသော်၎င်း၊ အရိုးကိုသော်၎င်း၊ မြှုပ်ရန်တွင်းတူးသည့်အလုပ်နှင့် စပ်သမျှကိုလုပ်ဆောင်ရသောသူဖြစ်သည်။ သင်္ဂြိုဟ်ကိုင် ဆိုသည်မှာ လူသေအလောင်းကို မြေမြှုပ်သော အခါ၊ မီးရှို့သော အခါ၊ တံစူးဝါး(တနည်း) တံရှူးဝါးများနှင့် ကိုင်တွယ်မြေမြှုပ် မီးဖုတ်သောအလုပ်၊ အရိုးကောက် အရိုးမြှုပ် အရိုးမျှောအလုပ်ကိုလုပ်ရသောသူဖြစ်သည်။

ထိုငါးမျိုးသောစဏ္ဍာလတို့သည် မြန်မာမင်းအဆက်ဆက်မှစ၍ တည်လျက်ရှိသည်။ မြန်မာမင်းများ လက်ထက်က စဏ္ဍာလများကို အရွှတ်ဝန်က အုပ်ချုပ်ရ၏။ စဏ္ဍာလများ ဃံမှရရှိသော အခွန်အကောက်များကိုမူ အရွှတ်ဝန်ထံတွင် သိမ်းဆည်းအပ်နှံထားကြရ၏။ ထိုစဏ္ဍာလတို့မှရသော အခွန်အကောက်များဖြင့် နိုင်ငံခြားဒေသများတို့မှ ရောက်လာကြသောသံတမန်များကို ကျွေးမွေးပြုစုရသည်။ ဤကို ရည်၍ မန်လည်ဆရာတော်ဘုရားကြီးက မဃဒေဝလင်္ကာသစ်၊ ပုတ္တောဝါဒခဏ်းတွင် 'စဏ္ဍာလငါး၊အစုံများက၊ရငြားတမည်၊ အခွန်သည်ကား၊ တပြည်တစ်၊ တနိုင်ငံက၊ သံကို ကျွေးမွေး၊ ပေးကမ်းဘို့ရန်၊ အရွှတ်ဝန်သို့၊ မကျန်စေငှာ၊ အပ်ထားရာ၏' ဟူ၍ ဖော်ပြရေးစပ် မိန့်ဆိုထားလေသည်။

စဏ္ဍာလမှာ ရှေးမြန်မာမင်းများ၏ စီရင်မှုအရ ကျွန်သီးတော် စာရင်းဝင်များ ဖြစ်၏။ ကျွန်သီးတော် ခေါ် သော ဘုရားကျွန်၊ ပိဋကတ်ကျွန်၊ ကျောင်းကျွန်တို့ကို အမြတ်စား၊ အလတ်စား၊ အနိမ့်စား၊ အညံ့စားဟု ၄ ပါးပြားထားရာ၊ စဏ္ဍာလမှာ အညံ့စားအမျိုးတွင်ပါဝင်သည်။ အညံ့စားမျိုးတွင် ပါဝင်သော သူတို့မှာ (၁) ဝေဏု၊ ဝါးခုတ် ဝါးခွဲ နှီးထိုး ဖျာရက်စသည်တို့ကိုပြုလုပ်သောသူ၊ (၂) ရဋ္ဌကာရ၊ သစ်ရွှေသမား ရထားလှည်းစသည်အလုပ်သမား၊ (၃) နေသာဒ၊ တံငါမုဆိုးမျိုး၊ (၄) ပက္ကုသ၊ ပန်းမှိုက်သွန် အညစ်အကြေးသုတ်သင်သောသူများနှင့် (၅) စဏ္ဍာလ၊ ဒွန်းစဏ္ဍားမျိုးများတို့ဖြစ်ကြ၏။

သို့သော် မြန်မာနိုင်ငံသည် လွတ်လပ်ရေး ရရှိသည့်အချိန် ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့တွင် နိုင်ငံတော်ယာယီသမတကြီးက ပြည်ထောင်စုမြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေပါ လူ့အခွင့်အရေးများ အရ၊ အောက်ပါအမိန့်ကို နိုင်ငံတဝှန်းလုံးသို့ ထုတ်ပြန်ကျေညာခဲ့၏။

'ပြည်ထောင်စု မြန်မာပြည်သည် ယနေ့တွင် လွတ်လပ်သော မြန်မာနိုင်ငံတော်ဖြစ်သည်နှင့်အညီ၊ တဦးကို တဦး ကြောက်ရွံ့ခြင်း၊ တဦးကို တဦး နှိပ်စက်ခြင်းမှစ၍ မကောင်းသော အလေ့ဆိုးများကို လုံးဝပယ်ဖျက်ပစ်ရန် ကျွန်ုပ်အစိုးရက ရည်ရွယ်သည်။ ရာဇဝင်တွင် ရှေးရှေးသောအခါကစ၍ ရှေးမင်းများ၏အာဏာစက်ကြောင့်၊ ဒွန်းစဏ္ဍား၊ သူတောင်းစား၊ ဘုရားကျွန်၊ ကျောင်းကျွန်၊ ကယ်ပါ၊ သင်္ချေ စသည်တို့ကို ယနေ့မှစ၍ ရှေးအမင်းမင်းတို့၏အာဏာစက်ကို ကျွန်ုပ်ပယ်ဖျက်၍၊ ထိုလူမျိုးတို့၏သဘောအတိုင်း လုပ်လိုသောအလုပ်မျိုးစုံတို့ကို လွတ်လပ်စွာလုပ်ကိုင်နိုင်ကြစေဟု ကျွန်ုပ်အမိန့်ချမှတ်သည်။ ဤပြည်ထောင်စုမြန်မာနိုင်ငံတွင်ရှိသော နိုင်ငံသားများသည် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေတွင်ပါရှိသည့်အတိုင်း တဦးနှင့်တဦး အခွင့်အရေး ချင်း တူညီကြစေ'။

ယင်းသို့ကြေညာခဲ့သည့်အတိုင်း မြန်မာနိုင်ငံအစိုးရသည် စဏ္ဍာလပပျောက်ရေး၊ သူတောင်းစားရိုးရာ ပပျောက်ရေးကို ဆောင်ရွက်လျက်ရှိသည်။

**စန္ဒကုမာရဇာတ်တော်။** ။စန္ဒကုမာရဇာတ်တော်သည် ဇာတ်တော်ကြီး ဆယ်ဘွဲ့တွင် ခုနစ်ခုမြောက် ဇာတ်တော်ဖြစ်သည်။ ဂေါတမမြတ်စွာဘုရား ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတော်အနီး၊ ဂိဇ္ဈကုဋ်တောင်ယံ၌ သီတင်းသုံးတော်မူစဉ်အခါ ဒေဝဒတ်ကိုအကြောင်းပြု၍ ဟောကြားတော်မူသည်။ ထိုဇာတ်တော်တွင် သစ္စာ၏တန်ခိုးကို ထင်ရှားစွာဖော်ပြလေသည်။ ပါဠိကျမ်းဂန်များ၌ စန္ဒကုမာရဇာတ်တော်ကြီးကို ခဏ္ဍဟာလဇာတ်ဟု ပြသည်။ ဇာတ်တော်၏အကြောင်းအရာမှာ အောက်ပါအတိုင်းဖြစ်သည်။

ရှေးလွန်လေပြီးသောအခါ၊ ပုပ္ဖဝတီပြည်၌ ဝသဝတီမင်း၏သား၊ ဧကရာဇ်အမည်ရှိသော မင်းသည် နန်းစံ၏။ ထိုမင်း၏ သား တော် ကြီး ကား စန္ဒကုမာရမည်၍၊ အိမ်ရှေ့အရာဖြင့်စံရ၏။ ထိုမင်းတွင် ခဏ္ဍဟာလအမည်ရှိသော ပုဏ္ဏားအမတ်ကြီးတဦးရှိရာ၊ ထိုအမတ်ကြီးသည် တရားစီရင်ရာ၌ လာဘ်ယူ၍စီရင်လေ့ရှိ၏။

တရံခါသော် အမှုသည်ယောကျ်ားတဦးသည် မတရားသဖြင့် အမှုရှုံးအောင်စီရင်ခြင်းခံရသဖြင့် စန္ဒကုမာရမင်းသားအားတိုင်ကြားရာ၊ မင်းသားသည် နှစ်ဖက်သော အမှုသည်တို့ကို ခေါ်ယူ၍ တရားသဖြင့်စီရင်ပေးသည်။ ထိုအခါမှစ၍ လူအများက မင်းသားကို ကြည်ညိုလျက် အမတ်ကြီးကိုရှုံ့မုန်းကြသည်။ အမတ်ကြီးလည်း မိမိသည် မင်းသားကြောင့် ဂုဏ်ပျက်ရသည်ဟု ရန်ငြိုးထားလေသည်။

တနေ့သ၌ ဧကရာဇ်မင်းသည် နတ်ပြည်ကို အိပ်မက်တွင် မြင်သဖြင့် နတ်၏စည်းစိမ်ကို လွန်စွာရလိုသောကြောင့် အ

မတ်ကြီး ခဏ္ဍဟာလကိုခေါ်၍ နတ်ပြည်ရောက်ရန်နည်းလမ်းကိုမေးသည်။ အမတ်ကြီးလည်း နည်းလမ်းကိုမသိစေကာမူ မင်းသားကိုသတ်ဖြတ်ခွင့်ရစိမ့်သောငှာ လှည့်ဖြားလည်ဆယ်ဉာဏ်ဖြင့် သားသမီး၊ မိဖုရား၊ သူကြွယ်၊ နွား၊ မြင်းစသည်တို့ကိုသတ်လျက် လည်ချောင်းသွေးဖြင့် ယဇ်ပူဇော်ရမည်ဟုပြောကြားသည်။

မင်းလည်းယုံကြည်၍ သားသမီးမိဖုရားတို့ကို သတ်ရန်ဆောင်ယူစေသည်။ စန္ဒကုမာရမင်းသားသည် အမတ်ကြီး၏အကောက်ကြံပုံကိုသိရှိသည့်အလျောက် မိမိတဦးအတွက် အခြားသူများမသေရလေအောင် လျှောက်ထားရန်ကြံစည်လျက် မင်းကြီးရှေ့တော်သို့လိုက်ပါလာခဲ့သည်။

ကေရာဇ်မင်း၏ယဇ်ပူဇော်ခြင်းအစီအစဉ်ကို ခမည်းတော်မယ်တော်တို့သိသောအခါ၊ ထိုသို့ပြုခြင်းဖြင့် ငရဲပြည်သို့သာလားမည်ဖြစ်ကြောင်း ဖျောင်းဖျဆုံးမ၏။ သို့သော် ကေရာဇ်မင်းလည်း ထိုအဆုံးအမကို ပယ်လေသည်။ ထိုအခါ သားတော် စန္ဒကုမာရမင်းသားနှင့်တကွ သားမယားများ၊ မှူးမတ်များနှင့် တကွ သားမယားများတို့က တလှည့်စီ ငိုကြွေးပန်ကြားကြ၏။ ထိုသို့ပန်ကြားတိုင်း မင်းလည်းစိတ်ညွတ်နူးသဖြင့် ယဇ်ပူဇော်ခြင်းအစီအစဉ်ကို ဖျက်သိမ်းသည်။ သို့ရာတွင် အမတ်ကြီးကြား၍ မင်းအား လှည့်ဖြားတိုက်တွန်းပြန်သော် မင်းလည်း ယဇ် အစီအစဉ်ကို ပြုမြဲ ပြုပြန်သည်။ အမတ်ကြီးလည်း အခွင့်သင့်ခိုက် မင်းသားတို့အား သတ်ဖြတ်ရန်စီစဉ်လေသည်။ ဤတွင် တနန်းတော်လုံး ပူပန်ငိုကြွေးကြသည်။ ပြည်အလုံးလည်း ပြည်သူပြည်သားတို့၏ငိုကြွေးသံများဖြင့် ပွဲတင်ထပ်လေသည်။

နောက်ဆုံးတွင် မင်းသား၏မယ်တော် ဂေါတမီ မိဖုရားသည် သစ္စာသာလျှင် ကိုးကွယ်ရာရှိတော့သည်ဟု အောက်မေ့၍ သစ္စာအဓိဋ္ဌာန်ပြုသည်။ ထိုအခါ သိကြားမင်းသည် မနေသာဘဲ၊ သံလှံတံကိုစွဲ၍ မင်းကြီးထံသို့ လာရောက်ကာ ပြစ်တင်မောင်းမဲသည်။

မင်းလည်းကြောက်ရွံ့၍ မင်းသားတို့ကိုလွှတ်သည်။ ပြည်သူအများလည်း အမတ်ကြီးကို ခဲ၊ အုတ်တို့ဖြင့်ပေါက်သဖြင့် အမတ်ကြီးသေသည်။ မင်းကြီးကိုလည်း သတ်ကြမည်ပြုရာ သားတော်ကတောင်းပန်သဖြင့် မသတ်ဘဲ၊ ဒွန်းစဏ္ဍားအဖြစ် အဝတ်နွမ်းတို့ကို ပေးလျက်နှင်ထုတ်သည်။ စန္ဒကုမာရမင်းသားလည်း ထီးနန်းကိုရရှိသည်။

ဇာတ်ပေါင်းသော် ဂေါတမ မြတ်စွာဘုရား၏ လက်ထက်တွင် ခဏ္ဍဟာလပုဏ္ဏားသည် ဒေဝဒတ်၊ စန္ဒကုမာရမင်းသားသည် မြတ်စွာဘုရား၊ မယ်တော်ဂေါတမီ မိဖုရားသည် မယ်တော်၊ မင်းသား၏မိဖုရား စန္ဒဒေဝီကား ယသောဓရာ၊ စန္ဒကုမာရမင်းသား၏သား ဝသုလကား ရာဟုလာ၊ ညီတော်ဝါမဂေါတ္တကား ရှင်မဟာကဿပမထေရ်၊ ဘဒ္ဒသေနညီတော်ကား လက်ဝဲရံရှင်မောဂ္ဂလာန်၊ ညီတော်သူရိယကုမာရကား လက်ျာရံ ရှင်သာရိပုတ္တရာ အသီးသီးဖြစ်လာသည်။

**စန္ဒကူး။** ။စန္ဒကူးသည် အလွန် မွှေးကြိုင်၍၊ အဖိုးတန်သောသစ်မျိုးဖြစ်သည်။ အိန္ဒိယနိုင်ငံ တောင်ပိုင်း၊ အရှေ့အိန္ဒိယကျွန်းစု၊ သီဟိုဠ်ကျွန်း၊ ဖိလစ်ပိုင်ကျွန်းစုနှင့် ဩစတြေးလီးယားနိုင်ငံများမှထွက်သည်။

စန္ဒကူးနှစ်မှာ လေးလံ၍၊ ရေတွင်ချသော် မပေါ်ဘဲ နစ်သည်။ အနှစ်မှာ လိမ်မော်ရောင်သော်ငှင်း၊ အဝါညိုရောင်သော်ငှင်း ရှိသည်။ အဆီရှိ၍ ထိုအဆီကို ထုတ်ယူသော် စန္ဒကူးဆီကိုရရှိနိုင်သည်။ စန္ဒကူးကို အိန္ဒိယတိုင်းသားများနှင့် တရုပ်လူမျိုးတို့က ပိုမိုနှစ်သက်ကြသည်။ စန္ဒကူးသားကို ရုပ်တုဆင်းတုထုလုပ်ခြင်း၊ သေတ္တာ၊ ယပ်တောင်၊ အမွှေးတိုင်များပြုလုပ်ခြင်းတို့တွင်အသုံးပြုသည်။ ကြုတ်၊ တောင်ဝှေး၊ ဘီးစသည်တို့ကိုလည်း စန္ဒကူးဖြင့်ပြုလုပ်ကြသည်။ သိုးမွေးများကို ဆေးဆိုးရာတွင် စန္ဒကူးသားကို အဓိကအားဖြင့် အသုံးပြုကြသည်။ စန္ဒကူးဆီကို ရေမွှေးအဖြစ်ငှင်း၊ ဆေးဝါးအဖြစ်ငှင်း အသုံးပြုနိုင်သည်။

စန္ဒကူးကို သစ်ပင်တမျိုးတည်းသာမဟုတ်ဘဲ၊ သစ်ပင်အမျိုးများစွာမှ ထုတ်ယူနိုင်သည်။ အများအားဖြင့် ‘ဆန်တာလမ်း အဲလဗမ်’ ခေါ် သစ်ပင်မျိုးမှ ထုတ်ယူရရှိသည်။ ထိုသစ်ပင်မှာ အနှစ် ၂၀ ရှည်ကြာလျှင် အနှစ်ရနိုင်သည်။ ပင်စည်အချင်း တပေခန့်အထိကြီးသည်။ စန္ဒကူးပင်ကိုခုတ်လှဲပြီးနောက်၊ အကာသားများကို ခြစားခံထားတတ်သည်။ အနှစ်ကိုကား ခြမစားနိုင်ချေ။ အကာများ ဆွေးပွဲကုန်မှ အနှစ်ကိုယူလေ့ရှိသည်။ စန္ဒကူးအမြစ်မှာပို၍မွှေးကြိုင်သည်။

စန္ဒကူးအနီမျိုးလည်းရှိသည်။ နေရောင်ခံထားလျှင် ကြာသော် ဝါညစ်ညစ်ဖြစ်သွားတတ်သည်။ ဟိန္ဒူဆေးကျမ်းများအလိုအရ ဖန်သောအရသာရှိ၍ ခွန်အားကို ဖြစ်စေတတ်သည်ဟုဆိုသည်။

မြတ်စွာဘုရားသည် ဆင္ဂဝါကိုရာဇဂြိုဟ်ပြည်၌ကပ်တော်မူစဉ်၊ ရာဇဂြိုဟ်သဌေးသည် ဟိမဝန္တာမှ မျောပါလာသော စန္ဒကူးတို့ကို သပိတ် ပြုလုပ်၍ ဈာန်ပျံနိုင်သော အရှင်တို့ကောင်းကင်ခရီးဖြင့်ဆောင်ယူရန်ပေးလှူထားရာ၊ ဒိဋ္ဌိဆရာတို့မယူနိုင်ဘဲ၊ ရှင်ပိဏ္ဍောလ သာလျှင်ရယူနိုင်ကြောင်းဖြင့် ကျမ်းဂန်၌ဆိုသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုသောအခါ၊ အလောင်းတော်ကို စန္ဒကူးထင်းတို့ဖြင့် မီးပူဇော်ကြောင်းဖြင့်လည်း ကျမ်းဂန်၌ဆိုသည်။ စန္ဒကူးမျိုးတွင် ဂေါသီတစန္ဒကူးမှာ ဆီပူတွင်ထည့်သော်ကြွက်ကြွက်ဆူသောဆီပင်လျှင် အေးငြိမ်းရသည်ဟုဆိုသည်။ ရှေးမြန်မာကျောက်စာများတွင် စန္ဒကူးကို တန်စိကူဟူ၍ရေးသားသည်။

အောက်မြန်မာနိုင်ငံ၌ စိုက်ပျိုးသော စန္ဒကူးပင်သည် အရွယ် သင့်ရုံမျှသာ ကြီးသည်။ မြန်မာနိုင်ငံမှ ထွက်သော စန္ဒကူးများသည် ထုတ်ကုန်အဖြစ်ဖြင့် ရောင်းချနိုင်လောက်အောင်မမြောက်မြားချေ။

**စန္ဒရား။** ။ယခုခေတ် ကမ္ဘာ့နိုင်ငံအသီးသီးရှိ ဂီတ တူရိယာများတွင် စန္ဒရားသည် လူကြိုက်အများဆုံးနှင့် အရေးအပါဆုံးသော ကြိုးတူရိယာတခုဖြစ်ပေသည်။ ကြိုးတပ်တူရိယာဟုပင်ဆိုရသော်လည်း၊ စန္ဒရားမှာ အခြားသော ကြိုးတူရိယာများကဲ့သို့ မဟုတ်ဘဲ၊ ခလုတ်နှိပ်ယန္တရားတပ်ဆင်၍ တီးရသောကြောင့် လက်ချောင်း တချောင်းလျှင် အသံတသံနှိပ်နိုင်လေရာ၊ လက်ဆယ်ချောင်းဖြင့် ဆယ်သံပြိုင်အထိ တကြိမ်တည်းတီးနိုင်သော တူရိယာဖြစ်သည်။ ပတ္တလား၊ စောင်း၊ ဒိုမင်းစသည့် အသံစဉ် တူရိယာများမှာ စန္ဒရားအသံစဉ်နှင့် တူကြသော်လည်း၊ လက်တဖက်မှ တကြိမ်လျှင်တသံသာ တီးခတ်နိုင်သောကြောင့် စန္ဒရားကဲ့သို့ သံပြိုင်တွဲများ ပြားကျယ်ဝန်းစွာ မရချေ။ စန္ဒရားမှာ အသံပြိုင် အသံတွဲများ ပြားကျယ်ဝန်းရုံမက အသံပြောင်း အသံလွှဲများတွင် အကူးအပြောင်း လွယ်ကူလျင်မြန်လှ၍၊ အခြားသော ကြိုးတူရိယာနှင့် တီးခတ်တူရိယာများ စုပေါင်းတီးခတ်သောအသံစုံကိုတီးနိုင်သော တူရိယာဖြစ်ပေသည်။



လက်ဆယ်ချောင်းသုံး၍စန္ဒရားတီးနေပုံ

အနောက်တိုင်းဂီတသမိုင်းကို လိုက်စား လေ့လာသူတို့၏ အဆိုအားဖြင့် စန္ဒရားသည် ရှေးခေတ် ပါးရှင်းလူမျိုးတို့၏ မူရင်းဖြစ်သော 'ဒါးလဆီမာ' ခေါ် ကြိုးတပ်တူရိယာတမျိုးမှ တဖြည်းဖြည်းတိုးတက်ကောင်းမွန်လာသော တူရိယာဖြစ်သည်။ ဒါးလဆီမာ တူရိယာသည် ရှေးနှစ်ပေါင်းများစွာအခါကပင် အရှေ့တိုင်း ပါးရှားပြည်၌ ရှိခဲ့သော တူရိယာတခုဖြစ်၍၊ ၁၁ ရာစုနှစ်နှင့် ၁၃ ရာစုနှစ်အတွင်း ကရူးဆိတ်စစ်သည်တော်များနှင့်အတူ ဥရောပတိုက်သို့ရောက်ရှိလာဟန်တူ၏။ ရှေးအကျဆုံး ဒါးလဆီမာမှာ ကြိုးဆယ်ချောင်းတပ် လက်ခတ်နှစ်ခုနှင့် တီးရသောတူရိယာဖြစ်၏။ ဥရောပတိုက်တွင် အလယ်ခေတ်ဆီက အသုံးအများဆုံးဖြစ်ခဲ့၍၊ တိုးတက်ကောင်းမွန်အောင်လည်း ပြုပြင်တီထွင်လာကြသည်။ ထိုခေတ်ကပင် ဒါးလဆီမာကို လက်ခတ်နှင့်မတီးဘဲ၊ လက်နှိပ်ခလုတ်များဖြင့် တီးသော စံနစ်ကို တီထွင်ခဲ့ကြပြီးနောက်၊ ခလုတ်တခုအတွက် ကြိုး ၂ ပင်မှ ၅ ပင်အထိ တပ်ဆင်ခဲ့ကြလေသည်။

ဤသို့ တဖြည်းဖြည်း တိုးတက်ကောင်းမွန်အောင်ပြုပြင်လာခဲ့ကြရာ၊ ၁၅ ရာစုနှစ်ဆီတွင် ယခုခေတ်စန္ဒရားများ၏အစဖြစ်သော 'ကလာဗီခေါ့' ခေါ် လေးထောင့်ရှည်သေတ္တာပုံ လက်နှိပ်ခလုတ်ဖြင့်တီးရသော ကြိုးတူရိယာမျိုးပေါ်ပေါက်လာခဲ့သည်။ ကလာဗီခေါ့မှာ လေးထောင့်ရှည်သေတ္တာပုံတွင် အလျားလိုက် ကြိုးများပြိုင်တန်းလျက်ညှိကာ ထိုကြိုးများကို လက်နှိပ်ခလုတ်နှင့် ဆက်လျက်ရှိသော မောင်းတံဖြင့် ရိုက်ခတ်အသံထွက်စေသော တူရိယာဖြစ်၏။ အသံမြည်အောင် တီးခတ်ရန်အတွက် လက်နှိပ်ခလုတ်များသာမက လိုသော အသံအနိမ့်အမြင့်ကို ဖိပေးသောမောင်းတံများလည်း စန္ဒရား၌တပ်ဆင်ထားသည်။ ခလုတ်တန်းမှာ ယခုခေတ် စန္ဒရားများတွင် တွေ့မြင်ရသော ခလုတ်တန်းကဲ့သို့ပင် အဖြူနှင့် အနက်ခလုတ်များ ထားပုံအစီအစဉ်တူသော်လည်း၊ အသံစဉ်ထားပုံမှာ ခြားနားသည်။

ကလာဗီခေါ့မှာ သေတ္တာရှည်ခပ်ပြားပြားကဲ့သို့ ဖြစ်၍ ကြမ်းပေါ်တွင်ချ၍ဖြစ်စေ၊ စားပွဲပေါ်တွင်တင်၍ဖြစ်စေ တီးနိုင်သည်။ ၁၆ ရာစုနှစ်ဖက်သို့ရောက်သောအခါ၊ ကလာဗီခေါ့တူရိယာများကို အများအပြားသုံးလျက်ပင် ရှိသော်လည်း၊ အလားတူ အခြားတူရိယာတမျိုးပေါ်ပေါက်လာပြန်သည်။ ထိုတူရိယာမှာ ကလာဗီခေါ့ ကဲ့သို့ပင်ဖြစ်၍၊ အောက်မှ ခြေထောက်များတပ်ဆင်ထားသည်။ ခလုတ်တန်းမှာလည်း ကလာဗီခေါ့အတိုင်းပင်ဖြစ်၏။ သို့ရာတွင် ခလုတ်နှင့်မောင်းတံ အစီအရင်တွင် မတူသောကြောင့် အသံတွင်လည်း မသိမသာကွဲပြားမှုရှိသည်။ မောင်းတံတွင် ငှက်တောင်ကလေးများတပ်ဆင်၍၊ ခလုတ်မှနှိပ်လိုက်သောအခါ ထိုငှက်တောင်က ကြိုးကိုခတ်မိပြီး အသံမြည်စေရန် စီမံထားသည်။ ဤတူရိယာများကို အင်္ဂလန်ပြည်တွင် မိန်းမပျိုက

လေးများအသုံးများသဖြင့် 'ဗါဂျင်နယ်' ဟူသောအမည်ဖြင့် ခေါ်တွင်လေသည်။

ဤဗါဂျင်နယ် စန္ဒရားများမှတဆင့် ပုံစံအမျိုးမျိုး၊ ခလုတ်မောင်းစံနစ်အမျိုးမျိုးကြံဆပြုပြင်၍တီးခဲ့ကြရာ၊ ၁၇ ရာစုနှစ် အစဆီတွင် အင်္ဂလန်ပြည်၌ ပေါ်ပေါက်ခဲ့သော 'စပင်းနက်' စန္ဒရားမျိုးမှာ အသုံးများသော တူရိယာဖြစ်လာသည်။ ဗာဂျင်နယ်နှင့် စပင်းနက်တို့မှာ ကလာဗီခေါ့၏စံနစ်ကို အခြေခံ၍ တပ် ဆင် ရ သော် လည်း၊ ကြိုးနှင့်မောင်းတံချိန်ပုံ၊ အသံကိုထိန်း၍ထားပုံတို့မှာ ကလာဗီခေါ့ ထက်ကောင်းမွန်သည်။ ကြိုးများကို လိုရာအသံညှိရာတွင်လည်း ကလာဗီခေါ့ကဲ့သို့ ခလုတ်နှင့်ဖိ၍ပေးရန်မလိုဘဲ၊ အသံစဉ်အလိုက် ညှိအပ်သော ကြိုး ကို အတိုအရှည် အစဉ်လိုက်ထား၍ တပ်ဆင်သည်။ စပင်းနက်မှာ စောင်းကဲ့သို့ သုံးထောင့်သဏ္ဌာန် စားပွဲပုံ ဖြစ်၍၊ ယခုခေတ်တွင် တွေ့ မြင် ရ သော 'ဂရင်း' ခေါ် စားပွဲစန္ဒရားကြီးများကဲ့သို့ပင်ဖြစ်၏။

ဗာဂျင်နယ်၊ စပင်းနက်တို့နှင့် တခေတ်တည်းပေါ်ပေါက်ခဲ့သော စန္ဒရားတမျိုးမှာ 'ဟာ့ပဆီခေါ့' ခေါ် စားပွဲစန္ဒရားကြီးတမျိုးပင်ဖြစ်သည်။ ဟာ့ပဆီခေါ့တွင် ခလုတ်မောင်းတံနှင့်အသံမြည်စေသော စံနစ်မှာ ငှက်တောင်များဖြင့် ကြိုးကိုပွတ်ခတ်သော စံနစ်ပင်ဖြစ်သော်လည်း၊ ပမာဏကြီးခြင်း၊ ခလုတ်တန်း ၂ တန်းအထိထားရှိခြင်းတို့ကြောင့် အသံမြိုင်သည်။

ကလာဗီခေါ့၊ ဗာဂျင်နယ်၊ စပင်းနက်နှင့်ဟာ့ပဆီခေါ့တူရိယာများကို ၁၇ ရာစုနှစ် အကုန်အထိ ဥရောပတိုက်နိုင်ငံ အနှံ့အပြားတွင် နှစ်သက်စွာသုံးစွဲခဲ့ကြရာ၊ အဆိုပါ တူရိယာများဖြင့် ဥရောပတိုက် ဂီတသမိုင်းတွင် ထင်ရှားသော ဂီတပညာရှင်ကြီးများဖြစ်သည့် ဗါခ်၊ ဟန်းဒယ်၊ မိုးဇတ်၊ ဟိုင်းဒင် အစရှိသူများထွန်းကားခဲ့ကြသည်။ ဤသို့ ဂီတပညာရှင်များ ထွန်း ကား လျက် ရှိသည် နှင့် အမျှ ဂီတတူရိယာလုပ်သူများကလည်း မနေမနား အားထုတ်လုပ်ကိုင်တီထွင်ကြရာ၊ ၁၇၀၉ ခုနှစ်ခန့်တွင် ဣတာလျံလူမျိုး ဟာ့ပဆီခေါ့ ပြင်သူခရိစတော့ဖိုရိသည် တိုးတက်ကောင်းမွန်သောစံနစ်သစ်ဖြင့် အသံကျယ်၍ ညက်ညောသော 'ပီယာနိုဖိုတီ' ခေါ် စန္ဒရားတမျိုးကိုပြုလုပ်ခဲ့လေသည်။ ဣတာလျံဘာသာ 'ပီယာနိုဖိုတီ' မှ 'ပီယာနို' ဟူသောအခေါ်ဖြစ်ပေါ်လာသည်။

ပီယာနိုဖိုတီ သို့မဟုတ် ပီယာနိုများမှာ ကြိုးတပ်ဆင်ပုံ၊ ခလုတ်တန်းထားပုံတို့၌ ရှေးစန္ဒရားများနှင့် တူသော်လည်း၊ မောင်းတံဖြင့်ကြိုးကို ရိုက်ခတ်ပုံစံနစ်မှာ မတူချေ။ ခရိစတော့ဖိုရိ၏စံနစ်မှာ ခလုတ်နှင့်မောင်း တဆက်တည်းမဟုတ်ဘဲ၊ နှိပ်လိုက်သောအခါမှထိစေရန်ချိန်၍၊ အလွတ်ထားကာ မောင်းတံထိပ်တွင် သက္ကလတ်စ တူကလေးများဖြင့် ကြိုးကိုတီးခေါက်အသံထွက်စေရန်စီမံသည်။ ခလုတ်ကို နှိပ်လိုက်သောအခါ၊ မောင်းတံကိုပင့်တင်ပေးပြီးလျှင် မြောက်တက်သွားသော မောင်းတံ၏အဖျားရှိ သက္ကလတ်စ တူကလေးက ကြိုးကိုခေါက်သည်။ ထိုသို့စီမံထားရုံမက ကြိုးကို တီးခေါက်ရာတွင် ကောင်းမွန်မှန်ကန်သောအသံကို ရရှိစေရန် မောင်းတံကိုထိန်းသည့် အစီအမံများလည်း တပ်ဆင်ထားသည်။

ခရိစတော့ဖိုရိတွင် တပည့်များရှိသော်လည်း၊ သူ၏လုပ်ငန်းကို အပွဲနှင့် မလုပ်ကိုင်ခဲ့သောကြောင့် ၁၇၃၁ ခုနှစ်တွင် သူကွယ်လွန်သောအခါ သူ၏တပည့်များသည် ဤလုပ်ငန်းကိုဆက်လက်၍ မလုပ်ကိုင်နိုင်ကြတော့ချေ။ မည်သို့ပင်ဖြစ်စေ၊ ဂျာမနီပြည်မှ ဩဂင်နှင့်စန္ဒရား (ကလာဗီခေါ့၊ဟာ့ပဆီခေါ့) များလုပ်သူ ဂေါ့ဖရိုက် ဆီးလဗားမန်း ဆိုသူသည် ခရိစတော့ဖိုရိ၏ ပီယာနိုဖိုတီမျိုးကို ဆက်လက် လုပ်ကိုင် နိုင်ခဲ့လေသည်။ ခရိစတော့ဖိုရိ မကွယ်လွန်မီက စန္ဒရားများကို အထူး ကောင်းမွန်အောင် ပြုပြင် လုပ်ကိုင်ခဲ့ကြသူများတွင် ရှရိုးတားအမည်ရှိ ဂျာမနီပြည်သား တဦးသည်လည်း ထင်ရှားခဲ့သည်။ ဆီးလဗားမန်းသည် ရှရိုးတား၏ပုံစံကို အခြေပြုသည်ဟုလည်း အချို့ကယူဆကြသည်။ မည်သို့ပင်ဖြစ်စေ၊ ဆီးလဗားမန်း၏ စန္ဒရား များသည် ခရိစတော့ဖိုရိ၏ စန္ဒရားများနှင့် တစံနစ်တည်းဖြစ်လာသည်။ ထိုနောက်တွင် ဂျာမနီပြည်သား ဖရက်ဒရိဆီသည် လေးထောင့်စားပွဲပုံ စန္ဒရားကြီးများကို ထွင်၍လုပ်ကိုင်ခဲ့ပြန်သည်။ ထိုလေးထောင့်စားပွဲစန္ဒရားကြီးများသည် နောက်ထပ်ဆက်လက်၍မပေါ်ပေါက်ခဲ့သော်လည်း၊ ထိုစံနစ်ကိုယူ၍၊ ဗရပ်ဆဲမြို့မှ ဗစ်တာမာအီယွန်းသည် ၁၇၄၅ ခုနှစ်တွင် ထောင်လိုက်စန္ဒရားများကိုလုပ်ကိုင်ခဲ့ရာ၊ ထိုစန္ဒရားသည် 'ဖရက်ဒရိဆီ၏ ထောင်လိုက်စန္ဒရား' ဟုတွင်သည်။

ထိုအခါမှစ၍ ပြားလိုက်ဖြစ်သော ခရိစတော့ဖိုရိ၏ စန္ဒရားမျိုး၊ ဖရက်ဒရိဆီ၏ လေးထောင့်စားပွဲစန္ဒရားမျိုးနှင့် မတ်တတ် (ထောင်လိုက်) စန္ဒရားမျိုးဟူ၍ သုံးမျိုးသုံးစားရှိခဲ့သည်။ ပဌမအမျိုးဖြစ်သော ပြားလိုက်စန္ဒရားမျိုးကို ဂရင်းဟုခေါ်တွင်သည်။ လေးထောင့် စားပွဲ စန္ဒရားမျိုး ကားယခုအခါမသုံးစွဲကြတော့သလောက်ပင် တိမ်မြုပ်သွားပြီဖြစ်၍၊ မတ်တတ်စန္ဒရားများကိုကား အများအပြားပင် သုံးစွဲလျက်ရှိပေသည်။

ဤသို့လျှင် အပြည်ပြည်မှ ဂီတပညာရှင်များနှင့် ဂီတတူရိယာ ပါရဂူများသည် တစထက် တစ တိုးတက်ကောင်းမွန်အောင် ပြုပြင် လုပ် ကိုင် ၍လာ ခဲ့ကြရာ၊ ယခုအခါ အလွန်ကောင်းမွန်သော ဂရင်း သို့မဟုတ် မတ်တတ်စန္ဒရားကြီးများသည် ကမ္ဘာတဝှန်းလုံးရှိ ဂီတလောကတွင် ခေတ်စား တွင်ကျယ်လျက်ရှိလေသည်။

အထက်၌ ဖော်ပြခဲ့သည့်အတိုင်း ဥရောပတိုက်မှ ပီယာနိုဖိုတီများဖြစ်လာပုံ အဆင့်ဆင့်သမိုင်းစဉ်ကို အမြွက်မျှသိမ့်

ကြရပြီဖြစ်သော်လည်း၊ ထိုပီယာနိုဖိုတီသည် မည်သည့်အခါက မြန်မာပြည်သို့ ရောက်ရှိလာ၍၊ မည်သည့်ကို အစွဲပြုကာ စန္ဒရား ဟူသော မြန်မာ ဝေါဟာရဖြင့် ခေါ်တွင်ခဲ့သည်ကို လေ့လာရန်လိုအပ်ပေသေးသည်။

မြန်မာနိုင်ငံ၌ စန္ဒရားဟူသောဝေါဟာရကိုသုံးခဲ့သော အစောဆုံးကာလကိုရှာသည်ရှိသော်၊ ပုဂံဝန်ထောက် ဦးတင်ရေးသောကဗျာဗန္ဓသာရကျမ်း၌ 'သဘင်သည် ၃၇ ရပ်' ကျောက်စာများတွင်ပါပုံကိုဖော်ပြရာတွင် '၅၉၇ ခုနှစ်စွဲပါသော၊ မင်းဆရာပီတရစ်ကျောက်စာတွင် စန္ဒရားသည်ဟူ၍၎င်း၊ သီခြင်သည် (သီချင်းသည်) ဟူ၍၎င်း၊ စည်သည်ဟူ၍၎င်း၊ ရေးသားပါရှိသည်' ဟူ၍ဖော်ပြထားသည်ကိုတွေ့ရ၏။ ထိုကြောင့် စန္ဒရားမှာ ပုဂံခေတ်လောက်ကပင် ရှိနေသည်ဟုဆိုရပေမည်။ သို့သော် ထိုအချက်ကို ခိုင်လုံစေမည့် အခြားအထောက်အထားများကိုမူ မတွေ့ရချေ။ ထို့ပြင် ထိုကဗျာဗန္ဓသာရကျမ်းအရ (၁) စည်မျိုး ၁၃ ပါး (၂) ကြေးမျိုး ၁၀ ပါး (၃) တံပိုးမျိုး ၈ ပါး (၄) အငြိမ့်မျိုး ၆ ပါးဟူ၍ ရကင် ၃၇ ချင်း (ဝါ) တူရိယာ ၃၇ ချင်းရှိရာတွင် မြန်မာသက္ကရာဇ် ၁၀၇၆–၁၀၉၅ ခုနှစ်အတွင်း အင်းဝဘုရင် တနင်္ဂနွေမင်းတရားကြီးလက်ထက် စီရင်ရေးသားသော ဦးကုလား၏ မဟာရာဇဝင်ကြီးတွင် 'အငြိမ့်မျိုး ၆ ပါးဟူသည်ကား၊ စောင်းလည်းတပါး၊ ငြင်းလည်းတပါး၊ မိကျောင်းလည်းတပါး၊ အောင်းကလေးလည်းတပါး၊ စန္ဒရားလည်းတပါး၊ တရောလည်းတပါး၊ ဤခြောက်ပါးတည်း' ဟူ၍ ဖော်ပြထား၏။ စန္ဒရားကို အစောဆုံးဖော်ပြထားသည့်အထောက်အထားဖြစ်ပေသည်။ သို့သော် ဦးကုလားရာဇဝင်ကိုအခြေခံပြု၍ ချဲ့ထွင်ရေးသားအပ်သော မှန်နန်းရာဇဝင်တော်ကြီး၌မူ၊ စန္ဒရား၏နေရာတွင် ပတ္တလားကိုထည့်သွင်းဖော်ပြထားသည်ကိုတွေ့ရလေသည်။ ထို့ပြင် မဃဒေဝလင်္ကာသစ်၌လည်း 'စောင်းငြင်း မိကျောင်း၊ အောင်း ပတ္တလား၊ တရောအားဖြင့် ခြောက်ပါးငြိမ့်မျိုး' ဟူ၍ အငြိမ့်မျိုးခြောက်ပါးတွင် စန္ဒရားနေရာ၌ ပတ္တလားကိုထည့်သွင်းစပ်ဆိုထားသည်ကိုတွေ့ရ၏။ သို့ရာတွင် မြန်မာသက္ကရာဇ် ၁၁၆၀ ပြည့်နှစ်တွင်စပ်ဆိုသော တွင်းသင်းမင်းကြီး၏ ဝေဿန္တရာပျို့၌ သားတော်ဝေဿန္တရာမင်းသားကိုပြန်လည်ခေါ်ဆောင်ရန်အတွက် စေတုတ္တရာပြည်မှ ဝင်္ကပါတောင်သို့ဆိုက်အောင် ပွဲလမ်းသဘင်များစီရင်စေခန်းတွင် 'စောင်းငြင်းမိကျောင်း၊ အောင်းကလေးကျော်၊ သံငေါ်လက်ခုပ်၊ စည်းဆုပ်ပတ္တလား၊ စန္ဒရားတို့၊ ထွေပြားရေးရာ၊ တေးတျာအေးမြက်၊ ငြိမ်သက် သီးသီး၊ နား မငြီးအောင်၊ မှုတ် တီးလိုက်လား၊ အငြိမ့်သားသည်၊ သံထားညင်းညင်းပွန်စေတုံ' ဟူ၍ အငြိမ့်သားတို့တီးမှုတ်ရမည့်တူရိယာတွင် ပတ္တလားနှင့် စန္ဒရားနှစ်မျိုးလုံးကို ထည့်သွင်းရေးစပ်ဖော်ပြထားသည်ကို တွေ့ရပြန်သည်။ ယင်းသို့သော တွေ့ရှိရချက်တို့ကြောင့် မြန်မာနိုင်ငံတွင် ရှေးအခါကပင် စန္ဒရားဟုခေါ်သောတူရိယာတမျိုးရှိခဲ့ပေမည်ဟုယူဆရ၏။ သို့သော် ထိုခေတ်က စန္ဒရားခေါ်သော တူရိယာ၏ပုံသဏ္ဌာန်ကို အတိအကျမသိရပေ။ ထိုစန္ဒရားခေါ်သော တူရိယာသည် ယခုခေတ်တွင် စန္ဒရားဟူ၍ခေါ်နေကြသော ပီယာနိုမျိုး ဖြစ်ချင်မှ ဖြစ်ပေမည်။ ယခုခေတ်စန္ဒရားခေါ်နေကြသည့် ပီယာနိုများမှာ သိုးဆောင်းသံစဉ်ဖြင့်ပြုလုပ်ထားသောတူရိယာကို မြန်မာသံစဉ်ရရန် အထူးပြုပြင်ညှိယူ၍ထားသောတူရိယာများဖြစ်သည်။ ပီယာနိုဖိုတီတူရိယာသည် မြန်မာပြည်သို့ ခရစ် ၁၈၇၂ ခုနှစ်၊ မင်းတုန်းမင်းတရားလက်ထက်က ဣတာလျံ သံများ လက်ဆောင်ပဏ္ဏာအဖြစ်ယူဆောင်လာ၍ ရှေးဦးစွာရောက်ရှိလာသည်ဟုဆိုသည်။ ထိုအခါက နန်းတွင်းဂီတပညာသည်များမှ ပတ္တလားဆရာ ဆရာညွန့်သည် ပီယာနိုဖိုတီ၏ အသံစဉ်သဘောကို စမ်းသပ်လေ့လာပြီးလျှင်၊ ပတ္တလားလက်ကွက်အတိုင်းညှိကာ မြန်မာသီချင်းတီး၍ ရွှေနားတော်သွင်းခဲ့သည်ဟုသိရပေသည်။ မည်သို့ပင်ဖြစ်စေ၊ မြန်မာပြည်နှင့်ဥရောပတိုက် အဆက်အသွယ်များလာသောနောက်ခေတ်တွင် စန္ဒရားများကို ငွေကြေးတတ်နိုင်သူ မြန်မာဂီတပညာရှင်တို့လည်း ဝယ်ယူ သုံးစွဲလာခဲ့ကြရာ၊ ထိုတူရိယာ၏ သဘောအမှန်ကိုတွေ့ရှိလာကြသဖြင့် စန္ဒရားတီး၍ ကျော်ကြားသူများပင် ပေါ်ပေါက်လာခဲ့ပေသည်။ မြန်မာလူမျိုးထဲမှ ရှေးဦးစွာစန္ဒရားဝယ်၍တီးခဲ့သူမှာ ဦးမောင်ဆိုသူဖြစ်၍၊ ထိုနောက်တွင် စန္ဒရားဆရာမောင်၊ စန္ဒရားဘအုံး၊ စန္ဒရားမမကြီး၊ စန္ဒရားချဲပီယန် မောင်ကျော်စသည်ဖြင့် ထင်ရှားသူများသည် တခေတ်ပြီး တခေတ်ပေါ် ထွက်လာခဲ့ကြသည်။

**စန္ဒိမာ၊ ဦး၊ မဟာအောင်မြေဘုံစံဆရာတော်။**

မဟာအောင်မြေဘုံစံဆရာတော် ဦးစန္ဒိမာသည် ဓမ္မပဒဝတ္ထုတော်ကြီးကို မြန်မာဘာသာဖြင့် ပြန်ဆိုတော်မူသောပုဂ္ဂိုလ်ဖြစ်၍၊ များစွာထင်ရှားသည်။ (ဓမ္မပဒဝတ္ထုတော် — ရှု။) ထိုပုဂ္ဂိုလ်သည် သက္ကရာဇ် ၁၂၃၆ ခုနှစ် တန်ဆောင်မုန်းလပြည့်ကျော် ၈ ရက် အင်္ဂါနေ့တွင် မြန်အောင်မြို့၊ မြို့မရပ်၊ ရွှေဘုံသာကုန်း၌ ဖခင်ဦးကြီး၊ မိခင်ဒေါ်ဆိုင်းတို့မှ ဖွားမြင်ရာ မွေးချင်းပေါက်ဖော်အားလုံး ၁၀ ယောက်ရှိသည့်အနက် ဆရာတော်မှာ ရှစ်ယောက်မြောက်ဖြစ်သည်။ ဆရာတော်၏ ငယ်မည်မှာ မောင်ညိုထွား ဟူ၍ ဖြစ်သည်။ ၆ နှစ်သားအရွယ်တွင် မြန်အောင်မြို့ သင်္ဂဇာကျောင်း ဆရာတော် သီရိသဒ္ဓမ္မပါလထံတွင်အပ်နှံပညာသင်ကြား၍၊ ၁၃နှစ်သားအရွယ်တွင် ယင်းဆရာတော်ထံ၌ပင် ရှင်သာမဏေပြုသည်။ ရှင်စန္ဒိမာဟု ဘွဲ့အမည်ရသည်။ ၁၂၅၅ ခုနှစ် တပို့တွဲလဆန်း ၅ ရက်သောကြာနေ့တွင် ဆရာတော် သီရိ

သဒ္ဒမ္မပါလကိုပင် ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်သို့ရောက်ရာ၊ သာမဏေဘွဲ့အတိုင်း ဦးစန္ဒိမာဟူ၍ပင်တွင်သည်။ ရဟန်း ဒကာမျာ းကား၊ သာယာဝတီ၊ တာပွန်မြို့၊ အမိန့်တော်ရ ဦးရွှေသဲ၊ ဒေါ်နုတို့ဖြစ်သည်။

ရဟန်းဖြစ်၍တနှစ်ခန့်အကြာတွင် မန္တလေးမြို့ မြတောင် ကျောင်းတိုက်၌ စာပေသင်ကြားနေထိုင်သည်။ ၁၂၅၇ ခု တွင် ရန်ကုန်မြို့သို့ကြွလာပြီးလျှင်၊ အရွှေတောရမြန်အောင် ကျောင်းတိုက်၌ သီတင်းသုံးသည်။ ထိုအခါက ဘုရား ရင်ပြင်ပေါ် ဖိနပ်စီးကောင်း၊ မစီးကောင်း ဟူသော ဝိဝါဒ ပေါ်လာသဖြင့်၊ လေးဝါမျှသာ ရသေးသော ရဟန်းတော် ဦးစန္ဒိမာသည် မစီးကောင်းသည့်ဖက်က သတ္တုဂါရဝ စာ တမ်းကိုရေးသားသည်။ ယင်းစာတမ်းကို ရေးသားသဖြင့် မန်လည်ဆရာတော်ဘုရား၏ ချီးကျူးခြင်းကိုခံရသည်။ ဤ အတွက်ကြောင့်လည်း ဦးစန္ဒိမာသည် ထင်ရှားကျော်ကြား လာသည်။ ထိုနောက်၌ကား ၁၂၆၀ ပြည့်နှစ်တွင် ငါးထပ် ကြီးဆရာတော်ထံပါး၌၎င်း၊ ၁၂၆၄ ခုနှစ်တွင် သိမ်ဖြူ လိပ် ပြာကန်ကျောင်း၌၎င်း၊ စာပေပို့ချခဲ့သည်။ မိမိကိုယ်တိုင် လည်း ဗဂ်လားဆရာတော်ကြီးထံတွင် သက္ကဋဘာသာများ ကိုသင်ကြားဆည်းပူးခဲ့သည်။

၁၂၆၇ ခုနှစ်၊ နတ်တော်လအတွင်း တန်ဆောင်းအမကြီး ဒေါ်ဖွားနှင့်တကွ ငွေစာရင်းမင်းကြီးကတော် ဒေါ်မြမေ တို့၏ပင့်လျှောက်တောင်းပန်ချက်အရ မဟာအောင်မြေဘုံ စံကျောင်းတိုက်ကြီးကို ဦးစီးအုပ်ချုပ်၍ ကျောင်းထိုင်တော် မူသည်။ ၁၂၈၇ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတဘွဲ့ရတော်မူ သည်။ ၁၂၉၇ ခုနှစ်၊ တော်သလင်းလဆန်း ၁၄ ရက်၊ အင်္ဂါနေ့ညနေ ၄ နာရီခွဲအချိန်တွင် ဖားကူးရွာ၌ ဘဝနတ် ထံစံလွန်တော်မူသည်။

အထက်က ပြဆိုခဲ့သော သတ္တုဂါရဝစာတမ်းနှင့် ဓမ္မပဒ ဝတ္ထုတော်ကြီး (ငါးစောင်တွဲ) တို့အပြင်၊ ဆရာတော်ပြု စုခဲ့သောကျမ်းများမှာ ဝိနိစ္ဆယစာတမ်း၊ ပရမတ္ထသရူပဝဏ္ဏ နာကျမ်း၊ နဝကမ္မဝိနိစ္ဆယကျမ်း၊ အရှင်မဟာဗုဒ္ဓဃောသ ဝတ္ထုစကားပြေ၊ ခဲရာခဲဆစ် အမေးအဖြေ၊ စာဏကျနီတိ ဘာ သာပြန်၊ သဒ္ဒတ္ထဘေဒစိန္တာယောဇနာကျမ်း၊ ဋီကာကျော် နိသျည်း ချနက်၊ ဝိနည်း အဋ္ဌကထာ နိသျည်း ချနက် စသည် တို့ဖြစ်သည်။ ဦးထွန်းမြင့်

**စန်း၊ ဒေါ်၊ အင်ဒီပင်းဒင့်** (မြန်မာ ၁၂၄၇–၁၃၁၁)။ မြန်မာသတင်းစာလောကတွင် အမျိုးသမီးသတင်းစာဆရာ အဖြစ်ဖြင့် ပဌမဦးစွာပေါ်ပေါက်ခဲ့၍၊ မြန်မာနိုင်ငံတဝှန်း လုံးတွင် ကျော်စောထင်ရှားခဲ့သူမှာ အင်ဒီပင်းဒင့်အပတ်စဉ် သတင်းစာအယ်ဒီတာဒေါ်စန်းဖြစ်လေသည်။ သတင်းစာ၏ အမည်ကိုစွဲ၍၊ အင်ဒီပင်းဒင့် ဒေါ်စန်းဟူ၍လည်းတွင်သည်။



ပဌမဆုံးမြန်မာအမျိုးသမီးသတင်းစာဆရာ ဒေါ်စန်း

ဒေါ်စန်းသည် ၁၂၄၇ ခုနှစ် တပို့တွဲလ (ခရစ် ၁၈၈၆ ခုနှစ် ဖေဖွာရီလ) ၌ မန္တလေးမြို့၊ ရွှေခြည်ထိုးရပ်ကွက်တွင် အဖ ဦးဖိုန်း၊ အမိ ဒေါ်ရှုတို့မှ ဖွားမြင်သော သမီးဦးဖြစ်သည်။ ဒေါ်စန်းအား အမိအဖတို့က ပေးသော ငယ်နာမည်မှာ မစန်းယုံဖြစ်သည်။ မစန်းယုံ၌ အသက်ကြီးစဉ်ငယ်လိုက် အားဖြင့် မစန်းဖုံ၊ မစန်းမြ၊ မစန်းရှင်နှင့် မောင်ကိုကိုဟူ သော မွေးချင်းပေါက်ဖော်လေးယောက်ရှိသည်။

မိဖနှစ်ပါးဖြစ်သော ဦးဖိုန်းနှင့်ဒေါ်ရှုတို့ကား မန္တလေးမြို့ ရွှေခြည်ထိုးရပ်ကွက်တွင် ရွှေခြည်ထိုးထည်နှင့် အထက်ကုန် အောက်ကုန်တို့ကိုရောင်းချသော ထင်ရှားကျော်ကြားသည့် ကုန်သည်များဖြစ် ကြသည်။ ကုန်သည်ပင် ဖြစ်သော်ငြား လည်း၊ ဒေါ်ရှုမှာ မြန်မာစာပေ ပရိယတ္တိဖက်တွင် အထူး လိုက်စားသူဖြစ်ရာ၊ သူ၏သားသမီးတို့သည် မိခင်ကဲ့သို့ပင် စာပေရိယတ္တိ၌ ဝါသနာပါကြလေသည်။ သားသမီးတို့ သည် ငယ်ရွယ်စဉ်ကပင်လျှင် သဒ္ဒါ၊ သင်္ဂြိုဟ်တို့၌၎င်း၊ ရာဇ ဝင် မဟာဝင်တို့၌၎င်း၊ ပျို့၊ ကဗျာ၊ လင်္ကာတို့၌၎င်း၊ ကောင်း စွာလေ့လာ သင်အံခဲ့ကြရသည်။ အထူးသဖြင့် စာပေအရာ ၌ မစန်းယုံ၊ မစန်းဖုံနှင့် မစန်းရှင်တို့သည် အထူးလေ့လာ လိုက်စား ကြသဖြင့် နောင်အခါတွင် ထိုညီအစ်မ သုံးဖော် သည် စာရေးဆရာများအဖြစ်ဖြင့် ထင်ရှားကျော်စောလာ ခဲ့ကြသည်။ ယင်းတို့အနက် မစန်းယုံခေါ် ဒေါ်စန်းမှာ အထူးကျော်စောခဲ့ပေသည်။

အဖ ဦးဖိန်းကွယ်လွန်ပြီးနောက်၊ အသက် ၁၄ နှစ်အရွယ်တွင် မစန်းယုံသည် မြန်မာခုနစ်တန်းစာမေးပွဲ၌ အစိုးရပညာတော်သင်ဆုကို ရ၍အောင်မြင်ခဲ့လေသည်။ ထိုနောက် မော်လမြိုင် မော်တင်လိန်းကျောင်းမှ မူလတန်းဆရာဖြစ်စာမေးပွဲကို အောင်မြင်၍၊ တောင်ငူမြို့ နော်မန်ကျောင်း၌ ဆရာမအဖြစ်ဖြင့်ဝင်ရောက်လုပ်ကိုင်သည်။ ဤသို့ဆရာမအဖြစ်အလုပ်လုပ်ယင်း၊ ထိုကျောင်းရှိအလယ်တန်းပြဆရာဖြစ်သူ ဆရာကြွက်နှင့်အိမ်ထောင်ကျသည်။ ဆရာကြွက်နှင့် ဆရာမဒေါ်စန်းယုံတို့တွင် သမီးတယောက်၊ သားသုံးယောက်ထွန်းကားခဲ့သည်။ ဤသို့ သားသမီးလေးယောက်ထွန်းကားပြီးနောက်၊ စဉ့်ကူးမြို့သို့ ပညာအုပ်အဖြစ်ဖြင့် ပြောင်းရွှေ့သွားသောခင်ပွန်းသည် ကွယ်လွန်သောအခါ၊ ဒေါ်စန်းယုံသည် မုဆိုးမအဖြစ်ဖြင့် ကျန်ရစ်ခဲ့ရရှာသည်။ နောက်တနှစ်၌ ဒုတိယနှင့် စတုတ္ထသားနှစ်ယောက်ကွယ်လွန်ပြန်သောအခါ၊ ဒေါ်စန်းယုံမှာ ပရိဒေဝမီးတောက်ခဲ့ရလေသည်။

ဒေါ်စန်းယုံသည် မူလကပင် စာပေ၌ဝါသနာထုံသူဖြစ်ရကား၊ အိမ်ထောင်မကျမီ ကျောင်းဆရာမဘဝ၌စတင်၍ သတင်းစာ၊ မဂ္ဂဇင်းများတွင် ဝတ္ထုများ၊ ဆောင်းပါးများကိုရေးသားခဲ့သည်။ ထိုနောက် သူရိယမဂ္ဂဇင်း ဝတ္ထုတိုပြိုင်ပွဲတွင်ဝင်ရောက်ယှဉ်ပြိုင်ရာ၊ ‘ခင်စန်းကြည်’ ဟူသောဝတ္ထုအတွက် ပဌမဆုချီးမြှင့်ခြင်းခံရသည်။ မြန်မာနိုင်ငံအရပ်ရပ်မှ စာဖတ်ပရိသတ်တို့သည်လည်း ဒေါ်စန်းယုံ၏အရေးအသားကို များစွာကြိုက်နှစ်သက်၍ချီးကျူးကြသည်။ ထိုပြင်လည်း၊ ယခင်က မစ္စတာမောင်မှိုင်း၊ ယခု သခင်ကိုယ်တော်မှိုင်းဟုတွင်သော ဆရာကြီးဦးလွန်းသည် အမျိုးသမီးစာရေးဆရာတဦးထူးခြားစွာပေါ်ပေါက်လာသည်ဟု ဒေါ်စန်းယုံအတွက် လေးချိုးကြီးတပုဒ်ရေးသား၍ချီးကျူးခဲ့သည်။ ထိုစဉ်က ဒေါ်စန်းယုံသည် ‘ဗုဒ္ဓဘာသာမြန်မာမ’ ဟူသောအမည်ဖြင့်၎င်း၊ ‘ပုဏ္ဏမိ’ ဟူသောအမည်ဖြင့်၎င်း၊ ဝတ္ထုတိုများရေးသား၍၊ ပညာအလင်းမဂ္ဂဇင်းတွင်မူ မာတလိနှင့်ဝိသကြုံစကားပြောခန်း နိုင်ငံရေးဆောင်းပါးများကိုရေးသားသည်။ ဤသို့ကျောင်းဆရာမဘဝနှင့်ပင် သတင်းစာလောကသို့ ဝင်ရောက်လာသောအခါ၊ ဒေါ်စန်းယုံသည် မူလအမည်ပျောက်၍၊ တစတစဖြင့် ဒေါ်စန်းဟုထင်ရှားလာခဲ့လေသည်။ ထိုအခါ ပညာမင်းကြီးက ကျောင်းဆရာများသည် သတင်းစာများတွင်ရေးသားခြင်း မပြုရ၊ ရေးလိုလျှင် ပညာမင်းကြီး၏အမိန့်ကို ခံယူပြီးမှ ရေးသားခွင့်ရလိမ့်မည်ဟူသော ချုပ်ချယ်သည့်စည်းကမ်းကို ကျေညာလေရာ၊ စာရေးဝါသနာထုံသူ ဒေါ်စန်းအတွက် အခက်ကြုံလာလေသည်။ ဤအတွင်း ဒေါ်စန်းမှာ သတင်းစာလောကနှင့် ဆက်မိသောကြောင့် သူရိယသတင်းစာမှ အယ်ဒီတာတဦးဖြစ်သူ ဦးဘသန်းနှင့် ရင်းနှီးလာခဲ့သည်။ တနေ့သော် ဦးဘသန်းသည် ဆရာမဒေါ်စန်းအား သူနှင့်လက်ဆက်ပါရန် စကားကမ်းလှမ်းလေသည်။ ဒေါ်စန်းမှာမူ၊ ဆရာမအလုပ်နှင့် သူဝါသနာပါသော သတင်းစာဆရာအလုပ်ကို မလုပ်နိုင်သောအခြေကို၎င်း၊ မိမိ၏ရင်သွေးနှစ်ဦးကို ပညာဆက်လက်ပေးရန် တာဝန်ရှိလာသည့်အခြေကို၎င်း၊ ရန်ကုန်မြို့၌အခြေစိုက်မှသာ မိမိ၏ရည်ရွယ်ချက်များပြီးမြောက်မည့်အခြေကို၎င်း၊ ကောင်းစွာဆင်ခြင်သုံးသပ်ပြီးလျှင် ကြောင်းလမ်းလာသူ ဦးဘသန်းနှင့် ဒုတိယ အိမ်ထောင်ဆက်ပြီးသော်၊ ကျောင်းဆရာမအလုပ်မှထွက်၍၊ ၁၂၈၄ ခုနှစ် (ခရစ် ၁၉၂၂ ခုနှစ်) တွင် ရန်ကုန်မြို့သို့ရောက်ရှိလာခဲ့လေသည်။ ဦးစွာပဌမ၌ ဦးဘသန်းနှင့် ဒေါ်စန်းတို့၏နေရေး ထိုင်ရေးသည် အတော်ပင်အဆင်ပြေခဲ့သည်။ ဦးဘသန်းမှာ ဒေါ်စန်း၏ပဌမခင်ပွန်းသည် ဆရာကြွက်၏အမည်ကိုအစွဲပြု၍၊ သူရိယသတင်းစာ၌ လူကြိုက်များသော ‘ကြွက်စုတ်ကြီး’ အခန်းကိုရေးသဖြင့် ထင်ရှားလာသည်။ ထိုပြင် ‘ဗြိတိသျှနှင့် မဆက်ဆံရေး’ ဟူသောစာအုပ်စာတမ်းများကိုရေးရာ၊ လူကြိုက်များ၍ အရောင်းရတွင်ကျယ်သဖြင့် ဝင်ငွေအတော်မှန်သည်။ သို့ရာတွင် လူကိုအရက်ဖျက်သဖြင့်၊ ဦးဘသန်းသည် တစတစ စီးပွားဆုတ်ယုတ်လာခဲ့သည်။ ထိုနောက်ဒေါ်စန်းနှင့် လက်ဆက်၍နှစ်နှစ်ခန့်ကြာသောအခါ၊ လင်မယားကွဲကြရလေသည်။ ထိုကြောင့် ဒေါ်စန်းသည် ရန်ကုန်မြို့လမ်း ၄၀ သို့ရွှေ့ပြောင်းလာခဲ့ပြီးလျှင်၊ မိမိ၏ကိုယ်ပိုင်လက်ဝတ်လက်စားပစ္စည်းများကို ထုခွဲရောင်းချကာ ‘အင်ဒိပင်းဒင့်’ အပတ်စဉ်သတင်းစာကို ၁၂၈၆ ခုနှစ် (ခရစ် ၁၉၂၄ ခုနှစ်) တွင် စွန့်စွန့်စားစားတည်ထောင်လိုက်လေသည်။

ဒေါ်စန်းသည် သူ၏သတင်းစာကို ‘အင်ဒိပင်းဒင့်’ ဟုနာမည်ပေးရာ၌ အဓိပ္ပါယ်နှစ်မျိုးဖြင့်ပေးခဲ့သည်ဟု သူအသက်ထင်ရှားရှိစဉ်က သူ၏သားသမီးများကို ပြောကြားခဲ့ဘူးသည်။ ဒေါ်စန်း၏ခေတ်တွင် မြန်မာပြည်ကို ဗြိတိသျှတို့က ဒိုင်ယာခီခေါ် အုပ်ချုပ်ရေးစံနစ်ကို ပေးအပ်နေခိုက်ဖြစ်သည်။ ထိုအခါ ဒေါ်စန်းသည် နာမည်ကြီး အိုင်ရစ်သတင်းစာတစောင်၏ ‘အင်ဒိပင်းဒင့်’ ဟူသောအမည်ကိုအထူးသဘောကျမိပြီးလျှင်၊ မြန်မာပြည်၏လွတ်လပ်ရေးကိုအာသီသထားကာ၊ ထို ‘အင်ဒိပင်းဒင့်’ ဟူသောအမည်ကိုယူလိုက်လေသည်။ ထိုအပြင်ဒေါ်စန်းသည်မလွတ်လပ်သောလခစားဘဝသို့၎င်း၊ မလွတ်လပ်သောအိမ်ထောင်ရှင်ဘဝသို့၎င်း၊ ပြန်လည် မကျရောက်လိုသော ရည်ရွယ်ချက် ဖြင့် လည်း ‘အင်ဒိပင်းဒင့်’ အမည်ကိုယူလေသည်။

ဒေါ်စန်းသည် ထိုသတင်းစာကို ဦးစီးထုတ်ဝေရသည်မှာ လွယ်ကူလှသည်မဟုတ်ချေ။ ခြောက်လခန့် ပင်ပင်ပန်းပန်းကြိုးစားခဲ့ရပြီးမှ သတင်းစာဖတ်ပရိသတ်အတော်အတန်

များပြားလာခဲ့သည်။ ယောကျ်ား များ နှင့် အပြိုင် အဆိုင် လုပ်ရသောလုပ်ငန်း၌ မိမိကိုယ်သာလျှင်မိမိအားထားရာရှိခြင်းကြောင့် ခေါင်းကြီးပိုင်း၊ မရှေကျေးဒိုင်ယာရီ၊ ဦးကွာစိအမေးအဖြေခန်း၊ စာတိုက်ခန်း၊ မာတလိနှင့်ဝိသကြုံ နိုင်ငံရေးဆွေးနွေးခန်းစသည်တို့ကို မိမိတဦးတည်းဒိုင်ခံ၍ရေးရသည်။ ထိုစဉ်က သတင်းစာအယ်ဒီတာ၏အလုပ်ကိုတဖက်လုပ်၍၊ သတင်းစာကြော်ငြာလိုက်ခြင်း၊ ကြော်ငြာခငွေတောင်းခံခြင်းဟူသောအလုပ်ကိုလည်း ကိုယ်တိုင်လုပ်ရပြီးလျှင်၊ အိမ်ရှိသားသမီးတို့ကို ထမင်း ချက်ပြုတ်ကျွေးမွေးပြုစုရသည်လည်း ရှိသေး သည်။ ထိုစဉ်က ဒေါ်စန်းကို သတင်းစာဖတ်ပရိသတ်က ပုဂ္ဂိုလ်အားဖြင့်မသိကြသော်လည်း၊ စာအုပ်ဆိုင်နှင့် ကုမ္ပဏီပိုင်ရှင်များသည် သူတို့ထံလာနေကျဖြစ်သော ဘီး ဆံပတ် ပတ် ၍၊ ယောလုံချည်ကို အမြဲလိုလို ဝတ်တတ်သော အမျိုးသမီးမှာ အင်ဒိပင်းဒင့်ဒေါ်စန်းဖြစ်သည်ကို ကောင်းစွာသိကြသည်။

၁၂၉၁-၉၂ ခုနှစ် (ခရစ် ၁၉၂၉-၃၀ ခုနှစ်) တွင် အင်ဒိပင်းဒင့်သတင်းစာစောင်ရေသည် တိုးတက်လာခဲ့ရာ၊ ဒေါ်စန်းတဦးတည်းနှင့် အလုပ်ကိုမနိုင်အောင်ဖြစ်လာသည်။ ထိုကြောင့် ညီအစ်မတော်ဖြစ်သော ဒေါ်စန်းဖုံနှင့်ဒေါ်စန်းရှင်တို့သည် ဒေါ်စန်းအား အပတ်စဉ်ကူညီရေးသားပေးရသည်။ ဒေါ်စန်းဖုံသည် သော်တာအမည်ကိုခံယူ၍၊ ဒေါ်စန်းရှင်မှာ စန္ဒာငွေရည်ဟူသောအမည်ကိုခံယူသည်။ အခြားအမျိုး သမီး တို့လည်း ဒေါ်စန်းကို အကူအညီပေးကြသည်။

ဒေါ်စန်း၏ ဦးကွာစိဆောင်းပါးခန်းမှာ ပရိသတ်စွဲသောအခန်းဖြစ်သည်။ ဒေါ်စန်းသည် ထိုအခန်းမှနေ၍ရင်း၊ ခေါင်းကြီးပိုင်းမှနေ၍ရင်း၊ ဗြိတိသျှအစိုးရ အုပ်ချုပ်ပုံကို ပြင်းထန်စွာဝေဖန်ခဲ့သဖြင့်၊ သက်ဆိုင်ရာတို့က သတင်းစာတိုက်ကို မကြာခဏသတိပေးအရေးယူရသည်။ ၁၃၀၁ ခုနှစ်၊ ဒုတိယဝါဆိုလဆန်း ၁၄ ရက် (၁၉၃၉ ခုနှစ်ဇူလိုင်လ ၂၉ ရက်) နေ့တွင် ရန်ကုန်မြို့၌ အိန္ဒိယနှင့်မြန်မာတိုင်းရင်းသားတို့၏ အဓိကရုဏ်းဖြစ်ကြရာ၊ ရန်ကုန်မြို့လမ်း ၄၀ နှင့် ဒါလဟိုဇီ လမ်း ထိပ်ရှိ အင်ဒိပင်းဒင့် သတင်းစာတိုက် သည် အိန္ဒိယလူမျိုးတို့၏ ဖျက်ဆီးခြင်းကိုခံခဲ့ရသည်။ ထိုကြောင့် အင်ဒိပင်းဒင့်သတင်းစာ ၁၅ နှစ်မြောက်တွင် ဒေါ်စန်းသည် သတင်း စာတိုက်ကိုပိတ်၍၊ တောမြို့များတွင် မိမိသားနှင့် အတူအနားယူကာနေထိုင်ခဲ့သည်။ ဒုတိယကမ္ဘာစစ်ကြီး အပြီးတွင် ယဝတီဂျာနယ် အယ်ဒီတာအဖွဲ့ဝင် တဦး အဖြစ်ဖြင့် ဆောင်ရွက်ခဲ့ပြီးလျှင်၊ တချိန်က အမည်ကျော်ကြားခဲ့သော ဦးကွာစိ၏အမည်ကို ဒေါ်ကွာစိဟူ၍ပြောင်းလဲမည့်ခေါ်ပြီးလျှင်၊ အမျိုးသမီးတို့၏အရေးကို ဟာသဓာတ်ဖြင့် သတင်းစာတို့၌ ရေးသားရုံမျှမက၊ မြန်မာနိုင်ငံ အသံလွှင့်ဌာနမှလည်း 'ထွေရာစိတ်ကူး' ဟူသောအခန်းတခန်းကို ဖွင့်၍ အသံလွှင့်ခဲ့သည်။ ထိုအသံလွှင့်ချက်ကို မြန်မာပရိသတ်တို့ အလွန်ကြိုက်နှစ်သက်ကြပေသည်။

ဤကဲ့သို့ အမျိုး သမီး တို့၏ အရေး တို့ကို ကလောင် တချောင်းဖြင့် တိုးတက်အောင်ပြုပြင်ခဲ့သော အမျိုးသမီး သတင်းစာဆရာမကြီးဒေါ်စန်းသည် ၁၃၁၁ ခုနှစ်၊ ဝါခေါင်လဆန်း ၁၀ ရက် (၁၉၅၀ ပြည့်နှစ် ဩဂုတ်လ ၃ ရက်) နေ့တွင် ကင်ဆာရောဂါဖြင့် ရန်ကုန်မြို့၌အနိစ္စရောက်လေသည်။

**စိန်ကတုံး၊ ဦး** (မြန်မာ ၁၂၃၇-၁၂၉၂)။ ။ ဦးစိန်ကတုံးသည် အဖ ဆိုင်းဆရာ ဦးကျော်ဦး၊ အမိ ဒေါ်သစ်တို့၏ သားဖြစ်၏။ ၁၂၃၇ ခုနှစ် ဝါခေါင်လဆန်း ၁၃ ရက် စနေနေ့တွင် ညောင်တုန်းမြို့၌ဖွားမြင်၍၊ ငယ်မည်မှာ မောင်ထွန်းလှ ဟူ၍ရင်း၊ မောင်ထွန်းမြိုင် ဟူ၍ရင်း၊ မောင်ဖိုးထွန်း ဟူ၍ရင်းခေါ်ကြ၏။ ငယ်ရွယ်စဉ်ကပင်၊ ပြွေ၊ ပတ္တလား၊ ဒိုးပတ်၊ အိုးစည်၊ ပုံရှည်တို့ကိုတီးမှုတ်တတ်သည့်ပြင်၊ ပွဲတော်များ၌ အိုးစည်က၊ ဒိုးပတ်က၊ ပုံရှည်ကတို့တွင် အရွယ် နှင့် မမျှအောင် ကပြတတ်သဖြင့် ကျောင်းသားဘဝ၌ပင် လူအများချီးမွမ်းခြင်းခံရလေသည်။ ဆယ့်နှစ်နှစ်သားအရွယ်မှ စ၍ ညောင်တုန်းမြို့ အရပ်ဇာတ်များတွင် မင်းသားအဖြစ်ဖြင့် ကပြခဲ့၏။

ကျောင်းကထွက်သောအခါ အဖ ဦးကျော်ဦးက သဘင်လောကတွင် ထင်ရှားသော ဆရာမှန်းကြီးထံသို့ သားတပည့်အဖြစ် အပ်နှံလိုက်သောကြောင့် ဆရာမှန်းကြီးနှင့်အတူ ဇာတ်ကရာ အမြဲလိုက်ပါ၍ သဘင်ပညာကိုသင်ယူခဲ့လေသည်။ ၁၂၅၂ ခုနှစ်မှစ၍ ဇာတ်ပွဲထောင်သည် ဟုအဆိုရှိသည်။ တနှစ်တွင် မော်လမြိုင်မြို့သို့သွားရောက်ကပြခဲ့ရာ ငှက်ဖျားမိသဖြင့် ပျောက်ကင်းသည့်အခါ၊ ဆံပင်များကျွတ်သောကြောင့် ခေါင်းတုံးရိတ်လိုက်ရ၏။ ဇာတ်ပွဲကပြရာတွင် နာလှန်ထစ မင်းသားမောင်ဖိုးထွန်းသည် ပုဝါအုပ်ပေါင်းနှင့်ထွက်လာ၍၊ ထုံးစံအတိုင်းဇာတ်သေတ္တာပေါ်ထိုင်လျက် ခွန်းထောက်ဆိုအချမှာ 'ကျုန်းမာခါလူ့ကိုယ်ဖြင့်ချုံးလျက်ပါဘဲ၊ ပွဲတော်မှာအားကုန်ရှုန်းရတယ်၊ ကျွန်တော့ကိုရှုပါတော့၊ ဟောဗျာ့ဖန်ကတုံး' ဟုဆိုပြီးလျှင် ဦးခေါင်းပေါ်က ပုဝါကိုချွတ်လိုက်ရာ ပရိသတ်များပွဲကျသွားလေသည်။ 'ကတုံးမင်းသားဟေ့၊ ဖန်ကတုံးဟေ့၊ စိန်ကတုံးဟေ့' ဟူ၍လည်း မော်လမြိုင်မြို့သူ မြို့သားများပါးစပ်တွင်ခေတ်စားသွားသဖြင့် ကွယ်လွန်သည့်တိုင်အောင် 'စိန်ကတုံး' ဟူ၍ အမည်တွင်လေသည်။ ထိုနောက် ရန်ကုန်တွင်ကပြရာ ပုဇွန်တောင်ရပ်ကွက်မှ စပါးပွဲစားကြီးမောင်သာဝေက ဇာတ်ကြီးတည်ထောင်ပေးသည်ဟုအဆိုရှိသည်။ မန္တလေးသို့လွှတ်၍ အိမ်နောင် ဦးစံတုတ်ထံတွင် ယိုးဒယားကနည်းများကိုလည်းသင်စေသည်ဟုအဆိုရှိ၏။



မြန်မာ့သဘင်ကို ဂုဏ်တင်ခဲ့သူ ဇာတ်မင်းသားဦးစိန်ကတုံး

ဦးစိန်ကတုံးသည် အပြော အဆိုတွင် အနည်းငယ်ထစ်တတ်သော်လည်း၊ ပရိသတ်စွဲလောက်အောင် အပြောကျသည့်ပြင်၊ ယိုးဒယားအကအလွန်ကောင်းသောကြောင့် နာမည်ကြီးလာ၏။ မင်းသားကလေးဘဝမှာ အသံပျက်သွားရာ သီချင်းကောင်းစွာ မဆိုနိုင်သည့်အတွက် ခါးတောင်းကျိုက်မင်းသား (ဝါ) မင်းသားလတ်လုပ်၍၊ ဝိဋ္ဋူပ၊ အင်္ဂုလိမာလ၊ ထိလပ်ပိုးအုံ၊ ခြေဖဝါးတတောင်မောင်မဲခေါင်၊ သူခိုးငတက်ပြား၊ ရွှေမော်ဓောမှာနားထွင်းခဏ်း၊ တပင်ရွှေထီးပြဇာတ်စသည့်ဇာတ်ထုပ်များကို ကပြခဲ့၏။ လူကြိုက်များလာသဖြင့် ဇာတ်မှန်သမျှမှာ ခါးတောင်းကျိုက်မင်းသားမပါလျှင်မဖြစ်သလောက်ရှိခဲ့သည်။ စိန်ကတုံးဟန်ဟူ၍လည်း အတော်ခေတ်စားလာလေသည်။ နောင်အခါတွင် မင်းသားနုအဖြစ်ဖြင့် ပြန်လည်ကပြ၏။ ၁၂၇၅ ခုနှစ်တွင် မင်းသမီးအောင်ဗလနှင့် တွဲဖက်ကပြရာ နာမည်ကျော်သည်ထက်ကျော်လာလေသည်။ ၁၂၈၀ ပြည့်နှစ်မှစ၍ ကိုယ်ပိုင် ရှက်ထည်ရုံကြီး တည်ထောင်ကာ ခေတ်ဆန်သော ဓာတ်မီးမောင်းထိုး၍ကပြသည်။ မြန်မာပြည်မြို့ရွာ အနယ်နယ်သို့ လှည့်လည်ကပြရာ ပြည်သူပြည်သားများနှင့် အစိုးရပိုင်းကပါ ရွှေတံဆိပ်၊ ဘွဲ့စသော ဆုလပ်အမျိုးမျိုးဖြင့်ချီးမြှင့်ခဲ့ကြသည်။ ညနောက်ပိုင်းတွင် ကပြလေ့ရှိသော ဇာတ်ထုပ်ဇာတ်ကွက်များကို ငါးရာ့ငါးဆယ်၊ ဓမ္မပဒ စသည်တို့မှ ထုတ်နုတ်၍ နိုင်နိုင်နင်းနင်းကပြခဲ့သည်။ နှစ်ပါးသွားသီချင်းများမှာလည်း သစ္စာတိုင် အချစ်သီချင်းများကို မသုံးဘဲ၊ သာသနာ၊ ဘာသာ၊ အမျိုးသားရေးတို့နှင့်ဆိုင်သောသီချင်းများကိုသာ သီဆိုကပြလေ့ရှိလေသည်။

ဦးစိန်ကတုံးသည် အဆိုအကဉ္စသာမဟုတ်၊ အတီးအမှုတ်ဂီတဖက်တွင်လည်း ကျွမ်းကျင်၏။ အထူးသဖြင့် ကြေးတီးရာ၌အလွန်တော်၏။ ဇာတ်မင်းသားကလေးဘဝက၊ ပွဲမထွက်ခင်ညဉ့်ဦးယံတွင် ကြေးဝိုင်းခွင်သို့ဝင်၍ ယိုးဒယားတီးလေ့ရှိသည်။ ကြေးတီးအလွန်နိုင်နင်းရုံမျှမက၊ အပိုအလျှံ၊ အဖက်အစွက်ထည့်၍ ကစားကာတီးလေ့ရှိလေသည်။ ဆိုင်းဆရာလောင်းများသည် သူ့ထံတွင်လာရောက်နည်းယူကြရသည်။ ထိုအခါက ရန်ကုန်မြို့နာမည်ကြီး တီးဝိုင်းဆရာများ ဖြစ်သော ဆရာစိုး၊ ကိုဘလှ၊ တရော ဘရီ၊ ပြည်မောင်ကြီး စသည်တို့သည် ဦးစိန်ကတုံးထံချဉ်းကပ်၍ တီးကွက်ဆိုကွက်များကို နည်းယူကြသည်။

ဦးစိန်ကတုံးနှင့် တွဲဖက်ကပြခဲ့သော မင်းသမီးများမှာ နာမည်ကျော် အောင်ဗလအပြင်၊ မစမ်းကြည်၊ မကျော်ဗလ၊ မစိန်နွဲ့၊ မသိန်းညွန့်စသည်တို့ဖြစ်ကြ၏။ ပဌမဇနီးမှာ မင်းသမီး မစမ်းကြည်ဖြစ်၍၊ ဦးစိန်ကတုံးသည် ဒေါ်ရှင်ဆိုသူအမျိုးသမီးတဦးနှင့် ဒုတိယအကြိမ်လက်ထပ်ခဲ့၏။ ဦးစိန်ကတုံး၏တတိယဇနီးမှာ ဒေါ်စောတင်ဖြစ်လေသည်။

ဦးစိန်ကတုံး၏လက်စွဲ လူရှင်တော်များမှာ နာမည်ကျော် ဦးရွှေအ၊ ဦးမန်းရိပ်၊ ဦးကျော်ရွှဲ၊ ဦးငှက်ရိုးတို့ဖြစ်ကြ၏။ ဦးစိန်ကတုံးသည် ဇာတ်ပွဲ လှည့်လည်ကပြစဉ် မုံရွာမြို့၌ ၁၂၉၂ ခု ပြာသိုလဆုတ် ၂ ရက်နေ့၌ အနိစ္စရောက်လေသည်။

**စိန်ဆင်၊ ဒေါ်။** ။ဒေါ်စိန်ဆင်သည် မန္တလေးမြို့ ဘီးတန်းရပ် ဦးမှတ်ကြီး၊ ဒေါ်ရင်းဖေါ် တို့၏ သမီးဖြစ်၍ ငယ်မည်မှာမဖွားဆင်ဟုခေါ်သည်။ဒေါ်စိန်ဆင်၏မွေးသက္ကရာဇ်



အငြိမ့်မင်းသမီး ဒေါ်စိန်ဆင်

ကို အတိအကျ မသိရသော်လည်း၊ ဒေါ်စိန်ဆင်နှင့် နီးစပ်သောပုဂ္ဂိုလ်တို့၏အဆိုအရ၊ ၁၂၅၃ ခုနှစ်ဟု အမှတ်အသားပြုကြသည်။ အသက် ၁၂ နှစ်အရွယ်မှစ၍ မင်းသမီးကြီး ဒေါ်စိန်သုံးထံ၌ အငြိမ့်ပညာကိုဆည်းပူးခဲ့၏။ အသက် ၁၅ နှစ်အရွယ်တွင် ဖခင်ဖြစ်သူ ဦးမှတ်ကြီးက ကိုယ်ပိုင်အငြိမ့် တည်ထောင်ပေးသဖြင့်၊ နာမည်ကြီး မင်းသမီးတဦးဖြစ်လာသည်။ ဒေါ်စိန်ဆင်အသက် ၁၈ နှစ်အရွယ်၌ ဖခင်သေဆုံးခဲ့၏။ အသက် ၂၃ နှစ်အရွယ်လောက်တွင် ရန်ကုန်မြို့သို့ ဆင်းလာ၍ အငြိမ့်ဆရာ ဦးဖိုးကြီး၊ ဒေါ်ရွက်တို့ဇာတ်အဖွဲ့၌ ၂ နှစ်မျှပါဝင်ကပြရ၏။

ထိုနောက် မန္တလေးသို့ပြန်လာခဲ့ရာ၊ စက်ပိုင်ဦးကောင်းနှင့် အိမ်ထောင်ကျသည်။ ဦးကောင်း အနိစ္စရောက်သောအခါ ဆိုင်းဆရာ ဆရာစိမ့်၏သမီး စန္ဒရားမမကြီး၏ စန္ဒရားအငြိမ့်အဖွဲ့တွင်ပါဝင်ကပြရန် ရန်ကုန် မြို့သို့ ဆင်းလာပြန်လေသည်။

ရန်ကုန် တွင် နေထိုင်စဉ် မက်မပြေ ကိုစိန်လှိုင်နှင့် အကြောင်းပါလေသည်။ ကိုစိန်လှိုင်နှင့် ကွာရှင်းပြီးနောက် ပုဇွန်တောင် ကိုဘသန်းဆိုသူနှင့် လက်ဆက်ပြီးလျှင် အငြိမ့်အဖွဲ့ကြီးတခု တည်ထောင်ခဲ့လေသည်။

ဒေါ်စိန်ဆင်သည် ယောကျ်ားလိုဝတ်၍ အိုးစည်အကတွင် ဟန်အမူအရာ အလွန်ကောင်းသဖြင့် နာမည်ကျော်ကြားခဲ့၏။ အသက် ၅၁ နှစ်အရွယ်တွင် အနိစ္စရောက်လေသည်။

**စိန္တကျော်သူဦးဩ**။ ။ဩ၊ ဦး၊ စိန္တကျော်သူ — ရှု။

**စိန်တင်၊ ဦး**။ ။ဦးစိန်တင် (၁၂၆၁–၁၃၀၄) ကို သိပ္ပံမောင်ဝဟူသော ကလောင်အမည်ဖြင့် လူအသိများသည်။ ဦးစိန်တင်သည် မော်လမြိုင်မြို့ ဇာတိဖြစ်၍ မုပွန်နတ်ကျွန်းရပ်၌ ဦးအုန်းရွှေ ဒေါ်ဒေါ်သစ်တို့မှ ၁၂၆၁ ခုနှစ်တွင်မွေးဖွားသော စတုတ္ထကလေးဖြစ်သည်။ ငယ်စဉ်ကပင် မိခင်ဆုံး၍ အဖွားနှင့် ကြီးတော်တို့လက်ထဲတွင်ကြီးရသည်။

အရွယ်သို့ ရောက်သောအခါ မုပွန်ရပ် ဆရာဦးချစ်လှကျောင်းတွင် ကျောင်းစ၍နေသည်။ ထိုနောက် မောင်ငံရပ် သာသနာပြုကျောင်းသို့ပြောင်း၍ သတ္တမတန်းအောင်သည်အထိ အင်္ဂလိပ်မြန်မာ နှစ်ဘာသာဖြင့်ပညာ သင်ယူသည်။ ရှစ်တန်းသို့ရောက်သောအခါ ရှင်မဟာဗုဒ္ဓဃောသကျောင်းသို့ပြောင်း၍ပညာဆည်းပူးပြန်ရာ ၁၂၈၂ (၁၉၂၀) ခုနှစ်တွင် ဆယ်တန်းစာမေးပွဲကို မြန်မာဘာသာနှင့် ပါဠိဘာသာတို့၌ အထူးအမှတ်ရကာအောင်သည်။

ဦးစိန်တင်သည် ကျောင်းတွင် ပညာဆည်းပူးရသည်နှင့် မကျေနပ်မူ၍ အဖိုးဖြစ်သူ စာတတ်ကြီး ဦးလူကလေးထံတွင် ဝတ္ထုပုံပြင် ရာဇဝင်စသည်တို့ကို ကြားနာမှတ်သားသည်။ အဖွားဖြစ်သူ ဖွားဒွေးထံတွင် မြန်မာ့ရိုးရာထုံးစံအစဉ်အလာတို့ကိုကြားနာမှတ်သားသည်။ ဘကြီးဖြစ်သူ တောင်ဝိုင်းကြီးရွှေကျောင်းတိုက် ဘုန်းတော်ကြီး ဦးပညာဇောတထံတွင် ပါဠိမြန်မာနှစ်ဘာသာဆိုင်ရာပညာဗဟုသုတတို့ကို ကြားနာမှတ်သားသည်။ ဦးစိန်တင်သည် ထိုစဉ်ကပင် စကားပြေကိုအထူးနှစ်သက်စွဲလမ်းသည်။ ထိုကြောင့်လည်း သူသည် မဟာဇနကဝတ္ထုတော်ကြီးမှ ကောင်းနိုးရာရာ စာပိုဒ်များကို နှုတ်တက်ဆောင်ကာရွတ်ဆိုပြလေ့ရှိကြောင်း၊ သန်းသန်းဝတ္ထု၊ ခင်မြင့်ကြီးဝတ္ထု၊ ဘိအေမောင်ဘလွင်ဝတ္ထုစသည်တို့ကို မြိန်ရည်ရှက်ရည် ပြောပြလေ့ရှိကြောင်းကို သူ၏ကျောင်းနေဘက်များထံမှသိရသည်။ ထိုသို့ ကြားနာမှတ်သားလေ့လာရင်း 'ဝဇီရာတင့်' ဟူသောကလောင်အမည်ဖြင့် သတင်းစာများတွင် မကြာခဏ ဆောင်းပါးများကိုရေးသည်။

ဆယ်တန်းအောင်ပြီးနောက် ရန်ကုန်မြို့ ကောလိပ်သိပ္ပံကျောင်းတွင် ပညာ ဆက်လက်သင်ယူပြန်ရာ ပဋ္ဌမကျောင်းသားသပိတ်အရေးပုံကြီး ပေါ်ပေါက်သဖြင့် ဗဟန်းကြားတောရဦးရင်း၊ သရက်တောကျောင်းတိုက်၌ဦးရင်း ဗဟိုနေရှင်နယ်ကျောင်းကြီးကိုတည်ထောင်ကြသောအခါ ဦးစိန်တင်သည် ၁၂၈၅ (၁၉၂၃) ခုနှစ်သပိတ်လှန်သည်အထိ ကျောင်းဆရာအဖြစ်ဖြင့် တိုင်းပြည်တာဝန်ကိုထမ်းဆောင်သည်။

သပိတ်လှန်ပြီးသောအခါ ဦးစိန်တင်သည် ကောလိပ်သိပ္ပံကျောင်းသို့ပြန်သွား၍ ပညာဆက်လက်ဆည်းပူးပြန်သည်။ ၁၂၈၆ (၁၉၂၄) ခုနှစ်တွင် ဥပစာစာမေးပွဲကို မြန်မာဘာသာ အတွက် သာဒိုးအောင်ဆုနှင့် ပါဠိဘာသာ အတွက် အဖိုးတန်ဆုများရယူကာ အောင်မြင်သည်။ ဝိဇ္ဇာတန်းသို့ ရောက်လျှင် မြန်မာစာဂုဏ်ထူးကို ယူသည်။ ၁၂၈၉ (၁၉၂၇) ခုနှစ်တွင် ပဋ္ဌမတန်းဖြင့်အောင်မြင်၏။ ပါမောက္ခ ဦးဖေမောင်တင်၏ ကြိုးပမ်းချက်ဖြင့် မြန်မာစာဂုဏ်ထူးတန်းကိုထိုနှစ်တွင်စတင်ဖွင့်လှစ်၍ဦးစိန်တင်သည်ထိုအတန်းတွင် တဦးတည်းသော စာသင်သားဖြစ်ပြီးလျှင် ပဋ္ဌမတန်းကိုပဋ္ဌမရသူဖြစ်သည်။

ဦးစိန်တင်သည် ကောလိပ်သိပ္ပံကျောင်း၌ စာ သင် စဉ် ပါမောက္ခဦးဖေမောင်တင်၊ ပုဂံဝန်ထောက်ဦးတင်၊ ဂုဏ်ထူးဆောင်ဆရာကြီး ဦးပွား၊ အဂ္ဂမဟာပဏ္ဍိတ ဦးလင်းတို့ထံ၌ ပုဂံကျောက်စာမှစ၍ ပျို့လင်္ကာရာဇဝင်သမိုင်းတို့အပါအဝင် ကာလပေါ်ဝတ္ထုအထိဖြစ်သော စာပေအမျိုးမျိုးတို့ ဆိုင်ရာ နည်းနာနယတို့ကို ကျိုးနွံ ခယစွာ ခံယူသင်ကြားသည်။ ဘားနာဒ်ပိဋကတ်တိုက်သို့ မပြတ်မလပ်သွားရောက်၍ မြန်မာမှုဆိုင်ရာပေစာ၊ ပုရပိုက်စာ၊ ပုံနှိပ်စာအမျိုးမျိုးတို့ကို ကြိုးကြိုးစားစား ဖတ်ရှုမှတ်သားသည်။ မြန်မာစာပေဂုဏ်ထူးစာမေးပွဲအတွက် မြန်မာပြဇာတ်အကြောင်းစာတမ်းကိုရေးရသည်ဖြစ်၍ ရှေးဟောင်းနှောင်းဖြစ် မြန်မာ[illegible]အမျိုး

မျိုးတို့ကို အထူးလေ့လာသည်။ (နောင်သောအခါ ထိုစာတမ်းကိုပြုပြင်ချဲ့ထွင်၍ သူရိယနေ့စဉ်သတင်းစာတွင် မြန်မာမှုဆောင်းပါးကြီး တခန်းအနေဖြင့် 'သိပ္ပံကျောင်းသားမောင်မြသွင်' အမည်ခံယူကာ ထည့်သွင်းသည်။) ဤသို့ ပညာဆည်းပူးခိုက် ကောလိပ်ကထုတ်ဝေသော လက်ရေးစာစောင်၊ ပုံနှိပ်စာစောင်တို့တွင် ဆောင်းပါးများကိုရေးသည်။ တကောင်းကျောင်းဆောင်တွင် နေသော်လည်း မိမိ၏ စာရေးသူအဖြစ်ကို ကွယ်ဝှက်လိုသောကြောင့် 'နေရပ်ချောင်ကၢလူမည် မောင်ဝ' ဟု ကလောင်အမည် ခံလိုက်ရာ ဤအမည်သည် ဦးစိန်တင်ကိုတသက်ပတ်လုံး စွဲကပ်သွားငလေတော့သည်။



ဦးစိန်တင် အသက် ၂၀ ကျော်အရွယ်တွင်

ဝိဇ္ဇာဘွဲ့ရပြီးနောက် ကောလိပ်သိပ္ပံကျောင်းတွင် နည်းပြဆရာလုပ်နေသောအတော အတွင်းငါးလခန့်ကြာသော အခါဦးစိန်တင်သည် နိုင်ငံတော်ဝန်ထမ်း ပညာတော်သင်အဖြစ်အရွေးခံရ၍၊ အင်္ဂလန်ပြည်၊ အောက်စ်ဖို့တက္ကသိုလ်၊ ခရိုက်ချပ်ချ်ကောလိပ်သို့ သွားကာ နှစ်နှစ်ပညာ သင်ယူသည်။ (ထိုကာလအတွင်းတွေ့ကြုံရသော ကိစ္စအမျိုးမျိုးတို့ကို နောင်သောအခါ စုပေါင်းရေးသား၍ အောက်စ်ဖို့ဒ်တက္ကသိုလ်ဆိုသော နေ့စဉ်မှတ်တမ်းစာအုပ်ကို ထုတ်ဝေသည်။) ဦးစိန်တင်သည် ဗြိတိသျှအစိုးရ၏အရာထမ်းဖြစ်သဖြင့် မိမိရေးလိုသောအကြောင်းအရာတို့ကို လွတ်လပ်စွာရေးပိုင်ခွင့် မရှိလှချေ။ ထို့ကြောင့် 'သိပ္ပံကျောင်းသားမောင်မြသွင်' ဆိုသောကလောင်အမည်တမျိုးကိုထပ်မံခံယူကာ အောက်စ်ဖို့ တက္ကသိုလ်မှနေ၍ 'မြန်မာ စာပေ အကြောင်း' ခေါ် ဆောင်းပါးရှည်ကြီးကို သူရိယနေ့စဉ်သတင်းစာတွင် ရေးရာ ၁၉၂၈ ခုနှစ်မှ ၁၉၃၀ ပြည့်နှစ်အထိကြာသည်။ ဆောင်းပါးပေါင်း နောက်ဆက်တွဲများပါ ခုနစ်ဆယ်ကျော်ကျော်ရှိသည်။ ထိုဆောင်းပါးရှည်ကြီးတွင် (၁) ကာလပေါ်မြန်မာစာပေ၏အခြေအနေ (၂) ယင်းစာပေတိုးတက်ပုံ၊ ဆုတ်ယုတ်ပုံ၊ ရပ်တည်ပုံ (၃) ယင်းစာပေတိုးတက်ရေးနှင့် စာဟောင်းစာကောင်းများကိုပြန်လည်ထုတ်ဖော်ရေးတို့မှာ အဓိက အချက်ကြီးသုံးရပ်ဖြစ်သည်။

၁၉၂၉ ခုနှစ်တွင် အင်္ဂလန်မှပြန်လာ၍ နိုင်ငံတော်ဝန်ထမ်းအဖွဲ့တွင် ဝင်ရောက်လုပ်ကိုင်သည်။ ထိုသို့လုပ်ကိုင်ရာတွင် စစ်ကိုင်း၊ မိတ္ထီလာ၊ မင်းပူး၊ ဟင်္သာတ၊ ဇလွန်၊ မြောင်းမြ၊ ညောင်တုံး၊ ရန်ကုန်၊ အင်းစိန်၊ စလင်း၊ ကျောက်ဆည်၊ ရွှေဘို၊ ပေါင်း ၁၂ ဌာနသို့ အလှည့်အလည်ပြောင်းရွှေ့ကာ ရာထူးအမျိုးမျိုးနှင့် အမှုထမ်းသည်။

၁၉၃၀ ပြည့်နှစ်ထဲတွင် 'မြန်မာ စာပေ အကြောင်း' ဆောင်းပါးရှည်ကြီး ပြီးဆုံးသွားသောအခါ သိပ္ပံကျောင်းသားမောင်မြသွင်သည် 'မြန်မာမှု' ဆိုသော ဒုတိယဆောင်းပါးရှည်ကြီးကို (က) မြန်မာရာဇဝင် (ခ) မြန်မာစာဂုဏ်ထူး (ဂ) ဦးပုည (ဃ) မြန်မာပြဇာတ် (င) ကျောက်စာ (စ) မြန်မာပန်းချီ (ဆ) မြန်မာစာပေသင်ကြားရေး စသည်ဖြင့် အခန်းကြီးများခွဲကာ ရေးသားပြန်ရာ ၁၉၃၂ ခုနှစ် အတွက် အထိသာတွေ့ရ၍ မည်မျှဆက်လက်ကြာပြီးလျှင် မည်သည့် အခန်းတွင် နိဂုံးချုပ်သည်ကို ခြေရာကောက်၍မရသေးချေ။

ဦးစိန်တင်သည် မောင်မြသွင်အမည်နှင့် ထိုဆောင်းပါးရှည်ကြီးများကိုရေးခိုက် သိပ္ပံမောင်ဝ၊ တင်မောင်မြင့်၊ မောင်သံချောင်း၊ တင်တင့်၊ ကောလိပ်ခင်ခင်စသောအမည်အမျိုးမျိုးဖြင့်လည်း စာနယ်ဇင်းအမျိုးမျိုးတွင် စာအမျိုးမျိုးကိုအမြဲတစေရေးခဲ့လေရာ မည်မျှရှိသည်ကို ရှာဖွေ ရေတွက်ရန်လွယ်ကူမည်မဟုတ်ပေ။ ဂန္ထလောက၊ ဒဂုန်၊ သူရိယမဂ္ဂဇင်း၊ သူရိယနေ့စဉ်၊ ကြီးပွားရေးမဂ္ဂဇင်း၊ မြန်မာ့နေ့စဉ်၊ ကောလိပ်မဂ္ဂဇင်းတို့မှာ ဦးစိန်တင်အထူးကျက်စားရာစာနယ်ဇင်းတို့ဖြစ်ကြသည်။ ခြင်းလုံးဆောင်းပါး၊ ပုဂံဆောင်းပါး၊ စည်တုတ္တရာဆောင်းပါး၊ ရဲရမန်းဆောင်းပါး စသောဆောင်းပါးရှည်ကြီးတို့ကိုလည်းရေးခဲ့သည်။ လှအုန်းမယ်ဝတ္ထုကိုလည်းရေးခဲ့သည်။ ခေတ်စမ်းပုံပြင် ဒုတိယတွဲကိုလည်းထုတ်ဝေခဲ့သည်။ မြန်မာနိုင်ငံ သုတေသနအသင်းအတွက် ရတနာကြေးမုံခေါ် ရှေးဟောင်းဝတ္ထုကြီးကိုလည်း တည်းဖြတ်ခဲ့သည်။

ဤသို့ဖြင့် နိုင်ငံအုပ်ချုပ်ရေးတာဝန်ကို ကျေပြွန်စွာထမ်းဆောင်ရင်း စာပေတိုးတက်မှုကို မနားမနေ ဆောင်ရွက်နေခိုက်တွင် ဦးစိန်တင်သည် ၁၉၄၂ ခုနှစ် ကာလပျက်၍ သား

မယားတို့နှင့်အတူ အထက်နိုင်ငံသို့ရောက်သွားရာ ယင်းနှစ် ဇွန်လ ၆ ရက်နေ့ နံနက် လင်းအားကြီးအချိန်တွင် ရွှေဘို ခရိုင်၊ ကန့်ပလူမြို့အနီး၊ ဂါးဒါးဆည်ကြီးရွာ၌ ဓားပြလူဆိုး တို့၏အထင်မှားလက်လွန်မှုကြောင့် ရေတိမ်တွင်နစ်ရရှာလေ သည်။ ဇနီးသည် ဒေါ်ခင်ခင်မြင့်၊ သား တင်မောင်မြင့်၊ သမီး တင်မေမြင့်နှင့်တင်ရွှေမြင့်တို့ ကျန်ရှိရစ်လေသည်။

ဦးစိန်တင်၏အကြီးဆုံးသော ဆန္ဒတရပ်မှာ မြန်မာစာပေ တိုးတက်အောင်ဆောင်ရွက်လိုခြင်းဖြစ်သည်။ မိမိကိုယ်တိုင် လည်း ဤကိစ္စကို မမေ့မလျော့ဆောင်ရွက်သည်။ သူတပါး ကိုလည်း ဆောင်ရွက်အောင်တိုက်တွန်းသည်။ ဤကိစ္စနှင့် စပ်လာလျှင် ငွေကုန် လူပန်း ခံဘို့ရန် ဦးစိန်တင်အတွက် ဝန် မလေးပေ။ တခါသော် ဤသို့တိုက်တွန်းသည်ကို သူ့စာတ စောင်တွင်တွေ့ရသည်။

'မြန်မာစာပေ တိုးတက်ရေးသည် ကျွန်ုပ်တို့၏တာ ဝန်ဖြစ်သည်။ ကျွန်ုပ်တို့ပြုမှ နုမည့်မြန်မာစာဖြစ်သည်။ ကြိုးစားကြစို့။' (၂၂-၉-၃၁)

သို့သော်လည်း ထိုစဉ်အခါက မြန်မာစာ၏အခြေအနေ မှာ မှေးမှိန်လျက်ရှိသည်။ မင်းပိုင်းစိုးပိုင်း သေဌေးသူကြွယ် ပိုင်းက မြန်မာစာပေကို အသုံးမဝင်သည့်အနေဖြင့်လျစ်လျူ ရှုသည်။ မြန်မာပညာရှိပိုင်းက မြန်မာစာပေပညာကို သူ တို့သာတတ်သည်။ အခြားသူတို့ မတတ်၊ အထူးသဖြင့် ကျောင်းဆရာနှင့်ကျောင်းသားများမတတ်ဟုအယူရှိသည်။ ဤအယူ နှစ်ခုကို ချိုးဖျက်နိုင်မှ မြန်မာစာပေ တိုးတက်လေ မည်ဟု ဦးစိန်တင်ယုံကြည်သည်။ ထိုကြောင့် အထက်လွှာ တွင်လည်းပါ၍ ကျောင်းသားလည်းဖြစ်သူတို့က မြန်မာစာ ပေ၏တိုးတက်ရာတိုးတက်ကြောင်းကိုဆောင်ရွက်နေပါသည် ဟုသက်သေထူလိုသောကြောင့် သူ၏ ကလောင်အမည်တို့ တွင် 'သိပ္ပံ' ဆိုသောစကားလုံးကိုတပ်လေသည်။ (ယခု အခါ ရန်ကုန်တက္ကသိုလ်ခေါ်သော ပညာဌာနမှာ ရှေးအခါ က 'ကောလိပ်သိပ္ပံကျောင်း' ဟုတွင်ခဲ့သည်။) သူ့စာတ စောင်တွင်၊

'မောင်မြသွင်တို့ မောင်ဝတို့မှာ သူတို့ အမည်တွင် သိပ္ပံဆိုသောစကားကိုမြင်ကြရပေသည်။ အမှုမဲ့ အမှတ်မဲ့ တပ်ထားသည်မဟုတ်။ သိပ္ပံကျောင်းသား များရေးနိုင်သည် ရေးတတ်သည် အစွမ်းရှိသည်ကိုပြလို သောကြောင့်မဟုတ်လော။' (၂၂-၇-၃၃)

ဤကဲ့သို့ စာပေပြုစုရာတွင် ဦးစိန်တင်သည် အဓိကအ ကြောင်းသုံးရပ်ကိုလိုက်၍ တကိုယ်ကို သုံးကိုယ်ခွဲလျက်ရေး လေ့ရှိသည်။ ထိုသုံးရပ်မှအပဖြစ်သော အကြောင်းတို့ကိုရေး လိုသောအခါ အခြားသင့်လျော်ရာ အမည်တို့ကိုကောက်ယူ သုံးစွဲသည်။ သူ့စာတစောင်တွင်၊

'မောင်မြသွင်အား ဗုဒ္ဓဘာသာအသင်းအကြောင်း

ရေးပါဟုတိုက်တွန်းလိုက်ပါ၏။ သို့သော် များစွာ ရေးချင်ပုံမပေါ်။ သူက စာပေဝေဘန်သူ သက်သက် ဖြစ်လေသည်။ Critic ဆိုပါတော့။ မောင်ဝက လည်း Novelist ဝတ္ထုဆရာ။ တင်မောင်မြင့်က တော့ လမ်းညွှန်ဆရာ Essayist။ သူ့နေရာနှင့်သူ့ နေရာကိုး။' (၁-၈-၃၃)

မြန်မာစာပေ တိုးတက်ရာ တိုးတက်ကြောင်းအတွက် မြန် မာစာကိုသာ ဖတ်နေရုံနှင့်မပြီး။ အခြား စာကြီးပေကြီးတို့ ကိုလည်းဖတ်ရမည်။ ထိုပြင် စာပေဝေဘန်မှုကိုလည်း လေ့ လာရမည်၊ အားပေးရမည်ဟု ဦးစိန်တင်ယုံကြည်သည်။ သူ့ စာတစောင်တွင်၊

'မြန်မာစာဂုဏ်ထူးယူသည်ဟု အင်္ဂလိပ်စာအုပ်များ ကိုမဘတ်ဘဲမနေပါနှင့်။ မြန်မာစာပေ၌ဝေဘန်ချက် စာမျိုး များစွာမထွန်းကားခဲ့။ သို့ဖြစ်သောကြောင့် အင်္ဂလိပ်ဝေဘန်ချက်စာများကိုဘတ်ရန် လိုလေသည်။ အတိုဝေဘန်ချက်စာမျိုးကိုလိုမူ Hazlitt's Essays တို့ကိုဘတ်ရာ၏။ အရှေ့ဝေဘန်ချက်မျိုးကို လိုမူ Macaulay's Essays များကိုဘတ်ရာသည်။'

ဝေဘန်ချက်ရေးသားနည်းကိုလည်း ဤသို့ဆက်လက်ညွှန် ပြပြန်သည်။

'ဝေဘန်ချက်ရေးသားသည်ဆိုရာ၌ မိမိ စိတ်တွင် ပေါ်လာသောအချက်ကိုရေးသားခြင်းပင်ဖြစ်၏။ ကောင်းလျှင် ကောင်း၏။ မကောင်းလျှင် မကောင်း ဟူ၍ရေးသားခြင်းပင်ဖြစ်၏။ ဤသို့ ရေးသားရာ၌ တိုက်ရိုက်မရေးမူ၍ အသိုင်းအဝိုင်းများစွာနှင့် ဘတ်၍ ကောင်းနားထောင်၍ကောင်းအောင်ရေးသားခြင်းပင် ဖြစ်လေသည်။ ဥပမာ သာဓကတို့ကို သုံးခြင်းအားဖြင့် လည်း ဘတ်ရသူတို့၏စိတ်ကို ထိညိစေနိုင်၏။ ထိုမှတ ပါးလည်း ဗဟုသုတလိုလေသည်။ ဗဟုသုတမှာလည်း အမျိုးမျိုးအစားစားရှိ၏။ ဗဟုသုတများလေလေ ဝေဘန်ချက်ကောင်းလေလေ။' (၁၁-၁၁-၃၁)

ဝေဘန်ချက် ရေးရာတွင် မည်သို့သောစိတ်မျိုးကို ထားရ မည် ဟူသော မေးခွန်းကိုဖြေလိုသော သဘောဖြင့် စာတ စောင်တွင်ဤသို့ရေးပြန်သေး၏။

'ဝေဘန်ချက်ရေးသူတို့မှာ မိတ်ဆွေ မျက်နှာ ကို မထောက်ရ။ စာပေတိုးတက်ရေး စာပေကြီးပွားရေး မျက်နှာကိုထောက်ရပေသည်။ ပုဂ္ဂိုလ်ခင်သော ကြောင့် တရားမင်ခြင်းသည် သူတကာကိုလမ်းမှား ညွှန် ပြသည်နှင့်တူ၏။' (၂၂-၆-၃၃)

ဦးစိန်တင်သည် ဆောင်းပါးအများကို နေ့စဉ်နှင့်အမျှ ရေး လေ့ရှိသည်။ အကြမ်းရေးပြီးလျှင် အချောကူးသည်။ ထို နောက်မှ ဆိုင်ရာသို့ပို့သည်။ အငိုးရအလုပ်ကိစ္စများ အများ

အပြားရှိသည့်အကြားမှ စာပေရေးရရှာသဖြင့် သူ၏စာတို တွင် စာလုံးပေါင်းစံမကိုက်မှု၊ သဒ္ဒါချွတ်ယွင်းမှု၊ ဝေါဟာရ အသုံး မတိကျမှုတို့ကို မကြာခဏတွေ့ရသည်။ ထိုသို့တွေ့ရ သည်တို့ကိုကောက်ယူညှိနှိုင်းပြလျှင် သူဝမ်းသာသည်။ ကျေး ဇူးတင်သည်။ သူ့စာတစောင်တွင်၊

'မောင်မြသွင်၏ဆောင်းပါးတွင် အမှား ပြင်လိုက် သည့်အတွက် သာ၍ဝမ်းမြောက်ပါ၏။ ကျွန်ုပ်တို့ကား သူတကာကဲ့သို့ အမှားပြင်ခြင်းကိုမကြိုက်သူ မဟုတ်။ ကြိုက်သူဖြစ်လေသည်။' (၂၇-၆-၃၃)

နောက်တစောင်တွင်လည်း၊

'အမှားကိုဘော်ပြလိုက်တဲ့အတွက် ကျေးဇူးတင်သ ဗျာ။ မောင်ဝဆိုတဲ့မောင်ဝကတော့ သတ်ပုံကျရင်ဖြစ် ကတတ်ဆန်းဘဲ။ ရေးချင်သလို ရေးတော့တာဘဲ။ သည်နေရာမှာ ဦးဇော်ဂျီတို့ မင်းသုဝဏ်တို့က သာသ ဗျ။ . . . ဒါကြောင့်မို့ အခုတော့ဖြင့် ကဝိမျက်မှန်သတ် ပုံစာအုပ်ကြီးကိုအမြဲလက်ကိုင်ထားတယ်။ ဒါတောင် မှ တခါတခါ အမှားတွေ ဖောက်ဖောက်လာတယ်။ မောင်ဝဆိုတဲ့မောင်ဝဟာ ဘယ်လိုဘဲထွင်တတ်တယ်ဆို ဆို၊ ဘယ်လိုဘဲအရေးကောင်းတယ်ဆိုဆို၊ ဘယ်လိုဘဲ စိတ်ကူးစိတ်သန်းကောင်းတယ်ဆိုဆို၊ မသေချာတဲ့နေ ရာမှာတော့ ပထမတန်းဘဲဗျို။ သူ့ချို့ယွင်းချက်ကိုလဲ သူအသိသားဘဲ။ နို့ပေမဲ့ မွေးကတည်းကပါလာတဲ့ အကျင့်မို့လား မသိဘူး။ ဘယ်တော့မှ ပြင်လို့မရဘူး။ သေသည်တိုင်အောင် ဖြစ်ကတတ်ဆန်းသမားဖြစ်သွား မဲ့ မောင်ဝပါဘဲဗျာ။' (၁၁-၁၀-၃၇)

ဦးစိန်တင်သည် စကားပြောအရာတွင် အလွန်ကျွမ်းကျင် သောပုဂ္ဂိုလ်ဖြစ်သည်။ သို့သော်လည်း လင်္ကာအရာတွင် ကား သူ့ကဗျာတို့ကိုကောင်းစွာမတွေ့ရဘူးသဖြင့် မပြော တတ်။ သူ့ကိုယ်တိုင်ကမူ ကဗျာနှင့်စပ်လာလျှင် သူ့ကိုယ် ကိုသူ ရှုတ်ချပြောလေ့ရှိသည်။ သူ့စာတစောင်တွင်၊

'ကျွန်ုပ်တို့ကား ကဗျာရေးသားဘူးသော်လည်း က ဗျာဘက်၌မထူးချွန်။ ယခု အင်းစိန်တွင် ရာဘက်တရား သူကြီး ဦးသိန်း၊ ထို့နောက်မြို့မကျောင်းဆရာ မောင် သိန်းဟန်တို့မှာ ကဗျာ အရေးအသား ကောင်းသူများ ဖြစ်ကြလေသည်။ မောင်သိန်းထက် မောင်သိန်းဟန်က စိတ်ကူးဉာဏ်ကောင်း၏။' (၂၂-၉-၃၁)

နောက်တစောင်တွင်လည်း၊

'မောင်ဝ၌ ရှင်ပြသော ဉာဏ်ရှိစေကာမူ လင်္ကာ ဉာဏ်ကား ထင်သလောက်မရှိသည်ကို မောင်ဝန်လည်း ရိပ်မိပေလိမ့်မည်။ မောင်ဝကား လင်္ကာဆရာမဟုတ်။ လူပျက်မျှသာတည်း။' (၅-၉-၃၃)

ဦးစိန်တင်ကား သွားလေရာတွင် မျက်စိကိုဖွင့်လျက် နား ကိုစွင့်လျက် ဆောင်းပါးရေးရန်အကြောင်းရပ်တို့ကိုအမြဲရှာ သည်။ ကုန်သည်သည် အမြတ်ရလျှင် ပျော်သကဲ့သို့ ဦးစိန် တင်သည် အကြောင်းရလျှင် ပျော်သည်။ မည်မျှကိစ္စများ သော်လည်း ဆောင်းပါးရေးရမည်ဆိုလျှင် အပင်ပန်းခံလေ့ ရှိသည်။ သူ့စာတစောင်တွင်၊

'ရေးကတော့ ရွှေဘိုဟာ သူပုန်နယ်ဆိုပြီး ဝါရင့်တဲ့ အင်္ဂလိပ်အရေးပိုင်များကိုသာ အုပ်ချုပ်စေတယ်။ အခု တော့ ဝါနုတဲ့ မြန်မာအရေးပိုင်ကလေးကို ပို့လိုက်တော့ ဘယ်လိုအုပ်ချုပ်မယ် ဆိုတာကို စောင့်စားပြီး ကြည့်နေ ကြတယ်။ သည်တော့ ကြိုးစားပြီးလုပ်ရတာပလေ။ သန်းခေါင်ကျော်မှ အိပ်ရတဲ့ညတွေများတာပါဘဲ။ အ လုပ်တွေဘယ်လိုများများ ကိုယ်ဝါသနာပါတဲ့ဆောင်း ပါးတွေကိုတော့ ရေးဖြစ်အောင်ရေးတာပါဘဲ။ . . .

'အထက် မြန်မာပြည် ဆိုတော့ ရောက်လေရာ သွား လေရာမှာ ရေးချင်စရာတွေကိုတွေ့တာဘဲ။ ရေးချင် တာကို တွေ့မှဖြင့်လဲ ကောက်ပြီးရေးရတော့တာဘဲ။ သည်တော့ လူပင်ပန်းတာပဗျာ။ သင်္ကြန်အတွင်းက ရွှေဘိုမှာ ပူလွန်းအိုက်လွန်းတာနဲ့ ကျောက်မြောင်းမှာ သွားနေတယ်။ ကျောက်မြောင်းအကြောင်း ဆောင်း ပါးတစောင်ကိုရလိုက်လေရဲ့။ ၂၄-၄-၃၈ နေ့က ရွှေ ကျင်ဂိုဏ်းကြီးကို စတင်တည်ထောင်တဲ့ ရွှေကျင်ဆရာ တော်ဘုရားကြီးရဲ့ မွေးဖွားရာ ရွှေကျင်ရွာကလေးသို့ ရောက်သွားတယ်။ ရွှေကျင်အကြောင်းဆောင်းပါး ကလေးတစောင်ကိုရလိုက်ပါရဲ့။ ရွှေဘိုနယ်မှာ ရေး ချင်စရာတွေကတော့ ပေါပါပေ့ဗျာ။ မြေဒူးတို့၊ တပ ရင်းတို့၊ ဟလင်းတို့၊ ချီပါတို့ပေါ့လေ။ သူရိယမဂ္ဂဇင်း မှာသာမျှော်ပါတော့။' (၁၅-၅-၃၈)

နောက်စာတစောင်တွင်ရှုပါဦး။

'ဤ "ပဋ္ဌာစာရီ" ဆိုသောဆောင်းပါးနှင့် "နောင်" တို့ကို ဂန္ထလောကစက်တင်ဘာလထုတ်တွင် ဘတ်ရမည်ထင်၏။ "သူပုန်အငွေ့" ကိုကား ဒဂုန် တွင်တွေ့ရလိမ့်မည်ထင်သည်။ စက်တင်ဘာလအတွက် တော့ပြီးသွားပြီ။ အောက်တိုဘာလအတွက် လိုသေး ၏။ အားလပ်ခွင့်ရ၍စိတ်ကူးများကောင်းနေမှဖြင့် တ နာရီအတွင်း ဆောင်းပါး ၂ စောင်ခန့်ရ၏။ အလုပ် တွေများ၍ စိတ်ရှုပ်ထွေးနေမှဖြင့်လဲ ဘာမျှရေး၍မရ။ အားတဲ့အခါ စိတ်ကူးပေါက်တဲ့အခါမျိုး ရသလောက် ရေးထားရပေသည်။ . . . မောင်မြသွင်တို့ရေးတုန်းအ ခါကတော့ တနင်္ဂနွေ တပတ်လျှင် နှစ်စောင်ကျရေးခဲ့ ပေတယ်။ မောင်ဝတို့ကတော့ တလမှ နှစ်စောင် လောက်ရယ်။ မောင်မြသွင်နှင့်မကွာလား။' (၁-၈-၃၃)

ဦးစိန်တင်သည် မိမိကိုယ်တိုင်လည်းအမြဲရေးသည်။ သူတပါးရေးသည်တို့ကိုလည်း အမြဲဖတ်သည်။ ချို့တဲ့ချွတ်ယွင်းချက်တို့ကို တွေ့လျှင်ဝေဘန်သည်။ ကောင်းသည့်အချက်တို့ကိုတွေ့လျှင်ချီးကျူးသည်။ ထိုစဉ်အခါက ဆယ်တန်းသားများ မြန်မာစာတွင် ညံ့ဖျင်းနေသည်ကို သိရသောအခါ ဦးစိန်တင် စိတ်မကောင်းဖြစ်သည်။ ထို့ကြောင့် အကြောင်းရှာ၍ဆေးပေးရန်ကြိုးစားသည်။ သူ့စာတစောင်တွင် ဤသို့ဝေဘန်သုံးသပ်ခဲ့သည်။

'ဆယ်တန်းသားတွေ စာပေအရေးအသားဖျင်းတာကတော့မပြောပါနဲ့တော့။ ဆရာတွေကိုကမှ နေရာမကျဘဲဟာကလား။ ဆယ်တန်းမှာ သင်ကြားပြသနေကြတဲ့မြန်မာဆရာတွေအထဲးက ကျောင်းသုံးစာအုပ်အပြင် အခြားအလွတ်စာအုပ်ကို ဘတ်ဘူးကြတဲ့လူ ဘယ်နှစ်ယောက်ရှိသလဲလို့ စစ်ဆေးကြည့်ပါဦး။ ကျောင်းသုံးစာအုပ်ကိုပင် ဟုတ္တိပတ္တိမဘတ်ပါဘဲ . . . ရေးသားထုတ်ဝေထားတဲ့ ဋီကာတွေ၊ အဘွင့်တွေကိုသာ လက်ကိုင်ထားပြီး သင်ကြားပြသနေကြသည်သာများလေသည်။ အချို့မြန်မာဆရာတို့ကား ကျောင်းသားများလောက်မျှ မြန်မာစာမတတ်ကြ။ . . . ပညာအုပ်၊ ပညာဝန်ထောက်၊ ပညာဝန်တို့က မြန်မာစာပေကိုတတ်၍ မြန်မာစာပေကိုအရေးယူမှ ကျောင်းဆရာများမြန်မာစာပေကိုအရေးယူလေ့လာကြပေလိမ့်မည်။ ကျောင်းဆရာများက မြန်မာစာပေကို အရေးယူလေ့လာကြပါမှ ကျောင်းသားများ မြန်မာစာကို ကောင်းစွာတတ်မြောက်ကြပေလိမ့်မည်။'

(၂၈-၆-၃၆)

ဦးစိန်တင်၏ချစ်ဖွယ်ကောင်းသောဝါသနာ တခုမှာကား ပညာသည်ကို ချစ်တတ်ခြင်းပင်ဖြစ်သည်။ ပညာသည်ကို ချီးကျူးရမည်လည်း ဦးစိန်တင်ဝန်မလေးပေ။ စာနယ်ဇင်းတို့ကိုအမြဲလေ့လာ၍ အစွမ်းအစရှိသူကိုတွေ့လျှင် သတင်းမေးပြီးလျှင် စာလှမ်းရေးကာ မိတ်ဆက်လေ့ရှိသည်။ အားပေးလေ့ရှိသည်။ နည်းနာနယတို့ကို တောင်းလျှင် မမောမပန်းညွှန်ပြလေ့ရှိသည်။ ပညာသည်တို့ကို ချီးကျူးခြင်းနှင့်စပ်၍ သူ့စာတစောင်တွင် ဤသို့တွေ့ရသည်။

'သာဒိုးအောင်ဆု ရသူများအကြောင်းလည်းရေးရဦးမည်။ ဝေလမင်းသားဆု ရသူတွေအကြောင်းကိုလည်း ရေးဦးမည်စိတ်ကူးထားသေး၏။ ဤသို့ရေးခြင်းအားဖြင့် ရပြီးသားသူတို့အားလည်း ချီးမြှောက်ရာရောက်၏။ မရသေးသောသူတို့ကိုလည်း အားပေးရာကျလေသည်။' (၂၈-၇-၃၃)

နောက်တစောင်တွင်ကား ဤသို့၊

'စနွယားမောင်ကျော်နှင့်မိတ်ဆွေဖွဲ့ကြားရသောကြောင့်ဝမ်းမြောက်ပါ၏။ ဤသို့ တဘက်ဘက်တွင်ထူးချွန်သူအား များစွာချီးမြှင့်ချင်သောစိတ်ကား မောင်ဝတ္ထု၊ မောင်မြသွင်တို့တွင် ကိန်းအောင်းနေပေ၏။ သိချင်၏။ ကျွမ်းချင်၏။ ချီးမွမ်းချင်၏။ သူလည်းပညာသည်တဦးပင်။' (၅-၉-၃၃)

သူ၏ နှလုံးထားအချုပ်မှာကား သဘောထားကြီးမှုပင်ဖြစ်သည်။ ဦးစိန်တင်သည် လောကဓံတရားအမျိုးမျိုးကိုတွေ့ကြုံသုံးသပ်ဘူး၍ သဘောထားကြီးမှုသည်သာ အားကိုးရာဖြစ်သည်ကို သိပုံရသည်။ ထို့ကြောင့် သူ့စာတစောင်တွင် ဤသို့ရေးလိုက်သည်။

'စာတတ်တိုင်းလည်း လူမချီးမွမ်း။ လူချစ်မများ။ လူ မစခြင်းမရှိ။ ထင်ပေါ်ခြင်းမရှိ။ ဤကို သတိများများထားရသည်။ စာတတ်ပြီး သဘောထားကြီးမှသာလျှင် လူခင်များ၏။ လူချီးမွမ်းများ၏။ မစချင်သူများ၏။ ထင်ပေါ်၏။' (၂၇-၆-၃၃)

ဦးစိန်တင်သည် ဤကဲ့သို့ အမျိုးမျိုးအဖုံဖုံ အကြံပေး ရေးသားခဲ့သည့်အတိုင်း မိမိကိုယ်တိုင်လည်းလေ့လာကျင့်ဆောင်ခဲ့ပေသည်။

အထက်ပါအကြောင်းရပ်တို့ကို ဦးစိန်တင်ရောက်ရာအရပ်က ပေးပို့သော စာများကိုကိုးကား၍ ရေးလိုက်ရခြင်းဖြစ်ပေသည်။

### စာရေးဆရာ ဦးစိန်တင်

ဦးစိန်တင်သည် လူသားတဦးအဖြစ်ဖြင့်သဘောထားကြီးသူဖြစ်သည့်အတိုင်း၊ သူရေးသောစာများသည်လည်း သူ၏သဘောထားကြီးမှုတည်းဟူသောမြေဆီလွှာမှ ကားကားစွင့်စွင့် ပွင့်လာသောစာများဖြစ်လေသည်။

ဦးစိန်တင်သည် စာပေကိုချစ်ခင်သကဲ့သို့၊ ပတ်ဝန်းကျင်လောကကိုလည်းချစ်ခင်ခြင်းရှိလေသည်။ ပညာရှင်ကိုရိုသေလေးစားသကဲ့သို့၊ ပတ်ဝန်းကျင်လောကကိုလည်း အယုတ်အလတ် အမြတ် မရွေး ရိုသေ လေးစားခြင်း ရှိလေသည်။ သူ စာစရေးသည်ဟုဆိုအပ်သော ၁၉၂၇ ခုနှစ်မှ၊ သူ အနိစ္စရောက်သော ၁၉၄၂ ခုနှစ်အထိ၊ တဆယ့်ငါးနှစ်မျှသောကာလအတွင်း သူရေးခဲ့သမျှသော စာပေဆောင်းပါး ဝတ္ထုဆောင်းပါးတို့သည် သူ၏ချစ်ခင်တတ်ခြင်း၊ ရိုသေလေးစားတတ်ခြင်းတို့ကို သက်သေခံလျက်ရှိလေသည်။ အထူးအားဖြင့်၊ ဝတ္ထုဆောင်းပါးများသည် ချစ်ခင်တတ်သော၊ ရိုသေလေးစားတတ်သော ဦးစိန်တင်၏စေတနာကို ထင်ရှားစွာပြခဲ့လေသည်။ ထိုစေတနာကြောင့်ပင်လျှင်၊ သူ၏စိတ်ကူးဉာဏ်နှင့် သူ၏အရေးအသားနှင့်ဟန်တို့ကလည်း ကြည်လင်ရှင်ပျခြင်းရှိလာရသည်ဟု ယူဆအပ်လေသည်။

ဦးစိန်တင်သည် မြန်မာနိုင်ငံတွင် ၁၉၂၉ ခုနှစ်မှစ၍၊ ပြည်



သိပ္ပံမောင်ဝအမည်ခံ ဦးစိန်တင်

သူ့ဝန်ထမ်းတဦးအဖြစ်ဖြင့် အမှုထမ်းခဲ့သူဖြစ်လေရာ၊ သူ၏ စေတနာကျရောက်ရာအရပ်သည် အများအားဖြင့် ပြည်သူ့ဝန်ထမ်းတဦး၏ပတ်ဝန်းကျင်ဖြစ်လေသည်။ ထိုပတ်ဝန်းကျင်တွင် သူမြင်သမျှ၊ ကြားသမျှ၊ ကြုံသမျှတို့ကို ဦးစိန်တင်သည် ဝတ္ထုဆောင်းပါးများမှ တဆင့် တင်ပြခဲ့လေသည်။ တင်ပြရာတွင်၊ နယ်ပယ်ကိုအုပ်ချုပ်ရသောပြည်သူ့ဝန်ထမ်းတဦး၏စိတ်ထားစေတနာဖြင့်လည်းတင်ပြခဲ့၍၊ လူသားတဦး၏စိတ်ထားစေတနာဖြင့်လည်း တင်ပြခဲ့လေသည်။

ပြည်သူ့ဝန်ထမ်းတဦးအဖြစ်ဖြင့်၊ ဦးစိန်တင်သည် မိမိ၏ ရုံးခန်းရုံးဝင်း၌ရင်း၊ ကျေးရွာများ၌ရင်း စိတ်ညစ်စရာတို့နှင့်လည်း ကြုံခဲ့လေသည်။ ကရုဏာဖြစ်စရာတို့နှင့်လည်း ကြုံခဲ့လေသည်။ ကရုဏာဖြစ်လျက်နှင့်၊ ထိုက်သင့်သောပြစ်ဒဏ်ကိုပေးရခြင်းလည်းရှိခဲ့သည်။ ပျော်စရာ၊ နှစ်သက်စရာတို့နှင့်လည်း ကြုံခဲ့သည်။ မြို့ပေါ်က ရာထမ်းမှုထမ်းအမျိုးမျိုးနှင့်လည်း တွေ့ခဲ့ရသည်။ ကျေးရွာက သူကြီး၊ ကျောင်းဆရာတို့နှင့်လည်း တွေ့ခဲ့ရသည်။ ရာဇဝတ်မှုအမျိုးမျိုးကိုလည်း မြင်ခဲ့ရသည်။ ပြည်သူ့ဝန်ထမ်းတဦး၏ အလုပ်ဝတ္တရားဆိုင်ရာ အမှုကိစ္စအမျိုးမျိုးကိုလည်း မြင်ခဲ့ရသည်။ ထိုသို့သော အတွေ့၊ အမြင်၊ အကြုံတို့တွင် ဦးစိန်တင်သည် ဘဝ၏ ဣဋ္ဌာရုံအကွက်များကိုရင်း၊ ဘဝ၏ အနိဋ္ဌာရုံအကွက်များကိုရင်း ဆင်ခြင်သုံးသပ်ခဲ့လေသည်။

ရုံးခန်း ရုံးဝင်းအတွင်း စိတ်ညစ်စရာအကွက်ကို 'နယ်ပိုင်မင်း' နှင့် 'လေလံပွဲ' တို့၌ရင်း၊ ကရုဏာဖြစ်စရာအကွက်ကို 'ပဋ္ဌာစာရီ' ၌ရင်း၊ ကရုဏာဖြစ်လျက်နှင့်၊ ထိုက်သင့်သော ပြစ်ဒဏ်ပေးရသောအကွက်ကို 'တရာ့တဆယ်' ၌ရင်း၊ ပျော်စရာ၊ နှစ်သက်စရာအကွက်ကို 'လှည်းသမား' နှင့် 'အညာဘုရားပွဲ' တို့၌ရင်း၊ မြို့ပေါ်က ရာထမ်းမှုထမ်းတစုအကြောင်းကို 'အင်းဝ' နှင့် 'မြင်းတွေ' တို့၌ရင်း၊ သူကြီးတဦးအကြောင်းကို 'ရွှေတိုက်' ၌ရင်း၊ ရွာကျောင်းဆရာတဦးအကြောင်းကို 'ရွာ့ကြက်သရေ' ၌ရင်း၊ ရာဇဝတ်မှုတမှုအကြောင်းကို 'ထားပြမှု' ၌ရင်း၊ ပြည်သူ့ဝန်ထမ်းတဦး၏ အလုပ်ဝတ္တရားဆိုင်ရာအမှုကိစ္စတခုအကြောင်းကို 'ရွေးကောက်ပွဲ' ၌ရင်း တခါတရံသနားစရာ၊ တခါတရံနှစ်သက်စရာ၊ တခါတရံ ချီးကျူးစရာ၊ တခါတရံ ရှုတ်ချစရာဖြစ်အောင်ရေးထားသည်ကို ဖတ်ရှုနိုင်လေသည်။

ဦးစိန်တင်သည် ပြည်သူ့ဝန်ထမ်းတဦး၏အတွေ့၊ အမြင်၊ အကြုံတို့ကိုသာမက၊ လူသားတဦး၏အတွေ့၊ အမြင်၊ အကြုံတို့ကိုလည်း ဝတ္ထုဆောင်းပါးများဖြင့်ပင်လျှင်၊ ဖွဲ့နွဲ့ခဲ့လေသည်။ ထိုဝတ္ထုဆောင်းပါးများသည် အများအားဖြင့် ပျော်စရာ၊ နှစ်သက်စရာဖြစ်လေသည်။ ဦးစိန်တင်၏ဟာသသည် ထိုဝတ္ထု ဆောင်းပါး များတွင် အထူး ထင်ရှားလေသည်။ သူ၏လူပျိုဘဝစိတ်ကူးကို 'စည်းစိမ်' ၌ရင်း၊ သူ့မိတ်ဆွေနှစ်ဦးအကြောင်းကို 'တိုဆရာ' နှင့် 'ဂေါက်သီးစားဦးပေါစံ' တို့၌ရင်း၊ သူ့သားငယ်နှင့်သမီးငယ်တို့အကြောင်းကို 'နိုက်နိုက်ချွတ်ချွတ်' ၌ရင်း၊ သူ့ချင်းခွေးနှစ်ကောင်၏ အချစ်ဇာတ်လမ်းကို 'သင်းတို့နှစ်ကောင်'၊ 'သောက' နှင့် 'အချစ်မီး' တို့၌ရင်း ဖတ်ရှုနိုင်လေသည်။

နှောင်းခေတ် မြန်မာစာပေသမိုင်းတွင်၊ ကာရန် အချိတ်အဆက်ရှိသော စကားပြေမျိုးမှ စကားပြေ ရိုးရိုးသို့ကူးပြောင်း၍ အရေးများလာလေသည်။ အစကနဦးတွင် စကားပြေ ရိုးရိုး ကို ကာရန် အချိတ်အဆက်ရှိ စကားပြေမျိုးလောက် အရေးမပေးချင်ကြချေ။ နောင်အခါမှာမှ၊ အရေးပေးလာကြလေသည်။ ထိုသို့ အရေးပေး လာအောင်စွမ်းဆောင်ကြသော စကားပြေ စာရေးဆရာများ အနက်၊ ဦးစိန်တင်သည် ထူးချွန်သူတဦးဖြစ်လေသည်။ ဦးစိန်တင်သည် အလွမ်းသမားမဟုတ်သဖြင့်၊ လွမ်းစရာ၊ ဆွေးစရာတို့ကို ရေးလေ့မရှိချေ။ သို့ရာတွင် သူ့စေတနာအလျောက် ကြားမြင်ကြုံတွေ့ ရသော ဘဝ အကြောင်း၊ လောက အကြောင်းတို့ကိုကား အာဝဇ္ဇန်းရှင်ရှင်နှင့် ရှင်းရှင်းလင်းလင်း သရုပ်ဖော်နိုင်သူဖြစ်လေသည်။ ဦးဝန်နှင့်ဦးသိန်းဟန်



စိန်နဘော်နွယ်

**စိန်နဘော်ပင်။** ။စိန်နဘော်ပင်သည် နွယ်ပင်မျိုးဖြစ်သည်။ ကုန်းတန်းများ၌ပေါက်လေ့ရှိသည်။ ရုက္ခဗေဒအလိုအားဖြင့် 'ဆီမိုင်းလက် ပလိုရီဖားရား' ဟုခေါ်၍၊ 'လီလီအေးစီအီး' မျိုးရင်းတွင်ပါဝင်သည်။ စိန်နဘော်ပင်၏ ပင်စည်မှ ရရှိသောအမျှင်များသည် ဝက်မှင်ဘီးပြုလုပ်ရန် ကောင်းမွန်သည်ဟုဆိုသည်။ မြန်မာဆေးကုထုံးနည်းတွင် သွေးစင်ကြယ်စေသော ဆေးဖက်ဝင်ဖြစ်သည်။

**စိန်ပီတာ။** ။စိန်ပီတာ (ရှင်ပေတရု) သည် ယေရှု၏ တကျိပ်နှစ်ပါးသော တပည့်တော်တို့တွင် အထင်ရှားဆုံး တပည့်တော်ဖြစ်သည်။ ဓမ္မသစ်ကျမ်းတွင် စိန်ပီတာကို ဆိုင်မွန် (ရှိမုန်) ဟူ၍ငင်း၊ ဆိုင်မွန်ပီတာ (ရှိမုန်ပေတရု) ဟူ၍ငင်း၊ ကေဖ ဟူ၍ငင်း အမည်အမျိုးမျိုးဖြင့် ဖော်ပြထားသည်ကိုလည်းတွေ့ရသည်။ ပီတာ၏ငယ်စဉ်ဘဝကိုမသိရသော်လည်း ကပါးနေယမ် (ကပေရနောင်) မြို့တွင် ယောက်ခမ၏အိမ်၌ ညီဖြစ်သူ အင်ဒရူး (အန္ဒြေ) နှင့်အတူ တံငါအလုပ်ဖြင့် အသက်မွေးသည်ဟူ၍ ကြားသိရှိရသည်။

ယေရှုသည် ဂယ်လီလီ (ဂါလိလဲ) အိုင်ထဲ၌ပိုက်ချနေကြသော ပီတာနှင့် သူ၏ညီ အင်ဒရူးတို့ကိုမြင်လေလျှင်၊ 'ငါ့နောက်သို့လိုက်ကြလော့၊ သင်တို့သည် လူကိုဖမ်းသောတံငါ ဖြစ်စေခြင်းငှာ ငါပြုမည်' ဟုမိန့်သဖြင့် သူတို့သည် ပိုက်ကွန်များကို စွန့်၍ ယေရှု၏ နောက်သို့ လိုက်ပါသွားကြ၏။

ပီတာသည် စိတ်လိုက်မာန်ပါပြုလုပ်တတ်သည်။ တပည့်တော်တို့တွင်ယေရှုနှင့်အရင်းနှီးဆုံးတပည့်တော်တပါးဖြစ်သဖြင့် နောက်လိုက်တပည့်များကို စောင့်ရှောက်ထိန်းသိမ်းရန်တာဝန်ကိုလွှဲအပ်ခြင်းခံရသူဖြစ်သည်။ ထို့ကြောင့် ပီတာသည် ပါလက်စတိုင်းပြည်တွင်လှည့်လည်၍ ဆင်းရဲဒုက္ခခံလျက် ခရစ်ယန်အယူဝါဒကိုဟောပြောခဲ့သည်။ ရောမမြို့တွင်လည်း သာသနာပြုခဲ့ဘူးသည်ဟုဆိုသည်။ ဗရင်ဂျီဂိုဏ်းဝင်တို့က စိန်ပီတာအား ရောမမြို့၏ပဌမဂိုဏ်းအုပ်ဘုန်းကြီးအဖြစ်ငင်း၊ ပဌမပုပ်ရဟန်းမင်းကြီးအဖြစ်ငင်း၊ အသိအမှတ်ပြုထားကြသည်။ (ပုပ်ရဟန်းမင်းများ — ရှု။)

စိန်ပီတာသည် ရောမဘုရင် နီးရိုးလက်ထက်တွင် အဖမ်းခံရပြီးနောက်၊ ကားစင်တင်၍အသတ်ခံရသည်ဟု အချို့ကဆိုသည်။ အချို့ကလည်း အသက်အရွယ်ကြီးရင့်လာသဖြင့် အိုမင်းမစွမ်းဖြစ်၍ အနိစ္စရောက်သည်ဟုဆိုသည်။ ဓမ္မသစ်ကျမ်းတွင် စိန်ပီတာရေးခဲ့သော ဩဝါဒစာ ၂ စောင်ကိုတွေ့ရှိနိုင်သည်။

ရောမမြို့တွင် စိန်ပီတာအားရည်စူး၍ ဆောက်လုပ်ထားသော ဘုရားရှိခိုးကျောင်းကြီးကိုငင်း၊ ထိုကျောင်းအတွင်း၌ စိန်ပီတာ၏ကြေးရုပ်တုကြီးကိုငင်း တွေ့မြင်နိုင်ပေသည်။



ရောမမြို့ရှိ စိန်ပီတာအထိမ်းအမှတ် ဘုရားရှိခိုးကျောင်းကြီး

**စိန့်ပေါ**။ ။ခရစ်၏ တရားတော်ကို မြတ်နိုးစွာ လိုက်နာကျင့်သုံး၍ ပဌမဦးစွာ ခရစ်ယာန်သာသနာကိုပြုသော ပုဂ္ဂိုလ်ကား သူတော်စင် စိန့်ပေါ (ရှင်ပေါလု) ပင်ဖြစ်သည်။ ခရစ်ယာန်သာသနာတွင် စိန့်ပေါသည် အလေးအမြတ်ပြုခြင်းအခံရဆုံးသော ပုဂ္ဂိုလ်တဦးဖြစ်သည်။ မူလနာမည်မှာ ဆော (ရှောလု) ဖြစ်၍၊ ပေါ (ပေါလု) ဟူသောအမည်မှာ ခရစ်ယာန်ဘာဝသို့ကူးပြောင်းပြီးမှခေါ်တွင်သောအမည်ဖြစ်သည်။ ပေါသည် ရောမနိုင်ငံသားတဦး ဖြစ်သော်လည်း မိဖ မျိုးရိုးမှာ ဟီဗြူမျိုးရိုးဖြစ်၏။ ပေါသည် ယဟူဒီထုံးစံဓလေ့အတိုင်းကြီးပြင်းခဲ့ရသည်။ မိဖတို့သည် သူ့အား ဂျရုဆလမ်း (ယေရုရှလင်) မြို့တွင်ထင်ရှားကျော်ကြားသော ယဟူဒီ တရားဟောဆရာများထံတွင် ငယ်ရွယ်စဉ်ကပင် အပ်နှံထားလေသည်။ ထို့ကြောင့် ယဟူဒီတို့၏ထုံးတမ်းစဉ်လာအယူဝါဒတို့ကို စွဲမြဲစွာယုံကြည်သည်။

ပေါသည် ဦးစွာ ခရစ်ယာန်အယူဝါဒကို အလွန် မုန်းတီး၍ ခရစ်ယာန်များအားစော်ကားခဲ့၏။ သတ်ဖြတ်ဖျက်ဆီးခဲ့၏။ သို့ရာတွင် တနေ့သောအခါ ပေါသည် ဒမက်စကပ် (ဒမာသက်) မြို့၌ရှိသော ခရစ်တော်၏တပည့်များကို ဖမ်းဆီးချုပ်နှောင်ရန် ထိုမြို့သို့ထွက်ခွာလာခဲ့ရာ၊ လမ်းခုလတ်တွင် ကောင်းကင်မှအလင်းရောင်ခြည်သည် သူ၏ပတ်ဝန်းကျင်သို့ ရုတ်ခနဲကျရောက်လာ၏။ သူသည်လည်း မြေပေါ်သို့လဲကျလေသည်။ ထိုအခါ ကောင်းကင်မှ သူ၏အမည်ကိုခေါ်သံကြားရသဖြင့် မည်သူခေါ်ကြောင်း ပြန်၍မေးသည်ဟု ဆိုသည်။ တဖန်ကောင်းကင်က 'ငါကား သင်ညှဉ်းဆဲသော ယေရှုဖြစ်သည်' ဟု အသံကိုကြားရလေသည်။ ခရစ်ယာန်တို့၏မှတ်တမ်းစာ၌ ပေါသည် ထိုအချိန်မှစ၍ ခရစ်ယာန်အယူဝါဒသို့ ကူးပြောင်းလာခဲ့လေသည်။

ထိုကဲ့သို့ ပေါ အယူဝါဒပြောင်းသွားခြင်းကို ယဟူဒီများကလည်း မယုံကြည်နိုင်ကြချေ။ ခရစ်ယာန်များကလည်း သူလျှိုလုပ်ရန် ဟန်ဆောင်သည်ဟူ၍သာ ထင်မှတ်ကြသည်။ ထို့ကြောင့် ပေါသည် ဂျရုဆလမ်းမြို့မှ နေရင်းဇာတိ၊ တာဆပ် (တာရှု) မြို့သို့ ပြန်သွားကာ ဆိတ်ငြိမ်စွာ တရားအားထုတ်လေသည်။ ထိုစဉ်အခါက ပေါမှာ အသက် ၃၂ နှစ်ရှိပြီဖြစ်သည်။ ထိုနောက်တွင် အာရှမိုင်းနားနှင့် ဂရိပြည်နယ်များသို့ သုံးကြိမ်မျှ ခရီးထွက်လှည့်လည်၍ သာသနာပြုရာ၌ ဆင်းရဲဒုက္ခများစွာခံရလေ၏။ ဤသို့သုံးကြိမ်မျှခရီးထွက်၍ သာသနာပြုခြင်းများကား၊ ခရစ်ယာန် သာသနာတွင် မော်ကွန်းတင်ရသောသာသနာပြုခြင်းများဖြစ်သည်။ ပေါသည် မြို့များစွာတွင် ခရစ်ယာန်အသင်းတော်များကိုတည်ထောင်၍၊ လူပေါင်းမြောက်မြားစွာကို ခရစ်ယာန်သာသနာအတွင်းသို့ သွတ်သွင်းနိုင်ခဲ့လေသည်။ (ခရစ်ယာန်အယူဝါဒ — ရှု။)

သာသနာပြုရေး နှင့် စပ်လျဉ်း၍ ရှေးရိုးအစဉ်အလာကို



ပဌမဆုံးခရစ်ယာန်သာသနာပြု စိန့်ပေါ

မြတ်နိုးသူ ယဟူဒီခရစ်ယာန်များက ပေါ၏ဆောင်ရွက်ပုံများကိုသဘောမကျပေ။ ထို့ကြောင့် သုံးကြိမ်တိုင်တိုင် ခရီးထွက်သာသနာပြု၍၊ အက်ဖဆပ် (ဧဖက်) မြို့တွင် သာသနာရေးဗဟိုဌာနပြုလုပ်ပြီးနောက် ဂျရုဆလမ်းမြို့သို့ပြန်လာသောအခါ၊ ယဟူဒီများသည် ပေါအားဖမ်းဆီး၍ အကျဉ်းချထားကြသည်။ ထောင်ထဲ၌နေစဉ်ပင် ပေါသည် မိတ်ဆွေများနှင့် ခရစ်ယာန်အသင်းတော်များသို့ ဩဝါဒစာများ ရေးသားပေးပို့သည်။ ထောင်တွင်းမှရေးသော ဩဝါဒစာများနှင့် အခြားဩဝါဒစာများကိုစုပေါင်းပြီးလျှင် 'ပေါ၏ဩဝါဒစာများ' ဟူ၍ ခရစ်ယာန်မှတ်တမ်းတွင် တခမ်းတနားဖော်ပြထားသည်ကိုတွေ့ရသည်။

ထောင်သွင်းအကျဉ်းခံနေရာမှ၊ ပေါသည် ဆီဇာဧကရာဇ်ဘုရင်ထံသို့ ရောမနိုင်ငံသားတဦးအဖြစ်ဖြင့် အယူခံဝင်သေးသည်။ သို့ရာတွင် သူ့အားရောမမြို့သို့ပို့၍ နှစ်နှစ်တိုင်တိုင် ဆက်လက်အကျဉ်းချထားသည်။ ထိုနောက် ခေတ္တလွတ်ပြီးလျှင် တဖန်ပြန်ဖမ်းကာ၊ ရောမဘုရင် နီးရိုးလက်ထက်၌၊ ခေါင်းဖြတ်၍အသတ်ခံရသည်ဟု အဆိုရှိသည်။ စိန့်ပေါသည် ခရစ်ယာန်သာသနာကို တကမ္ဘာလုံးပျံ့နှံ့စေရန် ကြိုးပမ်းခဲ့သူဖြစ်သောကြောင့် ခရစ်ယာန်သာသနာတွင် အလေးအမြတ်ပြုခြင်းခံရသော သူတော်စင်ကြီးဖြစ်လေသည်။

**စိန့်ပေါ ကသီဒရယ်**။ ။ဤကသီဒရယ်ဘုရားရှိခိုးကျောင်းကြီးကား လန်ဒန်မြို့၏ မှတ်တိုင်သဖွယ် ဂုဏ်ယူရလောက်အောင် ခန့်ညား တင့်တယ် လှသော အဆောက်



နွေဦးတွင်အသွင်ထူးစွာ နိတျာအဆင်းနှင့်သဘင်ကျင်းသည့် စိန်ပန်းပင်

အအုံကြီးဖြစ်သည်။ အင်္ဂလန်ပြည် ပရိုတက်စတန့်ဂိုဏ်း၏ အကြီးဆုံးသော ဘုရားရှိခိုးကျောင်းလည်းဖြစ်ပေသည်။

ထိုအဆောက်အအုံနေရာတွင် ကင့်နယ်ဘုရင် အက်သယ်ဗတ်က ဘုရားရှိခိုးကျောင်း တခုကို တည်ဆောက်ခဲ့ကြောင်း သိရ၏။ ၁၂၄၀ ပြည့်နှစ်တွင် နော်မန်တို့က ထိုနေရာ၌ပင် ဘုရားရှိခိုးကျောင်းတခုကို ထပ်မံ၍ဆောက်လုပ်ပြန်ရာ ၁၆၆၆ ခုနှစ် လန်ဒန်မြို့ကိုမီးအကြီးအကျယ်လောင်စဉ်က မီးလောင်ပျက်စီးသွားလေသည်။ ထိုအဆောက်အအုံမှာ ယခုရှိသော အဆောက် အအုံထက် ပေ ၇၀ မျှပိုမို ရှည်လျား၍ ၁၂၄ ပေမျှပိုမိုမြင့်မားလေသည်။

ယခုလက်ရှိ အဆောက်အအုံကြီးကို ဗိသုကာကျော် ဆာခရစ္စတိုဖာ ရင်းက ၁၆၇၅ ခုနှစ်တွင် ပုံစံထုတ်၍ဆောက်လုပ်ရာ ၁၇၁၀ ပြည့်နှစ်မှာမှ ပြီးစီးသဖြင့် ၃၅ နှစ်မျှကြာလေသည်။ (ရင်း၊ ဆာ ခရစ္စတိုဖာ — ရှု။) အလျား ၅၁၃ ပေရှိ၍၊ ၃၆၅ ပေမြင့်သည်။ ထိုအဆောက်အအုံကြီးတွင် ထူးခြားချက်ကား အပေါ်ပိုင်းတွင် ခုံးဝိုင်းပြုလုပ်ထားခြင်းဖြစ်သည်။ ထိုအထက်တွင် မီးပြအိမ်၊ ဘောလုံးနှင့် လက်ဝါးကပ်တိုင်တို့ကိုတပ်ဆင်ထားသည်။ ထိုခုံးဝိုင်း၏အတွင်းဖက်၌ ပွဲတင်သံ ခန်းမဆောင်ရှိ၏။ ထိုခန်းမဆောင်၏ နံရံတွင် ကပ်၍ တိုးတိုးပြောသံကို ပေတရာခန့်ဝေးသော မျက်နှာချင်းဆိုင် နံရံတွင် နားထောင် နေသူက ပြတ်သားစွာ ကြားနိုင်သည်။

ထိုအဆောက်အအုံကြီးသည်ကား ဥရောပတိုက် ရီနေဆွန်းခေတ်မှ စံနမူနာတင်လောက်သည့်ဗိသုကာ လက်ရာကို ဖော်ပြထားသည့်အဆောက်အအုံဖြစ်သည်။ ဆောက်လုပ်ပုံလက်ရာမှာ အခြားမှအတုယူထားခြင်းမဟုတ်ချေ။

ဒုတိယ ကမ္ဘာစစ်အတွင်းက ထိုဘုရားရှိခိုးကျောင်းရှိ ခမ်းနားလှသောဘုရားရှိခိုးပလ္လင်ဆောင်မှာ ဗုံးထိမှန်၍ပျက်စီးရလေသည်။ ထိုအဆောက်အအုံကြီးထဲတွင် ဝိတိုရိယဘုရင်မကြီးနှင့် ပဉ္စမဂျော့ဘုရင်တို့၏ နန်းတက်ပွဲအထိမ်းအမှတ်များကို ခမ်းနားကြီးကျယ်စွာကျင်းပခဲ့သည်။ ထို့ပြင် ဆာခရစ္စတိုဖာရင်း၊ နယ်လဆင်၊ ဝယ်လင်တန်စသော ကျော်ကြားသူပုဂ္ဂိုလ်ကျော်များကိုလည်း ထိုကသိဒရယ်အတွင်း၌မြှုပ်နှံထားလေသည်။



လန်ဒန်မြို့ရှိ စိန့်ပေါ ကသိဒရယ်

**စိန်ပန်းပင်။** ။ရုက္ခဗေဒ အလိုအားဖြင့် စိန်ပန်းပင်ကို 'ပိွုင်စီအားနား ရီဂျီးယား' ဟုခေါ်၏။ ထိုအပင်သည် 'လီဂူမီနိုစီး' မျိုးရင်းတွင်ပါဝင်သည်။ မြန်မာနိုင်ငံ၌ သဘာဝအလျောက် ပေါက်သော အပင်မျိုးမဟုတ်ပေ။ မူလပေါက်ရောက်ရာအရပ်မှာ အာဖရိကတိုက်အနီးရှိ မက်ဒါဂက်စကာကျွန်းဖြစ်သည်။ မြန်မာနိုင်ငံ၌ ရှေးအခါမှစ၍ စိန်ပန်းပင်ကိုစိုက်ပျိုးခဲ့ကြသည်။

စိန်ပန်းပင်သည် အမြင့်ပေ ၃၀ မကရှိသည်။ အရွက်များမှာ မန်ကျည်းရွက်နှင့် ဆင်တူသည်။ အခေါက်မှာ ညိုရှိအနည်းငယ်ကြမ်းသည်။ မိုးဦးကျတွင် လှပသော ပန်းပွင့်များပွင့်သည်။ ပန်းပွင့်များမှာကြီး၍ အနီရောင်အမျိုးမျိုးရှိကြသည်။ အပေါ်ပွင့်ချပ်၌ အနီနှင့် အဝါစင်း များများပါရှိကြသည်။ အသီးမှာ သီးတောင့်များဖြစ်သည်။ ထိုသီးတောင့်များသည် အပြားကြီး၍၊ အလျား ၁ ပေမှ ၂ ပေ အထိရှိသည်။

စိန်ပန်းပင်သည် တနှစ်ပတ်လုံးအမြဲတမ်းလိုပင် စိမ်းလန်းနေတတ်သော်လည်း၊ အရိပ်ကောင်းသော အပင်မျိုးကား မဟုတ်ပေ။ နွေရာသီ၌ ရက်သတ္တပတ်အနည်းငယ်ကြာခန့်သာ အရွက်များကင်းလျက်ရှိသည်။ လှပသော ပန်းပွင့်များပွင့်သောပန်းပင်တမျိုးအဖြစ်ဖြင့် စိန်ပန်းပင်ကိုစိုက်ကြသည်။ စိန်ပန်းပင်သည် သန်မာ၍ အကြီးမြန်သောအပင်မျိုးဖြစ်သည်။

စိန်ပန်းပင်ကို အစေ့မှစိုက်ပျိုးလေ့ရှိသည်။ သို့သော် အကိုင်းများကိုဖြတ်၍လည်းစိုက်ယူနိုင်သည်။ မိုးတွင်းအခါ၌ သီးတောင့်များမှည့်သည်။ သီးတောင့်များမှ မျိုးစေ့ထုတ်ယူ၍ ကောင်းစွာသိမ်းထားရသည်။ မျိုးစေ့များမှ အညှောက်များ ပေါက်လာစေရန် မြေအိုးတွင် ဦးစွာထည့်၍ စိုစွတ်နေအောင်ပြုလုပ်ထားသော မြေဩဇာထဲတွင် ၂ လခန့်မြှုပ်ထားရသည်။ ထိုနောက် မိုးဦးကျတွင် အညှောက်ပေါက်လာသောအစေ့များကို ပျိုးခင်းတွင်တပန် စိုက်ပျိုးရသည်။ ပျိုးခင်းတွင် ၂ နှစ်ခန့်စိုက်ပျိုးပြီးနောက် အပင်ငယ်



စိန်ပန်းပွင့်

ကလေးများကို အလိုရှိသည့်နေရာများသို့ပြောင်းရွှေ့၍စိုက် ပျိုးကြသည်။ ပူသောရာသီဥတုရှိသည့်နေရာများ၌ စိုက်ခါစ အပင်ကလေးများကို ရေလောင်းပေးရန်လိုသည်။

**စိန့်ဖရန်းစစ်** (ခရစ် ၁၁၈၂–၁၂၂၆)။ ။စိန့်ဖရန်းစစ် သည် ဖရန်စစ္စကန်ခေါ် ခရစ်ယန် ဘုန်းကြီး ဂိုဏ်းကို တည် ထောင်ခဲ့သူ ဖြစ်သည်။ အမည်ရင်းမှာ ဂျိုဗန္နီး ဗေနား ဒိုးနေဖြစ်၏။ ဣတလီပြည် အဆီဇီမြို့သားဖြစ်၍ အဆီဇီမြို့ မှ ဖရန်းစစ်ဟူ၍လည်းတွင်၏။ မိဖများမှာ ချမ်းသာကြွယ်ဝ သူများဖြစ်သည်။ ငယ်စဉ်က လူချမ်းသာ သားပီပီ လှပ စွာ ဝတ်စားဆင်ယင်၍၊ ပျော်မှု ရွှင်မှုများဖြင့်သာ အချိန် ကုန်ခဲ့သော်လည်း၊ အသက် ၂၀ အရွယ်ခန့်တွင် အသည်း အသန် နာမကျန်းပြီးနောက် တဖြည်းဖြည်း သတိသံဝေဂ ရလာသည်။ ထိုနောက်တွင်ကား ဖရန်းစစ်သည် လောကီ စည်းစိမ်ကို စွန့်လွှတ်ပြီးလျှင် သူ၏ တသက်ကာလ ပတ်လုံး ခရစ်တော်၏တရားကို ကျင့်သုံးကာ ဆင်းရဲသားများ၏ အကျိုးစီးပွား သက်သက်ကိုသာ ဆောင်ရွက်ရန် ဆုံးဖြတ် လိုက်လေသည်။

မိမိ၏ဥစ္စာပစ္စည်းများကိုရောင်း၍ ဆင်းရဲသားနှင့် ဒုက္ခိတ များအား ရက်ရောစွာပေးကမ်းစွန့်ကြဲသဖြင့်၊ ဖခင်ဖြစ်သူက အမျက်ထွက်ပြီးလျှင် ဖရန်းစစ်အား အမွေ ဖြတ် လိုက် လေ သည်။ သို့ရာတွင် ဖရန်းစစ်သည် မည်သို့မျှ စိုးရိမ်ကြောင့် ကြခြင်းမရှိဘဲ၊ အဝတ် တထည် ကိုယ်တခုနှင့် ထွက် လာခဲ့၍ တောထဲ၌ ဆင်းရဲ ငြိုငြင်စွာ နေထိုင်လျက်၊ ခရစ်တော်၏ တရားများကို ကျင့်သုံးနေလေသည်။ မကြာမီ သူ့ ကို ကြည် ညိုသူ နောက်လိုက်တပည့်များပေါ် ပေါက်လာသည်။ ဖရန်း စစ်နှင့်တပည့်များသည် ဖိနပ်မပါ၊ ငွေမကိုင်ဆောင်ဘဲ၊ ဣတ လီပြည် အလယ်ပိုင်းတွင် လှည့်လည်၍ သာသနာပြု တရား ဟောကြ၏။ ဖရန်းစစ်တွင် တပည့် ၁၂ ယောက်ရသောအ ခါ ပုပ်ရဟန်းမင်းကြီး၏သဘောတူညီချက်ဖြင့် ဖရန်စစ္စကန် ဂိုဏ်းကိုတည်ထောင်လိုက်လေသည်။

ဖရန်စစ္စကန်ဘုန်းကြီးများသည် ကိုယ်ကျင့်သီလစင်ကြယ် ရမည်။ ပစ္စည်းဥစ္စာမစုဆောင်းရ၊ ခြိုးခြံစွာစားသောက် နေထိုင်ကြရသည်။ ဆင်းရဲသားများကိုကူညီစောင့်ရှောက် ရသည်။ ဤကဲ့သို့ မွန်မြတ်သော တရားကိုကျင့်သုံးသဖြင့် နောင်တွင် ဖရန်းစစ်၏ တရားကို ယုံကြည်နှစ်သက်သော မိန်းမများပင် တပည့်ခံရန်ရောက်လာကြ၏။ ထို့ကြောင့် ၁၂၁၂ ခုနှစ်တွင်၊ ဖရန်စစ္စကန်သီလရှင်ဂိုဏ်းဟူ၍ပေါ် လာ သည်။ ထို့နောက် ဖရန်စစ္စကန် လူဝတ်ကြောင်ဂိုဏ်းများ လည်း ပေါ် ထွက်လာခဲ့လေ၏။

ဖရန်းစစ်ကား မိမိ၏ဝါဒကို လိုက်လံဟောပြောရာ၌ စပိန် ပြည် အစ္စလမ်အယူဝါဒီ မူးဝါးလူမျိုးတို့နေထိုင်သောနေရာ များသို့ပင် အသက်စွန့်ပြီးသွားရောက်ခဲ့လေသည်။ လူများ စွာက ချစ်ခင်ကြည်ညို၍ သူ၏သီလတန်ခိုး မေတ္တာတန်ခိုး ကြောင့် အံ့ဖွယ်သရဲများ ကိုပင် ပြုလုပ်နိုင်သည်ဟု ယုံကြည် လာကြ၏။



စိန့်ဖရန်းစစ် ကျေးငှက်တို့ကို တရားဟောနေပုံ

လူတို့အပေါ်တွင် လူတန်းစားမရွေး၊ လူမျိုးမရွေး၊မေတ္တာတရားတမျိုးတည်းထားကာ၊ ကျင့်သုံးနေထိုင်ခဲ့၏။ သူ၏ မေတ္တာတရားကြောင့် ကျေးငှက်များသည် ဖရန်းစစ်အား ကြောက်ရွံ့ခြင်းမရှိဘဲ၊ အနားသို့ချဉ်းကပ်လျက် တရားနာယူကြသည်ဟူ၍ပင် ဆိုစမှတ်ပြုကြသည်။

ဖရန်းစစ်သည် ကွယ်လွန်သောအခါ၊ ခရစ်တော် ယေရှု လက်ဝါးကပ်တိုင်၌တင်၍အသတ်ခံရစဉ်က၊ ရရှိသောဒဏ်ရာငါးချက် အတိုင်း၊ သူ၏ ကိုယ်ပေါ်တွင် ပေါ်လာသည်ဟု ဆိုသည်။ ဖရန်းစစ်ကို ခရစ်တော်ကဲ့သို့ မွန်မြတ်သောအကျင့်ရှိ၍၊ နူးညံ့သိမ်မွေ့သူ ပုဂ္ဂိုလ်ထူးဟု ယုံမှတ်လျက်ရှိကြသည်။ ၁၂၂၆ ခုနှစ် အသက် ၄၄ နှစ်အရွယ်တွင် အနိစ္စရောက်ပြီးနောက် နှစ်နှစ်ခန့်အကြာတွင် ဖရန်းစစ်အား သူတော်စင်တပါးအဖြစ် အသိအမှတ်ပြုကြလေသည်။

**စိန်ဖူး။** ။စေတီပုထိုးများ — ရှု။

**စိန်ဗေဒါ။** ။'အရှေ့ကို လျှောက်ပါလို့၊ အနောက်ကိုတဲ့ မျှော်လိုက်ယင်၊ တံခွန်တိုင် ရွှေကုက္ကားနဲ့ ဘုရား လေး လေ ဘုရားကိုမြင် . . .' အစရှိသောသီချင်းသံကို မြန်မာလူမျိုးတိုင်းပင်နှစ်ခြိုက်ကြသည်။ ထိုသီချင်းကိုသီဆိုသူမှာ မြန်မာ့သဘင်နယ်တွင် အထူးထင်ရှားကျော်စောခဲ့သော ရှာစားကြီး စိန်ဗေဒါပင်ဖြစ်သည်။ စိန်ဗေဒါကို မြန်မာသက္ကရာဇ် ၁၂၄၄ ခုနှစ် တန်ဆောင်မုန်းလကွယ်၊ သောကြာနေ့တွင် မန္တလေးမြို့ဆိုင်းဝင်းရပ်၌ဖွားမြင်ခဲ့သည်။ ဖခင်မှာ ဘုရင့်အသုံးတော်ခံ ဆိုင်းဆရာတဦးဖြစ်သည့် ရှာစားကြီးဆရာဖေဖြစ်၏။ မိခင်မှာ သီးချင်းကြီး သီချင်းခံ၊ ယိုးဒယားပတ်ပျိုးစသည်တို့ကိုသီဆိုနိုင်သည့်အပြင် 'မိကျောင်း' တူရိယာကိုပိုင်နိုင်စွာ တီးနိုင်သည့် နန်းတွင်းသူ ဒေါ်မမလေး ဖြစ်သည်။

ရှာစားကြီးဆရာဖေမှာ သီပေါမင်းလက်ထက်တွင် သိုင်းအလံ ၄ ချက်၊ 'ဘွဲ့ဖြူ' စိန်ဆိုင်းဝိုင်းတစုံနှင့် ဆိုင်းဝိုင်းအထက်တွင် တပ်ဆင်ရန် ဖန်အိုး (ဖန်ပန်းတိုင်း) များခြီးမြှင့်ခြင်းခံရသည်။ ထို့ပြင်မက သီပေါဘုရင်မင်းမြတ်သည် ဆရာဖေအား 'နေမျိုးကျော်ခေါင်ဘွဲ့' ဖြင့် ပလိပ်မြို့အနီးရှိ ဆီဆုံ ၁၀ ရွာကိုစားစေသည့်အပြင် မန္တလေးမြို့ရှိ (ယခုအမျိုးသားကျောင်းဝင်းတည်ရာ) မြေကွက်ကြီးတွင် နေထိုင်ခွင့်ပေးတော်မူသည်။ ယင်းသို့ ဆိုင်းဆရာ ဆရာဖေနှင့် တပည့်လက်သားတို့နေထိုင်ခဲ့သည်ကိုအစွဲပြု၍၊ ရှေးအခါကပင် ထိုနေရာကို 'ဆိုင်းဝင်း' ဟုခေါ်ဝေါ်ကြသည်။ ဆရာဖေတွင် သားသမီး ၄ ယောက်ထွန်းကားခဲ့သည်။ တတိယသား မောင်ကလေးမှာ မြန်မာ့ ဆိုင်းပညာတွင် မြန်မာပြည်၌ ကျော်ကြားခဲ့သော ဖခင် ဆရာဖေနှင့် အစ်ကို ဆရာစိမ့်တို့ကဲ့သို့ ထူးချွန်ကျော်ကြား သူတဦးဖြစ်သည်။ သမီးနှစ်



နေမျိုးဗလကျော်သူဘွဲ့ရ စိန်ဗေဒါ

ယောက်မှာလည်း မိခင်တတ်ကျွမ်းသည့်အဆိုနှင့် မိကျောင်းတီးပညာတို့ကိုကျွမ်းကျင်ကြသဖြင့် 'ငှက်ပျောပင်စိုက်၊ မိလိုက်ဖပါ' ဆိုသကဲ့သို့ မြန်မာ့တူရိယာအနုပညာရပ်တွင် သားသမီးအားလုံးပင် ပေါက်မြောက်ခဲ့လေသည်။ မောင်ကလေးကား နောင်အခါတွင် ရှာစားကြီး စိန်ဗေဒါဟုကျော်ကြားသောသူတည်း။

မောင်ကလေးသည် တူရိယာဖက်တွင် အထူးဝါသနာထုံရကား၊ ဆွမ်းတော်ကြီးပွဲလှည့်ရာ၌ ၁၂ လုံးဒိုးခေါ်နရီးကိုကြားရသူတိုင်း အသည်းဘဝင်ကြည်ရွှင်စေအောင် ငယ်စဉ်ကပင်တီးနိုင်ခဲ့သည်။ တရုံရောအခါမောင်ကလေးသည် မင်းသားကိုဖိုးကွန်း၊ မင်းသမီးမထွေးလေးတို့ဇာတ်အဖွဲ့နှင့် ရန်ကုန်သို့ဆင်းလာခဲ့သည်။ မောင်ကလေးသည် မင်းသမီးမင်းသား ၂ ပါးမသွားမီ ဆိုင်းဝိုင်းချည်းသက်သက်ပလာတီးပေးရသော 'ပတ်ခံ' တီးစဉ် မိမိ၏ပညာစွမ်းရည်ကို ထုတ်ဖော်ခွင့်ရရှိလေသည်။ သူသည် 'ဗေဒါ၊ ဗေဒါနှင့်ဗူးကို ဘယ်သူခွဲတယ် ပြောဟဲ့ဗေဒါ၊ မိဗေဒါ။ အသေအချာ ဗေဒါမရယ်က နေရာချပါလို့ မပြောနိုင်၊ မြတ်ဆရာ အော်ကာငေါက်တယ်၊ ခေါင်းဖျောက်ပါလို့ ဗေဒါမှိုင် . . . ဗေဒါမှိုင် . . .' ဟူသောသီချင်းကို ဒုန်းကဲကြီး၊ နှစ်ဆစ်၊တဆစ်၊ ဗယ်တျော၊ ဗယ်တေ၊ ဒူးလုံးခေါ်သည့်ပတ်ဝိုင်းကြီးခြောက်လုံးနှင့် နားဝင်ချိုအောင် ပီသစွာတီးပြနိုင်လေသည်။ သူ၏လက်သံကို ရန်ကုန်လူထုက အထူးနှစ်ခြိုက်ကာ 'ဗေဒါမောင်ကလေး' ဟုခေါ်စမှတ်ပြုကြသည်။ မန္တလေးမြို့သို့ပြန်လည်ရောက်ရှိလာသောအခါ မောင်ကလေး၏ဂုဏ်သတင်းမှာ ပိုမိုသင်းပျံ့လာပြီးလျှင် 'စိန်ဗေဒါ' ဟု 'စိန်' တလုံးတိုးလျက် ခြီးကျူးမှည့်ခေါ်ကြပြန်သည်။

စိန်ဗေဒါသည် ငယ်စဉ်က၊ ကစားခုန်စားဖက်တွင်လည်း

စိတ်ပါဝင်စားခဲ့သည်။ အထူးသဖြင့် ဘောလုံးကစားခြင်းနှင့် လက်ဝှေ့ကိုလွန်စွာဝါသနာပါသည်။ ကိုယ်တိုင်လည်း ပါဝင်ကစားလေ့ရှိသည်။ သူသည် လောင်းတမ်းကစားခြင်းများ၌ဝါသနာကြီးသည်။ ၃၆ ကောင်နှင့် ၄ ကောင်ဂျင်ကစားဝိုင်းများတွင် 'အောချ' ကာထိုးတတ်၏။ သို့ဖြစ်၍ ယနေ့တိုင်ကစားဝိုင်းများတွင် တကြိမ်တည်းစုပုံထိုးလျှင် 'ဗေဒါထိုး' ဟုခေါ်စမှတ်ပြုကြလေသည်။

စိန်ဗေဒါသည် အဆိုအကတွင် အလွန်ဝါသနာပါသော ညောင်လေးပင်မြို့သူ မစိန်မေနှင့် အကြောင်းပါခဲ့သည်။ ဒေါ်စိန်မေအပြင် အခြားမယားများလည်းရှိ၏။ စိန်ဗေဒါတွင် သားသမီးတဦးတယောက်မျှမထွန်းကားခဲ့ချေ။ စိန်ဗေဒါ၏တပည့်များမှာ၊ နဲ့တပည့်ဆရာဆယ်၊ ဦးချစ်မောင်၊ ဆိုင်းတပည့် စိန်ငှက်ရိုး၊ စိန်ကျော်တင့်စသည်တို့ဖြစ်ကြ၏။

၁၂၄၇ ခုနှစ်တွင် သီပေါဘုရင်သည် နန်းကျပြီးနောက် အိန္ဒိယနိုင်ငံ ဘုံဘိုင်ပြည်နယ် ရတနာဂီရိ၌ စံနေရလေသည်။ ၁၂၇၂ ခုနှစ်တွင် သီပေါမင်းနှင့် မိဖုရားခေါင်ကြီးတို့ တိုက်သစ်တက်မင်္ဂလာကျင်းပလိုသည်ဖြစ်၍၊ မန္တလေးမြို့မှ မြန်မာဆိုင်းတော်သားတို့ကိုခေါ်ရန်စေလွှတ်ခဲ့သည်။ ထို့ကြောင့် အဖွဲ့ဝင် ၂၀ ကျော်ရှိသော 'စိန်ဗေဒါ' ဆိုင်းဝိုင်းနှင့် စောင်းဆရာဒေဝဣန္ဒာမောင်မောင်ကြီးစသော လူပေါင်း ၈၀ ကျော်တို့သည် ရတနာဂီရိသို့ လိုက်ပါသွားကြလေသည်။ ရတနာဂီရိ စံအိမ်တော်တွင် စိန်ဗေဒါက သပြေခံနှင့် ဖောင်လား၊ ဖောင်ငင်၊ ဖောင်ဆိုက်အစရှိသော ကြိုးသီချင်းများဖြင့်ဖြေဖျော်ရာ သီပေါမင်းသည် လွန်စွာနှစ်ခြိုက်တော်မူလေသည်။ သို့ဖြစ်၍ မြန်မာနိုင်ငံသို့မပြန်မီ သီပေါမင်းက စိန်ဗေဒါအား 'နေမျိုးဗလကျော်သူ' ဟူသော ရွှေစားဘွဲ့တံဆိပ်တော်နှင့်တကွ ရွှေသိုင်းအလံ ၄ ချက်၊ ဖန်အိုး (ဖန်ပန်းတိုင်း) တို့ကို ချီးမြှင့်ပေးသနားလေသည်။ ၁၂၇၃ ခုနှစ်တွင် သမီးတော်များနားထွင်း မင်္ဂလာပွဲအတွက် အခေါ်လွှတ်ရာ စိန်ဗေဒါသည် ရတနာဂီရိသို့ ဒုတိယအကြိမ်ရောက်ခဲ့ပြန်သည်။ ထိုအကြိမ်တွင် ဇနီး မစိန်မေလည်း လိုက်ပါသွား၏။ စိန်ဗေဒါသည် သီပေါမင်းသဘောကျသော တိုးနယားရုပ်ကိုပါ ယူဆောင်သွားပြီးနောက်၊ ရွှေတော်တွင် ကပြအသုံးတော်ခံလေသည်။ အိန္ဒိယပြည်၌ရှိစဉ်၊ စိန်ဗေဒါသည် ဗုဒ္ဓဂယာအရပ်ရှိ မဟာဗောဓိပင်ကို သွားရောက်ဖူးမြော်ခဲ့သေးသည်။ မန္တလေးမြို့သို့ ပြန်ရောက်လျှင် ရွှေစားကြီး စိန်ဗေဒါအား ဘုရင်မင်းမြတ်က ချီးမြှင့်မြှောက်စားကြောင်းသတင်းကောင်းမင်္ဂလာမှာ တမုဟုတ်ခြင်းပျံ့နှံ့သွားတော့သည်။

ဇာတာတွင်မောင်သာလှိုင်ဟုဖော်ပြပါရှိ၍၊ မောင်က



ရတနာဂီရိစံမင်းတရားကြီး ပွဲသဘင်တော်အဆက်အသ စိန်ဗေဒါအဖွဲ့

လေး၊ ဗေဒါမောင်ကလေး၊ စိန်ဗေဒါနှင့် နောက်ဆုံးတွင် နေမျိုးဗလကျော်သူ ရွာစားကြီးစိန်ဗေဒါဟု ကျော်ကြားခဲ့သော စိန်ဗေဒါမှာ ဆိုင်းဝိုင်းကြီး တခုတည်းကိုသာ နိုင်နင်းသည်မဟုတ်ဘဲ၊ ပြွေ၊ စောင်း၊ နှဲ၊ မိကျောင်း၊ ပတ္တလားများကိုလည်း အထူးပင်ကျွမ်းကျင်လိမ်မာစွာ တီးမှုတ်နိုင်ပေသည်။ ပတ်ဝိုင်းကြီးကိုမူကား သူတကာ မယှဉ်သာအောင် တီးနိုင်ပေ၏။ အနောက်တိုင်းတူရိယာများဖြစ်သော တယော၊ ဘင်ဂျို၊ မယ်ဒလင်၊ လက်ဆွဲဘာဂျာနှင့် ကောနက် (ခရာ) များကိုလည်း ထူးခြားစွာ တီးမှုတ်နိုင်သော ပုဂ္ဂိုလ်ဖြစ်သည်။ ဆိုင်းဝိုင်းတီးနည်းတွင် 'ပတ်စာပိုး' တီးနည်းကို မိမိ၏ပင်ကိုယ်ဉာဏ်ဖြင့် စိန်ဗေဒါသည် စတင်တီထွင်ခဲ့လေသည်။ ယင်းသို့ အတီးအမှုတ်တို့တွင်သာ ထူးချွန်ခဲ့ရုံမျှမက အဆိုဖက်တွင်လည်း မိခင်၏အမွေကိုရသူဖြစ်၍ သရုပ်ပေါ်အောင် ပိုင်နိုင်စွာ ဆိုတတ်သူဖြစ်သည်။ ရွာစားကြီးသည် မကွယ်လွန်မီ ခေတ်ပြား ၆၄ ပြားမျှ အသံသွင်းခဲ့၏။

စိန်ဗေဒါသည် စိတ်နှလုံးနူးညံ့သိမ်မွေ့၍ အပြောအဆိုယဉ်ကျေးပျော့ပျောင်းသည်။ နက္ခတ်ဗေဒင် ယတြာစသည်တို့ကို စွဲစွဲလမ်းလမ်းအယုံအကြည်ကြီးသည်။ ဂီတအနုပညာကို အမြတ်တနိုးဝါသနာပါသူဖြစ်၍ မည်သည့်အရပ်သို့သွားသည်ဖြစ်စေ၊ စောင်းကို သော်၎င်း၊ တယောကိုသော်၎င်း၊ ဆောင်ယူသွားလေ့ရှိသည်။ အချိန်ကိုအလဟဿမထားဘဲ၊ စောင်းတီးခြင်း၊ တယောထိုးခြင်းဖြင့်သာ အချိန်ကိုအသုံးချတတ်သည်။ အိပ်ရာတွင်အနားယူ၍လဲလျောင်းသည့်အချိန်၌ပင်လျှင်၊ စောင်းကိုလက်တဖက်ဖြင့်တီးနေတတ်၏။ ပညာကိုဆည်းပူးလေ့လာသည့်အရာ၌လည်း မျက်မမြင်ပတ္တလားဆရာ၊ တယောဆရာ၊ မိကျောင်းဆရာတို့ထံမှပင်လျှင် နည်းနိသျတို့ကိုခံယူလေ့ရှိသည်။ ဂီတအနုပညာနှင့်စပ်လျဉ်း၍ စိန်ဗေဒါက သူ၏သဘောထားကို ရင်းနှီးသူတို့အား ပြောပြသည်မှာ 'တကျောင်းတဂါထာ၊ တရွာတပုဒ်ဆန်း၊ သူများအမှားတွေမှ၊ ကိုယ့်အမှန်သေချာသည်။ နားမထောင်အပ်သည့်ဆိုင်းဘယ်ရှိလိမ့်မတုံး' ဟူသတည်း။ စိန်ဗေဒါသည် ဂုဏ်ပကာသန မလုပ်တတ်ချေ။ ပညာရှင်တို့ထံမှ ပညာကို အရယူဖို့မှာ သူ၏ အဓိက ရည်ရွယ်ချက် ဖြစ်သည်။ ရတနာဂီရိ၌စံနေတော်မူသော သီပေါမင်းထံဝင်ရောက်ကြရသည့်အခါ၊ စောင်းဆရာ ဒေဝဣန္ဒာဦးမောင်မောင်ကြီးနှင့် လက်ပွန်းတတီးနေခွင့်ရသဖြင့်၊ ထိုဆရာကြီးထံမှ စောင်းပညာကိုတပည့်ခံ၍သင်ယူခဲ့လေသည်။ သူသည် အလွန်စေ့စပ်သေချာသူတဦးဖြစ်သည့်အတိုင်း မိမိတပည့်သားမြေးများကိုသင်ပြရာတွင်လည်း သေချာကျနစွာ သင်ပေးတတ်လေသည်။ စိန်ဗေဒါသည် အလွန်ပြည့်သော အိုးဖြစ်၍ ဘောင်ဘင်မခတ်ပေ။ သိလျှင်သိ၏။ မသိလျှင်မသိဟု မှန်ရာကို ဝန်ခံပြောဆို တတ်သည်။ မသိသော သီချင်းကို တတ်ယောင်ကားမလုပ်ဘဲ၊ မသိလျှင် သိရအောင်ရှာဖွေ၍ ယူတတ်သည်။

ဒုတိယကမ္ဘာစစ်အတွင်းက ရွာစားကြီးစိန်ဗေဒါမှာ လည်ချောင်းတွင် ကင်ဆာအနာပေါက်သဖြင့် ရန်ကုန်မြို့သို့ဆင်းလာ၍၊ ဒေါက်တာ ဦးဘသန်းထံ၌ကုသခဲ့သည်။ သို့ရာတွင် ရောဂါမှာ သက်သာရာမရဘဲ၊ ၁၃၀၄ ခုနှစ် တော်သလင်းလဆုတ် ၁၄ ရက်နေ့တွင် ရန်ကုန်မြို့ ရွှေတောင်တန်း၌ သူနှင့်တွဲဖက် နှဲဆရာကြီးဦးချစ်မောင်လက်တွင်းတွင် စိန်ဗေဒါကွယ်လွန်ခဲ့လေသည်။ စိန်ဗေဒါနှစ်သက်၍ ကိုယ်တိုင်ဆိုသောသီချင်းတပုဒ်မှာ မင်္ဂလာပြောညွန့်ဖြစ်သည်။ ထိုသီချင်းမှာ၊

မြို့လယ်ကမဏ္ဍပ် . . . အရပ်မှာတဲ့ . . . ကုသိုလ် . . . ကျောင်းကြီးအိုအို . . .။ လက်ရမ်းငယ်ပြို . . . ရှင်လူပျိုတည်ကထဲက မိုးစိုလို့ရွှဲ . . . တော့ ။ အရွှေကိုတဲ့လျှောက်ပါလို့ အနောက်ကိုတဲ့ မျှော်လိုက်ယင် . . . တံခွန်တိုင် ရွှေကုက္ကားနဲ့ ဘုရား . . . လေးလေး ဘုရား . . . လေးလေး ဘုရား . . . လေးလေး ဘုရားကိုမြင်။

စာပုလွေမောင်မှာ ပိုက်ပါလို့တဲ့။ စာပုလွေ . . . စာပုလွေကိုယ်မှာ ပိုက်ပါလို့။ စာပုလွေမောင်မှာ ပိုက်ပါလို့။ ကျောင်းတော်ကိုတဲ့လိုက်မယ်ပြင်။ ကျောင်းတော်ကိုတဲ့လိုက်မယ်ပြင်။ ကျောင်းတော်ကိုတဲ့လိုက်မယ်ပြင်။ ဘယ်စာ မောင်သင်မတုံးရယ်လို့။ ဘယ်စာဘယ်နှစ်ဝါ မောင်သင်မတုံးရယ်လို့။ ဘယ်စာ မောင်သင်မတုံးရယ်လို့။ မေ . . . လေးကိုသံချိုနှောလို့ရယ်။ ပြော . . . လေးလေး ပြော . . . လေးလေး။ ပြောခဲ့ပါအုံး။

**စိန်မှန်၊ ဗိုလ်မှူး** (မြန်မာ ၁၂၇၄–၁၃၁၀)။ ။မြန်မာနိုင်ငံလွတ်လပ်ရေးကိုကြိုးပမ်းရာ၌၎င်း၊ လွတ်လပ်သောမြန်မာနိုင်ငံ၏ ရန်ဆူးရန်ငြောင့်များကိုဖယ်ရှားရာ၌၎င်း၊ နိုင်ငံတော်၏တာဝန်ကို အရေးပါစွာထမ်းရွက်ခဲ့ရာမှ၊ နောက်ဆုံးတိုင်းပြည်နှင့် အမျိုးအတွက် အသက်ကိုပင်စွန့်လွှတ်ခဲ့သော ဗိုလ်မှူးစိန်မှန်သည်ကား သာယာဝတီခရိုင်၊ သုံးဆယ်မြို့အပိုင်၊ ဆိုင်းစုရွာတွင် အဖဦးသင်၊ အမိဒေါ်နှစ်ပုံးတို့၏သားသမီးလေးယောက်အနက် မြန်မာသက္ကရာဇ် ၁၂၇၄ ခုနှစ်တွင် ဖွားမြင်သော ဒုတိယမြောက်သားဖြစ်သည်။ ငယ်စဉ်က သုံးဆယ်မြို့၊ အေ၊ စီ၊ အမ် (ရိုမန်ကက်သလစ်မစ်ရှင်) ကျောင်းနှင့်အေ၊ ဘီ၊ အမ် ကရင်အထက်တန်းကျောင်းတို့တွင် ပညာသင်ကြားတတ်မြောက်ပြီးလျှင်၊ သာယာဝတီမြို့ အရေးပိုင်ရုံးတွင် ရုံးစာရေးအဖြစ်ဖြင့်ဆောင်ရွက်ခဲ့သည်။

ယင်းသို့ရုံးစာရေးအဖြစ် အမှုထမ်းနေစဉ်၊ တို့ဗမာအစည်းအရုံးမှ သခင်မြနှင့် ခရစ် ၁၉၃၈–၃၉ ခုနှစ်လောက်တွင်ဆက်သွယ်၍၊ နိုင်ငံရေးနယ်ထဲသို့ရောက်ခဲ့လေသည်။ ၁၉၄၁ ခု



ဗိုလ်မှူးစိန်မှန်

နှစ်တွင် ဂျပန်က အင်္ဂလိပ်ကို စစ်ကျေညာသောအခါ၊ တို့ဗမာအစည်းအရုံး ခေါင်းဆောင် သခင်များအား ဗြိတိသျှ အစိုးရက ဖမ်းဆီးရန်စီစဉ်သည်ကို တို့ဗမာအစည်းအရုံးသို့သတင်းပို့ပေးခဲ့သဖြင့်၊ သာယာဝတီခရိုင်မှ သခင်ခေါင်းဆောင်များ အချိန်မှီ ထွက်ပြေးလွတ်မြောက်ခဲ့ရလေသည်။ ထိုသတင်းပေါက်ကြားမှုအတွက် ရုံးစာရေး ကိုစိန်မှန်သည် ရာဇဝတ်ဘေးမှ ထွက်ပြေးတိမ်းရှောင်ခဲ့ရသည်။

ဒုတိယ ကမ္ဘာစစ်ကြီးသည် မြန်မာနိုင်ငံသို့ ပျံ့နှံ့ လာပြီးနောက်၊ မြန်မာ့တော်လှန်ရေးခေါင်းဆောင် ဗိုလ်ချုပ်အောင်ဆန်းသည် ဗမာ့ လွတ်လပ်ရေး တပ်မတော်ကို ဦးစီးခေါင်းဆောင်ပြီး၍၊ ရန်ကုန်မြို့အရောက် ချီတက် သိမ်းပိုက်သောအခါ၊ ၁၉၄၂ ခုနှစ် မတ်လတွင် ကိုစိန်မှန်သည် ရဲဘော်သုံးကျိပ်စာရင်းအပါအဝင်ဖြစ်သော ဗိုလ်မှူးကျော်ဇောဦးစီးသည့် ပဉ္စမပတ်ဗိုလ်သင်တန်းကျောင်းသို့ တက်ရောက်၍ စစ်ပညာသင်ယူလေသည်။ ဗမာ့လွတ်လပ်ရေး တပ်မတော်ကို ဖျက်သိမ်း၍၊ ဗမာ့ကာကွယ်ရေးတပ်မတော်ဖွဲ့စည်းသောအခါ၊ တပ်ရင်း ၃၊ တပ်ခွဲ ၁ တွင် ဒု–ဗိုလ်အဖြစ်ဖြင့် ထမ်းရွက်သည်။ ထိုနောက် ပျဉ်းမနားစခန်းတွင် လေ့ကျင့်ရေးတက်ရောက်ပြီးနောက်၊ ၁၉၄၃ ခုနှစ်တွင် စစ်ဌာနချုပ်၌ ရုံးအုပ်အဖြစ် ပျဉ်းမနား၊ ပဲခူးနှင့် အာလံမြို့အနီး ရွှေညောင်ပင်စခန်းများ၌ အမှုထမ်းဆောင်ခဲ့သည်။ ၁၉၄၃ ခုနှစ်နောက်ပိုင်းတွင် စစ်ဌာနချုပ်ကို အနောက်တိုင်းဌာနချုပ်အဖြစ်ပြောင်းလဲလိုက်သောအခါ၊ ဗိုလ်ကြီးအဆင့်ဖြင့် ရုံးအုပ်တာဝန်ကို ဆက်လက်ဆောင်ရွက်ရလေသည်။ ၁၉၄၅ ခုနှစ်တွင် ဗိုလ်မှူးဖြစ်လာ၍၊ ဂျပန်တော်လှန်ရေး၌ ဒုတိယတိုင်းမှူးအဖြစ်ဖြင့် တိုင်းအမှတ် ၇ တွင် တော်လှန်ရေးပြီးသည်အထိဆောင်ရွက်ခဲ့သည်။

ဂျပန်တော်လှန်ရေးပြီးဆုံးချိန်တွင် ကန္ဒီစာချုပ်အရ အသစ်တဖန် ပြန်လည်ဖွဲ့စည်းသောတပ်မတော်၌ 'ဗားမားရိုင်ဖယ်' တပ်ရင်း ၃ တွင် ဒု–ဗိုလ်အဖြစ်ဖြင့် စတင်ဆောင်ရွက်၍၊ ထိုမှတပ်ခွဲမှူးဗိုလ်ကြီးအဖြစ်သို့ တိုးမြှင့်ပေးခြင်းခံရသည်။ သို့ရာတွင် ထိုစဉ်က ဗိုလ်ချုပ်အောင်ဆန်းသည် ဗြိတိသျှလက်အောက်မှ လွတ်မြောက်ရေး အတွက် နိုင်ငံရေးအရ တိုက်ပွဲဆင်နေသည့်အခါဖြစ်သောကြောင့်၊ ဗိုလ်ကြီးစိန်မှန်သည် လွတ်မြောက်ရေးကြိုးပမ်းမှုကို ကိုယ်ထိလက်ရောက်ဆောင်ရွက်နိုင်ရန် စစ်ဖက်မှ ၁၉၄၆ ခုနှစ်ဇွန်လဆန်းတွင် နုတ်ထွက်ခဲ့လေသည်။ ဤသို့ နုတ်ထွက်ခဲ့ပြီးနောက်၊ ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်သော ပြည်သူ့ရဲဘော်တပ်ဖွဲ့သို့ဝင်ရောက်ကာ၊ ဌာနချုပ်အထွေထွေဌာနမှူးအဖြစ်ဖြင့်ဆောင်ရွက်လေသည်။ ၁၉၄၇ ခုနှစ်တွင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို ရေးဆွဲရမည့် တိုင်းပြုလွှတ်တော်အတွက် ပြည်သူ့ကိုယ်စားလှယ်များ ရွေးကောက်တင်မြှောက်ရန် ရွေးကောက်ပွဲကျင်းပသောအခါ၊ ဗိုလ်စိန်မှန်သည် သာယာဝတီတောင်ပိုင်းကိုယ်စားလှယ် ဖ ဆ ပ လ အမတ်အဖြစ်ဖြင့် လွှတ်တော်သို့တက်လာခဲ့လေသည်။ ထိုရွေးကောက်ပွဲ၌ ဗိုလ်ချုပ်အောင်ဆန်းခေါင်းဆောင်သော ဖ ဆ ပ လ အဖွဲ့က အစိုးရအဖွဲ့ကိုဖွဲ့သောအခါ၊ ဗိုလ်စိန်မှန်သည် ကာကွယ်ရေးဝန်ကြီးဌာန၊ ပါလီမန်အတွင်းဝန်အဖြစ် ခန့်အပ်ခြင်းခံရလေသည်။ ဗိုလ်ချုပ်အောင်ဆန်းတို့လုပ်ကြံခံရပြီးနောက်၊ သခင်နုခေါင်းဆောင်သောအစိုးရအဖွဲ့ဖွဲ့သည့်အခါတွင် ဌာနလက်ကိုင်မရှိ ဝန်ကြီးဖြစ်လာသည်။

ဤအတွင်းတွင် မြန်မာနိုင်ငံတော်တွင်း၌ ပုန်ကန်သောင်းကျန်းမှုအရပ်ရပ်တို့ပေါ် ပေါက်လာခဲ့လေသည်။ ထိုကြောင့် ၁၉၄၉ ခုနှစ်တွင် ဗိုလ်စိန်မှန်သည် ဝန်ကြီးအဖွဲ့မှ နုတ်ထွက်၍၊ သောင်းကျန်းမှုတို့ကိုတိုက်ခိုက်ရန်အလို့ငှာ အထူးမင်းကြီးအဖြစ်ဖြင့်ဆောင်ရွက်လေသည်။ သရက်မြို့တွင် တပ်စွဲထားသော မြန်မာ့သေနတ်ကိုင်တပ်ရင်း ၁ သည် ထိုနှစ်တွင် အစိုးရအားပုန်ကန်ခြားနားလျက် ရန်ကုန်မြို့ဖက်သို့ ချီတက်လာရာ၊ ဗိုလ်စိန်မှန်သည် သာယာဝတီနှင့် လက်ပံတန်းကြားရှိ ကျွန်းကလေးချောင်းကူးတန်တားမှနေ၍ ခုခံတိုက်ဖျက်ရာ၌အောင်မြင်လေသည်။ ထိုကျွန်းကလေးတိုက်ပွဲကားပြည်ထောင်စု မြန်မာနိုင်ငံကြီးတခုလုံးပြိုကွဲအံ့သော ဘေး

အန္တရာယ်ကို ချေမှုန်းတိုက်ဖျက်လိုက်သောတိုက်ပွဲဖြစ်သော ကြောင့် ဗိုလ်စိန်မှန်၏ အမည်သည် ထင်ရှား၍လာခဲ့လေသည်။ ဗိုလ်စိန်မှန်သည် အထူးစစ်မင်းကြီးရာထူးခန့်အပ်ခြင်းကို ခံရ၍၊ ဗိုလ်မှူးဖြစ်လာလေသည်။ ထိုနောက် သောင်းကျန်းသူတို့ကို နှိမ်နင်း တိုက်ခိုက်ရသော တာဝန်ကို ဆက်လက်ဆောင်ရွက်ရာ၊ ပြင်းထန်လှသော ဝက်ကော်၊ ဘိုးသာအောင်ကုန်းနှင့် လက်ဆက်တန်တားတိုက်ပွဲတို့တွင် ဗိုလ်မှူးစိန်မှန်သည် အောင်မြင်စွာဆင်နွှဲခဲ့လေသည်။

၁၉၄၉ ခုနှစ် (မြန်မာ ၁၃၁၀ ပြည့်နှစ်) ဧပြီလ ၇ ရက်နေ့တွင် တော်လှန်ပုန်ကန်သူတို့သိမ်းပိုက်ထားရာ သာယာဝတီမြို့ကို လေကြောင်းမှ စစ်ဆင်ရာတွင် ဗိုလ်မှူးစိန်မှန်လိုက်ပါသွားစဉ်၊ လေယာဉ်ပေါ်တွင် ရန်သူ့ကျည်သင့်ခဲ့၍မင်္ဂလာဒုံစစ်ဆေးရုံ၌ ဧပြီလ ၈ ရက်နေ့တွင် ကွယ်လွန်လေသည်။ ဗိုလ်မှူးစိန်မှန်၏အလောင်းကို အခမ်းအနားဖြင့် အာဇာနည်ကုန်း၌ သင်္ဂြိုဟ်သည်။ ဗိုလ်မှူးစိန်မှန်၏ဇနီး ဒေါ်အေးကြည်အပြင်၊ သမီးတယောက်၊ သားတယောက်ကျန်ရှိရစ်ခဲ့လေသည်။

**စိန်ရတနာ**။ ။အဖိုးတန်သောကျောက်မျက်ရတနာများတွင် စိန်၊ ပတ္တမြား၊ နီလာ၊ မြဟူ၍ ၄ မျိုးပါဝင်၏။ အိန္ဒိယနိုင်ငံတွင် မဟာရာဇာအချို့တို့၌ ပြည်တန်သောပတ္တမြားဟုဆိုရလောက်အောင် အဖိုးထိုက်သော ပတ္တမြားများရှိသဖြင့် ဤကျောက်မှာ အခြားကျောက်များထက်ထူးကဲ၍ အဖိုးကြီးကြောင်းသိရ၏။ သို့သော် စိန်သာလျှင် ကျောက်မျက်ရတနာတို့၏ အထွတ်အထိပ်ဟု အသိအမှတ်ပြုခြင်းခံရသည်။ စိန်ကို ကြည့်လျှင် ပင်ကိုယ်အလင်းရောင်ဖြင့် တဖိတ်ဖိတ်တောက်နေသည်ဟုမှတ်ထင်ရ၏။ စင်စစ်အားဖြင့် စိန်၌ ပင်ကိုယ်အလင်းရောင်မရှိချေ။ အလင်းရောင်တို့၏ သဘောသည် လေမှ ရေ သို့မဟုတ် ဖန်ကဲ့သို့ပစ္စည်းများတွင် ဖြတ်သန်းသွားသောအခါ ဖြတ်သန်းသွားရာနေရာ၌ မိမိ၏ မူလလမ်းမှ အနည်းငယ်ယိမ်းယိုင်သွားတတ်သည်။ (အလင်း — ရှု။) စိန်တွင်မူကား ဖန်အတွင်း၌ ဖြတ်သန်းသွားသည့်အခါထက် ပိုမိုယိမ်းယိုင်သွားသဖြင့် အကွက်ဖော်ထားသည့် မျက်နှာပြင်ပေါ်တွင် ကျရောက်လာသော အလင်းရောင်သည် စိန်၏ပြင်ဖက်သို့ထွက်မသွားဘဲ၊ အတွင်းသို့ရိုက်ဟပ်သွားသည်။ စိန်အတွင်းတွင် ထိုအလင်းရောင်သည် အဆင့်ဆင့်အနည်းငယ်စီယိမ်းယိုင်သွားပြီးလျှင်၊ နောက်ဆုံး၌သာ ပြင်ဖက်သို့ရောက်ရှိလေသည်။ ထိုကြောင့် စိန်ကို အလင်းတွင်ထုတ်ထားသောအခါ အတွင်း၌ အလင်းရောင် ခိုအောင်းနေလေ့ရှိရာ၊ ထိုသို့ခိုအောင်းနေသောအလင်းရောင်သည်ပင်လျှင် စိန်အား ကိုယ်ပိုင်အလင်းရောင်ရှိသကဲ့သို့ တဖိတ်ဖိတ်တောက်စေသည်။

ကျောက်မျက်ရတနာအဖြစ်ဖြင့် လူတို့အမြတ်တနိုး သုံးစွဲလျက်ရှိသောစိန်သည် ဓာတ်သဘောအလိုအားဖြင့် ကာဗွန်မျှသာဖြစ်သည်။ (ကာဗွန် — ရှု။) ရှေးပဝေဏီအချိန်က ကမ္ဘာမြေအတွင်း၌ရှိသည့်ကာဗွန်သည် အပူချိန်ကြီးမားခြင်းကြောင့် အရည်ဘဝတွင်တည်နေခဲ့၏။ ထိုသို့တည်ရှိနေစဉ် အထက်မှ အလွန်ကြီးမားသော ဖိအားသက်ရောက်လျက်ရှိသဖြင့် မည်းနေသော ကာဗွန်ဘဝမှ အဖိုးတန်သော စိန်ဘဝသို့ပြောင်းလဲခဲ့သည်။ စိန်ကို ဓာတုဗေဒနည်းဖြင့် အောင်အောင်မြင်မြင်ပြုလုပ်နိုင်၏။ သို့သော် ထိုသို့ပြုလုပ်ရရှိသောစိန်မှာ အလွန်သေးငယ်သဖြင့် မိုက္ကရိုစကုပ်ကို အသုံးပြုမှသာ မြင်နိုင်၏။ ထိုအပြင် ကုန်ကျသည့်စရိတ်မှာလည်း ရရှိသောစိန်၏ တန်ဖိုးနှင့်မကာမိအောင် ကြီးမားသည်။ ယခုခေတ်တွင် လူတို့သည် စိန်ကိုတုပ၍ ကျောက်များကိုချက်ယူခဲ့ရာ၌ အောင်မြင်သင့်သလောက်အောင်မြင်ခဲ့ကြ၏။ ယင်းကဲ့သို့သော စိန်တုမျိုးကို အလေးချိန်အလွန်စီးသောဖန်တမျိုးမှချက်ယူရသည်။

စိန်သည် အမာဆုံးတွင်းထွက်ပစ္စည်းဖြစ်၏။ အခြားမည်သည့်ပစ္စည်းမျိုးကိုမဆိုဖြတ်နိုင်၏။ အလွန်မာသဖြင့်လည်း ဖန်နှင့်ကြွေထည်များကိုဖြတ်တောက်ရာ၌၎င်း၊ သွားပေါက်ဖောက်ရာတွင်သုံးသည့်ဖောက်စက်များတွင်၎င်း အသုံးပြုသည်။ နာရီအတွင်းရှိ ဗယ်ရင်များတွင်၎င်း၊ ကျောက်ဖောက်စက်များတွင်၎င်း အသုံးပြုသည်။ စိန်ကိုသွေး၍အရောင်တင်ရာ၌ စိန်မှုန့်နှင့် ဆီရောစပ်ထားသည်ကို အရှိန်ပြင်းစွာလည်နေသောသံပြင်ပေါ်တွင် သုတ်လိမ်းပေးသည်။ ထိုနောက် စိန်အရိုင်းကို တိုက်စားပေးသောအခါ အရောင်တဖျပ်ဖျပ်ထွက်လာသည်။ စိန်သွေးရာ၌ အထက်မျက်နှာပြင်တွင် ၃၃ ကွက်၊ အောက်မျက်နှာပြင်တွင် ၂၅ ကွက်၊ ပေါင်း ၅၈ ကွက်ကိုဖော်ပေးရ၏။ အကွက်ဖော်ပေးခြင်း၏ ရည်ရွယ်ချက်မှာ စိန်ပေါ်၌ကျရောက်သည့်အလင်းရောင်အားလုံးကို မျက်နှာပြင်များမှ အများဆုံး ပြန်လည်ရိုက်ဟပ်လျက် ရှိနေစေရန်ဖြစ်လေသည်။

ရှေးအခါက စိန်ကို အိန္ဒိယနိုင်ငံမှ အဓိကတူးဖော်ရရှိကြ၏။ သို့သော် ထိုစိန်တွင်းများမှာ ကုန်ခန်းသွားပြီဖြစ်၍ မထင်ရှားတော့ပေ။ ထိုနိုင်ငံမှထွက်သည့်စိန်အချို့မှာကား၊ ယခုတိုင်အောင်ကျော်ကြားလျက်ရှိ၏။ တခါက 'ဂရိတ်မဂို' အမည်ဖြင့် ၇၈၇ ရတီရှိသောစိန်ရိုင်းတုံးကြီးတတုံးမှာ ကမ္ဘာပေါ်တွင်ထင်ရှားခဲ့၏။ ထိုစိန်တုံးကြီးအကြောင်းမှတ်တမ်းများမှသိရှိရသလောက်ဆိုလျှင် အိန္ဒိယနိုင်ငံထွက် အကြီးဆုံးစိန်တုံးကြီးဖြစ်၏။ ဤစိန်တုံးကြီးကို ပါးရှင်းလူမျိုး နာဒါရှားအမည်ခံ ပုဂ္ဂိုလ်တဦးက နောက်ဆုံးလုယက်ယူသွားကြောင်းသိရ၍၊ ယခုတိုင်အောင် ထူးဆန်းစွာတိမ်မြုပ်လျက်ရှိ၏။ အချို့ကမူကား 'အောလော့' နှင့် 'ကိုဟီးနူး'











(၁) စိန်ရိုင်းကိုရှာယူနေပုံ

(၂) စိန်ရိုင်းတုံးများ

(၃) စိန်များကိုအရောင်တင်နေပုံ

(၄) စိန်အမျိုးအစားခွဲခြားနေပုံ

(၅) မြန်မာစိန်ရတနာဝတ်စားတန်ဆာ

ခေါ် စိန်နှစ်လုံးအဖြစ်သို့ ခွဲဖြတ်ပစ်လိုက်သည်ဟုအယူရှိကြသည်။ 'အောလော့' စိန်ကြီးကို ရုပ်တုတခုတွင် မျက်လုံးအဖြစ်ဖြင့်တပ်ဆင်ထားရာမှ ပြင်သစ်စစ်သားတဦးက ခိုးယူသွားသည်ဟုအဆိုရှိ၏။ နောက်ဆုံး၌ ဤစိန်ကို ဒေါ်လာ ၄ သန်းခွဲဖြင့်ဝယ်၍၊ ရုရှနိုင်ငံ ဒုတိယ ကက်သရင်း ဘုရင်မကြီးအား ဆက်သခဲ့သဖြင့် ထိုအချိန်မှစ၍ ရုရှသရဖူတွင်ရှိလေသည်။ 'ကိုဟီးနူး' စိန်ကိုမူကား နဒါရှားသည် အရှေ့အိန္ဒိယကုမ္ပဏီသို့ပေးအပ်ခဲ့သည်။ ထိုစိန်ကြီးကို ကုမ္ပဏီ၏ ဒါရိုက်တာလူကြီးများကတဖန် ၁၈၅၀ ပြည့်နှစ်တွင် ဝိတိုရိယဘုရင်မအား ဆက်သခဲ့ရာ ထိုစိန်ကြီးမှာ ဗြိတိသျှသရဖူသို့ရောက်ရှိခဲ့၏။ ကမ္ဘာပေါ်တွင် အဖိုးတန်ဆုံးဟု သမုတ်ခြင်းခံရသောစိန်မှာ 'ပစ်' သို့မဟုတ် 'ရီးဂျင့်' အမည်ရှိစိန်ကြီးပင်ဖြစ်သည်။ ထိုစိန်ကို အရိုင်းအနေဖြင့်တွေ့ရှိစဉ်က ရတီ ၄၁၀ ရှိ၏။ 'အော လော့' နှင့် 'ကိုဟီးနူး' ထက်ငယ်သော်လည်း အပြစ်အနာအဆာ လုံးဝကင်း၍ အချိုးအစားကျပြီးလျှင် အလွန်တောက်သောစိန်ဖြစ်၏။ ထိုစိန်ကို မဒရပ်နယ်၏ဘုရင်ခံဖြစ်သူ ပစ်အမည်ရှိ ပုဂ္ဂိုလ်တဦးက ဝယ်ယူ၍ ပြင်သစ်ထီးနန်းကို ရင်ခွင်ပိုက်အုပ်စိုးသူ အော်လီယန်းမြို့စားအား ရောင်းလိုက်သဖြင့် ပြင်သစ်သရဖူသို့ ရောက်ရှိသွားလေသည်။ ကမ္ဘာပေါ်တွင် အကြီးဆုံးစိန်ကြီးကို ၁၉၀၅ ခုနှစ်က အာဖရိကတိုက်တွင် တူးဖော်ရရှိခဲ့၏။ ထိုစိန်တုံးကြီးမှာ အရိုင်းဘဝတွင် ၃၁၀၆ ရတီ (၁¼ ပေါင်) ရှိ၍၊ အရွယ်အားဖြင့်ဆိုသော်၊ လက်သီးဆုပ်နီးနီးကြီးမား၏။ ဤစိန်တုံးသည် 'ကာလီနန်' ဟူသောအမည်ဖြင့် ထင်ရှားကျော်ကြားခဲ့သည်။ ၁၉၀၇ ခုနှစ်တွင် ထရန်စဗားအစိုးရသည် သတ္တမအက်ဒ်ဝပ်ဘုရင်အားဆက်သခဲ့ရာမှ ခွဲစိတ်၍သွေးယူရာ 'စတား အော့ အာဖရိက' ဟုအမည်တွင်သောစိန်ကြီးကိုရရှိလာသည်။ 'စတား အော့ အာဖရိက' သည် ဗြိတိသျှသရဖူတွင်ရှိသည့် စိန်များတွင် အကြီးဆုံး စိန်တလုံးဖြစ်သည်။

အိန္ဒိယနိုင်ငံမှ စိန်တွင်းများ ကုန်ခန်းခဲ့ပြီးနောက် စိန်ကို ဗရာဇီးနိုင်ငံတွင်တွေ့ရှိခဲ့၏။ သို့သော် ထိုတွင်းများမှာလည်း မကြာမီကုန်ခန်းခဲ့သည်။ ယခုအခါ ကမ္ဘာပေါ်တွင်ရရှိလျက်ရှိသော စိန်တို့အနက် ရာခိုင်နှုန်း ၉၀ မှာ အာဖရိကတိုက်တောင်ပိုင်းမှဖြစ်၏။ ထိုဒေသတွင် စိန်တွင်းတွေ့ရှိခဲ့ပုံနှင့်စပ်လျဉ်း၍ အလွန်စိတ်ဝင်စားဖွယ်ကောင်းသော အဖြစ်အပျက်များကိုကြားသိရသည်။ ၁၈၆၇ ခုနှစ်လောက်တွင် ဩရိန်းမြစ်တနေရာ၌ ဗိုးဝါးလူမျိုးကလေးတစု ကစားနေကြစဉ် ကမ်းပေါ်မှ အလွန်လေး၍ကျောက်ချဉ်နှင့်သဏ္ဍာန်တူသည့်ကျောက်တလုံးကိုတွေ့ရှိကြ၏။ ထိုကျောက်မှာ အခြားကျောက်စရစ်များထက်ကြီး၍ အရောင်လည်းတောက်ပသောကြောင့် ထိုကလေးတစုသည် ထိုကျောက်ကို မိမိတို့၏မိခင်ထံသို့ဆောင်ယူသွား၍ပြကြ၏။ မိခင်ဖြစ်သူက အိမ်နားနီးချင်းဖြစ်သူ ဗန်နီကပ်ဆိုသူကိုတဆင့်ပြ၍။ ထိုသူက ကုန်သည်တဦးအားအရောင်းခိုင်းရာ ပေါင် ၅၀၀ ရရှိခဲ့၏။ နှစ် နှစ် ခန့်ကြာသောအခါ သိုးကျောင်းသားတဦးထံ၌ ထူးခြားစွာ အရောင် လက်လျက်ရှိသော ကျောက်တလုံး ရှိကြောင်းကြားသိရသဖြင့် ဗန်နီကပ်သည် ထိုသူထံသို့သွားရောက်ခဲ့၏။ နောက်ဆုံး၌ သူသည် ထိုကျောက်ကို သိုး ၅၀၀၊ ကျွဲနွား ၁၀ ကောင်နှင့် မြင်းတကောင်ပေး၍ဝယ်ယူခဲ့ပြီးလျှင် ကုန်သည်တဦးအား ရောင်းရာ ပေါင် ၁၁,၀၀၀ ရရှိခဲ့၏။ ထိုစိန်မှာ အရိုင်းဘဝတွင် ၈၃½ ရတီရှိ၏။ နောင်အခါတွင် ဒဒ္ဒလီမြို့စားကဝယ်ယူသွား၍ 'ဒဒ္ဒလီ' ဟူသောအမည်ဖြင့်ထင်ရှားလာသည်။ ဤသတင်းများကြောင့် ကမ္ဘာ့အရပ်ရပ်မှလူတို့သည် စိန်ဖြင့်စီးပွားရှာရန်စိတ်ဝင်စားလာကြပြီးလျှင် အာဖရိကတိုက်သို့လာရောက်၍ စိန်တွင်းများကိုရှာဖွေကြ၏။ ထိုအခါ ကမ္ဘာပေါ်တွင် အကြွယ်ဝဆုံး စိန်တွင်းများကိုတွေ့ရှိကြသည်။ စိန်တွင်းများကို ကင်ဗာလီမြို့အနီးတဝိုက်နှင့် အခြားဒေသရှိ ချော်ဖြင့်ပြီးသည့် ကျောက်လွှာများတွင်တွေ့ရှိကြရလေသည်။

စိန် တွင် အပြစ် အနာ အဆာကိုလိုက်၍ အတန်းအစား ခွဲခြားထား၏။ အနာနှင့်အရောင်ကင်းသောစိန်ကို ပဌမတန်းစားဟူ၍၎င်း၊ အပြစ်အနာအနည်းအကျဉ်းသာပါရှိသောစိန်ကို ဒုတိယတန်းစားဟူ၍၎င်း၊ အညံ့ဆုံးစိန်ကို တတိယတန်းစားဟူ၍၎င်းခွဲခြားကြ၏။အရောင်အလွန်တောက်ပ၍ကြည်လင်သောစိန်နှင့် ခဲသားကျသောစိန်များမှာ အဖိုးအလွန်ထိုက်တန်၏။ အပြစ်အနာအဆာကင်းသော်လည်း အဝါရည်ဝင်နေသောစိန်မှာ အဖိုးနည်းသည်။ တခါတရံ စိန်များတွင် မဲ့ပြာရောင်၊ အညိုရောင်၊ အစိမ်းရောင်နှင့် အမည်းရောင်များသန်းနေတတ်၏။ ဖြူပြာရောင်ရှိသော အချို့စိန်များကို နေရောင်တွင် တခဏကြာအောင် ထုတ်ထား၍ မှောင်ထဲသို့ပြန်သွင်းလာသောအခါ အရောင်ဝင်းလက်လာလေသည်။

**စိန်သတ္တု။** ။စိန်သတ္တု ဆိုသည်မှာ အာစနစ်ဖြဗ်စင်ကို ဆိုလိုသည်။ အာစနစ်သည် သံမဏိရောင်ခပ်မှိုင်းမှိုင်းရှိ၍ သတ္တုကဲ့သို့ပြောင်လက်သောအခဲဖြစ်၏။ ခနောက်စိမ်းနှင့် ကြွပ်တို့ကဲ့သို့ပင် သတ္တုဟုလည်းမဆိုနိုင်၊ သတ္တုမဟုတ်ဟူ၍လည်း မဆိုနိုင်သော ကြားသတ္တုဖြဗ်စင်ဖြစ်၏။ သို့သော် သတ္တုမဟုတ်သော ဖော့စဖောရပ်နှင့် ပို၍နီးစပ်၏။ အာစနစ်ကို သဃ်ဇာတ အဖြစ်ဖြင့်၎င်း၊ အထူးသဖြင့် ကန့်နှင့် ရောစပ်၍ တွေ့နေကျသတ္တုရိုင်းများတွင်၎င်း တွေ့ရ၏။

အခြားဓာတ်ပေါင်းများနှင့် ရောစပ်ထားသောအာစနစ်သည် အာစနစ်ချည်းသက်သက်ထက် ပို၍အသုံးဝင်သည်။

ကော့ပါး (ကြေးနီ)၊ ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်တို့နှင့် ရောစပ်ထားသော အာစနစ်ဒြပ်ပေါင်းများကို ခြယ်ဆေးပေါင်း မြောက်မြားစွာတို့တွင်အသုံးပြုရ၏။ အနုပညာတွင် အသုံးများသော မြစိမ်းရောင်အသွေးရှိသည့် 'ပဲရစ် ဂရင်း' ခေါ် ထင်ရှားသော ခြယ်ဆေးတမျိုးတွင် အာစနစ်ပါ၏။ အာစနစ်ဒြပ်ပေါင်းများသည် အမျိုးမျိုးသော အသီးပင် အရွက်ပင်များကို ဖျက်ဆီးတတ်သော ပိုးမွှားများကို သတ်ရန် ပိုးသတ်ဆေးအဖြစ်ဖြင့် အလွန်အသုံးဝင်၏။ အာစနစ်ဒြပ်ပေါင်းများသည် အပြင်းထန်ဆုံးသော အဆိပ်များ ထဲတွင် အပါအဝင်ဖြစ်ကြောင်းကို ရှေးအခါကပင်သိခဲ့ကြ၏။ အာစနစ် ဒြပ်ပေါင်းများမှ အဆိပ်ငွေ့များထွက်မည်ဟုယူဆကြသဖြင့် နံရံကပ်စက္ကူများနှင့်အထည်များကို အာစနစ်ပါသော ဆိုးဆေးများဖြင့် အရောင်ခြယ်လေ့ ဆိုးလေ့မရှိကြချေ။

အာစနစ်ကို ခဲကျည်ဆန်များပြုလုပ်ရာတွင် အဓိကအသုံးပြုကြ၏။ ကျည်စေ့များပြုလုပ်ရာ၌ ခဲတွင် အာစနစ်အနည်းငယ်ကိုထည့်၍ရောစပ်အသုံးပြုခြင်းဖြင့် ကျည်စေ့လုံးကလေးများကိုရရှိနိုင်သည်။ ခဲချည်း သက်သက်ကို ကျို၍လောင်းယူလျှင် အလုံးကလေးများကိုမရနိုင်ဘဲ၊ အမျှင်တန်းလန်းပါလာသော ခဲကလေးများကိုသာရရှိသည်။ အာစနစ်နှင့် အောက်ဆီဂျင်ရောစပ်ထားသော အာစနစ်အဖြူကို ဖန်လုပ်ငန်းတွင် သံကြောင့်ဖြစ်ပေါ်သောအရောင်ကိုချွတ်ရန် အသုံးများ၏။ ထိုပြင် ကြွက်နှင့်ယင်များကိုသတ်ရန် အဆိပ်ခတ်ဆေး အဖြစ်ဖြင့်ရင်း၊ ရောင်စုံမီးပန်းများပြုလုပ်ရာ၌ရင်း အသုံးပြုကြသေး၏။ အိုင်းယန်း ပါကလိုရိုက် ပျော်ဝင်ရည်နှင့် မက်ဂနီဇီယာအမှုန့်များသည် အာစနစ်အဆိပ်ဖြေဆေးများ ဖြစ်ကြသည်။ သံတွင် အာစနစ်အနည်းငယ်ထည့်၍ရောစပ်လိုက်သောအခါ သံအရောင်ပြောင်လက်၍လာသည်။

**စိန်သုံး၊ ဒေါ်** (မြန်မာ ၁၂၄၅–၁၂၉၉)။ ။ဒေါ်စိန်သုံးသည် မြန်မာသဘင်လောကတွင် ထင်ရှားသည့် မင်းသမီးကြီး တယောက်ဖြစ်၏။ ဒေါ်စိန်သုံး၏ မိဖတို့မှာ ဆရာဖိုးနှင့်ဒေါ် အုပ်တို့ဖြစ်သည်။ ဒေါ်စိန်သုံး၏ ဖခင်သည် အပြောအဆို သိမ်မွေ့နူးညံ့သူဖြစ်ခြင်းကြောင့် အများက ဆရာဟု ခေါ်ကြသည်။ ဒေါ်စိန်သုံးကို မန္တလေးမြို့၊ နီပတန်းရပ်၌ သက္ကရာဇ် ၁၂၄၅ ခုနှစ်တွင် ဖွားမြင်၏။ ငယ်စဉ်ကပင် အကပညာကို ဒေါ်ထွေးလေးထံတွင် ဆည်းပူးခဲ့သည်။ အသက် ၁၆ နှစ်အရွယ်တွင် အငြိမ့်မင်းသမီးအဖြစ်ဖြင့် မန္တလေးမြို့၊ ရွှေလန်ရပ် ဘာဂျာ ဆရာရွှေထံတွင်လည်း ပညာ ဆည်းပူးခဲ့သည်။ မြန်မာသီချင်းကြီး အဆိုပညာကို အဆိုကျော် ဦးလူကြီး၊ ဆရာမှန်း စသော ပုဂ္ဂိုလ်ကြီးများထံတွင် လည်း သင်ယူလေ့လာခဲ့လေသည်။ ထိုကြောင့် အဆိုအကပညာ နှစ်ရပ်စလုံးကို နိုင်နင်းစွာတတ်ကျွမ်းခဲ့ပေသည်။

ဒေါ်စိန်သုံးသည် အသက် ၂၀ အရွယ်တွင် အိမ်ထောင်ကျခဲ့၏။ ခင်ပွန်းသည်မှာ နာမည်ကျော်လူရွှင်တော် ဦးချစ်ဖွယ်ပင်ဖြစ်သည်။ (ချစ်ဖွယ်၊ ဦး — ရှု။) လူရွှင်တော် ဦးချစ်ဖွယ်နှင့်အတူ တွဲဖက်ကပြယင်း အကြောင်းပါခဲ့ခြင်းဖြစ်လေသည်။ ဦးချစ်ဖွယ်နှင့် ဒေါ်စိန်သုံးတို့တွင် သားသမီး ၁၁ ယောက်ထွန်းကားသည်။ သားသမီးများ အားလုံးလိုပင် တူရိယာဂီတပညာကို တတ်ကျွမ်း နားလည်ကြသော်လည်း၊ မိဖများက တားမြစ်ပိတ်ပင်ထားသဖြင့် သဘင်လောကပြင်ဖက်သို့ရောက်နေကြ၏။

ဒေါ်စိန်သုံးသည် ခင်ပွန်းသည်နှင့်အတူ မြန်မာသီချင်းကြီးများကို အဝေးရောက်မင်း၊ ဝက်မစွတ်ဝန်ထောက်မင်းတို့ထံတွင် အမြဲပင်လေ့လာခဲ့၏။ အသက် ၅၀ အရွယ်လောက်တွင် ထိုင်ဆိုအငြိမ့်ကြီးဖွဲ့ကာ မြန်မာပြည်တဝှန်းလုံး လှည့်လည်ခဲ့လေသည်။

ဒေါ်စိန်သုံး၏ ကိုယ်လုံးကိုယ်ထည်မှာ ခပ်ဝဝ ဖိုင့်ဖိုင့်ဖြစ်သည်။ သို့သော် ကရာ၌ အလွန်ပျော့ပျောင်း ညက်ညောလှသည်ဟုဆို၏။ သီချင်းသံမှာလည်း သာယာငြိမ့်ညောင်းသည်။ ထိုသို့ အဆိုအက ယဉ်ကျေးသိမ်မွေ့ပြီးလျှင် အိန္ဒြေရသောကြောင့်လည်း လူကြိုက်များခဲ့လေသည်။ ဒေါ်စိန်သုံး ဆိုခဲ့သော သီချင်းတပုဒ်တွင်၊

'ခေတ်ပြောင်းခေတ်လွဲ၊ ဟိုရှေးကတဲက ပဝေသဏီ၊ ရေနံဆီပေါ်ကထဲက ကြုံလို့ နွှဲခဲ့ရပြန်သည်။ သုံးတို့ ပွဲကလာ



အငြိမ့်မင်းသမီးကြီး ဒေါ်စိန်သုံး

ခဲ့ပြီ၊ ဒေါ်စိန်သုံး အနုအစစ်ကလေးမို့၊ သူ့နှစ်ကြေးငွေသုံးထောင်၊ ဩ . . . ကျမဆရာမရှိပေါင်၊ ကဒါကိုကြည့်မောင်။ ဒေါ်သုံး မြက်ငေါက်မြစ်၊ တဆယ့်ခြောက်နှစ် မကျော်သေးပေါင်။ ။ကျမဆရာမရှိပေါင်၊ ကဒါကြည့်မောင်' ဟူ၍သီဆိုခဲ့လေသည်။ ထိုသီချင်းကို ကြည့်ခြင်းဖြင့် ဒေါ်စိန်သုံးသည် ရေနံဆီပေါ်စကပင် စတင်ကပြခဲ့ကြောင်း၊ သူ၏ဝင်ငွေမှာ တနှစ်လျှင်သုံးထောင်မျှ ဖြစ်ကြောင်း၊ ထို့ပြင် အသက်အရွယ်ကြီးရင့်နေစေကာမူ အငြိမ့်စင်တွင်ကပြစဉ်၌ ငယ်မူငယ်သွေးနှင့် ငယ်စိတ်မွေးကာ ကပြလေ့ရှိကြောင်းတို့ကို သိရှိနိုင်ပေသည်။ ဒေါ်စိန်သုံး သီဆိုသောသီချင်းများကို ဦးချစ်ဖွယ်ရေးသည်သာ များသည်။

ဒေါ်စိန်သုံးသည် ၁၂၉၄ ခုနှစ်တွင် မန္တလေးမြို့မှရန်ကုန်မြို့သို့ ဆင်းကာ အငြိမ့်ကစဉ် ရန်ကုန် မြို့၌ပင် ကွယ်လွန် အနိစ္စရောက်ရှာလေသည်။

ဒေါ်စိန်သုံးတွင် မွေးချင်းငါးယောက်ရှိ၏။ ထိုငါးယောက်ထဲမှ မောင်တယောက်ဖြစ်သော ဦးထွန်းမှာ အငြိမ့်ပြေဆရာ နာမည်ကျော်တဦးဖြစ်လေသည်။



ဇာတ်မင်းသားကြီး ဦးစိန်အုပ်

**စိန်အုပ်၊ ဦး။** ။ဦးစိန်အုပ်သည် မြန်မာသဘင်ပညာရှင်တဦးဖြစ်သည်။ ငယ်မည်မှာ မောင်အိုဖြစ်၏။ ၁၂၃၂ ခုနှစ်တွင် ဟံသာဝတီခရိုင်၌၊ အဖ ရုပ်သေးမင်းသား ဦးထွေးနှင့် အမိ ဒေါ်မှတ်တို့မှမွေးဖွားခဲ့၏။ ငယ်ရွယ်စဉ်ကပင် ဖခင်ဖြစ်သူ၏ရုပ်စုံစင်တွင် ပါဝင်ကပြခဲ့သည်။ သီပေါဘုရင်လက်ထက် မန္တလေးရွှေမြို့တော်တွင် ထီတော်များဖွင့်လှစ်ကာ၊ ပွဲတခြိမ့်ခြိမ့်ခံနေသည်ကိုကြားရသဖြင့်၊ ဖခင်ဖြစ်သူ၏ရုပ်စုံစင် မန္တလေးသို့ တက်ရောက်ကပြခဲ့ရာ၊ အောက်အရပ်စင်ဟု နာမည်ရခဲ့လေသည်။ တခါသော်၊ ဘုရင်မင်းမြတ်၏ အမိန့်တော်ဖြင့် ရွှေတော်တွင် ဝေဿန္တရာဇာတ်ကို ကပြရာ၊ မောင်အိုသည် ဇာလီလုပ်၍ကပြသည်ကို ဘုရင်နှင့်မိဖုရားနှစ်ပါးတို့ နှစ်ခြိုက်သဘောကျသည်ဟုဆိုလေသည်။

မောင်အိုသည် ဖခင်နှင့်အတူ သုံးနှစ်မျှ အထက်မြန်မာပြည်တွင် ရုပ်စုံမင်းသားလုပ်၍ကပြခဲ့ပြီးနောက်၊ ရန်ကုန်သို့ စုံဆင်းလာသည်။ ထိုနောက် မော်လမြိုင်မြို့ မရမ်းကုန်းရပ်၊ ဇာတ်ဆရာဦးရွှေလုံးက ဇာတ်ထောင်ခဲ့ရာတွင်၊ ရန်ကုန်မှ ကိုဘကျော်ခေါ် ကိုကျော်ငံကို ပတ်တီးဘဝမှ ဇာတ်မင်းသားအလုပ်ခိုင်း၍ မင်းသမီး မစိန်ဖေ့နှင့်တွဲဖက်စေသည်။ မောင်အိုကိုလည်း ရုပ်စုံစင်မှဆင်းစေ၍၊ ဇာတ်မင်းသား မောင်စိန်အုပ်ဟုနာမည်ပေးပြီးလျှင်၊ မင်းသားအလုပ်ခိုင်းလေသည်။ နောက်တနှစ်တွင် ဇာတ်ဆရာဦးရွှေလုံးကပင်၊ မောင်စိန်အုပ်ကို မစိန်အုပ်အမည်တပ်ကာ၊ ယောကျ်ား မင်းသမီး အလုပ်ခိုင်း၍ဇာတ်ထောင်ခဲ့ပြန်သဖြင့် ယောကျ်ား မင်းသမီးအဖြစ် ကပြခဲ့ရဘူးလေသည်။ သို့သော် နောက်တနှစ်မှာ ပုသိမ်မြို့မှ နိုင်ငံချဲ့ခေါ် ဇာတ်မင်းသမီးနှင့်တွဲဖက်၍ ဇာတ်မင်းသားအဖြစ်ပြန်လည်ကပြခဲ့ရပြန်လေရာ၊ နာမည်ကျော်ကြားလူကြိုက်များခဲ့လေသည်။ ထိုနောက်တွင်ကား ဇာတ်မင်းသားအဖြစ်ဖြင့်သာ ကပြခဲ့ရသော်လည်း၊ သဘင်ပညာမပြည့်ဝသေးဟု ထင်သဖြင့် ဦးဖိုးကွန်း၊ ဒေါ်ထွေးလေးတို့၏ ဇာတ်အဖွဲ့တွင်ပညာသင်ယင်း၊ တနှစ်မျှ ပါဝင်ကပြခဲ့သေး၏။ (ထွေးလေး၊ ဒေါ် — ရှု။)

ထိုနောက် မန္တလေးသို့တက်၍၊ အိမ်နောင် ဦးစံတုတ်၊ လူကြမ်း ဦးကြွင်း၊ ဆိုင်းဆရာ စိန်ဗေဒါစသော ပညာသည်ကြီးများနှင့် ဇာတ်ကြီးတည်ထောင်ခဲ့သည်။ (စံတုတ်၊ ဦး။ စိန်ဗေဒါ — ရှု။) ရန်ကုန်မြို့ လျော်တန်းဇာတ်ရုံကြီးတွင် အိမ်နောင်ဇာတ်တော်ကြီးကို ၄၅ ရက်တိတိခင်းကျင်းကပြခဲ့လေသည်။ ဤသို့ သဘင်ပညာတွင် စံတင်ရသူများနှင့် တွဲဖက်ကပြခဲ့ယင်း၊ ဦးစိန်အုပ်သည် သဘင်ပညာပြည့်ဝခဲ့ရ၏။ ဦးစိန်အုပ်သည် ဦးစံတုတ်၏ယိုးဒယားဇာတ်ကြီး၊ အတီးအက၊ အဆိုတို့ကို အတော်ရမိလိုက်သည်ဟု ဆိုသည်။ အထူးသဖြင့် အိမ်နောင်ဦးစံတုတ် ကပြပုံမျိုးကို၊ ဦးစံတုတ်နောက်၌ ဦးစိန်အုပ်တဦးသာ ကပြနိုင်ကြောင်းပြောကြလေသည်။

သို့သော် ဦးစိန်အုပ်မှာ မင်းသားသန့်သန့်ဖြစ်၍၊ အလွန်ကောင်းကြီးမဟုတ်ပေ။ နောင်သောအခါ ဦးစိန်ကတုံး၊ အောင်ဘညိုစသူတို့၏ ဇာတ်အဖွဲ့များတွင် မင်းသားကြီး အ

ဖြစ်ပါဝင်ကပြခဲ့လေသည်။ ဦးစိန်အုပ်သည် ယင်းသို့ရုပ်စုံစင် မင်းသား၊ ယောကျ်ားဇာတ်မင်းသမီး၊ ဇာတ်မင်းသား၊ မင်းသားကြီး စသည်ဖြင့် သဘင်ပညာကို မြှင့်တင်ပေးခဲ့ပြီးနောက်၊ အသက် ၆၃ နှစ်အရွယ်တွင် ရဟန်းပြုလေသည်။ ရဟန်းဘဝနှင့်ပင် မင်းသားဦးစိန်အုပ်ခေါ် ဦးအာသဘသည် ရန်ကုန်မြို့၊ ဂွတ်တလစ်လမ်းရှိ လွတ်လပ်ရေးကျောင်း၌ သက်တော် ၇၀၊ ဝါတော် ၁၇ ဝါအရ၊ ၁၃၁၁ ခုနှစ် နှောင်းတန်ခူးလဆုတ် ၁၀ ရက်နေ့ည ၆ နာရီအချိန်တွင်ပျံလွန်လေသည်။

စိန်းမြစ်။ ။စိန်းမြစ်သည် ပြင်သစ်နိုင်ငံရှိ မြစ်ကြီးလေးသွယ်တွင် အထင်ရှားဆုံးသောမြစ်ဖြစ်သည်။ ပါရစ်မြို့တော်ကြီးမှာ ထိုမြစ်ကမ်းပေါ်တွင်တည်ရှိလေသည်။

နွေအခါများတွင် ဤမြစ်၏ မြစ်ဖျားသည် ခန်းခြောက်လုမတတ်ရှိသော သာမန်ချောင်းငယ်မျှသာ ဖြစ်သော်လည်း အွိုဗမြစ်၊ ယွန်းမြစ်၊ ဝမြစ်နှင့် မန်းမြစ်တို့စီးဝင်ကြသဖြင့် ရေအားကောင်းသော မြစ်ကြီးဖြစ်လာပြီးလျှင် စက်မှုလက်မှုလုပ်ငန်းများအတွက် လိုသော ရေအားကိုပင် ရရှိနိုင်စေ၏။ သင်္ဘောကလေးများမှာ ပါရစ်မြို့တော်အထက် အတော်ဝေးသောနေရာအထိ ဆန်တက်နိုင်လေသည်။

စိန်းမြစ်သည် ပြင်သစ်ပြည်နယ်ဟောင်းတခုဖြစ်သော ဗာဂန်ဒီနယ် ကုန်းမြေမြင့်များတွင် မြစ်ဖျားခံ၍ အနောက်မြောက်သို့ ၄၇၂ မိုင် စီးဆင်းသွားပြီးလျှင် အင်္ဂလိပ်ရေလက်ကြားကြီးထဲသို့ စီးဝင်လေသည်။ မြစ်ဝ၏ တဖက်တချက်တွင် အွန်းဖလားနှင့် လာအားဗားဆိပ်ကမ်းမြို့များရှိ၏။ ထိုမြစ်ကမ်းပေါ်ရှိ အခြားထင်ရှားသောမြို့များမှာ ထရွား၊ မယ်လွန်၊ ဖောင်တိန်ဗလိုး၊ စန်ဒနီး၊ စန်ဂျာမိန်းနှင့် မွန်းစသောမြို့များဖြစ်လေသည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်း ခရစ် ၁၉၄၀ ပြည့်နှစ်တွင် ဂျာမန်တို့သည် စိန်းမြစ်ကိုဖြတ်၍ ပါရစ်မြို့ကို သိမ်းပိုက်ခဲ့ကြ၏။ ၁၉၄၄ ခုနှစ်၌မူ အမေရိကန်တို့သည် စိန်းမြစ်ကိုဖြတ်၍ ပါရစ်မြို့ကို ဂျာမန်လက်မှ လွတ်မြောက်အောင်သိမ်းယူခဲ့ကြပြန်သည်။ ဤအချက်နှစ်ချက်ကြောင့် စိန်းမြစ်သည် ဒုတိယ ကမ္ဘာစစ် အတွင်းက နာမည်ထင်ရှားခဲ့သည်။

စိန်းလုံကဘား။ ။ကချင်ပြည်နယ် အတွင်းရှိမြို့တမြို့ဖြစ်သည်။ ဗန်းမော်မြို့ အရှေ့စူးစူး ၂၆ မိုင်ခန့်အရပ်တွင် တည်ရှိသည်။ ပေ ၆,၀၀၀ ကျော်မြင့်သော တောင်တန်းကြီးပေါ်တွင်တည်နေ၍ ရာသီဥတုမှာချမ်းအေးလှသည်။ ကချင်တောင်တန်းများရှိ စော်ဘွားများအား ကြီးကြပ်အုပ်ချုပ်



ပါရစ်မြို့ စိန်းမြစ်ဆိပ်ကမ်း



ကချင်ပြည်နယ် စိန်းလုံကဘားမြို့

ရသော တောင်တန်းဝန်ထောက် ရုံးစိုက်ရာမြို့ဖြစ်သည်။ ဗန်းမော်မြို့သို့ နွားဝန်တင် လားဝန်တင်များနှင့်သာ ကူးသန်းသွားလာကြသည်။ အင်္ဂလိပ်အစိုးရလက်ထက်ကမူ မကြာမကြာပုန်ကန်ထကြွတတ်သော ကချင်လူမျိုးများအား စောင့်ကြပ်ရန် စစ်ပုလိပ်တပ်ခွဲတခုကို ချထားခဲ့ဘူးသည်။ ယခုအခါမူ ကချင်ပြည်နယ်သည် ပြည်ထောင်စုအတွင်း၌ ပါဝင်နေသဖြင့် အေးချမ်းစွာရှိပေသည်။ စိန်းလုံကဘားမြို့တွင် အစိုးရ မူလတန်းလွန် ကျောင်းတကျောင်းရှိသည်။

စုန်းကဝေအတတ်။ ။မြန်မာတို့၏ ရှေးဟောင်းအယူ၌ စုန်းဟူသည် အရောင်အဝါ တောက်ပ၍၊ လူကို ဖမ်းစားနိုင်သောတန်ခိုးရှိသည်ဟုယုံမှတ်ကြသည်။ စုန်းဟူသော ဝေါဟာရမှာ ဇုဏှဟူသော ပါဠိသဒ္ဒါမှပျက်၍၊ ဇုန်း၊ စုန်းဟူ၍ အဆင့်ဆင့်ပြောင်းလဲလာသည်ဟု ယေဘုယျအားဖြင့် ယူဆကြသည်။

လောကီအင်္ဂတ္တိုရ်ကျမ်းရင်းကြီးအရ စုန်းမျိုး ခုနစ်ပါးရှိသည်ဟုဆိုသည်။ ယင်းတို့ကား ခြေစုန်း၊ ခေါင်းစုန်း၊ ကိုယ်စုန်း၊ မောက်လုံးစုန်း၊ မောက်ပြားစုန်း၊ အိန္ဒတလိန္ဒစုန်း၊ ကဝေမြောက်စုန်းဟူ၍ ခုနစ်မျိုးတည်း။ (၁) ခြေစုန်းသည် သစ်သီးသစ်ပွင့်ကိုသာစား၍၊ ခြေကိုသော်၎င်း၊ ခြေရာကိုသော်၎င်း၊ ကိုယ်တိုင် ကိုင်ရမှ ဖမ်းစားနိုင်သည်ဟု အဆိုရှိသည်။ ယင်းကို ရွာသူဟုလည်းခေါ်ကြသည်။ (၂) ခေါင်းစုန်းသည် သစ်သီးမှည့်အချိုအချဉ်ကိုစား၍၊ အရိပ်ကိုသော်၎င်း၊ ခြေရာကိုသော်၎င်း၊ ကိုယ်တိုင်ထိရမှဖမ်းစားနိုင်သည်။ ယင်းကို နဖားတပ်ဟုလည်းခေါ်ကြသည်။ (၃) ကိုယ်စုန်းသည် မစင်ချေးခြောက်ကိုသာစား၍၊ ခြေရာကိုသော်၎င်း၊ အရိပ်ကိုသော်၎င်း၊ ကိုယ်ကိုသော်၎င်း၊ ကိုယ်တိုင်ထိရမှဖမ်းစားနိုင်သည်။ ယင်းကို ဆင်ကွပ်ဟုလည်းခေါ်ကြသည်။ (၄) မောက်လုံးစုန်းသည် အသွေး အသား အရေကိုစား၍၊ ကိုယ်တိုင်မြင်ရ ထိရ နမ်းရှုပ်ရမှဖမ်းစားနိုင်သည်။ ယင်းကို စုန်းဟုလည်းခေါ်ကြသည်။ (၅) မောက်ပြားစုန်းကား အအူအသည်းအမြစ်ကိုစား၍ မောက်လုံးစုန်းကဲ့သို့ပင်၊ ကိုယ်တိုင်မြင်ရ ထိရ နမ်းရှုပ်ရမှသာဖမ်းစားနိုင်သည်။ ယင်းကို ရွာသမီးဟုလည်းခေါ်ကြသည်။ (၆) အိန္ဒတလိန္ဒစုန်းသည် အကြော်အလှော် အဆိမ့်အအိမ့်တို့ကိုစား၍၊ အမည်နာမကိုသိရမှ၊ မိမိလက်အောက်ရှိ ဘီလူးနတ်တို့ကို စေပါး ခိုင်းခန့် ဖမ်းစားနိုင်သည်။ ယင်းကို ဇော်ဂနီဟုလည်းခေါ်ကြသည်။ (၇) ကဝေမြောက်စုန်းကား လူသေးလူသားလူရိုးတို့ကိုစား၍၊ အမည်နာမကိုသိရမှ၊ မိမိလက်အောက်နတ်တို့ကို စေပါး ခိုင်းခန့် ဖမ်းစားနိုင်သည်။ ယင်းကို ကဝေဟုလည်းခေါ်ကြသည်။ ခြေစုန်း၊ ခေါင်းစုန်း၊ ကိုယ်စုန်းသုံးယောက်တို့သည် လူကိုသေအောင် မဖမ်းစားနိုင်။ ကျန်လေးယောက်သောစုန်းတို့သာလျှင် လူကိုသေအောင်ဖမ်းစားနိုင်သည်ဟု အဆိုရှိသည်။

ကဝေသာရကျမ်းအလိုဌ္ဌ ခြေစုန်း၊ ခေါင်းစုန်း၊ ကိုယ်စုန်း၊ မောက်လုံးစုန်း၊ မောက်ပြားစုန်းတို့သည် ယင်းတို့၏ကိုး ကွယ်ရာနတ် အထူးမရှိခြင်းကြောင့် မိမိတို့ကိုယ်တိုင်ဖမ်းစား ကြရသည်။ အိန္ဒိယတလိုင်စုန်းနှင့် ကဝေမြောက်စုန်းတို့၌မူ အထူးကိုးကွယ်သောနတ်များရှိခြင်းကြောင့် ယင်းနတ်တို့ကို စေစား၍ဖမ်းစားနိုင်သည်ဟုဆိုသည်။

အချို့သောကျမ်းပြုပုဂ္ဂိုလ်တို့၏အလိုဌ္ဌ ဇော်ဂနီကို စုန်းဟူ ၍မပြချေ။ မိစ္ဆာနတ်စိမ်းဟုသာဆိုကြ၏။ ကဝေသာရ ကျမ်းအလို၊ ဇော်ဂနီဟူရာ၌ (၁) ဒေဝဇော်ဂနီ၊ အောက် တန်းနတ်ဆိုးနတ်ယုတ်များ၊ (၂) ဗျဂ္ဃဇော်ဂနီ၊ ကျားနှင့် ယှဉ်သောနတ်စိမ်းများ၊ (၃) ယက္ခဇော်ဂနီ၊ ဘီလူး၊ သရဲ၊ ဖုတ်၊ ပြိတ္တာများ၊ (၄) ဣန္ဒဇော်ဂနီ၊ အထက်ပါဇော်ဂနီ တို့ကို အစိုးရသောနတ်စိမ်းများဟူ၍ ဇော်ဂနီလေးမျိုးရှိ၏။

ပတ်ဝန်းကျင်ရှိ သဘာဝဓမ္မတို့ကို လူတို့ကောင်းစွာမသိရှိ ကြရသေးသောခေတ်တွင် ကြောက်ရွံ့ခြင်း၊ အယူသည်း ခြင်း၊ ဆင်ခြင်တုံတရား ကင်းမဲ့ခြင်းစသည်တို့ကြောင့် လူတို့ သည် စုန်းကဝေ စသည်တို့၌ ယုံကြည်ခဲ့ကြသည်။ အသိတ ရား မဖွံ့ဖြိုးသေးသောခေတ်၌ မြန်မာနိုင်ငံ၌သာမက၊ ယနေ့ ယဉ်ကျေးမှုအဆင့်အတန်း မြင့်သည်ဆိုသောနိုင်ငံကြီးများ၌ ပင်လျှင် စုန်းအတတ်ကို ယုံကြည်ခဲ့ကြကြောင်းတွေ့ရှိရ သည်။ စုန်းအတတ်နှင့် စပ်လျဉ်းသော အနောက်နိုင်ငံ အ ယူအဆ ဗဟုသုတတို့ကို အောက်တွင်ဆက်လက်၍ဖော်ပြ လိုက်သည်။

ရှေးရောမခေတ်မတိုင်မီ နှစ်ပေါင်းများစွာကစ၍ အီဂျစ် ပြည်တွင် စုန်းအတတ်ထွန်းကားခဲ့သည်ဟုဆိုကြသည်။ ရှေး ရောမခေတ်၌လည်း စုန်းအတတ်သည် ခေတ်စားခဲ့သည်။ ရောမဥပဒေများတွင် စုန်းအတတ်ကိုတတ်သူတို့အား ရာဇ ဝတ်ပြစ်မှု ကျူးလွန်သူဟူ၍ပညတ်ထားသည်။

စုန်းကဝေတို့သည် လူကိုသာပြုစားနိုင်သည်သာမက၊ လူတို့ ပိုင်ဆိုင်သော ကျွဲနွား လယ်ယာ ချောင်းမြောင်းတို့ကို လည်း ပြုစားတတ်သည်ဟုဆိုကြသည်။ ကလေးများကို လည်း ဖမ်းစားတတ်သည်ဟုယူဆကြသည်။ စုန်းမတို့သည် ရေကြီးရအောင်သော်၎င်း၊ မိုးခေါင်၊ စပါးသီးနှံပျက်စီးရ အောင်သော်၎င်း၊ လူကိုတိရစ္ဆာန်ဖြစ်အောင်သော်၎င်း၊ ဖန် တီးနိုင်သည်ဟုလည်းဆိုကြသည်။ ထို့ကြောင့် ရောမဥပဒေ တွင် ကောက်ပဲသီးနှံများကို ဖျက်ဆီးခြင်း၊ ဘုရားဝတ် ကျောင်းမှပစ္စည်းများကိုဖျက်ဆီးခြင်း၊ လူသေအလောင်းကို တူးဖော်ခြင်း၊ ရုပ်တုများလုပ်ခြင်းစသော စုန်းပညာနှင့် မ ကင်းသည့်လုပ်ငန်းများကို အရေးယူတားမြစ်ထားပေ သည်။ ထို့ပြင် အရုပ်သူအရုပ်သားတို့မှာလည်း၊ လူတဦး တယောက်ရုတ်တရက်နာမကျန်းဖြစ်၍သေလတ်သော် စုန်းပြု စားခြင်းကြောင့်ဟုယူမှတ်ကြသည်။

စုန်းပြုစားသူတို့သည် မိမိတို့ကပြုစားလိုသူ၏ရုပ်ပုံအတုကို ဖယောင်းဖြင့်ထုလုပ်၍၊ ဆေးဝါးမန္တရားဖြင့်စီရင်ကြသည်ဟု ဆိုသည်။ အချို့ကား ပြုစားခြင်းခံရမည့်သူ၏ လက်သည်း၊ ခြေသည်း၊ ဆံပင်၊ အဝတ်အစားစသည်တို့ကိုရလျှင် ပြုစား နိုင်သည်ဟုဆိုသည်။ ထို့ကြောင့် အလွန်ရှေးကျသောလူ တို့သည် လူပြုစားခံရမည်ကိုကြောက်ရွံ့၍၊ ခြေသည်း၊ လက် သည်းနှင့် ဖြတ်ပြီးသားဆံပင်တို့ကို ကောင်းစွာသိမ်းဆည်း ထားတတ်ကြသည်။

အနောက်နိုင်ငံအယူအဆအရဆိုလျှင်၊ ဆက်တန်ခေါ် နတ် ဆိုးကြီးသည် စုန်းအတတ်ကိုပေးသူဖြစ်လေရာ၊ စုန်းအတတ် ကို တတ်သူသည် ဆက်တန်အား ဝိညာဉ်ကို ပေးအပ်ထားရ သူဟု ဆိုလေသည်။ စုန်းကဝေတို့သည် တိရစ္ဆာန်အသွင် ကို ယူကာ လူနှင့်လည်း ရောနှောနေထိုင်တတ်ကြသည်။ မိစ္ဆာနတ်တို့နှင့်လည်း ရောနှောနေထိုင်တတ်ကြသည်။ စုန်း ကဝေတို့၌ မိစ္ဆာနတ်နှင့်ရသောသားသမီးများရှိတတ်သည်။ ထို့ကြောင့် လူမိန်းမက ဘီလူးကိုမွေးသည်ဟူ၍၎င်း၊ ထိုမွေး သော ဘီလူးမှာ မိစ္ဆာနတ်တို့နှင့် ရသောသားသမီးဖြစ်သည် ဟူ၍၎င်း ယုံကြည်ကြသည်။ ဥရောပတိုက်တွင် စုန်းမများ သည် မိမိတို့၏ကိုယ်ပေါ်တွင် ဖားပြုပ်နှင့် ယုန်ခြေထောက် အရုပ်များကို ဆေးထိုးထားလေ့ရှိသည်။

ဥရောပတိုက်တွင် ၁၅ ရာစုနှစ်နှင့် ၁၇ ရာစုနှစ်လောက်မှ စ၍ ၁၈ ရာစုနှစ်တိုင်အောင် စုန်းကဝေတို့ကို ရာဇဝတ်မှုကျူး လွန်သူဟူ၍ ကားစင်တွင် သတ်ရန် အပြစ်ဒဏ်ပေးသည့်ထုံး တမ်းနှင့် ဥပဒေများရှိခဲ့သည်။ သမိုင်းဆရာတို့က ခရစ် ၁၄၈၄ ခုမှ ၁၇၈၂ ခုနှစ်အတွင်း စုန်းဟူသောစွပ်စွဲချက်ဖြင့် ခရစ်ယန်ဝတ်ကျောင်းတော်၌စီရင်ခဲ့သည်မှာ သုံးသိန်းနီးပါး မျှရှိသည်ဟုဆိုသည်။ ဂျာမနီ၊ အင်္ဂလန်၊ ပြင်သစ်၊ စပိန် နှင့် ဣတလီနိုင်ငံတို့တွင် စုန်းများကို ဝတ်ကျောင်းများ၌ စီရင်လေ့ရှိ၏။ အမေရိကန်ပြည်ထောင်စု၌ကား စုန်းတို့ကို ဆေးလမ်မြို့၌ ပျူရီတန်ဂိုဏ်းဝင်တို့ကစီရင်ကြသည်။

အနောက်နိုင်ငံတို့၏အယူအဆ၌ စုန်းဟုတ်သည်၊ မဟုတ် သည်ကို အပ်ဖြင့်ထိုး၍စမ်းက သိနိုင်သည်ဟုဆို၏။ စုန်းဖြစ် ခဲ့လျှင်၊ စုန်း၏ကိုယ်၌အပ်ရာအပေါက်ထင်စေကာမူ နာကျင် ခြင်းမရှိဟု ဆိုသည်။ ရှေးက အင်္ဂလန်နိုင်ငံတွင် မကောင်း ဆိုးရွားပူးကပ်ခြင်းရှိသည်ဟုယုံကြည်ကြသည်။ တရံရော အခါက၊ ကလေးများတက်၍ ပါးစပ်မှတွယ်အပ်များကို အန် ထုတ်သည်ဟုသတင်းဖြစ်ပွားခဲ့ရာ၊ လူအများသည် ထိုကလေး တို့ကိုစစ်ဆေးကြည့်ရှုခဲ့ကြ၏။ ထိုကလေးများသည် 'ဆက် တန်' ဟူ၍မိစ္ဆာနတ်၏အမည်ကို အလွယ်တကူအော်နိုင် သော်လည်း၊ ဘုရားသခင်၏အမည်ကိုကား မဆိုနိုင်သည်ကို တွေ့ရလေသည်။ ထို့ကြောင့်လူတို့က ဆက်တန်နတ်ပူးနေ သည်ဟုယူဆကြသည်။

အနောက်နိုင်ငံများ၌ စုန်းအတတ်သည် ခရစ်ယန်အယူဝါဒ မထွန်းကားမီ ရှေးဂရိနှင့် ရောမတို့လက်ထက်က ပေါ်ပေါက်လာပြီးလျှင်၊ ခရစ်ယန်အယူဝါဒ ထွန်းကားလာသောအခါ ပပျောက်သွားသည်။ စုန်းကဝေအတတ်မှာ အသိအလိမ်မာ အလွန်နည်းကြသေးသော ရှေးလူရိုင်းများခေတ်က စတင်ပေါ်ခဲ့ပေသည်။ ထိုစဉ်က လူများမှာ ဗဟုသုတနည်း၍ ဆင်ခြင် ဝေဖန်နိုင်သည့် အရည်အခြင်းများ မရှိဘဲ၊ ကြောက်ရွံ့ခြင်း၊ အယူသည်းခြင်းစသောစိတ်ဓာတ်များသာ လွှမ်းမိုးနေကြသည်။ သူတို့၏စိတ်၌ လင်ပုပ်ဖမ်းခြင်း၊ နေကြတ်ခြင်းစသည်တို့ကိုပင် မကောင်းဆိုးရွားတို့က လုပ်သည်ဟု ယုံကြည်နေကြသည်။ ဂါထာမန္တရားတို့ကို အလွန်ယုံကြည်ကြသည်။ ဆေးဝါးများ မရှိသေးသော ခေတ်ဖြစ်၍ တစုံတယောက် နေထိုင်မကောင်းလျှင် မန်းမှုတ်ခြင်းဖြင့် ကုစားကြ၏။ လူရိုင်းတို့၏စိတ်၌ ကမ္ဘာကြီးသည် နှစ်ခြမ်းကွဲလျက် တဖက်၌ လူကောင်းသူကောင်းများရှိ၍၊ အခြားတဖက်၌ မကောင်းဆိုးရွားများနေသည်ဟုထင်ကြ၏။ လူ တယောက် နာဖျားလျှင်ရင်း၊ ဒုက္ခရောက်လျှင်ရင်း၊ မကောင်းဆိုးရွားများက လုပ်သည်ဟုယူဆ၍၊ ထိုမကောင်းဆိုးရွားများထွက်အောင်ကြိုးစား၍ ဂါထာမန္တရားများကို ရွတ်ဖတ်လေ့ရှိကြ၏။

ယခုအခါ စုန်းအတတ်ကို မှန်သောအယူမဟုတ်ဟု ယူဆလာကြသည်။ မှန်သောအယူကို လေးလေးနက်နက်ယုံကြည်ကြသောသူများမှာ စုန်းအတတ်ကို လုံးဝမယုံကြည်ချေ။

စံ၊ ဆရာ (မြန်မာ ၁၂၃၈–၁၂၉၃)။ ။မြန်မာ နိုင်ငံကို ဗြိတိသျှတို့ အုပ်ချုပ်စဉ် ဗြိတိသျှ အစိုးရအား တော်လှန်ခဲ့သောပုဂ္ဂိုလ်တို့တွင် ဆရာစံ၏အမည်သည် များစွာထင်ရှားခဲ့လေသည်။ ဆရာစံသည် ရွှေဘိုခရိုင်၊ မြင်းဝန်ရွာတွင် သက္ကရာဇ် ၁၂၃၈ ခု၊ တန်ဆောင်မုန်းလဆန်း ၈ ရက် အင်္ဂါနေ့တွင် ဖွားမြင်သည်။ ငယ်မည်မှာ မောင်စံရှားဖြစ်သည်။ ဗြိတိသျှအစိုးရကိုတော်လှန်ခဲ့သော သာယာဝတီသူပုန်မှုနှင့် စပ်လျဉ်း၍ အမှုတွဲမှတ်တမ်းတို့တွင်ကား စံကျော်ဟူ၍ရင်း၊ ဆရာမြိုင်ဟူ၍ရင်း၊ ဦးညာဏဟူ၍ရင်း အမည်အမျိုးမျိုးတို့ကို ဆရာစံဟူသောအမည်နှင့် ပူးတွဲဖော်ပြလေသည်။

ဆရာစံသည် မိမိဇာတိရပ်ရွာနှင့် အိမ်ထောင်ကျပြီးနောက်၊ အောက်မြို့ကျေးရွာသို့ရွှေ့ပြောင်းခဲ့ပြီးလျှင်၊ မော်လမြိုင်ခရိုင်၊ ဘီလူးကျွန်းမြို့နယ်၊ ကမာမိုးရွာတွင် မြန်မာဆေးဆရာအဖြစ်ဖြင့် အသက်မွေးသည်။ ဆေးဆရာဘဝတွင် လက္ခဏာကျမ်းနှင့် လုပ်ရပ်နှင့်ဆိုင်သော ဝိဇ္ဇာသိပ္ပအင်္ဂုတ္တရကျမ်းတို့ကိုပြုစုသည်။ ထိုစဉ်က ဘီလူးကျွန်း ကညော်တလိုင်းဆရာတော်ထံတွင် ဗေဒင်သင်ကြားခဲ့သည်။ ဗေဒင်တတ်မြောက်သောအခါ၊ သကြန်စာကို ဆရာစံဟူသော အမည်ဖြင့် ပုံနှိပ်ထုတ်ဝေခဲ့ဘူးသည်ဟုသိရှိရ၏။ ထိုနောက် မြန်မာနိုင်ငံရေးတွင် ခရစ် ၁၉၂၀ ပြည့်နှစ်မှစ၍ ဂျီ၊ စီ၊ ဘီ၊ အေ ဟူသောနိုင်ငံရေး အဖွဲ့အစည်းသည် ပေါ်ပေါက်လာခဲ့လေသည်။ ထိုအခါမြန်မာဆေးဆရာကြီး ဆရာစံသည် မျိုးချစ်စိတ်ဓာတ်ခံရှိသည်ဖြစ်၍ဂျီ၊ စီ၊ ဘီ၊ အေ အသင်း၏ လုပ်ငန်းများကို စိတ်ပါလက်ပါဆောင်ရွက်ခဲ့လေရာ၊ မိမိနေထိုင်ရာ ကမာမိုးရွာ ဂျီ၊ စီ၊ ဘီ၊ အေ အသင်း၌ရင်း၊ ဘီလူးကျွန်းတိုက်နယ် ဂျီ၊ စီ၊ ဘီ၊ အေ အသင်း၌ရင်း၊ မော်လမြိုင်ခရိုင် ဂျီ၊ စီ၊ ဘီ၊ အေ အသင်း၌ရင်း၊ ဥက္ကဋ္ဌဖြစ်လာပြီးလျှင်၊ ၁၂၈၇ ခုနှစ် (ခရစ် ၁၉၂၅ ခုနှစ်) တွင် ဦးချစ်လှိုင် ဂျီ၊ စီ၊ ဘီ၊ အေ၊ ဦးစိုးသိမ်းဂျီ၊ စီ၊ ဘီ၊ အေ ဟူ၍ ဂျီ၊ စီ၊ ဘီ၊ အေ နှစ်ခြမ်းကွဲသည်တွင် ဆရာစံသည် ဦးစိုးသိမ်း ဂျီ၊ စီ၊ ဘီ၊ အေနှင့် ဆက်သွယ်ခဲ့လေသည်။ ထိုအခါ ဦးစိုးသိမ်း ဂျီ၊ စီ၊ ဘီ၊ အေ၌ ဆရာစံသည် အမှုဆောင်လူကြီးတဦးဖြစ်လာ၏။

ဂျီ၊ စီ၊ ဘီ၊ အေ အသင်းချုပ်ကြီး နှစ်ခြမ်းမကွဲမီ ၁၂၈၆



ဗြိတိသျှတို့အား တော်လှန်ခဲ့သူ ဆရာစံ

ခုနှစ် ပေါင်းတည်မြို့၌ကျင်းပသော ဂျီ၊ စီ၊ ဘီ၊ အေ နှစ်ပတ်လည်ညီလာခံတွင် လူခွန်တော်နှင့် သဿမေဓ အခွန်တော်ကိစ္စအတွက် အစိုးရစစ်တပ်များက အမွေနှိပ်စက်သည်တို့ကို စုံစမ်းရန်အလို့ငှာ ဂျီ၊ စီ၊ ဘီ၊ အေ အသင်းချုပ်ကြီးက စုံစမ်းရေးအဖွဲ့တခုကို ဖွဲ့စည်းခဲ့သည်။ ထိုအဖွဲ့၌ ဆရာစံသည် အဖွဲ့ဥက္ကဋ္ဌအဖြစ်ဖြင့် ရွေးချယ် တင်မြှောက်ခြင်းခံရသည်။ ထိုစဉ်က ဗြိတိသျှ လက်အောက်ခံ မြန်မာပြည်တွင်၊ စပါးဈေး ကျဆင်းလာသည်နှင့် တိုင်းသူပြည်သားတို့မှာ စီးပွားရေး ကျပ်တည်းမှုနှင့် ရင်ဆိုင်နေခဲ့ရသည်။ တိုင်းသူ ပြည်သားတို့ကလည်း လူခွန်တော်နှင့် သဿမေဓ အခွန်တော်များကို အစိုးရက ကောက်ခံခြင်းကို တရားမျှတသည်ဟု မယူဆနိုင်တော့ချေ။ ထို့ကြောင့် အခွန်တော်မပေးဆောင်ရေးမှာ ထိုခေတ်က နိုင်ငံရေးလမ်းစဉ်တခု ဖြစ်လာလေသည်။ ထို့မှတပါးလည်း မြန်မာပြည်ကို အိန္ဒိယနှင့် ခွဲထုတ်ရန်ပြဿနာသည်လည်း ပေါ်ပေါက်လာခဲ့လေသည်။ ထို့ကြောင့် ၁၉၂၉ ခုနှစ်တွင် တောင်ငူမြို့၌ကျင်းပသော နှစ်လည်အစည်းအဝေးတွင် ဂျီ၊ စီ၊ ဘီ၊ အေ အသင်းချုပ်ကြီးက 'တိုင်းသူပြည်သားတို့၏ဆန္ဒနှင့် ဆန့်ကျင်၍ မြန်မာပြည်ကို အိန္ဒိယပြည်မှ ခွဲထုတ်ခဲ့ပါလျှင်၊ အခွန် မပေးရေးနှင့် အာဏာဖီဆန်ရေးကို စတင်လုပ်ဆောင်မည်' ဟုဆုံးဖြတ်ချက်ချလေသည်။ ထိုအစည်းအဝေး၌ ဆရာစံသည် ယင်းအဆိုနှင့်ပတ်သက်၍ အဆိုအောင်မြင်စေရန် အထူးကြိုးပမ်းခဲ့သည့်အပြင်၊ နိုင်ငံဝန်ထမ်းအဖွဲ့များ ဖွဲ့ရန်ဟူသော အဆိုကို တင်သွင်းရန် တိုက်တွန်းခဲ့လေသည်။ ထိုအခါ ဆရာတော်အချို့တို့က နိုင်ငံဝန်ထမ်းအဖွဲ့များဖွဲ့စည်းရန်ဟူသော အဆိုသည် အစိုးရအား ပုန်ကန်ရန်အဆိုပင်ဖြစ်သည်ဟုယူဆကာ၊ ဆရာစံပါဝင်သော ဦးစိုးသိမ်း ဂျီ၊ စီ၊ ဘီ၊ အေကို မထောက်ခံတော့ဘဲ၊ ဦးစုဥက္ကဋ္ဌအဖြစ်ဖြင့် တင်မြှောက်လိုက်လေရာ၊ ဦးစိုးသိမ်း ဂျီ၊ စီ၊ ဘီ၊ အေ သည် နှစ်ခြမ်းကွဲရပြန်လေသည်။ ထိုနောက် ဆရာစံလည်း ဦးစိုးသိမ်း ဂျီ၊ စီ၊ ဘီ၊ အေမှ နုတ်ထွက်ပြီးလျှင်၊ လူခွန်တော် အတင်းအကြပ် ကောက်ခံသည်ကို အာဏာဖီဆန်ရန်အလို့ငှာ လျှို့ဝှက်သော အသင်းများကို တည်ထောင်ဖွဲ့စည်းလေသည်။ ယင်းအသင်းများသည် ဂဠုန်သင်းဟုတွင်လေသည်။

၁၉၃၀ ပြည့်နှစ် ဒီဇင်ဘာလ ၂၂ ရက်၊ ညအချိန်တွင် သာယာဝတီနယ် ရေတိုက်ရွာမှအစပြု၍ 'သုပဏ္ဏက ဂဠုန်ရာဇာ' ဟူသောဘွဲ့ကိုခံယူလိုက်သော ဆရာစံ၏ဂဠုန်တပ်သားများသည် ဓားကိုယ်စီစွဲကိုင်၍၊ ဗြိတိသျှအစိုးရကို အင်အားချင်းမမျှဘဲ၊ ပုန်ကန်ခြားနားလေသည်။ ထိုရေတိုက်ရွာနှင့် ပတ်ဝန်းကျင်ရှိရွာတို့သည်လည်း တပြိုင်နက်ပင်ထကြွပုန်ကန်ကြလေသည်။ ထိုကျေးရွာများမှ သူပုန်တို့သည် သာယာဝတီမြို့ထဲသို့ဝင်ရန် လူစုလေးစုခွဲ၍ချီတက်လာကြသည်။ ဒီဇင်ဘာလ ၂၃ ရက်နေ့၌ သာယာဝတီမြို့ မြောက်ဖက်ရှိ အင်းရွာဘူတာကို ဝင်စီး၍၊ ကြေးနန်းရုံကို ဖျက်ဆီးပစ်ကြသည်။ နောက်တနေ့၌ကား ဝဲရွာတွင် ခရိုင်သစ်တောဝန် မစ္စတာဖီး ကလတ်အား သတ်ဖြတ်၍၊ ဒီဇင်ဘာလ ၂၅ ရက်နေ့၌ ဖားရွှေကျော်ရွာတွင် လူပေါင်း ၅၀ ပါဝင်သော အစိုးရ၏ စစ်ပုလိပ်အဖွဲ့နှင့် ရင်ဆိုင်တိုက်ပွဲဝင်လေသည်။ ထိုရက်အတွင်း၌ ဂဠုန်တပ်သားတို့၏ဦးရေမှာ လူ ၂၀၀၀ မှ ၃၀၀၀ အထိ တိုးပွားလာပြီးလျှင်၊ လက်နက်မှာမူ သေနတ်ပေါင်း ၃၀ ကျော်မျှ စုဆောင်းရရှိလေသည်။ ထိုနောက် အစိုးရတပ်တို့သည် သာယာဝတီမြို့အရှေ့ဖက် ၁၂ မိုင်ကွာအရပ်၌ ဆရာစံ၏တပ်သားများ တပ်စွဲနေသည်ဟု သတင်းရသောကြောင့်၊ ထိုဒေသကို ဘားမားရိုင်ဖယ်တပ်နှင့်ချီ၍ ဖြိုခွင်းလေသော်၊ ဆရာစံသည်အရပ်တပါးသို့ဆုတ်ခွာရှောင်တိမ်းယင်း၊ အခြားဒေသတို့၌ တော်လှန်ပုန်ကန်မှုကြီးဖြစ်ပွားအောင် စီမံနှံခဲ့၍နေလေသည်။

ထိုနောက်၌ကား၊ ၁၉၃၁ ခုနှစ် ဇန္နဝါရီလ ၄ ရက်နေ့တွင် ရမည်းသင်းခရိုင် အတွင်း၌၎င်း၊ ဇန္နဝါရီလ ၇ ရက်နေ့တွင် ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၌၎င်း၊ ဖေဖွာ်ရီလ ၂၁ ရက်နေ့တွင် ဟင်္သာတခရိုင်၊ အင်္ဂပူနှင့် မြန်အောင်မြို့နယ်၌၎င်း၊ ကျေးရွာသားတို့သည် ထကြွတော်လှန်ကြလေသည်။ ဤသို့လျှင် တဖြည်းဖြည်းနှင့် သူပုန်ထရာနယ်သည် ကျယ်ဝန်းလာသောအခါ၊ အင်းစိန်ခရိုင်သို့ သူပုန်မီးမပွားစိမ့်သော်ငှါ၊ ဗြိတိသျှအစိုးရ အာဏာပိုင်တို့သည် သူပုန်ထကြွရာ စတုရန်းမိုင်ပေါင်း ၇၀၀၀ မျှသောဒေသအတွင်း နယ်ပေါင်း ၁၆ နယ်ခွဲ၍၊ အင်္ဂလိပ် လူမျိုးကိုယ်တိုင်အုပ်ချုပ်သော မြို့ပြဆိုင်ရာ ပုလိပ်အဖွဲ့နှင့် စစ်ဖက်ဆိုင်ရာပုလိပ်အဖွဲ့ နှစ်ဖွဲ့ကိုပူးပေါင်းစေပြီးလျှင်၊ သူပုန်နယ်မြေကို အတင်းအကြပ် လူအားလက်နက်အားဖြင့် ဖိ၍တိုက်လေသည်။ ၁၉၃၁ ခုနှစ်မတ်လ ၂၅ ရက်နေ့တွင် အင်းစိန်ခရိုင်၊ ခင်ပတီးကင်းဂတ်၌ သူပုန်တို့နှင့် အစိုးရတပ်များ ယှဉ်ပြိုင်တိုက်ခိုက်ရာ၊ ဂဠုန်တပ်စခန်း၏ နေရာအတိအကျကို သတင်းရသဖြင့် ထိုစခန်းကို အစိုးရတပ်တို့က ဖြိုလိုက်လေသည်။ သို့သော် နေရာ အနှံ့အပြားတို့၌ သူပုန်ထမြဲထနေလေသည်။ ထိုအတောအတွင်း ဆရာစံ၏သတင်းကို ကောင်းစွာမကြားရချေ။ သို့သော် အစိုးရအာဏာပိုင်တို့သည် ဆရာစံအား ရှမ်းပြည်တွင် လိုက်လံစုံစမ်း ရှာဖွေလျက်ရှိလေသည်။

၁၂၉၃ ခု၊ ဒုတိယဝါဆိုလဆုတ် ၄ ရက် (၁၉၃၁ ခုနှစ် ဩဂုတ်လ ၂ ရက်) နေ့ ညနေ ၃ နာရီအချိန်ခန့်တွင် နောင်ချိုနယ်၊ ဟိုခိုနှင့်ကုန်းကြီးရွာအကြား လျှို့ကြီး အတွင်းဝယ် ဗြိတိသျှအစိုးရ အာဏာပိုင်တို့က ဆရာစံကို ဖမ်းဆီးရမိလေသည်။ ဖမ်းဆီးကြစဉ်က ဆရာစံမှာ ဘုန်းကြီးဝတ်နှင့်ရှိ၍၊ ဘွဲ့အမည်မှာ ဦးညာဏဟု တွင်လေသည်။ ဆရာစံ၏အမှု

ကို ထိုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် သာယာဝတီသူပုန်မှု စစ်ဆေးရေးတရားသူကြီး ခုံရုံးအဖွဲ့က စစ်ဆေး၍၊ ဩဂုတ်လ ၂၈ ရက်နေ့တွင် သေစားသေစေရန် အမိန့်ချလေသည်။ ထို နောက် ၁၉၃၁ ခုနှစ် နိုဝင်ဘာလ ၂၉ ရက်နေ့တွင် ဆရာစံ သည် ကြိုးဒဏ်အပြစ်ပေးခြင်းခံရ၍ ကွယ်လွန်လေသည်။ ဆ ရာစံ၏သူပုန်မှုနှင့်စပ်လျဉ်း၍၊ ၁၉၃၁ ခုနှစ် အောက်တိုဘာ လ ၃၁ ရက်နေ့အထိ တိုက်ပွဲတွင်ထိခိုက်ဒဏ်ရာရသူနှင့် ကျ ဆုံးသူ တော်လှန်ရေးသမားတို့မှာ ၃၀၀၀ မျှရှိသည်ဟု အစိုး ရ၏အစီရင်ခံစာများအရ သိရှိရလေသည်။ ဤသို့လျှင် ဗြိ တိသျှလက်အောက်မှ လွတ်ကင်းရန်ကြိုးပမ်းသောဆရာစံမှာ လက်နက်အင်အား လူအင်အား မမျှသည့်ပြင်၊ အခါကာလ အားဖြင့်လည်း မဆီလျော်လေသောကြောင့် သူပုန်အဖြစ် ဖြင့် စီရင်ခြင်းကို ခံခဲ့ရသည်။ သို့ရာတွင် နှောင်းလူတို့ကား၊ ဆရာစံအား ဗြိတိသျှတော်လှန်ရေး အာဇာနည်ပုဂ္ဂိုလ် အဖြစ် အသိအမှတ် ပြုကြလေသည်။ (ဂျီ၊ စီ၊ ဘီ၊ အေ — ရှု။)၊ (စိုးသိမ်း၊ ဦး — လည်းရှု။)

**စံကားပန်းပင်။** ။စံကားပန်းပင်သည် ‘မက်ဂနိုလီအေး စီအီး’ မျိုးရင်းတွင် ပါသည်။ ရုက္ခဗေဒအမည်မှာ ‘မိုက်ကယ် လီယာ ချမ်ပါကာ’ ဖြစ်သည်။ စံကားကို စံကားဝါဟူ၍လည်း ခေါ်သည်။



စံကားစိမ်းပန်း



စံကားဝါပန်း

စံကားပင်သည် အမြဲစိမ်းလန်းသောအပင်မျိုးဖြစ်သည်။ အမြင့်ပေ ၈၀ ရှိ၍ အရွက်နှင့်အကိုင်း အုပ်ဆိုင်းဆိုင်းရှိသည်။ အရွက်မှာ သရက်ရွက် ပုံသဏ္ဌာန်ရှိ၍ အလျား ၉ လက်မ ရှိသည်။

အပွင့်မှာ အဝါရောင် သို့မဟုတ် လိမ်မော်ရောင်ရှိ၍ အလျား ၂ လက်မရှိသည်။ အလွန်မွှေးကြိုင်သည်။ အသီးသည် လုံး၍ အထဲ၌ အညိုစေ့ကလေးများကို မြင်နေရသည်။ စံကားပင်သည် ကြီးခဲသောအပင်မျိုး ဖြစ်သည်။ မြေဆီလွှာ နက်နက်နှင့် စွတ်စိုသော ရာသီ ဥတုကို နှစ်သက်သည်။ ပေ ၅၀၀၀ ထိမြင့်သော တောင်ကုန်းများတွင် ဖြစ်ထွန်းသည်။ မျိုးစေ့များကို စိုက်ပျိုးသောအခါ မိုးဦးကျအချိန်တွင် စိုက်ခင်းများတွင် ကြဲဖြန့်၍စိုက်ပျိုးရသည်။ ပျိုးပင်များကို ၂ နှစ်တိုင်တိုင် ပြုစုထားရသည်။ စိုက်ပျိုးပြီးနောက်ပဌမနွေရာသီတွင် ရေလောင်းပေးရန်လိုသည်။

စံကားသားသည် အိမ်ထောင်ပရိဘောဂများ ပြုလုပ်ရန် အတွက် ကောင်းသည်။ အခေါက်သည် ဆေးဖက်ဝင်သည်။ အပွင့်မှရသောအဆီကို ရေမွှေးလုပ်ရသည်။

စံကားပင်များသည် ဟိမဝန္တာ အရှေ့တောင်တန်းများ၊ အာသံပြည်နယ်နှင့် မြန်မာနိုင်ငံတို့တွင် အရိုင်းပေါက်ကြသည်။ အိန္ဒိယနိုင်ငံ၌ ထိုအပင်ကို စိုက်ပျိုးယူကြသည်။

စံကားဖြူသည် စံကားနှင့်မျိုးရင်းတူ ဖြစ်သည်။ ယင်း၏

ရက္ခဗေဒအမည်မှာ 'မိုက်ကယ်လီယာ အိုပ်ဆယ်လဆာ' ဖြစ်သည်။

စံကားစိမ်းသည် စံကားနှင့် မျိုးရင်းမတူချေ။ ယင်း၏ ရက္ခဗေဒအမည်မှာ 'ကန်နန်ဂျီယမ် အိုဒိုရာတမ်' ဖြစ်သည်။ စံကားစိမ်းပန်းကအဆီကို ရေမွှေးလုပ်ရသည်။

တရုပ်စံကားပင်သည် စံကားဝါ၊ စံကားဖြူ၊ စံကားစိမ်း မျိုးရင်းတို့အထဲမှ မဟုတ်ချေ။ ယင်း၏ရက္ခဗေဒအမည်မှာ 'ပလူမီအာရာ အကျူမိနေတာ' ဖြစ်သည်။ ထိုအပင်သည် တောင်အမေရိကတိုက်တွင် မူလပေါက်သည်ဟု ဆိုသည်။ အကိုင်းမှဖြာထွက်သောအခက်တို့၌ လိမ်မော်ရောင်အပွင့်များ ပွင့်သည်။ အပွင့်သည် မွှေးကြိုင်သည်။ အခက်များတွင် အများအားဖြင့် အရွက်မရှိချေ။

**စံကျောင်းဆရာတော်** (မြန်မာ ၁၂၃၅–၁၃၀၉)။ ။ ညောင်တုန်းမြို့၊ ရွှေဟင်္သာတောရကျောင်း ဆရာတော်ဘုရားသည် မြန်မာ သက္ကရာဇ် ၁၂၃၅ ခုနှစ် တပေါင်းလဆန်း ၁၀ ရက်၊ ဗုဒ္ဓဟူးနေ့ နံနက် ၄ နာရီအချိန်တွင် ပဲခူးမြို့၊ ကျောက်တန်းရွာ၌ ဖွားမြင်တော်မူသည်။ ခမည်းတော် လှေသူကြီးဦးအောင်လှ၊ မယ်တော် ဒေါ်အောင် တို့၏ သားသမီး ရှစ်ယောက်အနက် သတ္တမသားရတနာဖြစ်သည်။ ငယ်မည်မှာ မောင်ဥာဏ်ဖြစ်လေသည်။



ရွှေဟင်္သာတောရ စံကျောင်းဆရာတော်

အသက် ၇ နှစ်အရွယ်၌ ကျောက်တန်းရွာဘုန်းတော်ကြီး ကျောင်းတွင် သင်ပုန်းကြီး၊ မင်္ဂလသုတ်၊ နမက္ကာရ၊ ပရိတ်ကြီးစသည်တို့ကို သင်ယူခဲ့ပြီး နောက် အသက် ၁၄ နှစ်အရွယ်တွင် မိဖများက ရန်ကုန်မြို့ပုဇွန်တောင်ရှိ အစိုးရအင်္ဂလိပ်ကျောင်း၌ အပ်နှံကာပညာသင်ကြားစေလေသည်။

အသက် ၁၇ နှစ်သို့ရောက်သောအခါ၊ ရှင်ရဟန်းပြုလိုသော နေက္ခမ္မဆန္ဒာသယဓာတ် ပေါ်ပေါက်လာသဖြင့် ကျောက်တန်းရွာ၊ ရွာလယ်ကျောင်း၌ မိဖများ၏ခွင့်ပြုချက်အရ ရှင်သာမဏေပြုခဲ့လေသည်။ ဘွဲ့အမည်မှာ ရှင်ဝါယာမဖြစ်လေသည်။

သာမဏေ ရှင်ဝါယာမသည် ရန်ကုန်မြို့ ကျောင်းတော်ရာ ရွှေကျင်ဆရာတော်ဘုရားကြီး၏ သီလ သမာဓိ ပညာ ဂုဏ်သတင်းများကို ကြားရသဖြင့်၊ ဆရာတော်ဘုရားကြီးထံ ချဉ်းကပ်၍ပညာသင်ယူလိုစိတ်ပေါ်ပေါက်လာသောကြောင့်၊ ဆရာဘုန်းတော်ကြီးအားခွင့်တောင်းပြီးလျှင်၊ ကျောင်းတော်ရာ ဆရာတော်ဘုရားကြီးထံ ပညာရင်နို့သောက်စို့ရန် ချဉ်းကပ်ခဲ့လေသည်။

ဆရာတော်ဘုရားကြီး၏ ညွှန်ကြားချက်အရ ကျောင်းတော်ရာ ရွှေကျင်တိုက်၊ ပဌမ ယွန်းကျောင်း ဆရာတော် အရှင်ဇောတထံတွင် စာပေသင်ကြားတော်မူခဲ့လေသည်။

သာမဏေ ရှင်ဝါယာမသည် ၁၂၅၅ ခုနှစ်၊ ပဌမဝါဆိုလဆန်း ၁၃ ရက်၊ အင်္ဂါနေ့ညနေ ၃ နာရီအချိန်တွင် ရန်ကုန်မြို့ ကျောင်းတော်ရာ၊ ရွှေကျင်တိုက်၊ ခဏ္ဍသိမ်၌ ကျောင်းတော်ရာဆရာတော်ဘုရားကြီးကို ဥပဇ္ဈာယ်ပြု၍၊ ရဟန်းအဖြစ် သို့ရောက်ခဲ့လေသည်။

ရဟန်းတော် ဦးဝါယာမသည် မူလပင်ကိုယ်ကပင် ဇာဝနပဋိဘာန် ထက်မြက်သော ဉာဏ်ပညာ ရှိခြင်း၊ လုံ့လ ဝီရိယကောင်းခြင်းစသော ကောင်းသောဂုဏ်အင်္ဂါများနှင့်ပြည့်စုံလာသည့်အထဲတွင် ကျောင်းတော်ရာ ဆရာတော်ဘုရားကြီးကဲ့သို့သော ဆရာသမားကောင်းကို မှီဝဲဆည်းကပ်ရပြန်သဖြင့်၊ ရဟန်းလေးဝါ အရတွင်ပင် ဂဏဝါစက စာချအဖြစ်ဖြင့်ဆရာတော်ဘုရားကြီး၏ ခြီးမြှောက်ခြင်းကိုခံခဲ့ရ၏။

ကျောင်းတော်ရာဆရာတော်ဘုရားကြီးသည် ၁၂၆၂ ခုနှစ်၊ တပေါင်းလဆန်း ၁၂ ရက်နေ့တွင် ညောင်တုန်းမြို့သို့ ကြွရောက်၍၊ ရွှေဟင်္သာတောရကျောင်းတိုက်ကို တည်ထောင်သောအခါ၊ ငယ်တပည့်ရင်းဖြစ်သော ပရိယတ်ဖက်၌ ကျွမ်းကျင်သူ ဦးဝါယာမကို တပါတည်းခေါ်ယူခဲ့ပြီးလျှင်။ တိုက်အုပ် အဖြစ်ဖြင့် ခြီးမြှောက်ကာ၊ သံဃာတော်များကို အုပ်ချုပ်စေ၍ စာပေပို့ချစေခဲ့၏။

တိုက်အုပ်ဆရာတော် ဦးဝါယာမသည် မြန်မာစာပေ၊ ပါဠိစာပေများ၌သာ ကျွမ်းကျင်တော်မူသည်မဟုတ်၊ သက္ကဋစာပေ၊ ဟင်ဒီစာပေစသော ဘာသန္တရစာပေတို့၌လည်း တတ်မြောက်ကျွမ်းကျင်တော်မူသည်။

တိုက်အုပ်ဆရာတော် ဦးဝါယာမသည် နှစ်ပေါင်းများစွာ တိုက်အုပ်အဖြစ်ဖြင့် သံဃာများကိုအုပ်ချုပ်၍ စာပေပို့ချလာခဲ့ရာ၊ ရဟန်းသိက္ခာ ၁၈ ဝါအရတွင် ကျောင်းတော်ရာ ဆရာတော်ဘုရားကြီးထံမှ စံကျောင်းဆရာတော်ဟူသော ဘွဲ့အမည်ဖြင့် ခြီးမြှောက်ခြင်းကို ခံရပြီး၊ ရွှေဟင်္သာတောရကျောင်းတိုက်ကြီးကိုလည်း လွှဲအပ်ခြင်းကို ခံယူတော်မူရလေသည်။

စံကျောင်းဆရာတော်သည် ၁၂၅ ခုနှစ်တွင် ရွှေကျင်နိကာယ ဥပဒေပြု ဂဏပါလက အဖြစ်၊ ၁၂၈၄ ခုနှစ်တွင် ရွှေကျင်နိကာယ မဟာနာယက အဖြစ်၊ ၁၂၈၇ ခုနှစ်တွင် နယ်လှည့်သာသနာပြု အဖြစ်ဖြင့် ခြီးမြှောက်ခြင်းကို ခံရလျက်၊ ၁၂၉၉ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်ကို ခံယူရရှိပြီးနောက်၊ ၁၃၀၀ ခုနှစ်တွင် ရွှေကျင်နိကာယ တွဲဖက်ဥက္ကဋ္ဌ မဟာနာယကအဖြစ်ဖြင့် ခြီးမြှောက်ခြင်းကိုခံယူရလေသည်။

ဆရာတော်သည် သံဃာတော်များကို စာပေပို့ချခြင်းဖြင့် သာသနာ့တာဝန်ကိုမအားလပ်အောင်ထမ်းဆောင်နေယင်း လူများအတွက် ကျေးဇူးများလှသော ကံဥာဏ်ဝိရိယ အဖွင့်ကျမ်း၊ မင်္ဂလာ အဖွင့်ကျမ်း၊ သမ္ဗုဒ္ဓါ အဖွင့်ကျမ်း၊ မေတ္တာ အဖွင့်ကျမ်း၊ အပရိဟာနိယ အဖွင့်ကျမ်း၊ လောကနီတိ အဖွင့်ကျမ်းစသော ကျမ်းစာတို့ကို ရေးသားပြုစုတော်မူခဲ့လေသည်။ ထိုကျမ်းတို့သည် မြန်မာနိုင်ငံလူထုအား များစွာ ကျေးဇူးပြုသောကျမ်းများဖြစ်၍ လူကြိုက်များလှပေသည်။

ပဋိပတ်နှင့်စပ်၍လည်း ကျမ်းဂန်မတတ်သောရဟန်းရှင်လူတို့ကျင့်စဉ်လမ်းများ တိမ်းပါးချွတ်ချော်မှု မရှိစေရန်ရည်သန်၍ ကမ္မဋ္ဌာနဝိနိစ္ဆယ၊ စေတိယဝိနိစ္ဆယ၊ ပရိဝါသမာနတ္တာဒိ ဝိနိစ္ဆယစသော အဆုံးအဖြတ်ကျမ်းတို့ကိုလည်း ပြုစုတော်မူခဲ့သေးသည်။

ထိုမျှသာမက ဆရာတော်သည် အလင်္ကာနိဿယသစ်နှင့် မာဂဓ မြန်မာ အဘိဓာန်ကျမ်းကြီး ကိုလည်း ရေးသားပြုစုတော်မူခဲ့လေသည်။ အဘိဓာန်ကျမ်းကြီးမှာ စာအုပ်အဖြစ်သို့ ယနေ့အထိမရောက်သေးသော်လည်း၊ အလင်္ကာနိဿယကျမ်း ကိုကား အကြိမ်ကြိမ်ပင် ပုံနှိပ် ထုတ်ဝေပြီး ဖြစ်လေသည်။ ထိုအလင်္ကာနိဿယကျမ်းကြီးမှာ အထက်တန်းစားစာသင်သားများ၊ စာချဘုန်းကြီးများနှင့် စာရေးဆရာများ လက်မလွှတ်နိုင်သောကျမ်းကြီးဖြစ်လေသည်။ မာဂဓသက္ကဋ ကျမ်းဂန် အရပ်ရပ်ကို အထပ်ထပ် မွှေနှောက်၍ စုံလင်စွာ ရေးသားထားသဖြင့် အလင်္ကာနှင့်ပတ်သက်၍ လွန်စွာကျေးဇူးများသောကျမ်းကောင်းကျမ်းမြတ် ဖြစ်ပေသည်။

ဤသို့လျှင် လောကအကျိုး သာသနာအကျိုးတို့ကို သည်ပိုးဆောင်ရွက်တော်မူခဲ့သော စံကျောင်းဆရာတော်ဘုရားသည် ၁၃၀၉ ခုနှစ်၊ ဝါခေါင်လပြည့်ကျော် ၁ ရက်၊ စနေနေ့ နံနက် ၄ နာရီ၊ မိနစ် ၂၀ အချိန်တွင် ဇီဝိတိန္ဒြေချုပ်ငြိမ်း၍၊ ယခုဘဝခန္ဓာဇာတ်ကို ရုပ်သိမ်းတော်မူလေသတည်း။

ဆရာဥာဏ်

စံစီပိုး၊ဆာ (ခရစ် ၁၈၇၀-၁၉၄၆)။ ။ဆာစံစီပိုးသည် ကရင်အမျိုးသားတို့၏ခေါင်းဆောင်ကြီး ဖြစ်သည်။ ခရစ် ၁၈၇၀ ပြည့်နှစ် အောက်တိုဘာလ ၄ ရက်နေ့တွင် ပုသိမ်မြို့မြောက်ဖက် ၅ မိုင်ခန့်ဝေးသော ကိုးဆူရွာ၌ အဖ တိုက်သူကြီးဦးအောင်ညို၊ အမိ နော်ပဂေးဝတို့မှဖွားမြင်သည်။ ငယ်နာမည်မှာ စံပိုးဖြစ်၏။

စံပိုးသည် ငယ်စဉ်က ပုသိမ်မြို့၊ စကောကရင်ကျောင်းတွင်ပညာသင်ကြားခဲ့၏။ ဤသို့ပညာသင်ကြားစဉ်၊ ၅ မိုင်ခရီးကို နေ့စဉ်ခြေလျင်လျှောက်၍ကျောင်းတက်ခဲ့ရသည်။ ကျောင်းနေစဉ်၊ ကျောင်းအုပ်ကြီးဖြစ်သူ ခရစ်ယန်သာသနာပြုဆရာ အမေရိကန်အမျိုးသား ဒေါက်တာ ချားနိကောသည် စံပိုးအား အထူးသဘောကျပြီးလျှင်၊ ကူညီစောင့်ရှောက်သော ဆန္ဒဖြင့် အမေရိကန်ပြည်ထောင်စုသို့ ခေါ်ဆောင်သွားလေသည်။ ထိုအခါ စံပိုးသည် အသက် ၁၄ နှစ်အရွယ်မျှသာ ရှိသေးသည်။

အမေရိကန်ပြည်ထောင်စုသို့ ရောက်သောအခါ၊ ဒေါက်တာ နိကောသည် မိမိ၏အဒေါ် တော်စပ်သူညီအစ်မနှစ်ဦးတို့ထံတွင် စံပိုးကို အပ်နှံထားလေသည်။ စံပိုးသည် ထိုညီအစ်မတို့ပိုင်ဆိုင်သော ယာခင်းတွင် နေထိုင်ရသည်။ ထိုသို့နေထိုင်ယင်း၊ အထက်တန်းကျောင်းတကျောင်းတွင် ပညာသင်ကြားခွင့် ရရှိလေသည်။ စံပိုးသည် ယာရှင်အပျိုကြီးညီအစ်မများနှင့်အတူနေထိုင်ရသည့်အလျောက်၊ ယင်းတို့အား နွားနို့ညှစ်ပေးခြင်း၊ နွားနို့ဝယ်သူများထံ မြင်းလှည်းဖြင့်နွားနို့ပို့ပေးခြင်းဟူသောအမှုတို့ဖြင့် အကူအညီပေးခဲ့သည်။

ထိုနောက် စံပိုးသည် ကောလဂိတ်မြို့ရှိဆေးကောလိပ်တွင် ဆေးပညာကို စတင်သင်ယူသည်။ ထို့မှတဖန် နယူးယော့တက္ကသိုလ်တွင်အပါအဝင်ဖြစ်သော အယ်လဗာနီ ဆေးတက္ကသိုလ်ကျောင်း၌ ဆရာဝန်အတတ်ကို ဆက်လက်သင်ကြား၍၊ ထိုကျောင်းမှပင် ဆေးပညာပါရဂူဘွဲ့ကို ရရှိခဲ့လေသည်။ ဤကဲ့သို့ ပညာသင်ကြားနေစဉ်၊ စံပိုးသည် မစ္စစ် ကရွမ်ဗီခေါ် အမေရိကန်အမျိုးသမီးတဦးနှင့် ခင်မင်ရင်းနှီးခဲ့ရာ၊ ထိုအမျိုးသမီးသည် မိခင်ရင်းကဲ့သို့ စံပိုးကို စောင့်ရှောက်ပြုစုခဲ့သည်။ ဤကျေးဇူးတရားကို ထောက်ထား၍၊ စံပိုးသည် မစ္စစ်ကရွမ်ဗီ၏ ဆန္ဒကိုလိုက်လျော၍၊ သူ၏အမည်ကို စံ ကရွမ်ဗီ ပိုးဟု ပြောင်းလိုက်သည်။ နောင်သောအခါ စံပိုးသည် အမည်



ဆာ စံစီပိုး

အတိုကောက်အားဖြင့် စံစီပိုးဟု တွင်လေသည်။ ထိုအခါတွင် စံပိုးသည် အမေရိကန်နိုင်ငံသားအဖြစ်ကို ခံယူခဲ့သည်။

၁၈၉၄ ခုနှစ်တွင် ဒေါက်တာစံစီပိုးသည် မြန်မာပြည်သို့ ပြန်လာခဲ့သည်။ ၁၈၉၅ ခုနှစ်၌ ကရင်အမျိုးသား ဦးလူနီ၏သမီး ဒေါ်မီလူနီနှင့်လည်း လက်ထပ် ထိမ်းမြားခဲ့သည်။ ဒေါက်တာစံစီပိုးနှင့်ဇနီးတို့၌ သားသမီးခုနစ်ယောက် ထွန်းကားခဲ့ရာ၊ထိုသားသမီးခုနစ်ယောက်စလုံးမှာ ဆွေမျိုးညာတိမိတ်သင်္ဂဟအပေါင်းတို့ အလယ်တွင် ထင်ရှားသော ပုဂ္ဂိုလ်များဖြစ်ကြသည်။ သားကြီးဩရသမှာ ဒေါက်တာ ကလဲရင့်ကရှမ်ဗီပိုး ဖြစ်သည်။ ၁၉၅၃ ခုနှစ်တွင် ပြည်ထောင်စုမြန်မာနိုင်ငံ ပြည်သူ့ကျန်းမာရေးဌာန လက်ထောက်ညွှန်ကြားရေးဝန် အဖြစ်ဖြင့် တာဝန်ဝတ်တရားကို ထမ်းရွက်နေခိုက်၊ကုလသမဂ္ဂ၏ ကမ္ဘာ့ကျန်းမာရေးအဖွဲ့ ကွန်ဖရင့်သို့ တက်ရောက်ရာဝယ်၊ လမ်းခရီးတွင် လေယာဉ်ပျံပျက်ကျ၍ အနိစ္စရောက်ရရှာသည်။ ဒုတိယသားမှာ ပဌမကမ္ဘာစစ်နှင့် ဒုတိယကမ္ဘာစစ် နှစ်ရပ်စလုံးတွင် ဗြိတိသျှစစ်တပ်နှင့် မြန်မာစစ်တပ်တို့၌ အမှုထမ်းခဲ့၍၊ ဒုတိယဗိုလ်မှူးကြီးရာထူးနှင့် အငြိမ်းစားယူခဲ့သော လိုင်ယွန်နယ် ဗန်ဒါဗီယာပိုးဖြစ်သည်။ တတိယမှာ သူနာပြုဆရာမကြီး ဝင်နီ ကရှန်ကိုက်ပိုးဖြစ်သည်။ ဝင်နီသည် ဖခင်ကြီး နာမကျန်းရှိစဉ်က အနားတွင်တဖဝါးမှ မခွာဘဲ ပြုစုခဲ့ရသောသမီးဖြစ်သည်။ စတုတ္ထမှာ သားဖြစ်သူ ဗစ်တာ စံစီပိုးဖြစ်သည်။ ၁၉၅၂-၅၅ ခုနှစ်အတွင်းတွင် ပုသိမ်တောင်ပိုင်း (ကရင်) မဲဆန္ဒနယ်မှ ရွေးကောက်တင်မြှောက်ခြင်းခံရသော လွှတ်တော်အမတ် ဖြစ်လေသည်။ ပဉ္စမမှာ ၁၉၅၃-၅၄ ခုနှစ်တွင် ကရင်ပြည်နယ်ဌာနဝန်ကြီး အဖြစ် ဆောင်ရွက်ခဲ့သော မစ္စစ် ဘမောင်ချိန် (ငယ်နာမည် ကလယ်ရီဗယ် အိုင်ရင်းပိုး) ခေါ် အမျိုးသမီးဖြစ်သည်။ ဆဋ္ဌမသားမှာ ရဲအဖွဲ့ဝင်ဟောင်း စတန်လေ ဗန်ဟူဆင်ပိုး ဖြစ်သည်။ သတ္တမသား အထွေးဆုံးမှာမူ၊ ဒုတိယဗိုလ်မှူးကြီး အို၊ ဒဗျူ၊ ပိုးဖြစ်သည်။ ၁၉၄၂ ခုနှစ်တွင် ဗြိတိသျှတပ်တို့ဆုတ်ခွာစဉ် ဂျပန်နှင့်တိုက်ပွဲဖြစ်ရာ၊ ထိုတိုက်ပွဲ၌ အို၊ ဒဗျူ၊ ပိုးသည် မျက်စိတွင် ဒဏ်ရာရ၍ မျက်လုံးတဖက် ကွယ်ခဲ့ရသည်။ တိုက်ပွဲများ၌ စွမ်းရည်သတ္တိရှိမှုကြောင့် တိုက်ပွဲအစီရင်ခံစာတို့တွင် သူ၏နာမည်ကို ဖော်ပြခြင်းခံရသည်။

ဦးစွာ၌ ဒေါက်တာစံစီပိုးသည် အစိုးရအမှုထမ်းအဖြစ်ဖြင့် ဆရာဝန်အလုပ်ကို လုပ်ကိုင်ခဲ့သည်။ ပုသိမ်မြို့၌ ငါးနှစ်မျှ၊ ကျောက်ဆည်မြို့၌ တနှစ်မျှ၊ မြောင်းမြမြို့၌ လေးလမျှ၊ ခရိုင်ဆရာဝန်အဖြစ်ဖြင့် အစိုးရအမှုကိုထမ်းရွက်၍၊ ၁၉၀၂ ခုနှစ်တွင် အစိုးရအလုပ်မှ နုတ်ထွက်လိုက်လေသည်။ ထိုနောက် ပုသိမ်မြို့တွင် ကိုယ်ပိုင်ဆေးတိုက် ဖွင့်လှစ်၍၊ ဆေးကုသယင်း ပုသိမ်မြို့မျူနီစီပယ်အဖွဲ့ဝင်လူကြီး အဖြစ်ဖြင့် ရှစ်နှစ်ခန့်မျှ ပြည်သူ့တာဝန်ကို ထမ်းဆောင်ခဲ့လေသည်။ ဤသို့ ထမ်းဆောင်ခဲ့ရာမှ တဆင့်၊ မြန်မာပြည်၏ အရေးတို့တွင် ကရင်အမျိုးသားတို့ဖက်မှ ရှေ့ဆောင်ဦးစီးပြု၍ ဆောင်ရွက်ရန် ကရင်အမျိုးသားတို့က တောင်းပန်လာသောကြောင့်၊ ဒေါက်တာ စံစီပိုးသည် မြန်မာနိုင်ငံရေး၌ ပါဝင်ဆောင်ရွက်နိုင်ရန်အလို့ငှာ၊ အမေရိကန်နိုင်ငံသားအဖြစ်ကို စွန့်လွှတ်၍၊ ဗြိတိသျှလက်အောက်ခံနိုင်ငံသား အဖြစ်ကို ခံယူခဲ့လေသည်။ ထိုနောက် ၁၉၁၇ ခုနှစ်မှသည် ၁၉၂၃ ခုနှစ်အထိ မြန်မာပြည် ဥပဒေပြု ကောင်စီ၌ မင်းတိုင်ပင်အမတ် အဖြစ်ဖြင့် ဆောင်ရွက်ခဲ့လေသည်။

၁၉၂၁ ခုနှစ်တွင် ဗြိတိသျှအစိုးရသည် မြန်မာပြည် အုပ်ချုပ်ရေး ပြုပြင်ပြောင်းလဲပေးရန်အတွက် 'ဝှိုက်ကော်မီတီ' ခေါ်သော စုံစမ်းရေးကော်မရှင်တရပ်ကို ဖွဲ့စည်းခဲ့ရာ၊ ထိုကော်မရှင်တွင် ဒေါက်တာစံစီပိုးသည် အဖွဲ့ဝင်တဦး ဖြစ်လာလေသည်။ ၁၉၂၃ ခုနှစ်တွင် အုပ်ချုပ်ရေးပြောင်းလဲလာသည့်နောက်၊ ဒေါက်တာစံစီပိုးသည် ရာဇဝတီတိုင်းအတွက် ဥပဒေပြုလွှတ်တော်အမတ် အဖြစ်ဖြင့် အစိုးရက အမည်တင်သွင်းရွေးကောက်ခြင်းကို ခံရလေသည်။

ဒေါက်တာစံစီပိုး သည် ပဌမ ကမ္ဘာစစ်ကြီးအတွင်း၌ လူမှုဝန်ထမ်းလုပ်ငန်းနှင့် စစ်သားစုဆောင်းရေးလုပ်ငန်းတို့တွင် ပါဝင်ဆောင်ရွက်ခဲ့သဖြင့်၊ မြန်မာပြည်ရှိ ဗြိတိသျှအစိုးရ၏ဂုဏ်ပြုခြင်းကို ခံခဲ့ရ၏။ ၁၉၂၄ ခုနှစ်၌ ဗြိတိသျှအစိုး

ရသည် ဒေါက်တာစံစိုးပိုးအား စီ၊ ဘီ၊ အီးဘွဲ့ဖြင့် ချီးမြှင့်ခဲ့လေသည်။

၁၉၂၅ ခုနှစ်၌ ဒေါက်တာ စံစိုးပိုးသည် ဒေါကလုခေါ် ကရင်အမျိုးသားအသင်း၏ဥက္ကဋ္ဌ ဖြစ်လာလေသည်။ ထို နောက် ကရင်အမျိုးသားတို့၏အရေးများတွင် အစဉ်တစိုက် ဦးစီးခေါင်းဆောင်ပြု၍ လွှတ်တော်တွင်ဆောင်ရွက်လာခဲ့ရာ၊ ကရင်အမျိုးသားခေါင်းဆောင်ကြီးဟူ၍ အသိအမှတ်ပြုလာကြသည်။ ၁၉၂၈ ခုနှစ်ခန့်တွင် ဒေါက်တာစံစိုးပိုးသည် 'မြန်မာပြည်နှင့်ကရင်များ' ဟူသောစာအုပ်တအုပ်ကို အင်္ဂလိပ်ဘာသာဖြင့် ရေးသားထုတ်ဝေခဲ့သည်။ ထိုစာအုပ်တွင် ဒေါက်တာစံစိုးပိုးသည် ကရင်အမျိုးသားတို့၏ရှေးဟောင်းရာဇဝင်၊ စိတ်နေသဘောထား၊ အယူဝါဒ၊ အတွေးအခေါ် တို့ကိုပြဆိုပြီးနောက်၊ ကရင် အမျိုးသားတို့၏ နိုင်ငံရေးလိုအင်ဆန္ဒတို့ကို ရေးသားထားခဲ့လေသည်။ ဤကဲ့သို့ ခေါင်းဆောင် အနေဖြင့် ထင်ရှားကျော်ကြားလာသည့်အတွင်း၊ ၁၉၃၄ ခုနှစ်တွင် ဗြိတိသျှအစိုးရတို့ကတဖန် ဒေါက်တာစံစိုးပိုးအား ဆာဘွဲ့ဖြင့် သူကောင်းပြုလေသည်။ ၁၉၃၇ ခုနှစ်၌ မြန်မာပြည်ကို အိန္ဒိယပြည်မှခွဲလိုက်ပြီးသည့်နောက်၊ မြန်မာပြည်ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေအရ အထက်နှင့်အောက် လွှတ်တော်နှစ်ရပ် ဖွဲ့စည်းလာရသည်တွင်၊ ဆာစံစိုးပိုးသည် အထက်လွှတ်တော်အမတ် ဖြစ်လာလေသည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်းတွင် ဆာ စံစိုးပိုးသည် ဒေါကလုအသင်းကြီးအစား ကရင်အမျိုးသား ဗဟိုအဖွဲ့ကို တည်ထောင်စေ၍၊ မိမိကိုယ်တိုင် အကြံပေးနာယကအဖြစ်ဖြင့် ဆောင်ရွက်ခဲ့သည်။ စစ်ကြီးပြီးသောအခါ၊ ဆာစံစိုးပိုးသည် ကောင်းစွာမကျန်းမမာဖြစ်လာ၍၊ ၁၉၄၆ ခုနှစ်ဇွန်လ ၇ ရက်နေ့တွင် ပုသိမ်မြို့၌ကွယ်လွန်လေသည်။

**စံတုတ်၊ ဦး** (အိမ်နောင်)။ ။မင်းတုန်းဘုရင်နှင့် သီပေါဘုရင်တို့လက်ထက်က၊ ရာမ အိမ်နောင်စသည့် အတွင်းတော်၌ ကပြရသော ဇာတ်တော်ကြီးတို့တွင် အိမ်နောင်မင်းသား အခန်းမှပါဝင်ကပြရသော ဇာတ်မင်းသား ဦးစံတုတ်သည် အိမ်နောင်ဦးစံတုတ်ဟူ၍ ကျော်စောသည်။ ရုပ်သဏ္ဌာန်မှာ သီပေါဘုရင်နှင့်တူသည်ဟုဆိုကြသည်။ ဦးစံတုတ်သည် ယိုးဒယားဇာတ်ကြီး အတီး၊ အက၊ အဆိုတို့ကို သူတထူးထက် ဝိဇ္ဇာစိုရ်နေသူဖြစ်၍၊ သဘင်မျိုးရိုးအတိုင်း အချိုးအစားကျကျကြီးပွားလာသူဖြစ်သည့်အပြင်၊ ရုပ်ဆင်းသဏ္ဌာန်ကြန်အင်္ဂါမှာလည်း မွန်ရည်လှပ၍၊ အသံအင်္ဂါနှင့်လည်းပြည့်စုံသဖြင့်၊ လက်ရွေးစင် သဘင်သည်တို့သာလျှင် ပါဝင်ကပြရမြဲဖြစ်သော နန်းတွင်းဇာတ်တော်ကြီးတို့တွင် သဘင်ဝန်၏ရွေးချယ်ချက်ဖြင့်ပါဝင်ကပြရသည်။ ထိုသို့အတွင်းတော်တွင် ပါဝင်ကပြရသည့် လက်ရွေးစင် ဇာတ်မင်းသား တဦး ဖြစ်သော ကြောင့်လည်း၊ မင်းမိန်းမပိုင်းတွင် လူချစ်လူခင်ပေါ်များလှသဖြင့်၊ ရွှေနန်းတော်ပေါ် သို့ ဆုတော်ခံဝင်ရသောအခါများတွင် မောင်စံတုတ်၏ပကတိမျက်နှာကို မိန်းမပရိသတ်အား ဖော်ပြခြင်းမပြုရ၊ မျက်နှာကိုပုဝါအုပ်၍ အခစားဝင်ရသည်ဟုဆိုလေသည်။

ဦးစံတုတ်သည် ကပြရာ၌ မတ်တတ်ရပ်ရင်းမှ ဘေးသို့ နောက်ပြန် စောင်းငဲ့ညွတ်၍ ကရာ၊ သရဖူနှင့်မြေထိကြောင်း ဆိုကြသည်။ ဦးစံတုတ် ကပြပုံသည် အလွန်ညက်၍၊ ဦးစံတုတ် နောက်၌ ဦးစိန်အုပ် တဦးသာ ထိုသို့ ကပြနိုင်ကြောင်း ပြောကြလေသည်။ ဦးစံတုတ်သည် လူကြမ်းဦးကြွင်း၊ ဆိုင်းဆရာ စိန်ဗေဒါစသော သဘင်သည်ကြီးများနှင့်အတူ ဦးစိန်အုပ် တည်ထောင်ခဲ့သောဇာတ်ကြီးတွင်ပါဝင်က၁ ၁၂၆၃ ခုနှစ်၌ ရန်ကုန်မြို့ လျှော်တန်းဇာတ်ရုံကြီးတွင် အိမ်နောင်ဇာတ်တော်ကြီးကို ၄၅ ရက်တိတိ ခင်းကျင်း ကပြခဲ့လေသည်။



အိမ်နောင် ဦးစံတုတ်

ဦးပိုးစိန်နာမည်တက်စအခါက ဦးပိုးစိန်သည် ဦးစံတုတ်ကို ဖက်ပြိုင်ခဲ့သည်။ သို့သော် ဦးစံတုတ်သည် ထီးမှီ နန်းမှီဖြစ်၍ သူ၏ဇာတ်တော်ကြီးအဖွဲ့ကသာ မှုန်အတိုင်းကပြနိုင်သည်။ ဦးပိုးစိန်ကမူ ရှေးမူများကို တနည်းတဖုံပြောင်းလဲကာ အသစ်အဆန်းထွင်၍ ကပြသည်ဟုဆိုလေသည်။

စံပါ။ ။စံပါသည် အပင်၏အနှစ်ဖြစ်၍ အနံ့ သင်းသည်။ အသားမှာစိမ်းဝါသည်။ နံ့သာမျိုး ၅ ပါးတွင် တပါးအပါ အဝင်ဖြစ်သည်။ ဗိန်းတောဆေးကျမ်းများအရ စံပါသည် သွေး၊ လေ၊ သလိပ်၊ သည်းခြေတို့ကိုနိုင်သည်။ အပူကိုငြိမ်း စေသည်ဟု ဆိုသည်။ အိန္ဒိယနိုင်ငံ မဒရပ်နယ်၌ စံပါ အမြောက် အမြားထွက်သည်။ စံပါသည် နံ့သာမျိုး ၅ ပါးတွင် ပါဝင်သော်လည်း အခြားနံ့သာမျိုးများကဲ့သို့ တဦးချင်း အနေနှင့် သုံးလေ့မရှိဘဲ၊ အခြားနံ့သာမျိုး ၄ ပါးနှင့်အတူ ရောစု၍ အသုံးပြုကြသည်။ စံပါကို စမ္ပာဟူ၍ရေးသည်ကို လည်းတွေ့ရသည်။ (ကလမက် — ရှု။)

စမ်း။ ။မိုးရွာသောအခါ မိုးရေအချို့သည် မြေအောက်သို့ စိမ့်ဝင်သွားကြသည်။ ထိုရေသည် မြေအောက်တွင် မြင့်ရာမှ နိမ့်ရာသို့ မြေပွများကို ထိုးဖောက်ကာ၊ ကျောက်လွှာထပ်အထိရောက်သွား၏။ ကျောက်လွှာသို့ရောက်သော အခါ၊ ကျောက်လွှာကိုထိုးဖောက်ရန် မလွယ်ကူသောကြောင့် ကျောက်လွှာအပြင်တွင် တနေရာမှ တနေရာသို့ ရွေ့ရှားစီးသွားလျက်ရှိသည်။ ယင်းသို့ စီးသွားနေရာဝယ် မြေပြင်သို့ ထွက်ပေါက်ကိုတွေ့သောအခါ၊ နောက်မှရေ၏ဖိ နှိပ်အား နည်းသည့်နေရာများတွင် အပြင်သို့ ယိုစီး၍ကျရုံမျှ ကျ၏။ အချို့နေရာများ၌ကား ဖိနှိပ်အားပြင်းထန်လှသဖြင့် နောက်မှ ပြွန်နှင့်ထိုးပေးသကဲ့သို့ ရေသည် အရှိန်နှင့်ပန်း ထွက်လေ၏။ ထိုနည်းဖြင့် တဖြည်းဖြည်းရေစိမ့်ထွက်သော အခါ စိမ့်ဟုခေါ်၍ ရေအားသန်သဖြင့် ပန်းထွက်သောအခါ စမ်းဟုခေါ်၏။

စမ်းရေများ၏ အပူ အအေးသည် ဖြတ်၍စီးသွားသော ကျောက်နှင့်မြေသားတို့၏ အပူအအေးပေါ်တွင်တည်သည်။ နွေရာသီ အပူနှင့် ဆောင်းရာသီအအေး ဓာတ်တို့သည် မြေအောက်သို့ပေပေါင်း အနည်းငယ်လောက် သာရောက်သည်။ မြေမျက်နှာပြင်နှင့်ကပ်၍ စီးထွက်လာသော စမ်းရေတို့သည် နွေရာသီတွင်ပူ၍ ဆောင်းရာသီတွင်အေး နေတတ်သည်။ မြေအောက် နက်သောနေရာမှ ထွက်သော စမ်းရေသည် အစဉ်မပြတ်အေး၍နေတတ်၏။ မြေအောက် အလွန်နက်သောနေရာရှိကျောက်များသည်ပူ၏။ မီးတောင် အရပ်ဒေသများ တွင် ကျောက်များ သည် မြေမျက်နှာပြင် နှင့် ကပ်လျက် တည်ရှိကြသော်လည်း ပူ၏။ ထို့ကြောင့် မြေအောက် ပေပေါင်းများစွာ နက်သောနေရာများနှင့် မီး တောင်အရပ်ဒေသများမှ လာသောစမ်းရေများသည် ပူ၍ နေတတ်လေသည်။

မြေအတွင်းမှဖြစ်စေ၊ တောင်ကြား၊ ကျောက်ကြားများ မှဖြစ်စေ၊ တသွင်သွင် စိမ့်၍သော်၎င်း၊ ပန်း၍သော်၎င်း၊ ထွက်နေတတ်သော ရေစမ်း တမျိုး ရှိ၏။ ထို စမ်းရေသည် အများအားဖြင့် ပူနွေးစွာရှိတတ်ခြင်းကြောင့် ရေပူစမ်း ဟူ၍အခေါ်များကြ၏။ (ရေပူစမ်း — ရှု။) သို့ရာတွင် မပူ သောစမ်းများလည်းရှိ၏။ ထိုထူးခြားသော စမ်းများကား၊ ရေထဲ၌ မြေအောက်ရှိ ဓာတ်ဆေး များ ရောနှော ပါဝင်နေ သော ဆေးစမ်းများပင်ဖြစ်ကြသည်။ ဆေးစမ်းရေတွင် ရောဂါဝေဒနာ အချို့ကို ပျောက်ကင်းစေနိုင်သော သတ္တိရှိ ခြင်းကြောင့် လူအများသည် ထိုဆေးစမ်းများသို့သွား ရောက်၍ ရေချိုးလေ့ရှိကြ၏။ ရေပူနှင့် ရေအေးစမ်းဟူ၍




စမ်းဖြစ်ပေါ်လာပုံ

နှစ်မျိုးရှိရာတွင် ရေပူစမ်းက ရေအေးစမ်းထက်ပို၍ အကျိုး ထူးလေ့ရှိပေသည်။

ဆေး စမ်း ရေ များ တွင် များသောအားဖြင့် ဆိုဒီယမ်၊ ပိုတက်ဆီယမ်၊ လစ်သီယမ်၊ မက်ဂနီဇီယမ်၊ ကယ်လဆီယမ်၊ ကန့်၊ စိန်သတ္တု၊ သံ၊ မန်ဂနီ၊ ဖလူအိုရင်း၊ အိုင်အိုဒင်၊ဗရိုမင်း၊ ရူဗီဒီယမ် စသော မြေအောက်ရှိ ဓာတ်သတ္တုများ အနည်းဆုံး ၁၅ မျိုးခန့်ပါဝင်နေတတ်သည်။ ထိုဓာတ်သတ္တုများ



ဆေးစမ်းတွင် ဝေဒနာရှင်များ ရေချိုးနေကြစဉ်

အပြင် ကာဗွန်နစ်အက်ဆစ်၊ ဟိုက်ဒရိုဂျင်၊ နိုက်ထရိုဂျင်၊ အောက်ဆီဂျင်နှင့် အမ်မိုးနီးယား စသော ဓာတ်ငွေ့များ လည်းပါဝင်နေတတ်ကြရာ၊ ယင်းတို့ကြောင့် ရောဂါဘယများ ပျောက်ကင်းကြဟန်တူပေသည်။ တဖန် ဆေးစမ်း ရေအများမှာပင် ရေဒီယမ်သတ္တု ရှိသည်ကိုတွေ့ရရာ ဆေးစမ်းရေတို့၌ ထူးခြားသောအစွမ်းသတ္တိရှိခြင်းမှာ ထိုရေဒီယမ်သတ္တိကြောင့်လည်းဖြစ်နိုင်စရာအကြောင်းရှိသည်ဟုယူဆရပေသည်။

စိမ့်၊ဆရာ။ ။ဆရာစိမ့်သည် သီပေါမင်းတရားလက်ထက်၊ ဝဲဆိုင်းမှ ယာဆိုင်းသို့ခြီးမြှင့်ခြင်းခံရသော နေမျိုးကျော်ခေါင်ဘွဲ့ရ၊ ဆီဆုံဆယ်ရွာစားဆရာပေ၊ ဒေါ်သစ်တို့၏ သားဖြစ်သည်။ မိဖတို့၏နေရပ်ဖြစ်သော မန္တလေးမြို့ မဟာမုနိဘုရားကြီး၏အနီး၊ အရှေ့ရွာသစ်၌ သက္ကရာဇ် ၁၂၃၄ ခုနှစ်တွင် ဖွားမြင်လေသည်။

ဆရာပေ၏ သားသမီးတို့မှာ ဆရာစိမ့်အောက် ဒေါ်သီ၊ ဦးမောင်ကလေး၊ ဒေါ်လှိုင်တို့ဖြစ်ကြသည်။ ရွာစားကြီး ဆရာပေသည် ရွှေနန်းတော်သို့ အသုံးတော်ခံဝင်သောအခါ၊ ဆရာစိမ့် လိုက်ပါလေ့ရှိသည်။ အသားညိုသဖြင့် ဆရာပေ၏ သား ကျိုးကန်းကလေးဟု ခေါ်ကြသည်။ အဖ၏ပညာကို နှစ်သက်စွာ လေ့လာ သင်ကြား ခဲ့လေသည်။ ယဉ်ကျေးသိမ်မွေ့သောနှလုံးထားဖြင့်၊ စိတ်ရှည်၍ဇွဲကောင်းစွာ ပညာကိုလိုက်စားခဲ့သည်။ စာပေကိုမြတ်နိုး၏။ ပညာ၏ အထောက်အပံ့အလို့ငှာ စောင်းအတတ်ကို ဋ္ဌန္ဒာဒေဝနှင့် ဒေဝဋ္ဌန္ဒာမောင်မောင်ကြီးတို့ထံ၌၎င်း၊ မိကျောင်းတီးအတတ်ကို ဆေးဆရာကြီးမိကျောင်းဝိဇ္ဇာ၊ မောင်မောင်ကြီးထံ၌၎င်း၊ လေ့လာခဲ့ဘူးသည်။ ဆိုင်းတော်တို့၏ထုံးတမ်းစဉ်လာအရ၊ ပတ်စာတင်နည်းမှစ၍ အစအဆုံး အဖထံတွင် လက်ပူးလက်ကြပ် သင်ယူခဲ့ခြင်းဖြင့် ဆိုင်းပညာကိုရခဲ့လေသည်။

မျိုးရိုးအလိုက် ဆရာစိမ့်၏အောက်၊ နှမဒေါ်သီမှာ မိကျောင်းတီး ပညာ၌ ကျွမ်းကျင်၏။ ဒေါ်သီ ၏ အောက် ဦးမောင်ကလေးမှာ မြန်မာတူရိယာနှင့် ခေတ်အလိုက် တိုင်းတပါးတူရိယာများ၌ ကောင်းစွာကျွမ်းကျင်သည်။ အထူးအားဖြင့် ဆိုင်းပညာ၌ရိုးရာမပျက် နေမျိုးဗလကျော်သူဘွဲ့ရ စိန်ဗေဒါ ဖြစ်လာ၏။ (စိန်ဗေဒါ — ရှု။) မယ်လှိုင်မှာ နာမည်ကျော်အငြိမ့်မင်းသမီး ယိုးဒယားမငွေလှိုင်ဟု ကျော်ကြားခဲ့လေသည်။ ရှေးအစဉ်အလာအရ၊ တူရိယာတီးမှုတ်တတ်သူတိုင်း အဆိုပညာကို တတ်ကြရမြဲ ဖြစ်သည့် အလျောက်၊ သီးချင်းဆိုခြင်း၌ သားသမီးအားလုံးတို့မှာ ပြည့်စုံကြလေသည်။

၁၂၄၇ ခုနှစ် သီပေါမင်းတရား ပါတော်မူပြီးသည့်နောက်၊ အဖ ဆရာပေသည် သားကြီးဖြစ်သူအား ပိုမို၍ဂရုတစိုက် သင်ကြားကာ၊ ရုပ်စုံစင်တော်များနှင့်တွဲခြင်း၊ ဇာတ်ပွဲများနှင့် တွဲခြင်းများကို ပြုလုပ်စေ၏။ ဆရာစိမ့်လည်း မြန်မာနိုင်ငံအောက်ပိုင်းသို့ စုန်ဆင်းခဲ့ရာ၊ မင်းသား မောင်ဖိုးသိုက်နှင့် ဟံသာတမြို့၌ စတင်တွဲဖက်ကပြခဲ့၏။ မောင်ဖိုးသိုက်မှာ နောင်အခါတွင် ဦးဖိုးစိန်ဟုကျော်ကြားမည့်သူဖြစ်၏။ (ဖိုးစိန်၊ ဦး — ရှု။) မင်းသား မောင်ဖိုးသိုက်၊ ဆိုင်းဆရာ ဆရာစိမ့်၊ မင်းသမီးမောင်အောင်ဘ (အောင်ဗလ)၊ နဲ့ဆရာ ငွေနှံကြီးဦးဇေယျာဟူ၍ တစတစ ကျော်ကြားလာသော နာမည်ကြီးဇာတ်အဖွဲ့ကြီးတခုဖြစ်လာလေသည်။ ပဋိက္ခရားပြဇာတ်၊ ပဥ္စပါပီပြဇာတ် အစရှိသည်တို့ကို ဓာတ်လုံးများသွင်းခဲ့၏။ ပုစဉ်းတောင်သံကြိုး (ထံတျာတေရှင်) သီချင်းကို ဆရာစိမ့်သည် စစ်ကိုင်း လင်းဇင်းရွာသား နဲ့ဆရာဦးရွှေရည်နှင့် ဓာတ်ပြားသွင်းသေး၏။ ဦးဖိုးစိန်၏အစ်မတော်သူ မင်းသမီး ဒေါ်စိန်မြိုင်နှင့် ဆရာစိမ့်တို့ အကြောင်းပါကြသည်။ (အသက် ၂၄ နှစ်၌ သားရတနာ ရလေသည်။) ဆရာစိမ့်၊ ဒေါ်စိန်မြိုင်တို့၏သားမှာ၊ ဖအမျိုး ဖိုးတုဆိုသည့်အတိုင်း၊ မြန်မာနိုင်ငံတွင်နာမည်အလွန်ကြီးသော ဆိုင်းဆရာ ဦးဘမောင်ဖြစ်လေသည်။

ဆရာစိမ့်သည် အဖ မကွယ်လွန်မီ မန္တလေးမြို့သို့ ပြန်၍ ပလာဆိုင်းတီးလေသည်။ ထိုစဉ်အခါ၌၊ မန္တလေးမြို့တွင် ပုဂ်

ဆိုင်းဝိဇ္ဇာဆရားသားနှင့် ဘီလူးခေါင်းဆောင်းကာ လက်၌ ဒေါင်းတောင်များကို တပ်ဆင်၍ တီးလေ့ရှိသော စစ်ကိုင်းဆရာညိုတို့၏ပလာဆိုင်းများကျော်ကြားလျက်ရှိလေသည်။ ဆရာစိမ့်သည် ရေခွက်တွင်ရေအပြည့်ထည့်၍ ခေါင်းပေါ်၌ တင်ပြီးလျှင်၊ ရေမဖိတ်အောင်တီးခြင်းဖြင့် မိမိ၏သင်ကြားလေ့လာခဲ့သောပညာစွမ်းကို ပြလေသည်။ လက်ကျအလွန်ကောင်းပုံမှာ ပတ်လုံးများမှအလိုအလျောက်အသံထွက်လာသကဲ့သို့ လက်ဖြင့်တီးခတ်သောအသံ မပေါ်ပေ။ ခေါင်းပေါင်းစ တလူလူနှင့် ဆင်စွယ်နားတောင်းပန်ဆင်ကာ ဝိုင်းအလယ်၌ထိုင်နေပုံမှာ ကျက်သရေရှိလှ၏။ စီးပွားဖက်ပညာသည်ဖြစ်ဘူးကြသူ နဲ့ဆရာ၊ ကြေး၊ စည်း၊ ပတ်မတီး၊ နောက်ထိုင်တို့မှာ ဦးသာကျင်၊ ဦးသာကျောက်ဟုခေါ်သူ ဦးသံကျောက်၊ ဦးကျော်ဇံ၊ ဦးဆာမိ၊ ဦးသခ်ါ၊ ဦးစိန်ဒါ၊ ဦးရုပ်ဆိုး၊ ဦးပြေအေးသော်၊ ဦးဘစိန်၊ ဦးထင်ကြီး၊ ဦးကျော်မြ၊ ဦးဘလှိုင်တို့ဖြစ်ကြသည်။ မောင်းဆိုင်းကိုအသုံးပြု၏။ နိုင်ငံခြားတူရိယာဖြစ်သောဘင်၊ ပလုတ်တုတ်၊ ခရာ၊ တရုပ်ဗျပ်စောင်းများကို ယတိပြတ်တီးလုံးဆန်းများ၌သုံးသည်။ တီးလုံးဆန်းများ အချို့တို့၏ အမည်မှာ ဂျူပီတာ၊ မယ်ဒလင်ညွန့်၊ ကြာဖက်စမ်း၊ စိန်ပီတာ၊ ရိုးစားမျှော်၊ ဗျပ်စောင်းညွန့်၊ ဝိဇ္ဇာသွားတို့ဖြစ်ကြသည်။ တပည့်များနှင့် ချစ်ခင် ပျော်ရွှင်စွာနေတတ်သည်။ ငွေးရမ်းသူတို့အတွက် အထူးကျေနပ်ဖွယ်ဖြစ်အောင်လည်း မျှတသောစိတ်ထားနှင့် ကျေပြွန်စွာအလုပ်လုပ်သည်။ ရောက်လေရာ အရပ်တို့၌ ပညာရှင်တို့နှင့် နှီးနှောခြင်း၊ မိမိပညာကို ကျနစွာသင်ပေးခြင်းများကြောင့်လည်း၊ ဆိုင်းလောက၌နာမည်ရ၏။ အပေါင်းအသင်းတို့အတုယူ အားကိုး ကြည်ညိုလောက်အောင် ဂုဏ်ကျေးဇူးနှင့်ပြည့်စုံပေသည်။ ဆရာစိမ့် ထင်ပေါ်စဉ်က မြိုင်ဖက်ကင်းသူဖြစ်ခဲ့လေသည်။



ဆိုင်းဆရာကြီး ဆရာစိမ့်

ဆရာစိမ့်သည် မြန်မာမင်းလက်ထက် ရွှေတော်ပြေး အိုးစည်ဝိုင်း မိန်းမအဆိုကျော် ဒေါ်တိုးနှင့် အကြောင်းပါခဲ့သေးရာ၊ သမီးမကြီးကိုရ၏။ ထိုသမီးသည်လည်း သားအဖိုးတန်၊ ဦးဘမောင်ကဲ့သို့ စန္ဒရားအတီးအဆိုပညာ၌တတ်ကျွမ်း၍၊ စန္ဒရားထိုင်ဆိုအငြိမ့်ကြီးကိုတည်ထောင်သည်။ မြန်မာသုံး ထိုင်တီးစန္ဒရားကို မှာယူ၍၊ ဒေါ်စိန်ဆင်၊ ဒေလီညွန့်အစရှိသော နာမည်ကြီးမင်းသမီးများနှင့်အတူ ကျော်ကြားခဲ့သည်။ စန္ဒရားအတီးပညာ၌ လွန်စွာသပ်ရပ် သာယာလေရကား၊ ဒုတိယကမ္ဘာစစ်မဖြစ်မီ၊ သိန္နီမြို့၌ကွယ်လွန်သောအခါ သိန္နီစော်ဘွားကြီးသည် တူရိယာပညာကိုချီးမြှင့်သောအားဖြင့် မမကြီးမသာကို ထီးဖြူအုပ်၍ချစေသည်။

ဆိုင်းဆရာ၊ ဆရာစိမ့်ဟူသောအမည်သည် မြန်မာပြည်တဝှမ်းတွင် အလွန်ကျော်ကြား၍ နေစဉ်၊ ၁၂၇၂ ခုနှစ်၌အိန္ဒိယပြည် ရတနာဂီရိမှ သီပေါမင်းတရားကြီးသည် မြန်မာနိုင်ငံမှ ရှေးအမှုထမ်းကောင်းပညာသည် ဆိုင်းဆရာ အလိုတော်ရှိသဖြင့်၊ ကျီးကန်းတကောင် ရှိလေသေးသလားဟုမေးတော်မူ၍ ရွှေတော်သို့ ခစားစေရာ၊ အကြောင်းမညီညွတ်သဖြင့် အခစားမဝင်ခဲ့ရချေ။ သို့ရာတွင် ညီဖြစ်သူ မောင်ကလေး (စိန်ဗေဒါ) ရွှေနားတော်သွင်းအသွားတွင် မြန်မာ့ငွေဆိုင်းဝိုင်းငယ်တစုံ (စားပွဲတင်) ပြုလုပ်ဆက်သလိုက်လေသည်။

ဆရာစိမ့်သည် နာမည်နှင့်လိုက်အောင် သောတရှင်တို့တစိမ့်စိမ့်နားတွင် စွဲမက်လောက်အောင် တီးနိုင်စွမ်းရှိခြင်းကို ဆိုင်းပညာသည်ကြီးတို့က ယခုတိုင်ပြောဆိုလျက်ရှိကြ၏။

၁၂၇၈ ခုနှစ်မန္တလေးမြို့၌ ဆရာစိမ့်ကွယ်လွန်လေရာ ရှေးအစဉ်အလာ အဆောင်အယောင်အတိုင်း နတ်ခမ်း၊ ရင်ပတ်နှင့်လက်နှစ်ဖက်တို့တွင် ရွှေချ၏။ ဇနီးသည်ဒေါ်တိုးကဆရာစိမ့်၏ဆိုင်းအဖွဲ့ကိုဦးဟံပ (ယခုနိုင်ငံတော်ဆိုင်း) အား ဦးစီးစေလေသည်။

ဦးဂုဏ်ဘဏ်

စိမ်ရည်။ ။ကဇော်ပေါက်ခြင်း။ ခေါင်ရည်။ တဆေး—ရှု။

**စိမ်းစားဥ။** ။စိမ်းစားဥကို ပဲစိမ်းစား သို့ မ ဟုတ် ပဲစိမ်းစားဥဟူ၍ ခေါ်သည်။ ပဲမြစ်များရရှိသော ပဲစောင်းလျားပင်ကဲ့သို့ စိမ်းစားဥပင်သည် ဥအတွက်စိုက်ပျိုးသော ပဲပင်မျိုးဖြစ်သည်။ ရုက္ခဗေဒအလိုအားဖြင့် စိမ်းစားဥပင်ကို 'ပက်ခီရိဇပ် အင်ဂူးလေတပ်' ဟု ခေါ်သည်။ ယင်း၏မျိုးရင်းမှာ 'လီဂူမီနိုးစီး' ဖြစ်သည်။ စိမ်းစားဥကို အစိမ်းလိုက်ဖြစ်စေ၊ ကြော်ချက်၍ဖြစ်စေ စားလေ့ရှိကြသည်။

စိမ်းစားဥပင်ကို ဆောင်းအခါတွင် နှံမြေရှိသော အရပ်ဒေသတိုင်း၌ စိုက်ပျိုးနိုင်သည်။ ကိုင်းမြေတွင် စိုက်ပျိုးသော



စိမ်းစားဥ

အခါ မြေကြီးကို ကောင်းစွာ ညက်လာစေရန် ထွန်ယက်ပြီးနောက် ထယ်ကြောင်းပေး၍ အစေ့များကို ခပ်ထူထူစိုက်ပျိုးရသည်။ တဧကလျှင် မျိုးစေ့ ၂ တင်းခန့်လိုသည်။ မျိုးစေ့ချပြီးနောက်၊ မျိုးစေ့များ ကို မြေကြီးဖုံး သွားစေရန် ကျမ်းတုံးရိုက်ပေးရသည်။ အပင်ကလေးများ ပေါက်လာပြီးနောက် အမြင့် ၆ လက်မမှ ၈ လက်မခန့် ကြီးလာသောအခါ တပင်နှင့်တပင်ကို ၆ လက်မခန့်ကွာစေရန် ကြားမှအပင်ပိုများကို နုတ်ပစ်ရသည်။ သီးတောင့်များသီးသည်။ ထိုသီးတောင့်တို့အထဲမှ မျိုးစေ့များကို ရရှိသည်။ စိမ်းစားဥကို စားရသော်လည်း၊ အပင်ကိုလူနှင့်တိရစ္ဆာန်များစားလျှင် အဆိပ်တောက်၍ သေတတ်သည်ဟုဆိုသည်။ စိမ်းစားဥပင်များနွယ်တက်ရန် စင်ကိုအထူးလုပ်ပေးဖို့ မလိုချေ။ ယင်းတို့နှင့်အတူ ပြောင်းဖူးစေ့များကို ကြဲထားလျှင်၊ ပြောင်းဖူးပင်များ ကြီးမြင့်လာသော အခါ ပဲပင်နွယ်တက်ရန် စင်သဖွယ်ဖြစ်လာနိုင်သည်။ ထိုနည်းမှာ စရိတ်အကုန်အကျ နည်းသည့်ပြင် ခရီးလည်း ရောက်ပေသည်။ ထိုအပင်ကလေးများပေါက်လာပြီးနောက် ၂ ကြိမ်၊ ၃ ကြိမ်မျှ ပေါက်တူးဖြင့်မြေဆွခြင်း၊ ပေါင်းသင်ခြင်း ပြုလုပ်ပေးရသည်။

ဥများ ကောင်းစွာကြီးထွားရန်အတွက် ၅ လမှ ၆ လအထိ အချိန်ကြာသည်။ အပင်အိုရွှ ညှိုးကျလာသောအခါမှသာမှ ဥများကို တူးဖော်ရသည်။ စိမ်းစားဥသည် အရည်ရွှမ်း၍၊ စားလျှင် ရေငတ်ပြေသည်။ တဧကလျှင် ပိဿာပေါင်း ၂၀၀၀ မှ ၈၀၀၀ ထိ ထွက်နိုင်သည်။ ဥယျာဉ်ထဲတွင် မျိုးစေ့များ စိုက်ပျိုးသောအခါ ၂ တောင်မှ ၂ တောင်တထွာကျယ်သောဖောင်များပေါ်တွင် ကန့်လန့်ဖြတ်ဖြစ်စေ၊ အလျားလိုက် ဖြစ်စေ၊ လက်ဖြင့် သို့မဟုတ် တုတ်ဖြင့် တလက်မကွာသည့် ကျင်းကလေးများတွင် အတန်းလိုက် စိုက်ပျိုးရသည်။ အတန်းများကိုသုံးလက်မစီ ခွာထားလေ့ရှိသည်။

စိမ်းစားဥပင်များကို မျိုးစေ့အလို့ငှာ ရှမ်းပြည်ကုန်းမြေမြင့်များ၌ ဆောင်းရာသီတွင် စိုက်ကြသည်။ ထိုသို့စိုက်ပျိုးရာမှ ရရှိသောမျိုးစေ့များကို မြန်မာနိုင်ငံ လွင်ပြင်အရပ်များရှိ လယ်ယာများသို့ တင်ပို့ ရောင်းချကြသည်။

**စုံပတတ်ပင်။** ။စုံပတတ်ပင်သည် ပိန္နဲပင်နှင့် တူသော်လည်း ပိန္နဲပင်အောက် နိမ့်၍ ပင်လုံးငယ်သည်။ စုံပတတ်သီးမှာ အရှည် တပေခန့်ရှိ၍ လုံးပတ် ၂ ထွာခန့်ရှိသည်။ ပိန္နဲသီးနှင့်တူသော်လည်း စူးရှသောဆူးများ မရှိချေ။ အခွံ၌ အကွက်များရှိသည်။ ပိန္နဲသီးကဲ့သို့ပင် အထဲ၌ ရွှေဝါရောင်အမြွှာများရှိသည်။ အရသာချို၍ အနံ့စူးသည်။ ပူသော သတ္တိ အနည်းငယ်ရှိသည်။ တနင်္သာရီတိုင်းဒေသများတွင် စိုက်လေ့ ရှိသည်။ ထို အသီးများကို စုံပတတ်၊ စုံကဒတ်၊ စွန်မတတ်၊ စုံတတ် စသည်ဖြင့် ခေါ်ကြသည်။ တဦးနှင့်တဦး၊ တရပ်နှင့်တရပ် အခေါ်အဝေါ် ချင်းမတူပေ။ ဥတုဘောဇနသင်္ဂဟကျမ်း၌ ပိန္နဲသီးနှင့် ဩဇာခတ်ချင်းတူသည်ဟုဆို၏။



စုံပတတ်သီးနှင့် စုံပတတ်သီးအတွင်းပိုင်း

# လောကဓမ္မသိပ္ပကုံလုံကျမ်းစွယ်စုံ

ရှေးမြန်မာပညာရှိတို့က လောကကြောင်း၊ ဓမ္မကြောင်း ဗဟုသုတပါဝင်သောကျမ်းကို စွယ်စုံကျမ်းဟူ၍အမည်မှည့်ခေါ်ခဲ့ကြသည့်နည်းတူ ယခုခေတ်တွင် သိပ္ပံပညာ၊ ဝိဇ္ဇာပညာရပ်များစုပေါင်းပါဝင်သော အင်္ဂလိပ်ဘာသာဖြင့် 'အင်စိုင်ကလိုပီးဒီးယား' ဟူသည့်ကျမ်းမျိုးကို မြန်မာဘာသာဖြင့် စွယ်စုံကျမ်းဟု အမည်ပေးလေသည်။ စွယ်စုံကျမ်းဂန္ထဝင်မှအစ၊ ယခုမြန်မာ့စွယ်စုံကျမ်းအပါအဝင် ဘာသာစကားအမျိုးမျိုးဖြင့် ပြုစုခဲ့ကြသော ကမ္ဘာ့စွယ်စုံကျမ်းအကြောင်း သိမှတ်ဖွယ်ရာတို့ကို ဖတ်ရှုလေ့လာနိုင်စေအံ့ငှာ တင်ပြအပ်ပါသည်။

စွယ်စုံကျမ်း။ ။ဗဟုသုတ အမျိုးမျိုးတို့ကို ဗဟုသုတရှာမှီးသူတို့ လွယ်လင့်တကူ ရှာဖွေဖတ်ရှု၍ အကိုးအကားပြုနိုင်ကြစေခြင်းငှာ စုဆောင်းရေးသား ပြုစုထားသော ကျမ်းကို အင်္ဂလိပ်ဘာသာဖြင့် 'အင်စိုင်ကလိုပီးဒီးယား' ဟုခေါ်လေသည်။ လူတို့သည် မိမိနှင့်တကွ မိမိပတ်ဝန်းကျင်ကို သိလိုသောဆန္ဒဖြင့် သိမှတ်ဖွယ်ရာတို့ကိုရှာဖွေစူးစမ်း၍ စာများကိုရေးသားကြလေသည်။ ဤသည်တွင် စာအုပ်အမျိုးမျိုးပေါ် ပေါက်လာခဲ့သည်။ သို့ရာတွင် လူတို့သိလိုသောဗဟုသုတ အချက်အလက်တို့ကို အလွယ်တကူ ရှာဖွေရန် ခဲယဉ်းလှသည်။ ထို့ကြောင့် ဗဟုသုတအမျိုးမျိုးနှင့်ဆိုင်ရာအချက်အလက်များကိုစုဆောင်း၍၊ လူတို့လွယ်လင့်တကူဖတ်ရှု ကိုးကားနိုင်ကြစေရန် စွယ်စုံကျမ်းဟူသည်ကို ပြုစုကြရသည်။ စွယ်စုံကျမ်းသည် လူ တိရစ္ဆာန် အရာဝတ္ထုတို့နှင့်တကွ ယင်းတို့တည်ရှိရာ နေရာဒေသအကြောင်းတို့ကို ဖော်ပြပေးသည်။ ထို့ကြောင့် စွယ်စုံကျမ်း၏အခြေခံသဘောကား လူတို့က ဘာလဲ၊ ဘယ်သူလဲ၊ ဘယ်မှာလဲ၊ ဘယ်တော့လဲ၊ ဘယ်လိုလဲ၊ ဘာ့ကြောင့်လဲဟူ၍ မေးလိုက်သောမေးခွန်းတို့ကို အဖြေရှာပေးရသည့်သဘောပင်ဖြစ်၏။

## စွယ်စုံဟုမှည့်ခေါ် ရခြင်းအကြောင်း

'အင်စိုင်ကလိုပီးဒီးယား' ဟူသောစကားသည် ဂရိဘာသာစကားမှ ဆင်းသက်လာ၍၊ ဝိဇ္ဇာနှင့်သိပ္ပံပညာရပ်များကို သင်ကြားပေးခြင်းဟူသော အနက် အဓိပ္ပါယ် ရှိသည်။ ဤသဘောသည် ပညာဗဟုသုတအရာ၌ နှစ်ဖက်စွယ်စုံ ရှိသည်ဟူသော သဘောပင်ဖြစ်သည်။ မြန်မာ့ဂန္ထဝင်တွင် ကျည်းကန်ရွာ၌ သီတင်းသုံးသော အရှင် နန္ဒမေဓ သာမဏေသည် သက္ကရာဇ် ၁၁၅၈ ခုနှစ်တွင် ပုစ္ဆာပေါင်းတထောင့်တရာ ပါဝင်သော စွယ်စုံကျော်ထင် အမည်ရှိ ပုစ္ဆာကျမ်းကိုပြုစုခဲ့သည်။ ထိုပုဂ္ဂိုလ်မှာ ကျည်းကန်ရှင်ကြီးဟု တွင်၏။ (ကျည်းကန်ရှင်ကြီး — ရှု။) သက္ကရာဇ် ၁၂၂၇ ခုနှစ်သို့ ရောက်သော်၊ ကျီးသဲလေးထပ်ဆရာတော်သည် ထိုပုစ္ဆာကျမ်း၏အဖြေကို စွယ်စုံကျော်ထင်ကျမ်းဟူသောအမည်ဖြင့်ပင် ရေးသားစီရင်ခဲ့လေသည်။ (ကျီးသဲလေးထပ်ဆရာတော် — ရှု။) ဤသို့ရေးသားရာ၌ ဆရာတော်ဘုရားသည် 'လောက ဓမ္မ၊ သိပ္ပကုံလုံ၊ ဉာဏ်စွယ်စုံဖြစ်စေခြင်းငှာ' ဟူ၍ ရည်ရွယ်ချက်ကိုပြဆိုခဲ့သည်။ ထိုပြဆိုခဲ့သော ရည်ရွယ်ချက်အတိုင်း စွယ်စုံကျော်ထင်ကျမ်းမှာ လောကကြောင်း၊ ဓမ္မကြောင်းဗဟုသုတတို့ဖြင့် ပြည့်ဝလျက်ရှိပေသည်။ ရှေးရိုးမြန်မာပညာရှိတို့က လောကကြောင်း၊ ဓမ္မကြောင်းတို့၌ စွယ်စုံဗဟုသုတရှိအောင် ရည်ရွယ်ချက် ထားကြဘိသကဲ့သို့၊ အနောက်နိုင်ငံတွင်ရှိသော ဗဟုသုတလိုလားသူ ပညာရှင်တို့သည် လည်း သိပ္ပံနှင့် ဝိဇ္ဇာပညာရပ် များ၌ စွယ်စုံဗဟုသုတရှိရန် ရည်ရွယ်ကြလေသည်။ ယခုခေတ်မြန်မာနိုင်ငံရှိ ဗဟုသုတ ရှာမှီးလိုသောပုဂ္ဂိုလ်တို့သည်လည်း အနောက်တိုင်းနိုင်ငံသားတို့နှင့်အလားတူ သိပ္ပံနှင့်ဝိဇ္ဇာပညာရပ်များနှင့်ဆိုင်ရာဗဟုသုတ အချက်အလက်ကို လေ့လာရှာမှီးလိုကြပေသည်။ ထို့ကြောင့် လောက၊ ဓမ္မနှစ်ချက်ပြည့်စုံခြင်းကြောင့် စွယ်စုံဟုခေါ် ဝေါ် ခဲ့သည်ကိုအစွဲပြု၍၊ သိပ္ပံပညာ၊ ဝိဇ္ဇာပညာနှစ်ချက်ပြည့်စုံခြင်း၏သဘောကိုယူပြီးလျှင်၊ 'အင်စိုင်ကလိုပီးဒီးယား' ဟူသောကျမ်းမျိုးကို မြန်မာဘာသာဖြင့် စွယ်စုံကျမ်းဟု အမည်ပေးလေသည်။

## စွယ်စုံကျမ်းဂန္ထဝင်

အနောက်နိုင်ငံသားတို့၏အဆို၌၊ လောက၌ရှိသော ဗဟုသုတအရပ်ရပ်တို့ကို ကျမ်းစဉ်များဖြင့် ပဌမဦးစွာရေးသားပြုစုသူမှာ အယ်ရစ္စတိုတယ် (ဘီစီ ၃၈၄—၃၂၂) ဖြစ်သည်ဟုဆိုသည်။ အယ်ရစ္စတိုတယ်ကို အနောက်တိုင်းသားတို့က 'စွယ်စုံကျမ်းတို့၏ဖခင်' ဟုသမုတ်ကြသည်။ (အယ်ရစ္စတိုတယ် — ရှု။) သို့ရာတွင် ပညာစွယ်စုံကျမ်းကို ဘီစီ ၁၂၀၀ ခန့်က တရုပ်နိုင်ငံ၌ ပြုစုကြသည်ဟု တရုပ်ယဉ်ကျေးမှု သုတေသီပုဂ္ဂိုလ်တို့ကဆိုကြသည်။ အချို့ကမူ ထိုကျမ်းကို ဘီစီ ၁၂၀၀ ခန့်ကပြုစုသည်ဟုပင်ဆိုကြစေကာမူ၊ ထိုကျမ်းပါအချက်အလက်အချို့တို့မှာ ဘီစီ ၃၀၀ ခန့်လောက်ကခေတ်နှင့်ဆိုင်သည်ဟု ယူဆကြသေး၏။ မည်သို့ပင်ဆိုစေကာမူ၊ တရုပ်ဘာသာအားဖြင့် 'အားယား' ဟုခေါ်သော အဆိုပါစွယ်စုံကျမ်းမှာ ရှေးဦးပေါ် စွယ်စုံကျမ်းအဖြစ်ဖြင့် ယနေ့တိုင်ထင်ရှားလျက်ရှိသည်။ ယင်းကျမ်းတွင် ရှေးပညာရှိများပြုစုထားသောစာပေများမှ ကောင်းနိုးရာရာဗဟုသုတအရပ်ရပ်တို့ကို ထုတ်နုတ်၍ စုပေါင်းရေးသားပြုစုထားသည်။ ထိုခေတ်အခါလောက်တွင်ပင် အိန္ဒိယပြည်၌ ဗေဒကျမ်းကြီး

များပေါ် ထွန်းခဲ့သည်။ ယင်းကျမ်းတို့မှာ သာမ၊ ယဇု၊ ဣသျှု၊ အာတပ္ပနဟူလေသည်။ ဘီစီ ၁၀၀၀ ခေတ်မတိုင်မီ ပေါ် ပေါက်သည်ဟု ပညာရှင်တို့ခန့်မှန်းကြသည်။ ထိုဗေဒ ကျမ်းတို့တွင် ယဇ်ပူဇော်နည်းအကြောင်းများသာမက၊ ရှေး ဂီတများနှင့် ထိုခေတ်က ထွန်းကားလျက်ရှိသော အယူအဆ များ လည်း ပါဝင်သည်။ ဗေဒကျမ်း တို့သည် လောက ကြောင်း၊ ဓမ္မကြောင်း ဗဟုသုတစွယ်စုံကျမ်းများဖြစ်၏။ ယခင်က ဆိုခဲ့သော အယ် ရစ္စတိုတယ် ၏ စွယ် စုံ ကျမ်း ၌ မူ အာကာသအကြောင်း၊ မိုးလေဝသအကြောင်း၊ တိရစ္ဆာန် များအကြောင်းစသည့် သုတေသနပြုထားသော အချက် အ လက်တို့ပါဝင်ကြသည်။

## လက်တင်ဘာသာစွယ်စုံကျမ်းများ

ထိုနောက်၌ကား၊ ဘီစီ ၃၀ ခန့်တွင် မားကပ် တယ်ရင်ရှိ ယပ် ဗယ်ရို (ဘီစီ ၁၁၆ — ၂၇) သည် ဝိဇ္ဇာနှင့်သိပ္ပံပညာရပ် များပါဝင်သောစွယ်စုံကျမ်းကို အတွဲ ၉ တွဲဖြင့်ရေးသားစီရင် ခဲ့သည်။ အေဒီ ၇၀ ခုနှစ်ခန့်တွင် ပလင်နီသည် 'သဘာဝ သမိုင်း' အမည်ရှိသောကျမ်းကို အတွဲပေါင်း ၃၇ တွဲ၊အခန်း ပေါင်း ၂၄၉၃ ခန်းတို့ဖြင့်ရေးသားခဲ့သည်။ ၅ ရာစုအတွင်း တွင် မာတီယာနပ် ကပဲလားသည် စာသင်သားတို့ နှုတ်ငုံ ဆောင်ရန်လွယ်ကူသော ဗဟုသုတကျမ်းကို ကဗျာဖွဲ့၍စီရင် ခဲ့သည်။ ထိုကျမ်း၌ သဒ္ဒါနည်းမှစ၍၊ ဂီတအနုပညာထိ အမျိုးမျိုးသောပညာရပ်တို့ပါဝင်သည်။ ခရစ် ၆၀၀ မှ ၆၃၀ ပြည့်နှစ်အကြားတွင် အိဇီဒိုအမည်ရှိသော ခရစ်ယန် ဘုန်းတော်ကြီးသည် ဗဟုသုတကျမ်းကိုပြုစုရာ၊ ထိုကျမ်းကို ၉ ရာစုနှစ်ကျမ်းပြုပုဂ္ဂိုလ်တို့က မှီးယူကြရသည်။ ထိုနောက် ၌လည်း ခရစ်ယန်ဘုန်းတော်ကြီးနှင့် လူပုဂ္ဂိုလ်များသည် စွယ်စုံကျမ်းသဘော သက်ရောက်သည့် ကျမ်းအမျိုးမျိုးတို့ ကိုပြုစုခဲ့ကြသည်။ သို့သော် ထိုကျမ်းများမှာ များသော အားဖြင့် လက်တင်ဘာသာနှင့်သာရှိသည်။ တခါတရံ ဂရိ ဘာသာဖြင့် ရေးသားသော ကျမ်းများ ပေါ် ပေါက်ခဲ့သည်။ သို့သော် အကြောင်းရပ်ဟူသမျှတို့ကိုစံနစ်တကျ အခန်း ပိုင်း ခြား၍ရေးသားထားသည်မဟုတ်ချေ။ ခရစ် ၁၂၆၀ ပြည့် နှစ်သို့ရောက်သောအခါမှ၊ ဗင်းဆင့်ဆိုသူသည် 'ကြေးမုံပြင် ကြီး' ဟူသောကျမ်းကို စံနစ်တကျအခန်းခွဲ၍၊ လက်တင် ဘာသာဖြင့်ရေးသားခဲ့သည်။ ဥရောပအလယ်ခေတ်၌ထွက် ပေါ် လာသောစွယ်စုံကျမ်းတို့မှာ လက်တင်ဘာသာဖြင့်သာ များပေသည်။ (လက်တင်ဘာသာနှင့်စာပေ — လည်းရှု။)

## စွယ်စုံကျမ်းစီစဉ်ပုံများ

ခရစ် ၁၄၀၀ ပြည့်နှစ်မှအစပြု၍ စွယ်စုံကျမ်း၌ ဗဟုသု တ အချက်အလက်တို့ကို အစီအစဉ်ဖြင့် စံနစ်တကျရေးသား သည့် နည်းနိသျတို့သည် တိုးတက် ကောင်းမွန် လာခဲ့သည်။ ပမာအားဖြင့်၊ ၁၄၈၁ ခုနှစ်တွင် ကက္ကစတန် ထုတ်ဝေသော စွယ်စုံကျမ်းမှာ အကိုးအကားအတွက် အသုံးကျသောကျမ်း ဖြစ်သည်။ စွယ်စုံကျမ်းတွင် ရုပ်ပုံများထည့်သွင်းလာသည် မှာ ဤကျမ်းသည် ပဌမဖြစ်သည်ဟုဆိုရမည်။ သို့သော် ၁၅၄၁ ခုနှစ်တွင် ဆွစ်ဇာလန်ပြည် ဗားလမြို့မှ ရင်းဂဲလဗတ် ပြုစုသောစွယ်စုံကျမ်း ပေါ် ထွက်လာမှပင် 'အင်စိုင်ကလိုပီး ဒီးယား' ဟူသောအသုံးအနှုန်းကို ပဌမတွေ့ရသည်။ ၁၅၀၆ ခုနှစ်တွင် ဣတလီ၌ထုတ်ဝေသော ရက်ဖာအယ်လီမတ်ပဲ၏ စွယ်စုံကျမ်း၌ လူပုဂ္ဂိုလ်တို့၏ အတ္ထုပ္ပတ္တိနှင့် အညွှန်းစံနစ် တို့ကို ပဌမဦးစွာတွေ့ရသည်။ ၁၆၂၀ ပြည့်နှစ်တွင် ဖရန်းစစ် ဘေကင် ပြုစုသော စွယ်စုံကျမ်းမှာ ဗဟုသုတ အဝဝတို့ကို အမျိုးအစားအလိုက် အခန်းကဏ္ဍခွဲ၍ပြဆိုရာတွင် ပဌမဟု ဆိုကြသည်။ ၁၇၀၄ ခုနှစ်၌ ဂျွန် ဟဲရစ်ဆိုသူပြုစုသော ဝိဇ္ဇာ နှင့် သိပ္ပံစွယ်စုံကျမ်း၌ကား၊ အညွှန်းစံနစ်ကို အက္ခရာဝလိ နည်းနှင့်ညွှန်းသည့်အပြင်၊ ကျမ်းကိုးစာရင်းကိုလည်းပြဆို၍၊ တတ်ကျွမ်းသူ ပညာရှင်တို့ ကိုယ်တိုင်ရေးသားပေးသောစာ ကိုယ်များပါဝင်လေသည်။ ၁၇၀၄ ခုနှစ်၌ပင် ဂျာမနီနိုင်ငံ၌ ပေါ် ပေါက်သောစွယ်စုံကျမ်းမှာကား၊ အကြောင်းရပ်တို့ကို ရေးသားသောပညာရှင်အများတို့၏ ဆောင်းပါးချည်း သက် သက်ဖြင့် ရေးသား ပြုစုသောကျမ်းဖြစ်၍၊ ယင်းသို့ ဆောင်း ပါးအများကို စွယ်စုံကျမ်းအဖြစ်ထုတ်ဝေသည်မှာ ပဌမပင် ဖြစ်ပေသည်။ ၁၇၂၈ ခုနှစ်တွင် အီဖရိမ် ချိမ်းဗားက ထုတ် ဝေသော 'စိုင်ကလို ပီးဒီးယား' ခေါ် စွယ်စုံကျမ်းကား၊ အပြန်အလှန် ညွှန်းသောစံနစ်ကို ပဌမဦးစွာ အသုံးပြုသည့် ကျမ်းဖြစ်ပေသည်။

## တရုပ်စွယ်စုံကျမ်းများ

၁၄ ရာစုနှစ်အတွင်းတွင် တရုပ်ပြည်၌လည်း မာတွာလင် ဆိုသူ တရုပ်ပညာရှိသည် စွယ်စုံကျမ်းတစောင်ကိုပြုစုသည်။ ၁၅ ရာစုနှစ်၌မူ၊ ယွန်လိုကေရာင် ဘုရင်၏ အမိန့်တော်ဖြင့် တရုပ်ပညာရှိများသည် စွယ်စုံကျမ်းကိုပြုစုသည်။ ယွန်လို၏ ရည်ရွယ်ချက်မှာ ကွန်ဖြူးရှပ်၏အဆုံးအမများ၊ ရာဇဝင်များ၊ ယထာဘူတ ပညာရပ်များ၊ ဝိဇ္ဇာနှင့် သိပ္ပံပညာရပ်များ စ သည်တို့ကို တပေါင်းတည်းပြုစုစေရန်ဖြစ်၏။ (ကွန်ဖြူးရှပ် — ရှု။) သို့သော် ထိုကျမ်းမှာ စာအုပ်ပေါင်း ၂၂,၉၄၇ အုပ် ရှိသည်ဖြစ်၍၊ ယင်းအနက်သုံးအုပ်မျှကိုသာပုံနှိပ်နိုင်ခဲ့ရာ၊ မင် မင်းဆက်ကုန်ဆုံးသောအခါ၊ နှစ်အုပ်မှာ ပျောက်ပျက်သွား ပြီးလျှင်၊ ဗောက်ဆာသူပုန်ထသောခေတ်၌ ကျန်တအုပ် လည်း ပျောက်ပျက်သွားလေသည်။ ၁၈ ရာစုနှစ်ဦး၌ကား၊ တရုပ် ကေရာင် ဘုရင် ကန် ရှီး ၏ အမိန့် အရ အတွဲပေါင်း ၅၀၂၀ ရှိသောစွယ်စုံကျမ်းကို ပြုစု၍၊ ကန်ရှီး ဘုရင် အား

ဆက်ခံသူ ယွန်ချင်း (ခရစ် ၁၇၂၃-၃၅ ခုနှစ်) လက်ထက်တွင်ထုတ်ဝေသည်။ ထိုစွယ်စုံကျမ်း အတွဲပေါင်း ၇၀၀ တို့ကို ဖြတ်သျှပြတိုက်တွင် ယနေ့တိုင်ပြထားလေလည်း။

### ပြင်သစ်စွယ်စုံကျမ်းများ

ယခင်ကဖော်ပြခဲ့သော ချိမ်းဗား၏ 'စိုင်ကလိုပီးဒီးယား' စွယ်စုံကျမ်းကို ပြင်သစ်တို့က ပြင်သစ်ဘာသာသို့ပြန်ဆိုကြသည်။ ထိုစွယ်စုံကျမ်းနမူနာကိုယူ၍ ဒီးဒရိုး သည် ၁၇၅၁-၁၇၇၂ ခုနှစ်အတွင်း အတွဲပေါင်း ၂၈ တွဲ ရှိသော ပြင်သစ်စွယ်စုံကျမ်းကိုပြုစုသည်။ ယင်းစွယ်စုံကျမ်းထဲ၌ ဒီးဒရိုး၏ တော်လှန်ရေးအယူအဆများ အများအပြားပင်ပါဝင်သည်။ ၁၈၆၆ ခုနှစ်မှသည် ၁၉၀၃ ခုနှစ်အထိ ပြင်သစ်စွယ်စုံကျမ်းကြီးပေါ်ပေါက်လာသည်။ ၁၉၂၈ ခုနှစ်၌မူ လာရုဆဆိုသူပြုစုသော ၂၀ ရာစုစွယ်စုံကျမ်းဟူ၍ ပြင်သစ်ဘာသာဖြင့်ပေါ်ထွက်လာသည်။

### ဂျာမန်စွယ်စုံကျမ်းများ

ဂျာမနီနိုင်ငံတွင် ၁၇၃၂ ခုနှစ်မှ ၁၇၅၀ ပြည့်နှစ်အထိ အတွဲပေါင်း ၆၄ တွဲရှိသော 'ယူနီဗာဆယ် လက္ကဇီကွန်' ခေါ် စွယ်စုံကျမ်းကို ဇက်ဒလာဆိုသူပြုစုသည်။ ယင်းကျမ်းတွင် ထိုခေတ်က အသက်ထင်ရှားရှိသူများ၏ အတ္ထုပ္ပတ္တိများပါဝင်သည်။ ထို့ပြင် ၁၇၉၆ ခုနှစ်၌၎င်း၊ ၁၈၈၁ ခုနှစ်၌၎င်း၊ ပညာရှင်အသီးသီးတို့က ဂျာမန်စွယ်စုံကျမ်းကိုပြုစုကြသည်။

### အင်္ဂလိပ်စွယ်စုံကျမ်းများ

ယခင်ကပြဆိုခဲ့ပြီးသော အင်္ဂလိပ်စွယ်စုံကျမ်းများအပြင်၊ ယခုခေတ်တွင် အကိုးအကားပြုရန်ကျမ်းများအနက် အလွန်ထင်ရှားသော အင်္ဂလိပ်စွယ်စုံကျမ်းမှာ 'အင်စိုင်ကလိုပီးဒီးယား ဗြိတိန်နိကား' ဖြစ်လေသည်။ ယင်းကျမ်းကို ၁၇၆၈ ခုနှစ်မှသည် ၁၇၇၁ ခုနှစ်အတွင်း အတွဲ ၃ တွဲဖြင့်ပဌမဦးစွာ စကော့တလန်ပြည် အက်ဒင်ဗာရာမြို့တွင် ရေးသားပြုစု ပုံနှိပ်ထုတ်ဝေခဲ့သည်။ ထို့နောက် ၁၇၇၈ ခုနှစ်မှသည် ၁၇၈၃ ခုနှစ်အတွင်း ဒုတိယ တည်းဖြတ်သောမူကို ပုံနှိပ်ထုတ်ဝေသည်။

### အမေရိကန်စွယ်စုံကျမ်း

အမေရိကန်ပြည်ထောင်စု၌ကား၊ ၁၈၂၉ ခုနှစ်မှ ၁၈၃၃ ခုနှစ်အတွင်း အမေရိကန်စွယ်စုံကျမ်းကို 'အင်စိုင်ကလိုပီးဒီးယား အမေရိကားနား' ဟူသောအမည်ဖြင့်ပြုစုထုတ်ဝေခဲ့လေသည်။

### ဆိုဗီယက်ရုရှစွယ်စုံကျမ်း

ဆိုဗီယက်ရုရှနိုင်ငံတွင် ၁၉၂၅ ခုနှစ်မှ ၁၉၄၇ ခုနှစ်အထိ ၂၂ နှစ်တိုင်တိုင်ပြုစုခဲ့သော 'ဗိုလ်ရှာယာ ဆိုဗီယက်စကာယာ အင်စိုင်ကလိုပီးဒီးယား' မှာ ယနေ့တိုင်များစွာထင်ရှားလေသည်။ ယခုအခါ နိုင်ငံအသီးသီးတွင် စွယ်စုံကျမ်းများကို အမည်အမျိုးမျိုးဖြင့် ထုတ်ဝေလျက်ရှိကြသည်။ အထူးသဖြင့် ကလေးများအတွက်ရည်ရွယ်၍၊ ရုပ်ပုံပေါင်းများစွာပါဝင်သည့် စွယ်စုံကျမ်းတို့မှာ များစွာ ခေတ်စားလျက်ရှိသည်။

### လက်တင်မှတိုင်းရင်းဘာသာများသို့

ဥရောပနိုင်ငံတွင် မူလကစွယ်စုံကျမ်းကိုပြုစုကြရာ၌ လက်တင်ဘာသာဖြင့်သာ ပြုစုကြသည်။ သို့သော် ၁၄ ရာစုနှစ်မှလွန်လာသောခေတ်သို့ ရောက်သော်၊ စွယ်စုံကျမ်းများကို ဥရောပနိုင်ငံ အသီးသီးတို့က မိမိတို့၏ တိုင်းရင်းဘာသာ စကားဖြင့်ပြုစုလာကြ၏။ သာဓကအားဖြင့်ပြလျှင်၊ အင်္ဂလန်ပြည်တွင် ဗာသောလိုမျူ ဒီ ဂလန်ဗီးသည် ၁၃၆၀ ပြည့်နှစ်၌ စွယ်စုံကျမ်းတခုကို လက်တင်ဘာသာဖြင့်ပြုစုခဲ့သည်။ ယင်းကျမ်းကို ၁၃၉၈ ခုနှစ်တွင် ဂျွန် ထရေဗီဇာဆိုသူက အင်္ဂလိပ်ဘာသာပြန်ဆိုလေသည်။

### မြန်မာစွယ်စုံကျမ်းဟောင်းများ

မြန်မာ့ဂန္ထဝင်၌ စွယ်စုံကျမ်းသဘောသို့ သက်ဝင်သောကျမ်းပေါင်းများစွာရှိသည်။ ယနေ့တိုင် အမှတ်အသားနှင့်တကွ ကျန်ရစ်သောကျမ်းတို့တွင် ၁၁၁၃ ခုနှစ် (ခရစ် ၁၇၅၁ ခုနှစ်) တွင် စိန္တကျော်သူ ဦးဩစီရင်သော ကဝိလက္ခဏာသတ်ပုံသည် အထင်ရှားဆုံးဖြစ်၏။ ထိုကျမ်းမှာ သတ်ပုံကျမ်းဟုဆိုစေကာမူ၊ သတ်ပုံသတ်ညွှန်းအတွက်သာ မဟုတ်ဘဲ၊ မြန်မာမှုဆိုင်ရာလောကကြောင်း၊ ဓမ္မကြောင်းစွယ်စုံဗဟုသုတတို့ကို နှောင်းလူတို့ စူးစမ်းရှာဖွေ ဖော်ထုတ်နိုင်ရန်အလို့ငှာ၊ မေးခွန်းထုတ်ထားသောကျမ်းဖြစ်၏။ (ဆိုလတ္တံ့သော မြန်မာစွယ်စုံကျမ်းတို့တွင် ကဝိလက္ခဏာသတ်ပုံကျမ်းကဲ့သို့ မေးခွန်းပုစ္ဆာထုတ်၍ ပြုစုစီရင်ထားသည်ကို ရှေ့တွင်တွေ့ရလိမ့်ဦးမည်။) ထိုကဝိလက္ခဏာသတ်ပုံကျမ်းကို ၁၂၄၂ ခုနှစ် (ခရစ် ၁၈၈၀ ခုနှစ်) တွင် မြောင်လှမြို့စား မဟာမင်းလှဇေယျသူဘွဲ့ခံ ဦးခြိမ့်သည် ကဝိလက္ခဏာသတ်ပုံကျမ်းမှ ခက်ခဲသောပုစ္ဆာများကို ဖြေဆိုရာဖြစ်သော ကဝိလက္ခဏာဒီပနီကျမ်းကို ပြုစုစီရင်လေသည်။ (ခြိမ့်-ဦး — ရှူ။) ၁၁၂၅ ခုနှစ်တွင် ကျမ်းပြုခဲ့သော လက်ဝဲနော်ရထာ အမေး တောင်တွင်း ဆရာတော် ဦးဥာဏ အဖြေကျမ်းသည် စွယ်စုံအရာမြောက်သောကျမ်းဖြစ်လေသည်။ ထိုကျမ်းတွင် အလောင်းမင်းတရားကြီး၏မေးချက်တရပ် ပါရှိ၏။

ထို့နောက် ၁၁၅၈ ခုနှစ် (ခရစ် ၁၇၉၆ ခုနှစ်) တွင် ယခင်က ပြဆိုခဲ့ပြီးသော စွယ်စုံကျော်ထင် ပုစ္ဆာကျမ်းကို

ကျည်းကန်ရွာ အရှင် နန္ဒမဇသာမဏေက ပုစ္ဆာပေါင်း ၁၁၀၀ ကျော်ဖြင့်ပြုစုစီရင်ခဲ့၏။ ထိုကျမ်းကို ရွှေတောင်မြို့ ကျီးသဲလေးထပ်ဆရာတော် အရှင်မုနိန္ဒာဘိဓဇ (မြန်မာ ၁၁၇၉–၁၂၅၆ ခုနှစ်) က စွယ်စုံကျော်ထင်ကျမ်း အမည်ဖြင့်ပင် အဖြေရေးသား စီရင် ခဲ့သည်။ ၁၁၇၃ခုနှစ်၌ ကျမ်းပြုခဲ့သော သိရိမာလာ အမေး မုံရွေးဆရာတော် အဖြေ သမန္တစက္ခုဒီပနီ ကျမ်းသည်လည်း စွယ်စုံအရာမြောက်လှသောကျမ်းကြီးဖြစ်ပေသည်။ တဖန်၁၁၉၂ ခုနှစ် (ခရစ် ၁၈၃၀ ပြည့်နှစ်) တွင် အောင်မြေဘုံစံ အုတ်ကျောင်းဆရာတော်ဘုရားထံမင်းရဲသိင်္ခသူ ဟူသောအမတ်ကြီးသည် လောကီ လောကုတ္တရာနှစ်ဖြာသော ဗဟုသုတတို့၌ မရှင်းလင်းသည့်အရာတို့ကို မေးမြန်းရာ၊ ဆရာတော်ဘုရားသည် ပကိဏ္ဏကပဥှာဝိသဇ္ဇနီကျမ်းကို ပြုစုတော်မူသည်။ ထိုကျမ်း၌ မြတ်စွာဘုရား ပါရမီဖြည့်ခဲ့သော သခၤျေအကြောင်းမှသည် ဆင်မြင်းငှက်တို့၏ အသက်အကြောင်း၊ နိဗ္ဗာန်အကြောင်း၊ ရေတွက်ခြင်းသင်္ချာ အကြောင်း၊ သင်္ဂါရလေးပါးအကြောင်း၊ သံသရာအကြောင်း စသည်ဖြင့် ဗဟုသုတစွယ်စုံတို့ပါရှိလေသည်။

## ရှေးခေတ်ဘာသာပြန်စွယ်စုံကျမ်း

ထိုကျမ်းကိုပြုစုသောနှစ်သည် ခရစ် ၁၈၃၀ ပြည့်နှစ်နှင့်တိုက်ဆိုင်သည်။ ထိုနှစ်၌ ဗြိတိသျှအစိုးရ၏ကိုယ်စားလှယ်ဖြစ်သော မေဂျာဗားနေးသည် မြန်မာနိုင်ငံသို့ရောက်ရှိလာသည်။ (စ၊ ဦး၊ မြဝတီဝန်ကြီး — ရှု။) ထိုစဉ်က မေဂျာဗားနေး၏မှတ်တမ်းများအရသိရှိရသည်မှာ မကွေးရာမင်းသားသည် ကာလကတ္တားမြို့မှ မစ္စတာလိန်းကကျေးဇူးပြု၍၊ ‘ရီး၏စိုင်ကလိုပီးဒီးယား’ ကျမ်းကိုရရှိခဲ့သဖြင့်၊ ထိုစွယ်စုံကျမ်းတွင်ပါရှိသော သိပ္ပံပညာဆိုင်ရာ အကြောင်းရပ်များကို ဘာသာပြန်ဆိုခဲ့သည်ဟုဆိုသည်။ (မကွေးရာမင်းသား — ရှု။) ဤကား မြန်မာစာပေသမိုင်းတွင် အနောက်နိုင်ငံ စွယ်စုံကျမ်းကို ပဌမဦးစွာဘာသာပြန်ခြင်းပင်ဖြစ်သည်။ ထို ရီး၏ ‘စိုင်ကလိုပီးဒီးယား’ စွယ်စုံကျမ်းကား၊ ဗြိတိသျှလူမျိုး အေဗရာဟမ် ရီးဆိုသူက ၁၈၀၂ ခုနှစ်နှင့် ၁၈၂၀ ပြည့်နှစ်အကြားတွင် ပြုစုတည်းဖြတ်သော စွယ်စုံကျမ်းဖြစ်သည်။ ထိုရီးမှာ အခြားသူမဟုတ်၊ အထက်ကပြဆိုခဲ့သော ၁၇၇၆ ခုနှင့် ၁၇၈၆ ခုနှစ်စပ်ကြားတွင်ပေါ်ထွက်ခဲ့သည့် ချိမ်းဗား၏ ‘စိုင်ကလိုပီးဒီးယား’ စွယ်စုံကျမ်းကိုတည်းဖြတ်ခဲ့ဘူးသူပင်ဖြစ်သတည်း။

## ပုစ္ဆာဝိသဇ္ဇနာစွယ်စုံကျမ်းများ

မြန်မာ့ဂန္ထဝင်တွင် မြန်မာ့ဗဟုသုတတို့ကို ပုစ္ဆာဝိသဇ္ဇနာနည်းဖြင့်ရေးသားလေ့ရှိသည်။ ယင်းကဲ့သို့သော နည်းဖြင့်ရေးသား၍၊ စွယ်စုံအရာမြောက်သော ကျမ်းတို့ အများပင်ရှိခဲ့ဘူးလိမ့်မည်။ သို့သော် များစွာသော ကျမ်းတို့မှာ ပျောက်ပျက်ခဲ့ဟန်တူ၏။ ထို့ကြောင့် ယခုခေတ်၌ ခဲယဉ်းစွာ ရှာဖွေမှတွေ့နိုင်သော စွယ်စုံကျမ်းသဘောသက်ဝင်သည့် ကျမ်းတို့ကို နမူနာမျှဖော်ပြလိုသည်။ ၁၂၃၄ ခုနှစ် (ခရစ် ၁၈၇၂ ခုနှစ်) တွင် ဓနုဖြူမြို့ ဝန်ထောက်တော်မင်း မောင်ကျော်ထွန်းဟူသောပုဂ္ဂိုလ်သည် ပကိဏ္ဏကဒီပနီဟူသော ကျမ်းတစောင်ကိုပြုစုခဲ့သည်။ ယင်းကျမ်းကို အပိုင်းရှစ်ပိုင်းခွဲထားသည်။ ပါဝင်သောအကြောင်းရပ်တို့တွင် သိဒ္ဓတ်မင်းအကြောင်းကစ၍၊ ပိဋကအကြောင်း၊ သင်္ဂါယနာအကြောင်း၊ မြန်မာနိုင်ငံသို့သာသနာရောက်လာပုံအကြောင်း၊ မြန်မာရာဇဝင်အကျဉ်းချုပ်၊ ဓညဝတီမင်းနှင့် ရာမညမင်းဆက်အကြောင်း၊ သဒ္ဒါ၊ အသတ် ၆ ပါး၊ အစပ် ၆ ပါး၊ နည်းလေးဆယ်၊ ကျောက်စာရေးနည်း၊ စကားပုံ၊ ဖျက်စု၊ ခက်စု၊ ခဲစု၊ နေသွား၊ လသွား၊ နက္ခတ်တာရာအကြောင်း စသည်တို့ဖြစ်လေသည်။ ထို့ပြင် ၁၂၅၅ ခုနှစ်တွင် အဂ္ဂမဟာပဏ္ဍိတ ဆရာဖြေ ကြီးကြပ်ပြင်ဆင်၍၊ ဟံသာဝတီတိုက်မှ ပုံနှိပ်ထုတ်ဝေသော ‘အမေးပုစ္ဆာတထောင်တို့ဖြင့် တန်ဆာဆင်၍၊ ရဟန်းရှင်လူတို့အကျိုးငှာ၊ သိရိပဝရ သုဓမ္မာဘိလင်္ကာရ အမည်ရှိသော ဆရာတော်ဘုရား ရေးသားစီရင်သည့်’ ပုစ္ဆာပကိဏ္ဏကကျမ်းလည်းရှိသေးသည်။ ထိုကျမ်းပြုစုသော သက္ကရာဇ်ကိုမသိရပေ။ သို့သော် ယနေ့ကျွန်ုပ်တို့အသုံးပြုနေကြသော အက္ခရာဝလိမျိုးကို ထိုကျမ်း၌တွေ့ရှိရသည်။ ထိုကျမ်း၌ မင်းကျင့်တရားဆယ်ပါးကား အဘယ်နည်းဟူသော ပုစ္ဆာဖြင့်အစချီ၍၊ ဘုံ ၃၁ နှင့်တကွ နေလနက္ခတ်တာရာ၊ ကမ္ဘာမြေကြီး စသည်တို့ တည်နေဟန် အကြောင်းများ၊ ဘုရားသခင် ဝါကပ်သောအကြောင်းများ၊ သဗ္ဗညုတဉာဏ်၊ မဟာဘုတ်လေးပါး၊ ခပ်သိမ်းသောကျမ်းဂန်အစ၌ နမောတဿဟူသောပုဒ်ကို အဘယ်ကြောင့်ထားရသနည်းဟူသော အကြောင်း၊ ဗေဒင်သုံးပုံအကြောင်း၊ အဖျော်ရှစ်ပါး၊ အလှူဒါနအကျိုးပေး၊ မဟာသမုဒ္ဒရာအကြောင်း၊ လူတို့စားသောအစာမည်သို့ ဖြစ်လေသည်ဟူသော အကြောင်း၊ ပညာနည်းသူတို့၏ အသည်းနှင့်ပညာကြီးသူတို့၏ အသည်း ကွဲပြားခြားနားပုံအကြောင်း စသည်တို့ ပါဝင်လေသည်။ ထို့ပြင်လည်း၊ ဘီးလင်းမြို့နေ ပင်စင်အငြိမ်းစား စစ်ကဲတော်ကြီး ဦးရွှေနော်သည် ၁၂၆၃ ခုနှစ် (ခရစ် ၁၉၀၁ ခုနှစ်) တွင် အာဒိကပ္ပ ကမ္ဘာဦးကျမ်းတစောင်ကို ရေးသားပြုစုခဲ့သည်။ ထိုကျမ်းမှာ ကမ္ဘာဖြစ်ဟန် တည်ဟန်တည်းဟူသော ‘လောကအတ္ထုပ္ပတ္တိ’ ကိုပြဆိုသည့်ကျမ်းပင်ဖြစ်သော်လည်း၊ နေလနက္ခတ်တာရာတို့ လှည့်ပတ်သွားလာသည့်အကြောင်းအချက်ပေါ်တွင် မူတည်၍၊ သင်္ချိုင်းခေတ်၊ ကြမ္မတ်၊ ဥတ္တုလိပ်၊ ရက်လွန်၊ ရက်စန်း၊ အဝီမာသ်တို့၏ကိန်းခန်းဖြစ်လာပုံကိုလည်း၊ ထိုမှအကြောင်းပြု၍ ဗေဒင်ဟောကိန်းများအကြောင်း၊ လ

ရည်ရွယ်ထားလေသည်။ မြန်မာနိုင်ငံရှိ ပြည်ထောင်စုသား တို့အား ကမ္ဘာ့အမြေအနှစ်ဖြစ်သော ပညာရပ်များနှင့် ယဉ်ကျေးမှုအဖြာဖြာကို သိရှိနားလည်စေလိုသော မနောပဏိဓိဖြင့် ဤစွယ်စုံကျမ်းကို ကြိုးပမ်းပြုစုထားပေသည်။ ပညာရပ်များတွင်လည်း ဝိဇ္ဇာနှင့်သိပ္ပံဟူ၍ နှစ်မျိုးနှစ်စားအကြမ်းလျာထား၍၊ သိပ္ပံပညာတွင် နိုင်ငံတော်လူထုက အခြေခံကိုပင်လျှင် ဦးစွာ နားလည်သိရှိကြစေရန်ကိုလည်း ရည်ရွယ်ပေသည်။ ဤစွယ်စုံကျမ်းကို ပြုစုရာ၌ ကမ္ဘာ့ပညာ အရပ်ရပ်မှ အကြောင်းရပ်တို့ကို ပြည်ထောင်စုသား အများဆုံးအသုံးပြုနိုင်ရန်အဓိကထား၍၊ အထပ်ထပ်စစ်ဆေးရွေးချယ်ထားပေသည်။ ရုပ်ပြစွယ်စုံ ဖြစ်စေရန် ရည်သန်၍လည်း၊ စွယ်စုံကျမ်းကို ဓာတ်ပုံ၊ ရုပ်ပုံ၊ မြေပုံ၊ စံနစ်ပုံများဖြင့် တန်ဆာဆင်ထားသည်။

## မြန်မာ့စွယ်စုံကျမ်း

မြန်မာ့စွယ်စုံကျမ်းတွင် အကြောင်းရပ်ပေါင်း ၄၀၀၀ ခန့်ပါရှိမည်ဟု ခန့်မှန်းသည်။ စွယ်စုံကျမ်းတတွဲလျှင် စာမျက်နှာ ၅၀၀ ကျဖြင့်စီစဉ်ထားရာ၊ အတွဲပေါင်း ၁၄ တွဲရှိလိမ့်မည်ဟုခန့်မှန်းသည်။ ယင်းတို့အနက် က မှ ကုံအထိအကြောင်းရပ်များပါဝင်သော မြန်မာ့စွယ်စုံကျမ်းပဌမတွဲကို ၁၉၅၄ ခုနှစ် ဒီဇင်ဘာလတွင်စက်တင်ပုံနှိပ်ပြီးစီးခဲ့သည်။ ကျ မှ ခွံ အထိအကြောင်းများပါဝင်သော ဒုတိယတွဲကို ၁၉၅၅ ခုနှစ် အောက်တိုဘာလတွင်စက်တင်ပုံနှိပ်ပြီးစီးခဲ့သည်။

## အက္ခရာဝလိစံနစ်

စွယ်စုံကျမ်းတို့တွင် ကျမ်းပါအကြောင်းရပ်တို့ကို စာဖတ်သူတို့ လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်စေရန် အရေးကြီးသည်။ ထိုသို့လွယ်လင့်တကူ ရှာဖွေနိုင်ရန် အက္ခရာဝလိစံနစ်ကို အသုံးပြုသည်။ ယင်းစံနစ်တွင် ဗျည်းသက်သက်တွင် သရမျိုးပေါင်း ၆၄ မျိုးကို၊ အစဉ်လိုက်ကပ်ပြီးမှ၊ ယပင့်၊ ရရစ်၊ ဝဆွဲ၊ ဟထိုးစသည်တို့အစဉ်လိုက်လာသည်။ ဝေါဟာရတို့ကို အက္ခရာစဉ်ရာ၌ အမည်တို့၏ ရှေးဦးအက္ခရာကိုယူ၍ အက္ခရာစဉ်သည်။ ပြယုဂ်ကား၊ ကညင်ပင်ဟုဆိုလျှင် က တွင်ကြည့်ရသည်။ ကောလင်းမြို့ဟုဆိုလျှင် ကော တွင်ကြည့်ရသည်။ ခွံမာသီးဟု ဆိုလျှင် ခွံ တွင်ကြည့်ရသည်။ သို့သော် လူအမည်၌ အရင်းမူလကိုသာအစပြု၍၊ ဦး၊ မောင်၊ ကို စသော ဝယဝုဒ္ဓိကိုပြရာ ဂုဏ်ပုဒ်ကိုရင်း၊ ဘွဲ့ကိုရင်း၊ ဝိသေသကိုရင်း၊ နောက်၌ထားသည်။ ပြယုဂ်ကား၊ ဦးချိန်ဟုဆိုလျှင် ချိန်၊ ဦးဟု ချိန် ဟူသောစကားကို အစပြုထားသည်။ ထိုကြောင့် ဦးချိန်ကိုရှာလျှင်၊ ခ အက္ခရာ၌အကျုံးဝင်သော ချိန် ကိုရှာယူရသည်။ ဆာ မောင်ခင်ဟုဆိုလျှင် ခင် ဟူသောစကားကိုအစပြု၍၊ ခင်၊မောင်၊ ဆာဟုပြသည်။ ဂျာနယ်ကျော်ဦးချစ်မောင်ဟုဆိုလျှင်၊ ချစ် ကိုအစပြု၍၊ ချစ်မောင်၊ ဦး၊ ဂျာနယ်ကျော်ဟုပြသည်။ ခြင်းချက်မှာ၊ အမည်ရင်းထက် ဘွဲ့ထူးဂုဏ်ထူး ဝိသေသထူးတို့သာလျှင် ပို၍ အသိများနေကြသော အမည်တို့အဖို့ ယင်းဘွဲ့ထူး ဂုဏ်ထူး ဝိသေသထူးတို့ကိုပင်ယူ၍၊ အက္ခရာစဉ်လေသည်။ ပြယုဂ်ကား၊ ကင်းဝန်မင်းကြီး၊ ကျီးသဲလေးထပ်ဆရာတော်ဟူလေသည်။ ကင်းဝန်မင်းကြီး၏အမည်ရင်းမှာ ဦးကောင်းဖြစ်၍၊ ကျီးသဲလေးထပ်ဆရာတော်၏အမည်ရင်းမှာ အရှင်မုနိန္ဒာဘိဓဇဖြစ်သည်။ အနောက်နိုင်ငံသုံး လူအမည်များကိုမူ၊ အနောက်နိုင်ငံစံနစ်အတိုင်းထည့်သည်။ ထိုစံနစ်အရမှာ အမည်ရင်းကိုပဌမပြ၍ ငယ်နာမည်၊ ခရစ်ယန်နာမည်၊ ဒုတိယ၊ တတိယနာမည်တို့ကို နောက်တွင် အစဉ်လိုက် ထည့်ခြင်းပင်ဖြစ်သည်။ များသောအားဖြင့် ထိုနာမည်တို့ကို အင်္ဂလိပ်အက္ခရာ အတိုကောက်ဖြင့်သာ ပြလေ့ ရှိသည်။ ပြယုဂ်ကား၊ 'ဂျော့ ယူဂျင်း ကလမန်းစိုး' ဟုဆိုလျှင်၊ ကလမန်းစိုးကို အစတွင်ထား၍ ဂျော့အတိုကောက် 'ဂျီ' နှင့် ယူဂျင်းအတိုကောက် 'အီး' ကို အစဉ်အတိုင်းနောက်၌ထည့်ပြီးလျှင် 'ကလမန်းစိုး, ဂျီ၊ အီး' ဟုပြသည်။ ဆာ ဝင်စတန် ချာချီဟုဆိုလျှင်၊ ချာချီ, ဆာ ဝင်စတန်ဟုပြလေသည်။

## လွယ်လင့်တကူရှာဖွေနိုင်ရန်

ဤသို့အက္ခရာဝလိဖြင့်ပြဆိုပြီးနောက်၊ မြန်မာ့စွယ်စုံကျမ်းမှဆူရာရွေးနုတ်၍၊ ထိုင်ရာမထ ဖတ်ရှုနိုင်စေရန်၊ ဖတ်ချင်ဖွယ်ရာ အဖြာဖြာတို့ကို ထင်ပေါ်ကျော်ကြား ပုဂ္ဂိုလ်များ၊ လောကီထုပ္ပတ္တိ လူတို့ဇာတ်၊ သစ်ပင်ပန်းမာလ် တိရစ္ဆာန်၊ တမြေရပ်ခြား ဒေသများ၊ တိကျသိအပ် အရပ်ရပ်၊ သုခမဝင်ကြောင်းစုံလင်၊ လုပ်ငန်းဆောင်တာ အဖြာဖြာ၊ သိပ္ပံအံ့ဖွယ် အသွယ်သွယ်၊ ပြည်တော်သာရန် အခြေခံ၊ အားလပ်ချိန်ဝယ် ပျော်ရွှင်ဖွယ်ဟူသော ခေါင်းစည်းဆယ်ခုဖြင့် မာတိကာစဉ်လျက် စာမျက်နှာကိုဖော်ပြကာ၊ ညွှန်း၍ထားလေသည်။ ထိုပြင်လည်း ဗဟုသုတစစ်တမ်းဟူသော ခေါင်းစဉ်ဖြင့် သိလိုသောစိတ်ကို နှိုးကြားပေးစေရန်ငှင်း၊ သိလိုသော အချက်ကို ရွေးချယ်နိုင်စေရန်ငှင်း၊ ဖတ်ရှုပြီး အကြောင်းအရာတို့ကိုမည်မျှမှတ်မိသည်ဟု စိစစ်ကြည့်စေရန်ငှင်း၊ ပုစ္ဆာများကို သက်ဆိုင်ရာ စာမျက်နှာဖြင့် တိုက်ဆိုင်ကြည့်ရှုရန် ဖော်ပြထားသည်။ စာအုပ်၏နောက်ပိုင်းတွင် အနောက်နိုင်ငံ အခေါ်အဝေါ်များ၊ တိုင်းတပါးသား အခေါ်အဝေါ်များနှင့် သိပ္ပံပညာဆိုင်ရာအခေါ်အဝေါ်များကို မြန်မာဘာသာဖြင့် ပြန်ဆိုထားသော ဝေါဟာရများကို ပဌမ ကဏ္ဍအနေဖြင့် ပြဆိုထားသည်။ ဒုတိယ ကဏ္ဍတွင်ကား နိုင်ငံခြားသုံး အခေါ်အဝေါ်နှင့်အမည်တို့ကို မြန်မာအသံထွက်ဖြင့် ပြဆိုသော အသံလှယ်အမည်များ ပါဝင်လေသည်။

## မြန်မာ့စွယ်စုံကျမ်း စီစဥ်ရေးအဖွဲ့ အစည်းအဝေး

### စွယ်စုံကျမ်းတို့၏အင်္ဂါ

အနိုင်နိုင်ငံမှ ထုတ်ဝေဖြန့်ချီလျက်ရှိသော စွယ်စုံကျမ်းတို့ကိုစိစစ်ရာ၌၊ အောက်ပါအချက်အလက်တို့သည် စွယ်စုံကျမ်း အရာ၌ တည် မတည် မှတ်ကျောက်တင်သော အချက်တို့ ဖြစ်သည်ကို တွေ့ရလေသည်။ စွယ်စုံကျမ်း၌ အရေးကြီးသော အကြောင်းအရာတို့ကို ပြုစုရေးသားရာ၌ မှန်ကန်၍ ပြည့်ပြည့်စုံစုံ ရှိရပေလိမ့်မည်။ ကမ္ဘာပေါ်တွင် အသစ်အသစ်သောအခြင်းအရာတို့လည်း ဖြစ်ပျက်လျက် ရှိလေရာ၊ ပါဝင်သော အကြောင်းရပ်တို့သည် မျက်မှောက်ခေတ်နှင့်လည်းအမှီလိုက်နိုင်ရလိမ့်မည်။ အထူး အရေး ကြီး သည်ကား၊ အကြောင်းချင်းတတို့ကိုတင်ပြရာ၌ အဂတိမလိုက်စားဘဲ၊ ယထာဘူတ ကျအောင် ဟုတ်တိုင်းမှန်ရာကို တင်ပြနိုင်ခြင်းဖြစ်၏။ အရေးအသား၌လည်း အများသိရှိနားလည်အောင်ရေးသားဖို့လိုပေသည်။ စွယ်စုံကျမ်းတွင်ပါဝင်ရေးသားသူတို့ များများ ရှိရမည့်အပြင်၊ ထိုပါဝင်ရေးသားသောပုဂ္ဂိုလ်တို့မှာ မိမိတို့ဆိုင်ရာအကြောင်းရပ်တွင် ပါရဂူပုဂ္ဂိုလ်များဖြစ်သင့်ပေသည်။ စွယ်စုံကျမ်း၌ ပါဝင်သော အကြောင်းအရာတို့ကို လွယ်လင့်တကူရှာဖွေနိုင်ရန် အစီအစဥ်ရှိဖို့လည်းလိုပေသည်။ အကြောင်းရပ်တို့ကိုလည်း အရေးကြီးလျှင် ကြီးသည့်အလျောက် နေရာပေး၍ ရေးသားရမည်ဖြစ်သည်။ ဤအချက်တို့အပြင်၊ ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ၊ စံနစ်ပုံ၊ ဇယားတို့ ပြည့်ပြည့်စုံစုံပါရှိခြင်း၊ အပြန်အလှန်အညွှန်းများပါရှိခြင်း၊ ကျမ်းအကိုးအကားစာရင်းများပါရှိခြင်း၊ ပုံနှိပ်ရာ၌ လှပသေသပ် ဖတ်ရှုချင့်စဖွယ်ရှိခြင်းတို့သည် စွယ်စုံကျမ်းကောင်းများ၏ ထူးခြားချက် ဝိသေသဖြစ်ပေသည်။ မြန်မာ့စွယ်စုံကျမ်းမှာ လက်မှန်မဆွ အစတီထွင်ပေးသော ကျမ်းပင် ဖြစ်စေကာမူ တိုတောင်းသော ကာလအပိုင်းအခြားအတွင်း အထက်ဖော်ပြရာပါ ဝိသေသတို့နှင့် ပြည့်စုံနိုင်သမျှ ပြည့်စုံစေရန် ကြိုးပမ်းထားသည့် ကျမ်းပင်ဖြစ်လေသည်။

### ကလေးစွယ်စုံကျမ်း

ယခုခေတ်၌ ကလေးလူငယ် လူရွယ်တို့၏ပညာရေး အရေးကြီးပုံကို လူတို့သည် ပိုမိုလေးစားလာကြပြီဖြစ်သည်။ ထို့ကြောင့် ယင်းကလေးလူငယ်တို့အဖို့လည်း စွယ်စုံကျမ်းသည် အရေးကြီး၏ဟု သဘောပေါက်ကြပြီးဖြစ်သည်။ အင်္ဂလန်နိုင်ငံတွင် ၁၉၀၈ ခုနှစ်ကအစပြု၍ ‘ကလေးစွယ်စုံကျမ်း’ ဟူ၍ပေါ်ပေါက်ခဲ့သည်။ ၁၉၁၀ ပြည့်နှစ်၌ အမေရိကန်နိုင်ငံမှနေ၍ ‘ဗဟုသုတကျမ်း’ ဟူသောအမည်ဖြင့် စွယ်စုံကျမ်းပေါ်ပေါက်လာပြန်သည်။ ကျောင်းသားသုံးအတွက် စွယ်စုံကျမ်းကိုမူ၊ ၁၈၉၃ ခုနှစ်တွင် ‘ကျောင်းသားစွယ်စုံကျမ်း’ ဟူသောအမည်ဖြင့် အင်္ဂလန်တွင်ထုတ်ဝေခဲ့ရာ၊ ၁၉၂၂ ခုနှစ်၌ ယင်းကိုပင် ‘ကွမ်ပတန်၏ရုပ်စုံစွယ်စုံကျမ်း’ ဟူသောအမည်သစ်ဖြင့် ပြန်လည်တည်းဖြတ် ထုတ်ဝေခဲ့ပြန်သည်။ ယခုခေတ်တွင် ကလေးတို့အဖို့ စွယ်စုံကျမ်းတို့၌ ရုပ်ပုံ ဓာတ်ပုံစသည်တို့ မပါဘဲမရှိချေ။ ဗြိတိသျှစွယ်စုံကျမ်း

ကိုထုတ်ဝေသူတို့သည်ပင်လျှင် ၁၉၃၄ ခုနှစ်မှအစပြု၍၊ ရုပ်ပုံဓာတ်ပုံတို့ပါဝင်သော ကလေးများအတွက် 'ဗြိတန်နီကားဂျူနီယာ' ခေါ် စွယ်စုံကျမ်းကိုထုတ်ဝေလျက်ရှိသည်။

## ကျွန်ုပ်တို့၏အာသီသ

မြန်မာ့စွယ်စုံကျမ်းကိုထုတ်ဝေသော မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း၏အာသီသမှာ ထိုစွယ်စုံကျမ်းသည် ပညာနုနယ်သောကလေးတို့အဖို့ ပညာကို အမြတ်တနိုး ရှာယူလိုသောစိတ်ဖြစ်ထွန်းစေရမည်။ ပညာရှာဆဲ လူငယ်လူရွယ်တို့အဖို့ အခြေခံ သိမှတ်ဖွယ်ဗဟုသုတတို့ကို စွယ်စုံကျမ်း၌ လွယ်လင့်တကူရှာယူနိုင်စေရမည်။ ကျောင်းသားအရွယ်မှ လွန်မြောက်ခဲ့သောလူကြီးများအဖို့ ခေတ်မှီဝိဇ္ဇာသိပ္ပံ ပညာရပ်အခြေခံတို့ကို လွယ်လင့်တကူရှာဖွေဖတ်ရှုနိုင်စေရမည်။ ပညာတတ်ပုဂ္ဂိုလ်တို့အဖို့ မိမိတို့၏တပည့်သားမြေးတို့အား ပညာရှာဖွေပေးရာ၌ အထောက်အပံ့ဖြစ်စေရမည်ဟူသော အာသီသဖြစ်ရာ၊ ဤမြန်မာ့စွယ်စုံကျမ်းသည် ကြီးငယ်မဟူ မြန်မာ ပြည်ထောင်စုသားတိုင်းအတွက် ပညာတန်ဆောင်မည်ပေသည်။

**စွယ်တော်**။ ။မလ္လာမင်းတို့စိုးစံရာ ကုသိနာရုံပြည်၌ ဗုဒ္ဓရှင်တော်ဘုရား ပရိနိဗ္ဗာန် စံလွန်တော်မူလေရာ၊ ရာဇဂြိုဟ်ပြည် အဇာတသတ်မင်း အမှူးရှိသော ရှစ်ပြည်ထောင်သော ဗုဒ္ဓသာသနာဝင် ဘုရင်တို့သည် ဓာတ်တော်များကို တောင်းဆိုလာသဖြင့် ဘုရင်တို့၏ဆရာဖြစ်သော ဒေါဏပုဏ္ဏားကြီးသည် အသမ္ဘိန္နဓာတ်တော် ဖြစ်တော်မူသော စွယ်တော်မြတ်လေးဆူအပါအဝင် ရှစ်စရွတ်မျှ ပမာဏရှိသည့် ဓာတ်တော်တို့ကို အညီအမျှပြု၍ ခွဲဝေပေးလေသည်။

ယင်းသို့ ဓာတ်တော်ဝေရာ၌၊ ဒေါဏပုဏ္ဏားကြီးသည် မြတ်စွာဘုရားသခင်၏ လက်ျာ အထက်စွယ်တော်ကို အမှတ်မဲ့ယူငင်ကာ မိမိ၏ ဖောင်းထုပ်အကြား၌ ဝှက်ထားလေသည်။ ဤသည်ကို မည်သူမျှ မသိမမြင်လိုက်ကြသော်လည်း၊ သိကြားမင်းကမူ သိလေသဖြင့်၊ ဤပုဏ္ဏားကြီးကား စွယ်တော်မြတ်ကို လျော်ကန်သင့်မြတ်အောင် ကိုးကွယ်နိုင်မည့်သူမဟုတ်ဟု ဆင်ခြင်၍၊ တာဝတိံသာနတ်ပြည်သို့ ပင့်ဆောင်ကာ စူဠာမဏိစေတီတော်၌ ဌပနာ၍ကိုးကွယ်၏။

ဒါဌာ ဓာတု ပကာသနီ ကျမ်း အဆိုအရ ဒေါဏပုဏ္ဏားကြီးသည် လက်ျာ အထက်စွယ်တော်ကို ဝှက်ရုံမကသေး၊ လက်ျာအောက်စွယ်တော်မြတ်ကိုလည်း ခြေဖျားစွန်းမြင်နင်း၍ ဝှက်ထားသည်ဟုဆိုသည်။ နဂါးပြည်မှ ဇေယျသေနအမည်ရှိသော နဂါးမင်းသည် မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူကြောင်း ကြားသိရသဖြင့် ပူဇော်ကန်တော့ရန် ရောက်လာ၏။ ထိုအခါ ဒေါဏပုဏ္ဏားက ခြေဖျားစွန်းမြင်နင်း၍ ဝှက်ယူထားသော လက်ျာ အောက်စွယ်တော်ကို မြင်လတ်၍၊ နဂါးမင်းသည် တန်ခိုးဖြင့် နဂါးပြည်သို့ ပင့်ဆောင်ပြီးလျှင်၊ ကြီးကျယ်ခမ်းနားစွာ ကိုးကွယ်လေသည်။ နောင်အခါတွင် သီဟိုဠ်ကျွန်း ကာကဝဏ္ဏတိဿမင်းကြီး လက်ထက်၊ မဟာဒေဝမထေရ်၏တပည့်တပါးဖြစ်သော မဟိန္ဒအမည်ရှိ မထေရ်သည် ထိုလက်ျာအောက်စွယ်တော်ကိုနဂါးပြည်မှပင့်ဆောင်၍၊ သီဟိုဠ်ကျွန်း၊ သေရုမြို့ အဘယမင်းထံ အပ်နှံပြီးလျှင် သေရုတောင်ကြား၌စေတီတည်ကာ ဌပနာ၍ကိုးကွယ်၏။

ထိုပြင်လည်း ဒေါဏပုဏ္ဏားကြီးသည် လက်ဝဲ အထက်စွယ်တော်မြတ်ကို အပေါ် ရုံအဝတ် အကြား၌ ဝှက်ယူထားသည်ဖြစ်ရကား၊ ဂန္ဓာရတိုင်းသား ရဟန်းတော်တပါးသည် သိမြင်တော်မူသဖြင့်၊ ပုဏ္ဏားကြီးမသိမမြင်အောင် ယင်းစွယ်တော်ကို ပင့်ဆောင်ကာ၊ မိမိနေထိုင်ရာ ဂန္ဓာရတိုင်း၊ စေတိယတောအုပ်၌ စေတီတည်ထား၍ ကိုးကွယ်လေသည်။

သီဟိုဠ်ကျွန်း၌ ရှေးဦးစွာ တည်ထောင်သော ဝိဇယမဟာမင်းမှစ၍ ၆၆ ဆက်မြောက်သော ကိတ္တိသိရိမေဃမင်း၏ လက်ထက်တော်၌ သာသနာတော် ၈၃၀ ပြည့်နှစ်တွင် ကာလိင်္ဂရာဇ်ပြည်မှ စွယ်တော်သည် သီဟိုဠ်ကျွန်းသို့ရောက်၏။ ရောက်ရှိပုံကား ဤသို့တည်း။

ဗုဒ္ဓမြတ်စွာဘုရား၏ အလောင်းထော်ကို မီးသင်္ဂြိုဟ်၍ မီးဟုန်းဟုန်း လောင်မြိုက်နေစဉ်၊ ရှင်သာရိပုတ္တရာ၏ တပည့် ခေမအမည်ရှိသော ရဟန္တာမြတ်တပါးသည် စန္ဒကူးနံ့သာထင်းပုံထဲမှ လက်ဝဲ အောက်စွယ်တော်ကို ပင့်ဆောင်ယူကာ၊ ကာလိင်္ဂတိုင်း၊ ဒန္တပူရမြို့အရှင်၊ ဗြဟ္မဒတ်မင်းအား ခံယူစေလျက် ကိုးကွယ် ပူဇော်လေသည်။ ထိုကာလိင်္ဂတိုင်း ဗြဟ္မဒတ်မင်းမှသည် သားစဉ်မြေးဆက် မပြတ်ဘဲ၊ ကိုးကွယ်လာခဲ့ကြရာ၊ ဂုဟသီဝမင်း လက်ထက်၌ စွယ်တော်ကို အကြောင်းပြု၍ စစ်ပွဲများစွာ တိုက်ခိုက်ကြရလေသည်။ စွယ်တော်ကို အသက်ပေး၍ ကြည်ညိုလျက်ရှိပေသော ဂုဟသီဝမင်းသည် ခီရဓာရမင်း၏ တူတော်များနှင့် နောက်ဆုံးအကြိမ် တိုက်ခိုက်ရသည့်စစ်ပွဲသို့ မထွက်မီကပင်၊ သမီးတော် ဟေမမာလာနှင့် တူတော်ဒန္တကုမာရ ဇနီးမောင်နှံနှစ်ဦးတို့အား အကယ်၍စစ်ရှုံးသွားပါက၊ စွယ်တော်မြတ်ကို တိတ်တဆိတ် ပင့်ဆောင်လျက် သီဟိုဠ်ကျွန်း မဟာသေနမင်းထံ အရောက်သွားကြရန် စီမံထားခဲ့လေသည်။ ဂုဟသီဝမင်း ကျဆုံးသည်နှင့် တပြိုင်နက် သမီးတော်နှင့် သမက်တော်တို့လည်း စွယ်တော်ကို ပင့်ဆောင်ကာ ထွက်ပြေး တိမ်းရှောင်ခဲ့ကြပြီးနောက် သီဟိုဠ်ကျွန်း၊ အနုရာဓမြို့တော်သို့ ပင်ပန်းကြီးစွာနှင့် ရောက်လာကြလေသည်။ သို့သော် ထိုအခါ၌ မဟာသေနမင်းတရားကြီးကား နတ်ရွာစံလွန်တော်မူခဲ့ပြီဖြစ်သဖြင့် သားတော် ကိတ္တိသိရိမေဃဝဏ္ဏဘုရင် နန်းတက်လျက်ရှိလေပြီ။ ထိုမင်းလည်း စွယ်တော်တိုက်ကြီး ဆောက်



သီဟိုဠ်ကျွန်း ကန္ဒီမြို့ရှိ ဗုဒ္ဓမြတ်စွယ်တော်



စွယ်တော်မြတ် ကိန်းဝပ်တော်မူရာ ရတနာ့ခြေကြုတ်

လုပ်ပူဇော်လေသည်။ သီဟိုဠ်တွင် ပဌမဆုံး ဆောက်လုပ်ကိုးကွယ်သော ကိတ္တိသိရိမေဃဝဏ္ဏမင်း၏ အဆိုပါစွယ်တော်တိုက်ကြီးမှာ၊ ယခုအခါ အနုရာဓမြို့ ထူပါရုံစေတီတော်၏ အရှေ့ဖက် တဖာလုံခန့်တွင်ရှိ၏။

သီဟိုဠ်ကျွန်းတွင် အဆိုပါကိတ္တိသိရိမေဃဝဏ္ဏမင်းမှ ဓမ္မပါလမင်းတိုင်အောင် မင်းဆက်တရာကျော် ရှိခဲ့ပေသည်။ ထိုမင်းပေါင်း တရာကျော်တို့သည် အနုရာဓ နေပြည်တော်၌သာ စံတော်မူခဲ့ကြသည် မဟုတ်ပေ။ မြန်မာနိုင်ငံ၌ သရေခေတ္တရာ၊ ပုဂံ၊ မြင်စိုင်း၊ စစ်ကိုင်း၊ ပင်းယ၊ အင်းဝ၊ ရွှေဘိုစသည်ဖြင့် မြို့တော်များ ရွှေ့ပြောင်းစံတော်မူခဲ့ကြသကဲ့သို့ပင်၊ သီဟိုဠ်၌လည်း အနုရာဓ၊ ပေါဠုဏ္ဏရုဝ၊ ဂမ်ပေါလ၊ ကော့တေ၊ ကန္ဒီ၊ ကိုလံဗိုစသည်ဖြင့် မြို့တော်အစဉ်အဆက် ရှိခဲ့ပေသည်။ သီဟိုဠ်မင်းတို့သည် နန်းပြောင်း၍စိုက်ရာသို့ စွယ်တော်ကို တပါတည်း ပင့်ဆောင် ကိုးကွယ်လေ့ ရှိခဲ့ကြသည်။ ထိုစွယ်တော်မြတ်ကို အချိန်အခါအားလျော်စွာ အဆက်ဆက်နေရာဌာန၊ ကိုးကွယ်သူတို့ လက်ဆင့်ပြောင်းလဲကာ ပူဇော်လာခဲ့ကြရာ၊ နောက်ဆုံးတွင် ကန္ဒီမြို့ စွယ်တော်တိုက်တွင်း ကိန်းဝပ်နေတော်မူလေသည်။ (ကန္ဒီမြို့ — ရှု။) ယခုအချိန်၌ဗုဒ္ဓသာသနာဝင် သူတော်စင်အပေါင်းတို့သည် ကောင်းကျိုးချမ်းသာကို မြော်မှန်းလျက် သီဟိုဠ်ရှိ ထိုစွယ်တော်မြတ်ကို ဆည်းကပ်ရိုကျိုး ရှိခိုးပူဇော်ရန် ဘုရားဖူးသွားလေ့ရှိကြသတည်း။

**စွယ်တော်ပင်။** ။ရုက္ခဗေဒအမည် 'ဗော်ဟီးနီးယား အကျုမီနေတာ' ဟုခေါ်သော စွယ်တော်ပင်သည် ချုံပင်မျိုးဖြစ်သည်။ ယင်းကို မဟာလှေကားဖြူဟူ၍လည်း ခေါ်သည်။ အရွက်သည် ၃ လက်မမှ ၆ လက်မအထိ ရှည်သည်။ ပန်းပွင့်သည် ကြီး၍ ဖြူသည်။ မဟာလှေကားဖြူသည် မျိုးစေ့ကိုစိုက်ရ၍ အကြီးမြန်သည်။ ဒုတိယနှစ် သို့မဟုတ် တတိယနှစ်လောက်တွင် ပန်း ပွင့်သည်။ ဉယျာဉ်များတွင် အလှအပ စိုက်ပျိုးတတ်ကြသည်။ ထိုအပင်မျိုးကို မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံ၊ မလ္လာယုကျွန်းဆွယ်၊ တရုပ်နိုင်ငံတို့တွင်တွေ့ရသည်။ အင်္ဂလန်ပြည်သစ်တောများ၌လည်း ရှိသည်ဟုဆို၏။



စွယ်တော်ပင်၏ အခက်နှင့်အပွင့်များ

**စွင်ဂလီ,ဦးရစ်** (ခရစ် ၁၄၈၄–၁၅၃၁)။ ။၁၅ ရာစုနှစ်အတွင်း ဥရောပတိုက်၌ ခရစ်ယန် သာသနာ့အရေးပုံ ပေါ်ပေါက်နေစဉ်၊ ဂျာမနီမှ မာတင်လူသာနှင့် ပြင်သစ်မှ ဂျွန်ကယ်လဗင်တို့နည်းတူ၊ ဆွစ်ဇာလန်မှ ဦးရစ် စွင်ဂလီသည် ထင်ရှားလာခဲ့သည်။



ဦးရစ် စွင်ဂလီ

စွင်ဂလီသည် ခရစ် ၁၄၈၄ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် ဆွစ်ဇာလန်ပြည် စိန်ဂေါ်မြို့၌ ဖွားမြင်သည်။ ငယ်စဉ်က ဗန်း၊ ဗီယင်းနား၊ ဗားလ်မြို့များတွင် ပညာသင်ကြားခဲ့ပြီးလျှင်၊ ဗားလတက္ကသိုလ်မှ ဘွဲ့ရခဲ့၏။ ၁၅၀၆ ခုနှစ်တွင် ဂလားရူးနယ်၌ သင်းအုပ်ဘုန်းကြီးဖြစ်လာသည်။ ဂလားရူးနယ်မှ စစ်သားများသည် ဣတလီသို့ စစ်ချီရသောအခါ၊ စွင်ဂလီသည် သင်းအုပ်အဖြစ်ဖြင့် လိုက်ပါသွားခဲ့ရသည်။ စစ်ချီရာ

မှအပြန်တွင် ဆွစ်ဇာလန်စစ်တပ်များကို ဥရောပစစ်မက်ရေးရာတို့၌ ကြေးစားတပ်များအနေနှင့် အသုံးပြုခြင်းကို ပြင်းထန်စွာကန့်ကွက်သည်။ သို့ရာတွင် သူ၏ဟောပြော ရေးသားမှုတို့မှာ နိုင်ငံရေး ဆန်သောကြောင့် လူအများ၏ထောက်ခံမှုကို မရချေ။ ထို့ကြောင့် ဂလားရူးမှ ထွက်ခွာလာ၍၊ အိုင်ဇီဒင်တွင် ၁၅၁၆ ခုနှစ်၌ နေထိုင်ပြီးလျှင်၊ ဇူးရစ်သို့ ၁၅၁၈ ခုနှစ်၌ ပြောင်းရွှေ့ခဲ့သည်။ ၁၅၁၉ ခုနှစ်တွင် သာသနာ ပြုပြင်ပြောင်းလဲရေး တရားကို စ၍ဟောသည်။ သို့သော် စွင်ဂလီသည် မာတင်လူသာနှင့် သဘောကွဲလွဲသည်။ ၁၅၂၉ ခုနှစ်တွင် ယင်းသဘောကွဲလွဲချက်တို့ကို စေ့စပ်ရန် မားဗုမြို့ကွန်ဖရင့်ကို ကျင်းပခဲ့သော်လည်း၊ စွင်ဂလီသည် မာတင်လူသာနှင့် မပူးပေါင်းဘဲ၊ ကယ်လဗင်နှင့်သာ ပူးပေါင်းဆောင်ရွက်လေသည်။ ၁၅၃၁ ခုနှစ်တွင် သာသနာရေးဆိုင်ရာ သဘောကွဲလွဲမှုများ ပြင်းထန်လာရာ၊ စွင်ဂလီသည် မိမိကိုယ်တိုင်ဦးစီး၍ ရောမကက်သလစ်တို့ကို တိုက်လေသည်။ အောက်တိုဘာလ ၁၁ ရက်နေ့တွင် ကပ္ပယ်တိုက်ပွဲ၌ စွင်ဂလီကျဆုံးလေသည်။ စွင်ဂလီကျဆုံးရာအရပ်၌ ကျောက်တုံးတခုပေါ်တွင် 'ရန်သူသည် ရုပ်ခန္ဓာကို သတ်နိုင်သော်လည်း၊ နာမ်ခန္ဓာကို မသတ်နိုင်' ဟု ကမ္ပည်းထိုးထားသည်ကို ယနေ့တိုင်တွေ့နိုင်သည်။ (လူသာ, မာတင်။ ကယ်လဗင်, ဂျေ။ ခရစ်ယန်သာသနာ့အရေးပုံ — ရှု။)

**စွန်**။ ။စွန်သည် ငှက်ရဲ ဖြစ်သည်။ လင်းယုန်နှင့်မျိုးတူ၍ သိမ်းငှက်မျိုးစုတွင် ပါဝင်သည်။ အရွယ်အားဖြင့် ငှက်ကြီးဖြစ်၍ ညိုသောအဆင်း ရှိသည်။ အမြီးမှာ ရှည်၍ ခက်ရင်းကဲ့သို့ အခွမျာဖြစ်နေသည်ကို အထင်အရှားမြင်ရသည်။

စွန်၏သတ္တိထူးတခုမှာ ကြာမြင့်စွာကောင်းကင်၌ ပျံသန်းနေနိုင်ခြင်းဖြစ်သည်။ စွန်အား ရတ်တရက် လိုက်၍မှီရန် ခဲယဉ်းလေသည်။ ပျံသန်းရာ၌ မည်သည့်ငှက်နှင့်မဆို ယှဉ်ပြိုင်နိုင်သော ငှက်မျိုးဖြစ်သည်။

အသိုက်ကို သစ်ပင်ထက်၌ တုတ်ချောင်းများဖြင့် ပြုလုပ်လေ့ရှိသည်။ တကြိမ်လျှင် ၃ ဥ၊ ၄ ဥ အုသည်။ ဥများမှာ ဖြူဖွေး၍ အညိုပြောက်များဖြင့် ပြည့်နေသည်။

ကမ္ဘာ့တိုက်ကြီး ခြောက်တိုက်စလုံး၌ စွန်များကို တွေ့ရသည်။ သို့ရာတွင် အမျိုးအစားမှာ တနေရာနှင့်တနေရာ မတူချေ။ ဥရောပတိုက်တွင် အာဖရိကတိုက်မှ နွေရာသီ၌သာလျှင်ခေတ္တ လာရောက်ကျက်စားသောစွန်များကို တွေ့ရပေသည်။ ဗြိတိန်ကျွန်းတွင်ကား၊ ယခင်အခါက စွန်များ အမြောက်အမြားနေကြသော်လည်း၊ ယခုအခါ၌မူ အလွန်တွေ့ရခဲသည်။ မြောက်အမေရိကတိုက်တွင် စွန်မျိုး သုံးစားရှိသည်။ ကမ္ဘာ့အပူပိုင်း ဒေသများတွင်လည်း စွန်များကျက်စားကြသည်။ မည်သည့်အရပ်ဒေသ၌မဆို စွန်များ



စွန်ငှက်

သည် လူတို့စွန့်ပစ်ထားသော သား၊ ငါးများကို ရှင်းလင်းပေးသဖြင့် လူတို့အတွက် များစွာအသုံးကျသည်။

**စွန်ပလွံပင်**။ ။စွန်ပလွံပင်သည် အုန်းပင် ထန်းပင်မျိုးတို့တွင် ပါဝင်၍၊ ရာသီဥတု ပူပြင်းခြောက်သွေ့လွန်းသော အရပ်တွင် ပေါက်ရောက်သည်။ ထို့ကြောင့် ရှေးပဝေဏီမှစ၍၊ တူးမြောင်းများဖြင့် ရေသွင်းစိုက်ပျိုးနိုင်သော အာဖရိကတိုက် မြောက်ပိုင်းနှင့် အာရှတိုက်ရှိ သဲကန္တာရအရပ်များတွင် စွန်ပလွံပင်ကို အထူးတလည် စိုက်ပျိုးခဲ့ကြသည်။ (ကန္တာရ — ရှု။) ရှေးမဆွကစ၍ ထိုအရပ်ဒေသများတွင် နေထိုင်ကြသူတို့သည် စွန်ပလွံသီးကို နေ့စဉ်စားသုံးရန်အစာအဖြစ် သုံးစွဲခဲ့ကြသည်။ စွန်ပလွံသားကိုလည်း အခြားသစ်သားများနည်းတူ အမျိုးမျိုး အသုံးချခဲ့ကြသည်။ ပူပြင်းခြောက်သွေ့သောဒေသများတွင် စွန်ပလွံပင်များသည် အပန်းဖြေရန် အရိပ်ကောင်းပေးကြပေသည်။ အာရေဗျ သဲကန္တာရနှင့် ဆဟားရား သဲကန္တာရများတွင်ရှိသော အိုအေးစစ်ခေါ် စိမ့်စမ်းပေါ်ထွက်ရာ ကန္တာရရိပ်သာများ၌ စွန်ပလွံပင်များကို စိုက်ပျိုးနိုင်၍သာ လူများနေထိုင်နိုင်လေသည်။ အီဂျစ်တနိုင်ငံတည်း၌ စွန်ပလွံပင်ပေါင်း ၅ သိန်းကျော်မျှရှိသည်။

စွန်ပလွံပင်သည် လှပတင့်တယ်သော သစ်ပင်မျိုးဖြစ်သည်။ ပင်စည်မှာ ဖြောင့်မတ်ရှည်လျား၍ အပင်ထိပ်မှာသာ အရွက်များ ဝေဆာလေသည်။ ပင်စည်အမြင့် ပေ ၆၀ မှ ပေ ၈၀ အထိရှိသည်။ ပင်စည်၏အခေါက်သည် ကြမ်းထော်သည်။ ငှက်တောင်သဏ္ဌာန်ဖြစ်သော အရွက်များသည် အလျား ၁၀ ပေမှ ပေ ၂၀ အထိ ရှိသည်။ စွန်ပလွံပင် သည် အသက်ရှည်သောသစ်ပင်ဖြစ်ရာ နှစ်ပေါင်း တရာကျော်အထိ နှစ်စဉ်ဆက်ကာ အသီးများသီးလေ့ရှိသည်။ အသီးကို အမှည့်



စွန်ပလွံပင်

အတိုင်းဖြစ်စေ၊ အခြောက်လှန်း၍ဖြစ်စေ စားသုံးကြသည်။ အချို့အသီးခိုင်ကြီးများတွင် တခိုင်လျှင် အသီးပေါင်း ၁၀၀၀ ကျော်ပါ၍ အလေးချိန်အားဖြင့် ပေါင် ၂၀ ကျော်မျှ ရှိသည်။ အီရက်နိုင်ငံသည် ကမ္ဘာပေါ်တွင် စွန်ပလွံ အများဆုံး စိုက်ပျိုးသောတိုင်းပြည်ဖြစ်ရာ ဥရောပတိုက်နှင့် အမေရိကတိုက်များသို့ စွန်ပလွံသီး အမြောက်အမြား တင်ပို့လေသည်။ အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယားပြည်နယ် တောင်ပိုင်း၌လည်း စွန်ပလွံပင်ကို စိုက်ပျိုးကြသည်။ ဥရောပတိုက်ရှိ မြေထဲပင်လယ်ကမ်းခြေတလျှောက်၌ စွန်ပလွံပင်များကို အလှအပသက်သက် စိုက်ပျိုးကြသည်။

**စွန်ရဲရွာ။** ။စွန်ရဲအင်းနှင့် စွန်ရဲရွာသည် မြန်မာရာဇဝင်သမိုင်းလေ့လာမှုတွင် အရေးပါသောနေရာများဖြစ်သည်။ ကျောက်ဆည်ခရိုင် မြေပြန့်၏ အရှေ့မြောက် အစွန်ဆုံးတောင်ကုန်းတို့၏အခြေတွင် တည်ရှိသော စွန်ရဲအင်းသည် ဘဲလင်းဘူတာ၏ အရှေ့စူးစူး ၆ မိုင်ကွာ လောင်ဂျီတွဒ် ၉၆° ၁၂" နှင့် ၉၆° ၁၅" စပ်ကြား၊ လတ္တီတွဒ် ၂၁° ၄၀" နှင့် ၂၀° ၄၂" စပ်ကြားလောက်တွင် တည်ရှိသည်။

စွန်ရဲရွာသည် စွန်ရဲအင်း၏ အနောက်ဖက် ကမ်းပေါ်တွင် တည်ရှိသည်။ ခရစ် ၉ ရာစုနှစ်မတိုင်မီက၊ ဤဒေသတွင် မွန်၊ ပလောင်၊ ဝနှင့် သက်၊ ကဒူးတို့နေထိုင်ခဲ့ကြ၍၊ ခရစ်နှစ် ၇၀၀ ကျော်လောက်တွင် မြန်မာတို့ဝင်ရောက်လာကြသည်ဟု သမိုင်းဆရာများက ယူဆကြ၏။ တောင်ခြေနှင့် အနီးကပ်ဆုံးဖြစ်၍ လွယ်ကူစွာလုပ်ကိုင်စားသောက်နိုင်သော ဤဒေသတဝိုက်၌ မြန်မာတို့ စတည်းချ နေထိုင်ခဲ့ကြဟန်တူသည်။ မြန်မာနိုင်ငံမြေပြန့်တွင် မြန်မာတို့ ရှေးဦးစွာအခြေစိုက်ခဲ့သော နေရာဖြစ်ကြောင်းကို သမိုင်းသုတေသီ ပါမောက္ခလု (စ) နှင့် အခြား ပညာရှင်များက အခိုင်အမာဆိုသည်။

ရှေးကျောက်စာတို့တွင် စွန်ရဲကို စွန်ရယ်ဟုရေးထိုးသည်။ စွန်ရဲနှင့်တကွ မြေပြန့်ဖက်ပတ်လည် ၆ မိုင်အတွင်းရှိ ဘဲလင်း၊ သင်တောင်း၊ ငွေနှံ၊မြင်စိုင်းစသော ဒေသတို့တွင် တွေ့ရှိသော ကျောက်စာတို့ကိုထောက်ထား၍ ဤဒေသသည် ပုဂံခေတ်နှင့် ပင်းယခေတ်တို့တွင်စည်ကားဝပြောကြောင်းသိရသည်။ စွန်ရဲရွာတဝိုက်၌ပင် မြန်မာသက္ကရာဇ် ၅၅၉၊ ၅၉၄၊ ၆၇၉၊ ၆၉၂ တို့ပါသော ကျောက်စာတိုင် ၆ တိုင်တွေ့ရ၏။ ယင်းအထောက်အထားကြောင့် စွန်ရဲရွာ၏ရှေးကျမှုကို ကောင်းစွာခန့်မှန်းနိုင်ပေသည်။ သင်တောင်းခရိုင်တွင် ပါဝင်ခဲ့သော ဤရွာသည် ရှေးအခါက ယခုထက် ပိုမိုစည်ကားသည်ဟုဆိုနိုင်သည်။ ဤရွာတွင် ပုဂံခေတ်အမတ်ကြီးများ၊ သံဃာတို့၏အကြီးအကဲဖြစ်သောမဟာထေရ်မြတ်များ အလှူဒါနပြုခဲ့ကြောင်းနှင့် ရွာသူကြီးအပြင် ကလန်သံပျင်တို့ ပါရှိခဲ့ကြောင်းကို ကျောက်စာများအရ သိရသည်။

**စွန်လွှတ်ကစားခြင်း။** ။မြန်မာနိုင်ငံ၌ မိုးဦး ရာသီ နေသာသော ညနေခင်းအချိန်တွင် ကောင်းကင်သို့ကြည့်လိုက်လျှင် အရောင်မျိုးစုံရှိသောစွန် (လေတံခွန်) များကို တွေ့ကြရပေမည်။ ကလေးလူကြီးမရွေး စွန်ကို အပျော်လွှတ်ကစားကြသည်။ စွန်ကို ပုံအမျိုးမျိုးချိုး၍ လုပ်တတ်ရာ အဓိကအားဖြင့် ကုလားစွန်နှင့် မြန်မာစွန်ဟူ၍ နှစ်မျိုးရှိ၏။ ကုလားစွန်မှာ ဝါးခြမ်းတံငယ် နှစ်ချောင်းပါ၍ တချောင်းကို ကျောရိုးတံအဖြစ် ထားပြီးလျှင် အခြားတချောင်းကို ပဲ့မဝါးခြမ်းတံ အထက်ပိုင်းနားတွင် ဖြတ်လျက်ကွေးထားသည်။ ကျောရိုးတံ ထိပ်နှစ်ဖက်နှင့် ကိုင်းတံ ထိပ်နှစ်ဖက်တို့ကို အစွန်းလေးဖက်အဖြစ် ထား၍ အရွယ် တော်သင့်အောင်ဖြတ်ထားသော စက္ကူပါးဖြင့် ဝါးခြမ်းတံများပေါ်တွင် ကော်နှင့်ကပ်ထားသည်။ ကျောရိုးတံနှင့် ကိုင်းတံ ဆုံသောနေရာတွင် တချက်၊ ကျောရိုးတံပေါ် အောက်ဖက် အလေးချိန်မျှတစေမည့် နေရာ၌ တချက်၊ ခွလျက် ဆိုင်းကြိုးတပ်ရသည်။ ယင်းသို့ ဆိုင်းကြိုးတပ်၍ပြီးလျှင် စွန်သည် လွှတ်ရန်အသင့်ဖြစ်သည်။

မြန်မာစွန်မှာ ကုလားစွန်မူအတိုင်းပင် ဖြစ်သော်လည်း အနည်းငယ်အနုစိတ်လျက် ပြုလုပ်ထားသည်။ မြန်မာစွန်သည် အပ်ခြည်ကြိုးများနှင့် အရိုးတံများကိုဆိုင်းထားခြင်း၊ အမြီးကို ရိုးရိုးအမြီးမျိုးမဟုတ်ဘဲ၊ ငကြောင်းမြီးသဏ္ဍာန်တပ်ထားခြင်းစသည်မျှလောက်သာ ကုလားစွန်နှင့် ခြားနားသည်။ စွန်တွင် အမြီးရှည်ကြီးများ တပ်ပေးခြင်းမှာ လေထဲတွင်ငြိမ်၍နေစေရန်ပင် ဖြစ်သည်။ ကုလားစွန်မှာ လေးထောင့်ပုံ မကျတကျ ဖြစ်၍ မြန်မာစွန်၏ပုံမှာ ကုလားစွန်၏ပုံထက် ရှည်သည်။ ကုလားစွန်သည် လေထဲ၌ ငြိမ်သက်စွာမနေဘဲ၊ လူးလာကစား၍ မြန်မာစွန်မှာ ငြိမ်သက်စွာနေသည်။ ထို့ကြောင့် ကုလားစွန်ကို စွန်ဖြတ်ကစားရန် လွှတ်ကြပြီးလျှင် မြန်မာ စွန်ကိုမူ စိတ်ကူးဉာဏ်အတိုင်း အမျိုးမျိုးသော ပုံသဏ္ဍာန်ပြုလုပ်၍ အလှ လွှတ်ကြလေသည်။

အနောက်နိုင်ငံများတွင် စွန်လုပ်ပုံမှာ အောက်ပါအတိုင်းဖြစ်သည်။ ပေါ့ပါး၍ အကြောဖြောင့်စင်းသည့် သစ်သားတုတ်ချောင်းအရှည်၏ အထက်ပိုင်းခပ်ကျကျနေရာ၌ တုတ်ချောင်းအတိုကို ကန့်လန့်ဖြတ်ထားကာ၊ ဆုံရာနေရာ၌ ခိုင်မြဲစွာချည်နှောင်ထားသည်။ တုတ်ချောင်းအစွန်းလေးဖက်ကို ကြိုးများဖြင့်ဆက်ကာ ချည်ထားသည်။ ထို့နောက်ကြိုးဘောင် ပုံသဏ္ဍာန်အတိုင်း စက္ကူပါး သို့မဟုတ် အဝတ်ပါးကို အပေါ်မှကပ်ပေးသည်။ ဆိုင်းကြိုးတပ်ပုံမှာ တုတ်ချောင်းများ၏အစွန်းများ၌ တပ်ဆင်ရသည်ဖြစ်၍ ကျွန်ုပ်တို့၏စွန်များကဲ့သို့ နှစ်ခွမဟုတ်ဘဲ၊ လေးခွဖြစ်လေသည်။

စွန်များ လေထဲ၌ ပျံဝဲပုံမှာ ရွက်လှေ လွင့်ပုံ၊ လေယာဉ် ပျံသန်းပုံကဲ့သို့ပင် ဖြစ်၏။ အများအားဖြင့် လေသည် မြေပြင်နှင့် မျက်နှာပြင်ညီ တိုက်ခတ်လေ့ရှိ၏။ လေညာမှနေလျက် ရစ်လုံးရှိ ကြိုးကို ဖြေလျှော့၍ စွန်ကို အထက်သို့လွှတ်လိုက်သောအခါ စွန်၏မျက်နှာပြင် စောင်းသဖြင့် တိုက်ခတ်သည့်လေသည် စွန်ကို အထက်သို့တွန်းတင်ပေးသည်။ ထို့ကြောင့်ပင် စွန်သည် အထက်သို့ မြင့်တက်နိုင်လေသည်။

စွန်လွှတ်ခြင်းမှာ ပျော်ရွှင်မှုသက်သက်အတွက် ကစားရန်သာ မဟုတ်၊ သိပ္ပံပညာ၌လည်း အတော်ပင် အရေးကြီးသည့်လုပ်ငန်းတရပ် ဖြစ်ခဲ့ဘူးလေသည်။ ခရစ် ၁၇၄၉ ခုနှစ်တွင် အက်ဒင်ဗာရာမြို့မှ သိပ္ပံကဝိတဦးသည် စွန်၌ အပူချိန်ပြဒါးတိုင်များကို ပူးတွဲ ထည့်ပေးလိုက်ခြင်းဖြင့် အထက်လေထု၏ အပူချိန်ကို တိုင်းတာနိုင်ခဲ့လေသည်။ ၁၇၅၂ ခုနှစ်တွင် ဗင်ဂျမင် ဖရန်ကလင်သည် မိုးကြိုး ထစ်ချုန်းနေစဉ် အတွင်း စွန်ကို လျှပ်စစ်ပြက်ရာ တိမ်များဆီသို့ လွှတ်ကြည့်ခြင်းဖြင့် လျှပ်စစ်ပြက်ခြင်းသည်လည်း လျှပ်စစ်ဓာတ်ပင် ဖြစ်ကြောင်းကို သိခဲ့ရဘူးသည်။ စွန်များသည် မိုးလေဝသဌာနအတွက် လွန်စွာ အသုံးကျပေသည်။ စွန်တွင် မိုးလေဝသတိုင်းတာသောကရိယာများကို ပူးတွဲတပ်ဆင်ပေးလိုက်ခြင်းဖြင့် အလို ရှိသည့် အတိုင်းအတာများကို သိနိုင်သည်။ ရိုးရိုးစွန်များအပြင် သေတ္တာပုံသဏ္ဍာန် စွန်များလည်း ရှိသေးသည်။ ထိုစွန်တို့သည် ရိုးရိုးစွန်ထက်ပိုမို၍ လေးလံသောအရာဝတ္ထုတို့ကို သယ်ယူနိုင်လေသည်။ သိပ္ပံပညာ၌ အသုံးပြုသော စွန်များမှာ ကြီးမား၍ အတွဲများကိုလည်း ပြုလုပ်ထားတတ်ကြသည်။ ထိုစွန်များကို ၁၀ မိုင်မျှရှည်လျားသော ကြိုးဖြင့် အမြင့် ၅ မိုင်ခန့်တိုင်အောင် လွှတ်နိုင်ပေသည်။ ကြိုး တန်တားများ ပြုလုပ်ရာတွင် မြစ်တဖက်ကမ်းမှ ကြိုးကို အခြားတဖက်ကမ်းသို့ စွန်များဖြင့် ပို့ပေးနိုင်ပေသည်။

စွန်လွှတ်ခြင်းကို ကစားခြင်း တမျိုးဟူ၍ ယူဆကြလေသည်။ သို့ရာတွင် ရှေးအခါက ကိုရီးယားနိုင်ငံတွင် နှစ်သစ်ကူးအခါများ၌ ဘာသာရေးနှင့်စပ်ဆိုင်သည့် စွန်လွှတ်ပွဲကြီးများကို အကြီးအကျယ်ကျင်းပသော အစဉ်အလာ ရှိခဲ့လေသည်။ တရုပ်နိုင်ငံတွင်လည်း နှစ်တိုင်း ၉ လ၊ ၉ ရက်နေ့သည် စွန်လွှတ်ပွဲတော်နေ့ ဖြစ်လျက် ထိုနေ့ကို အားလပ်ရက်တရက်အဖြစ် သတ်မှတ်ထားသည်။ မြန်မာနိုင်ငံ၌ စွန်လွှတ်ကြသည်မှာ အလှလွှတ်ရန်သာ မဟုတ်၊ တစွန်နှင့် တစွန် ဖြတ်ရန်လည်း လွှတ်ကြသည်။ အချို့အရပ်များတွင် စွန်ဖြတ်ပွဲများကို အကြီးအကျယ် ပြုလုပ်လေ့ရှိသည်။ စွန်ဖြတ်ရန် အပ်ခြည်ကြိုးကို မှန်စာရည်ဖြင့်သုတ်လိမ်းပြီးလျှင် အခြောက်



မြန်မာစွန်လွှတ်ကစားနေစဉ်

ခံထားသည်။ မှန်စာရည်ကို ဖန်မှုန့်နှင့်ကျဲကော်ရည် ရော စပ်၍ ဖေါ်ယူသည်။ ထိုကြိုးကို စွန်ချင်းယှဉ်ပြိုင်၍ ဖြတ်ရာ တွင် လေညာအရပ်ကို ရအောင်ယူ၍ အခြားစွန်ကြိုးကို ထိုး စိုက်ပြီး ဖြတ်တောက်ကြလေသည်။

စွန်းလွန်းဆရာတော် (မြန်မာ ၁၂၇၉-၁၃၁၄)။ ။စွန်း လွန်း ဆရာတော်ဘုရားကြီးသည် သက္ကရာဇ် ၁၂၇၉ ခုနှစ်၊ တပေါင်းလဆန်း ၂ ရက်၊ တနင်္လာနေ့ နံနက် ၃ ချက် တီးကျော်အချိန်၌ အထက် မြန်မာပြည်၊ မြင်းခြံမြို့ အနီး၊ စွန်းလွန်းရွာ အဖ ဦးသန့်၊ အမိ ဒေါ်တုတ်တို့ မှ မီးရှူးသန့်စင်ဖွားမြင် တော်မူသည်။ ကျော်စော ထင်ရှားသော နိမိတ်များ ကြောင့် မောင်ကျော်ဒင် ဟူ၍ အမည်ပေးခဲ့သည်။ မောင်ကျော်ဒင်ကို ငယ်စဉ် က မြင်းခြံမြို့မင်းကျောင်း ဆရာတော်ထံအပ်နှံ၍ စာ ပေသင်စေခဲ့သော်လည်း၊ ပါရမီနုံ့သောကြောင့်စာ ကောင်းစွာ မတတ်မြောက် သည်နှင့် ၁၅ နှစ်အရွယ်တွင် မြင်းခြံမြို့အရေးပိုင်ရုံး၌ ဝင် ရောက်အမှုထမ်းစေသည်။ အရွယ်ရောက်သောအခါ တရွာတည်းနေ မရွှေရီနှင့် သင့်မြတ်၍ သားသမီး ငါး ယောက် ထွန်းကားခဲ့၏။ လေးယောက်မှာ ငယ်စဉ် ကပင် ပျက်စီးသဖြင့် သားတယောက်သာ ရှိတော့သည်။ အသက် ၃၀ အရွယ်တွင် အလုပ်မှ ထွက်ပြီးနောက် မိဖတို့၏ လက်ငုတ် တောင်ယာအလုပ်ဖြင့် အသက်မွေးခဲ့လေသည်။

ဦးကျော်ဒင်သည် စာပေကျမ်းဂန်များကို မသင်ကြားရ သော်လည်း၊ ကျွတ်ချိန်တန်သည့်အလျောက် ၁၂၈၁ ခုနှစ် တန်ခူးလမှစ၍ တရားအရသာကို ရှာခဲ့လေသည်။

ဦးကျော်ဒင်သည် ထွက်သက်၊ ဝင်သက်၊ အာနာပါဏမှ စ၍ ထိ၊ သိ၊ သတိ အစရှိသော တရားအားထုတ်မှုများကို သဒ္ဓါဝိရိယ၊ ဇွဲသန်သန်နှင့် နေ့ညမပြတ် အားထုတ်သွားရာ ၁၂၈၂ ခုနှစ်၊ ဝါဆိုလပြည့်ကျော် ၁၃ ရက်၊ ကြာသပတေး နေ့ ည ၁၀ နာရီအချိန်တွင် ပဌမအကြိမ် တရားထူးကို တွေ့ရ လေသည်။ တဖန် ၁၂၈၂ ခုနှစ် ဝါခေါင်လပြည့်ကျော် ၁၃ ရက်၊ စနေနေ့ည ၁၀ နာရီအချိန်တွင် ဒုတိယအကြိမ် တရား ထူးကို တွေ့ရပြန်သည်။ ထိုနောက် ၁၂၈၂ ခုနှစ် တော်သ လင်းလပြည့်ကျော် ၁၃ ရက်၊ တနင်္လာနေ့ည ၁၀ နာရီအချိန် တွင် မိမိခန္ဓာကိုယ်၌ ပြင်းပြလှသောဝေဒနာများကို ခံစား ရပြီးနောက် တတိယအကြိမ်မြောက် တရားထူးကို တွေ့ရ ပြန်၏။

၁၂၈၂ ခုနှစ်၊ သီတင်း ကျွတ်လပြည့်ကျော် ၁၃ ရက်၊ အင်္ဂါနေ့ ည ၁၀ နာ ရီအချိန်တွင် စတုတ္ထအ ကြိမ်မြောက်တရားထူးကို တွေ့ရပြန်လေသည်။ ဤ ကား ထူးခြားချက်တရပ် ပင်ဖြစ်ပေသည်။

၁၂၈၂ ခုနှစ်၊ သီတင်း ကျွတ်လပြည့်ကျော် ၅ ရက် နေ့တွင်ယာခင်းမှ နွားတ ရှဉ်းကို ဘေးမဲ့လွှတ်ခဲ့ပြီး နောက် စွန်းလွန်းရွာ၊ ဘုန်း တော်ကြီး ဦးကျောက် ကျောင်းသို့ သွား၍ သာမ ဏေပြု၏။

၁၂၈၂ ခုနှစ်၊ တပေါင်း လပြည့်ကျော် ၁၂ ရက် တနင်္လာနေ့ ညနေ ၄ နာရီ ၉ မိနစ်အချိန်တွင် မိတ္ထီလာ မြို့၊ ရေလယ်ကျောင်းတိုက်၊ ခဏ္ဍသိမ်၌ ရဟန်းအဖြစ် သွတ်သွင်းချီးမြှောက်ခြင်း ခံရသည်။ ရဟန်းအမည် ရှင်ကဝိဖြစ်သည်။ ရဟန်းဘဝ၌ စွန်းလွန်းရွာတောင်ဖက် တွင် သွားရောက်၍ တရားအားထုတ်လေသည်။ စတုတ္ထ အကြိမ်မြောက် တရားထူးကို ရခြင်းမှာ ယင်းရဟန်းဘဝနှင့် ဖြစ်လေသည်။

စွန်းလွန်းဆရာတော် ဦးကဝိသည် လာရောက်ဆည်းကပ် ကြသောရဟန်း၊ ရှင်လူအပေါင်းတို့အား သမထ၊ ဝိပဿနာ နှင့် ပဋ္ဌာန်းတရားတော်များကို သင်ကြားပြသခြင်း၊ တရား ရေအေး အမြိုက်ဆေးကို တိုက်ကျွေး ခြင်းများ ပြုလုပ်ပြီး နောက် ၁၃၁၄ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၉ ရက်နေ့တွင် ပျံလွန်တော်မူသည်။



စွန်းလွန်းဆရာတော်

**စွမ်းအင်**။ ။အပင်မှန်သမျှသည် ရှင်သန်ကြီးထွားရေးအတွက် ရေ၊ လေနှင့် မြေကြီးထဲမှ အခြားအာဟာရဓာတ်များ အပြင်၊ အထူးသဖြင့် နေ၏အပူရှိန်ကို စုတ်ယူရန်လိုပေသည်။ သစ်ပင်ကြီးများ ထူထပ်သည့် တောနက်ကြီးများတွင် အချို့သော အပင်ငယ်များသည် နေရောင်ခြည်ကို လုံလောက်စွာ မရကြသဖြင့် ဆက်လက်၍ မကြီးပွားနိုင်ကြတော့ဘဲ၊ သေကြရလေသည်။ ကမ္ဘာဦးအခါမှစ၍ ဤသို့ ကြိမ်ဖန်များစွာ ဖြစ်လာခဲ့ရာ ကာလကြာသော်၊ ကနဦးက သေကုန်ကြသောအပင်များသည် တဖြည်းဖြည်း မြေကြီးအောက်ထပ်သို့ ရောက်ရှိကြလေတော့သည်။

လျှင်လှုပ်ခြင်း၊ မီးတောင်ပေါက်ကွဲခြင်းစသော ပြင်းထန်သည့်လှုပ်ရှားမှုတို့ကြောင့် ကမ္ဘာ၏ အပေါ်ယံမြေလွှာသည် နေရာအမျိုးမျိုး ပြောင်းခဲ့ရသည်။ တခါတရံ ရှေးက သစ်တောကြီးများသည် ပင်လယ်ပြင်အောက်သို့ ရောက်ရှိသွားတတ်၍၊ ပင်လယ်အောက်ခံမြေပြင်ကလည်း ကုန်းအဖြစ် ပေါ်လာတတ်လေသည်။ (ဘူမိဗေဒ — ရှု။)

အထက်ပါ ဖြစ်ပျက်ပြောင်းလဲမှုတို့ကြောင့် နှစ်ပေါင်းထောင်သောင်းကြာအောင် သဲမြေ၊ နုံးမြေနှင့် ရေတို့၏ အဖိအနှိပ်ကို ခံရသောအခါ ရှေးပဝေဏီက နေ၏စွမ်းအင်ဖြင့် အသက်ရှင်ခဲ့သည့် အပင်ကြီးများသည် မာကျော မည်းနက်သော ကျောက်မီးသွေး ဖြစ်သွားကြတော့သည်။ ထိုကြောင့် မီးရထား၊ မီးသင်္ဘောမှစ၍ ယာဉ်အမျိုးမျိုး၊ စက်အမျိုးမျိုး၊ အလုပ်ရုံအမျိုးမျိုးတွင် မသုံးမဖြစ်အောင် အရေးကြီးသည့် ကျောက်မီးသွေးဟူသည်မှာ အခြားမဟုတ်၊ နေ၏ အလင်းနှင့် အပူကို စုဆောင်းကာ၊ နေပူရှိန်စွမ်းအင်ကို သိုလှောင်ထားသည့်ပစ္စည်းပင် ဖြစ်သည်ဟု ကျွန်ုပ်တို့နားလည်အပ်ပေသည်။ (ကျောက်မီးသွေး — ရှု။)

ကျောက်မီးသွေးတွင်သာ မဟုတ်၊ အပင်မှန်သမျှ တွင်လည်း နေပူရှိန်စွမ်းအင် အနည်းနှင့် အများ ပါရှိသည်ချည်းသာဖြစ်၏။ လူတို့စားသုံးသော အသီး အပင် အရွက်တို့၌ နေပူရှိန်စွမ်းအင်သည် အာဟာရ၏ဓာတ်စွမ်းအင် အဖြစ်ဖြင့် ပြောင်းလဲပါဝင်သည်။ လူနှင့် တိရစ္ဆာန်တို့သည် အစာအာဟာရကို မမှီဝဲဘဲ အလုပ်မလုပ်နိုင်။ (အစာအာဟာရ — လည်းရှု။) ထိုကြောင့် အစာအာဟာရကိုစားသုံးရာတွင်၊ ကျွန်ုပ်တို့၏ ကိုယ်ခန္ဓာသည် နေပူရှိန်စွမ်းအင်မှ ဖြစ်သော အာဟာရ၏ဓာတ်စွမ်းအင်ကို လှုပ်ရှားလျက်အလုပ်လုပ်နိုင်သည့် ကြွက်သားစွမ်းအင်သို့ ပြောင်းလဲပေးလိုက်သည်။

ရေနွေးငွေ့ဖြင့်လည်သော စက်များတွင်၊ ဗွိုင်လာ ရေနွေးအိုးကို အပူတိုက်ပေးရန်အတွက် ကျောက်မီးသွေးနှင့်ထင်းကို အသုံးပြုကြသည်။ ကျောက်မီးသွေးကိုဖြစ်စေ၊ ထင်းကိုဖြစ်စေ၊ မီး ရှို့လိုက်သောအခါ၊ ထိုပစ္စည်းတို့တွင်ရှိသည့် နေပူရှိန်စွမ်းအင်သည် အပူစွမ်းအင် ဖြစ်လာသည်။ (အပူ — ရှု။) မီးပူရှိန်ကြောင့် ရေမှ ရေနွေးငွေ့ ဖြစ်လာသောအခါ၊ ရေအဖြစ်တွင်ရှိသည့် အရွယ်ပမာဏထက် အဆပေါင်း ၇၀၀ ခန့် ကျယ်ပြန့်လာသည်။ ထိုကြောင့် ရေနွေးငွေ့တွင် အလွန်ပြင်းထန်ကြီးမားသော ဖိအား ကန်အားရှိသည့်အတွက် တခါတရံ ဗွိုင်လာအိုးပင်ပေါက်ကွဲတတ်သည်။ ရေနွေးငွေ့ဖြင့် စက်များလည်သောအခါ၊ ကျောက်မီးသွေးမှ ထွက်လာသည့် အပူစွမ်းအင်သည် စက်စွမ်းအင် ဖြစ်သွားသည်။ စက်စွမ်းအင်ဆိုသည်မှာ ဝတ္ထုပစ္စည်း၏ တည်နေရာကိုရင်း၊ ရွေ့ရှားမှုကိုရင်း၊ အခြေအနေကိုရင်း အကြောင်းပြု၍ဖြစ်သော စွမ်းအင်ကို ဆိုလိုသည်။ အကယ်၍ ရေနွေးငွေ့ဖြင့် လျှပ်စစ်ဓာတ်ဖြစ်ထွန်းစေသည့် ဒိုင်နမိုကို လည်စေလျှင် ကျောက်မီးသွေးမှ အပူစွမ်းအင်သည် လျှပ်စစ်စွမ်းအင် ဖြစ်သွား၍၊ လျှပ်စစ်ဓာတ်ဖြင့်မီးပူတိုက်ခြင်း၊ ဓာတ်မီးထွန်းခြင်းကိစ္စများကို ပြုလုပ်လျှင်ကား၊ အပူစွမ်းအင်၊ အလင်းစွမ်းအင် ဖြစ်သွားပြန်လေသည်။

မြစ်ရေ၊ ကန်ရေ၊ ရေတံခွန်တို့မှ ရေအားဖြင့်လည်သော စက်များ၊ လေအားဖြင့်သွားသော ရွက်လှေများကို ကြည့်လျှင်၊ နေ၏စွမ်းအင်အပြင် အခြားစွမ်းအင်များလည်းရှိသေးသည်ကို တွေ့ရပေမည်။ သို့ရာတွင် နေရှိ၍သာလျှင် ပင်လယ်သမုဒ္ဒရာ ရှိရေသည် အငွေ့ပျံကာ မိုး၊ ဆီးနှင်းအဖြစ် ရွာသွန်းသောကြောင့် မြစ်ချောင်း၊ ရေတံခွန်စသည်တို့ ဖြစ်ပေါ်နိုင်ခြင်း၊ နေရှိ၍သာလျှင် လေတိုက်ခတ်မှု ဖြစ်ပေါ်နိုင်ခြင်းတို့ကို စဉ်းစားသော်၊ နေသည် ကျွန်ုပ်တို့ကမ္ဘာသုံး သဘာဝစွမ်းအင်ကို အများဆုံး ဖန်တီးသည်ကို သတိမူအပ်ပေသည်။ (နေ — ရှု။)

နေ၏စွမ်းအင်မှ အပူစွမ်းအင်၊ အလင်းစွမ်းအင်၊ စက်စွမ်းအင်၊ လျှပ်စစ်စွမ်းအင်အစရှိသဖြင့် တခုမှတခုသို့ ကူးပြောင်းတတ်ပုံ၊ ကူးပြောင်းနိုင်ပုံကို ဖော်ပြခဲ့ပြီ။ စွမ်းအင်တခုမှ စွမ်းအင်တခုသို့ ကူးပြောင်းရာတွင် အလုံးစုံကူးပြောင်းခြင်းကားမရှိပေ။ ပုံစံအားဖြင့် ရေနွေးငွေ့စက်များတွင် ကျောက်မီးသွေးကိုမီးရှို့ရာမှရရှိသော အပူစွမ်းအင်သည် စက်စွမ်းအင်အဖြစ်သို့ အားလုံးပြောင်းလဲသွားသည်မဟုတ်။ ဗွိုင်လာအိုးကို ပူစေခြင်း၊ အနီးပတ်ဝန်းကျင်ရှိလေကို ပူစေခြင်း စသည်တို့ဖြင့် အချို့အဝက် ဆုံးပါးသွားသေးသည်။ သို့သော် ထိုသို့ဆုံးပါးသွားသော စွမ်းအင်မှာ လုံးဝပျောက်ပျက်သွားခြင်းမဟုတ်။ စွမ်းအင်တမျိုးမှ စွမ်းအင်တမျိုးသို့ပြောင်းလဲသွားခြင်းသာ ဖြစ်ပေသည်။

ရှေးခေတ် အင်္ဂရိတ်ဆရာကြီးများ လက်ထက်မှစ၍ နောက်ပေါ် သိပ္ပံဆရာ အသီးသီးတို့ လက်ထက်တိုင်အောင်၊ အပြင်အပက မည်သည့်စွမ်းအင်ကိုမျှ မသုံးဘဲ အလို အလျောက် ထာဝစဉ်လည်မည့် စက်မျိုးကို နှစ်ရှည်လများ အမျိုးမျိုးကြံစည်ခဲ့ကြဘူးလေသည်။ အဝိပ္ပါယ်မှာ စွမ်းအင်ကို ဖန်တီး

နိုင်မည့်စက်မျိုးကို ကြံစည်ခြင်းပင် ဖြစ်သည်။ သို့သော် စွမ်းအင်ကိုဖန်တီးရန် မည်သည့်နည်းနှင့်မျှ မဖြစ်နိုင်သည့်အတိုင်း ထာဝစဉ် လည်မည့်စက်မှာ ရေးကလည်း မဖြစ်နိုင်၊ယခုလည်း မဖြစ်၊နောင်ကိုလည်း ဖြစ်ပေါ်နိုင်စရာအကြောင်း မရှိချေ။ စွမ်းအင်ကို ဖန်တီး၍မရနိုင်။ စွမ်းအင်သည် တမျိုးမှတမျိုးသို့ ကူးပြောင်းသွားသော်လည်း၊ ပျက်ပြုန်းကြေသုန်းသွားသည်ဟူ၍မရှိ ဆိုသည့်အချက်ကို သိပ္ပံပညာတွင် လက်ခံထားသည်။ ဤသဘာဝသဘောကို 'စွမ်းအင်၏မပြောင်းစည်း' ဟုခေါ် လေသည်။

မကြာမီက ဒြပ်၏သဘောနှင့် စပ်လျဉ်း၍ အသိသစ် အတွေ့သစ်များ ရလာရာမှ စွမ်းအင်၏ သဘောသည်လည်း အနည်းငယ် ပြောင်းလဲသွားလေသည်။ အခြေခံလုံလောက်လျှင် ဒြပ်သည် အကယ်ပင်ပျောက်ကွယ်သွား၍၊ ထိုဒြပ်၏ နေရာ၌ စွမ်းအင်အချို့ ပေါ်ပေါက်လာနိုင်သည်။ ထိုအဖြစ်မျိုးကို အက်တမ်၏ နျူးကလီးယပ် (ဝတ်ဆံ) မှ စွမ်းအင်ထုတ်၍ အက်တမ်ဗုံးလုပ်ရာတွင် တွေ့ရသည်။ ဤစွမ်းအင်ကို အက်တမ်၏ နျူးကလီးယပ်စွမ်းအင်ဟု ယခုအခါ ခေါ်တွင်လျက်ရှိသည်။ (အက်တမ် — ရှု။) နေ၏အတွင်းပိုင်းတွင်လည်း ဤကဲ့သို့ပင် ဒြပ်ဝတ္ထုအဖြစ်မှ စွမ်းအင်အဖြစ်သို့ ပြောင်းလဲမှုကို တွေ့ရလေသည်။ ယခုအခါ ဒြပ်မှုန်သမျှကို စွမ်းအင်အဖြစ်သို့ ပြောင်းလဲရန် မတတ်နိုင်သေးချေ။ သို့ရာတွင် ဒြပ်မှ စွမ်းအင်သို့၎င်း၊ စွမ်းအင်မှ ဒြပ်သို့၎င်း ပြောင်းလဲနိုင်သည်ဟူသောအချက်ကို အခြေခံထားပါက၊ စွမ်းအင်ကို ဖန်တီး၍လည်းမရ၊ ဖျက်ဆီး၍လည်းမရဟု ပဌမနိယမ အရ ဆိုမည့်အစား စကြာဝဠာတွင် ရှိသမျှဒြပ်နှင့် စွမ်းအင်တို့၏ ပမာဏပေါင်းမှာ အမြဲတမ်းမပြောင်းလဲဘဲ ရှိသည်ဟုဆိုမှ ပို၍မှန်ကန်ရာရောက်ပေမည်။

စွမ်းအင်ပြောင်းလဲမှုနှင့် စပ်လျဉ်းသည့် ဒုတိယနိယမအဆိုမှာ စွမ်းအင် တမျိုးမှတမျိုးသို့ ပြောင်းလဲတိုင်း စွမ်းအင်အချို့သည် အပူစွမ်းအင် အဖြစ်ဖြင့် အလဟဿ ဆုံးပါးလွတ်မြောက်သွားသည်ဟူ၍ ဖြစ်သည်။ ဤအတိုင်းသာ မှန်ပါက တဖြည်းဖြည်း အပူစွမ်းအင် ဆုံးပါးမှုသည် များများလာသောကြောင့် တနေ့သော် စကြာဝဠာကြီးတခုလုံးသည် အပူသုန်း၍ ပျက်စီးသည့်ဘေးနှင့်တွေ့ကြုံရမည်မှာ သေချာနေပြီ။ သို့သော် ဤယူဆချက်ကို သိပ္ပံပညာရှင်ကြီးများ အားလုံးက လက်မခံကြသေးချေ။

ယခုအခါ စကြာဝဠာကြီး ပျက်စီးမည့်အရေးထက် စက်ကရိယာ အမျိုးမျိုးအတွက် အားကိုး နေရသော ကျောက်မီးသွေးနှင့် ရေနံများ ကုန်ခန်းသွားလျှင် ကြုံရမည့်အခက်အခဲကို ပို၍ပူပန်ကြသူကများသည်။ ကျောက်မီးသွေးနှင့် ရေနံမှာ နေ၏စွမ်းအင်ကို သိုလှောင်ထားသည့် ပစ္စည်းများပင် ဖြစ်ရာ ထိုပစ္စည်းများ ကုန်ခန်းသွားသည့်တိုင်အောင် နေမှာ ထွန်းလင်းမြဲ ထွန်းလင်းနေဦးမည်ဖြစ်၍ ဘာမျှ စိုးရိမ်စရာမရှိဟု အချို့က ဆိုပေမည်။ သို့သော် ကျွန်ုပ်တို့သည် နေ၏စွမ်းအင်ကို တိုက်ရိုက်မဟုတ်ဘဲ သွယ်ဝိုက်သောနည်းဖြင့်သာလျှင် သုံးစွဲနိုင်ကြသေးသည့်အတွက် အခက်နှင့်ကြုံရလေ၏။

ယခုအခါ နေပူရှိန်နှင့် နေလတို့၏ ဆွဲငင်မှုတို့ကြောင့် ဖြစ်ပေါ်လာသော လေနှင့်တကွ ရေစီး၊ ရေတံခွန်၊ လှိုင်း၊ ဒီရေတို့၏ စွမ်းအင်ကို တကမ္ဘာလုံးအတွက် ထိထိရောက်ရောက် အသုံးချနိုင်မည့်နည်းများကို သိပ္ပံပညာရှင် အသီးသီးတို့ ရှာကြံနေဆဲဖြစ်သည်။ သို့သော် ရှာဖွေစမ်းသပ်သည့် အဆင့်ကို မကျော်လွန်နိုင်ကြသေးပေ။ (အာကာနနသတ္တိ — ရှု။)

အချို့ကလည်း အခြားမည်သည့် အကြံအစည်မှ အထမမြောက်လျှင် ကမ္ဘာ၏ အတွင်းပိုင်းရှိ အလွန်ပြင်းထန်သော အပူကို အသုံးချနိုင်ကောင်းစရာရှိသည်ဟု ဆိုကြသည်။ သို့သော် ကမ္ဘာ၏ အတွင်းပိုင်းရောက်အောင် တူးဖောက်ရမည့် ကိစ္စကို ယခုခေတ်လောကသားတို့ စွမ်းဆောင် နိုင်ဦးမည် မဟုတ်ဟု ယူဆရပေသည်။ (ကမ္ဘာ — ရှု။)

အက်တမ်၏ နျူးကလီးယပ် (ဝတ်ဆံ) အတွင်း ခိုအောင်းလျက်ရှိသည့်စွမ်းအင်ကို ကျွန်ုပ်တို့သည် တနည်းတလမ်း အသုံးပြုလာနိုင်ခဲ့ပေပြီ။ ဤစွမ်းအင်ကို ယူရေးနီးယမ်နှင့် သိုရီယမ်ခေါ် ဒြပ်စင်တို့မှ အဓိကထုတ်နုတ် အသုံးချနိုင်ခဲ့ပြီး ဖြစ်သည်။ ယခုအခါ ဟိုက်ဒရိုဂျင်ဗုံးများပင် လုပ်နေပြီဟူသောသတင်းကို ထောက်လျှင် ဟိုက်ဒရိုဂျင်မှလည်း စွမ်းအင်ကို ထုတ်ယူနိုင်ပြီဟုဆိုရပေမည်။

အက်တမ်၏ နျူးကလီးယပ်မှ စွမ်းအင်ကို ထုတ်ယူအသုံးချမှုမှာ ယခုအခါ အစမျှသာ ရှိသေးသည်။ သို့ရာတွင် ရေတစက်၊ သဲတပွင့်မှပင်ဖြစ်စေ စွမ်းအင်ကို လွယ်လင့်တကူ ထုတ်ယူနိုင်သည့် အချိန်သို့ကား တနေ့ကျလျှင် ရောက်လာရမည်မှာ သေချာသလောက်ရှိလေပြီ။



အင်္ဂလန်ပြည် (အက်တမ်) အနုမြူ စွမ်းအင်ထုတ် စက်ရုံတရုံ



မြန်မာဗျည်း ၃၃ လုံးတွင် ဆသည် ၇ ခုမြောက်အက္ခရာဖြစ်သည်။ စ၊ ဆ၊ ဇ၊ ဈ၊ ည ဟူသောစဝဂ်တွင်ပါဝင်၍ ဆ အသံ၏ဖြစ်ရာဌာနမှာ တာလုဌာန် အာစောက်အရပ်ဖြစ်သည်။ အက္ခရာ၏ပုံသဏ္ဌာန်သည်လိမ်၍နေသောကြောင့် ဆလိမ်ဟုအမည်တွင်သည်။ ဆ အရေးအသား၏မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့်ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟုရေးသားသည်ကိုတွေ့ရသည်။ ဗြာဟ္မီအရေးအသား ၏ထိပ်စ ထောင်မတ်နေသောမျဉ်းကို ဗယ်ဖက်သို့ယိမ်းနွဲ့၍တချက်ဆွဲရေးဖန်များသောအခါ၊ မြန်မာအက္ခရာ ဆ ဖြစ်ပေါ်လာလေသည်။ ဆ အက္ခရာ၏အဆင့်ဆင့်ပြောင်းလဲပုံကို အောက်တွင် အစဉ်အတိုင်းယှဉ်တွဲ၍ပြထားသည်။

ဆခွဲကိန်းများ။ ။နှစ်ဂဏန်း သို့မဟုတ် နှစ်ဂဏန်းထက်ပိုသောကိန်းတို့၏မြှောက်လဒ်သည် ပေးထားသောကိန်းနှင့် ညီမျှလျှင် ထိုကိန်းများကို ပေးထားသောကိန်း၏ ဆခွဲကိန်းများဟုခေါ် သည်။ ဥဒါဟရဏ်ကား၊ ၂ × ၃ × ၅ = ၃၀။ ထို့ကြောင့် ၂၊ ၃၊ ၅ ဟူသောဂဏန်းများသည် ၃၀ ၏ဆခွဲကိန်းများဖြစ်သည်။

သာမန်အားဖြင့် ၃၀ ကို ၁ နှင့်သော်၎င်း၊ ၃၀ နှင့်သော်၎င်း၊ ပြတ်အောင်စားနိုင်သည်။ ထိုထက်အလွန်ကား၊ ဆိုခဲ့ပြီးသောဆခွဲကိန်းများ အချင်းချင်းကိုမြှောက်၍ ရသောမြှောက်လဒ်များဖြစ်သည့် ၆၊ ၁၀၊ ၁၅ တို့သည်လည်း ၃၀ ကိုပြတ်အောင်စားနိုင်သေး၏။ သို့ရာတွင် အခြားကိန်းများနှင့်စားလျှင်မူကား အကြွင်းကျန်၏။ ဆခွဲကိန်းဖြစ်ကြသော ၂၊ ၃၊ ၅ ဂဏန်းများကို ၁ သို့မဟုတ် ဆိုင်ရာဆခွဲကိန်းရင်းမှ လွဲ၍ အခြားဂဏန်းဖြင့်စားလျှင်မပြတ်ချေ။ ထို့ကြောင့် ဤ ဂဏန်းမျိုးကို သုဒ္ဓဆခွဲကိန်းများဟု ခေါ်သည်။

ယခုကျွန်ုပ်တို့အသုံးပြုလျက်ရှိကြသော ဒသမ ဂဏန်းတွင် အခြေခံထားသောကိန်းမှာ ၁၀ ဖြစ်သည်။ ၁၀ ၏ဆခွဲကိန်းများသည် ၂ နှင့် ၅ ဖြစ်သည်။ အကယ်၍ အပိုင်းဂဏန်းတခုတွင် ပိုင်းခြေ၏ ဆခွဲကိန်းများသည် ၂ နှင့် ၅ မှလွဲ၍ အခြား ဂဏန်းများ ဖြစ် ဘိ မူ၊ ထိုအပိုင်း ဂဏန်းကို တိကျသော ဒသမဂဏန်းဖြစ်အောင် ဖွဲ့၍မရနိုင်ပေ။ ဤနည်းဖြင့် အပိုင်း ဂဏန်း တခုကို တိကျသော ဒသမဖြစ်အောင်ဖွဲ့၍ရ၊ မရကို ကျွန်ုပ်တို့စစ်ဆေးကြည့်ရှုနိုင်ပေသည်။

ကျွန်ုပ်တို့သည် ဆခွဲကိန်းများကိုအသုံးပြုကာ အချို့သောအစားပုစ္ဆာများကို လွယ်ကူမြန်ဆန်စွာတွက်ယူနိုင်သည်။

ပုစ္ဆာ။ ၃၆၄ ကို ၂၈ နှင့်စားပါ။

တွက်နည်း။ ၂၈ ၏ဆခွဲကိန်းများမှာ ၄ နှင့် ၇ ဖြစ်ကြသည်။ ဤ ဂဏန်းများသည် ၃၆၄ တွင်ဝင်နိုင်သည်ဟု စိတ်၌ယူမှတ်ပြီးသော်၊ ၃၆၄ ကိုပဌမ ၄ နှင့်စားပါ။ စားလဒ် ၉၁ ကိုတဖန် ၇ နှင့်စားသော် ၁၃ ကို ရ သည်။ ထို့ကြောင့် ၃၆၄ ၏ဆခွဲကိန်းများမှာ ၄၊ ၇၊ ၁၃ တို့ဖြစ်ကြသည်။

$$၃၆၄ \div ၂၈ = \frac{၃၆၄}{၂၈} = \frac{\cancel{၇} \times \cancel{၄} \times ၁၃}{\cancel{၇} \times \cancel{၄}} = ၁၃$$

ဆခွဲကိန်းဖွဲ့ရာ၌ အောက်ပါအချက်များသည် အလွန်အသုံးဝင်သဖြင့် ယင်းတို့ကိုမှတ်သားထားသင့်သည်။

(၁) ပေးထားသောကိန်းတွင် ခုဂဏန်းသည် ၂၊ ၄၊ ၆ ကဲ့သို့ စုံဂဏန်းဖြစ်လျှင် ထိုကိန်းကို ၂ ဖြင့်စား၍ပြတ်သည်။

(၂) ပေးထားသောကိန်းသည် ဝ သို့မဟုတ် ၅ နှင့်ဆုံးလျှင် ထိုကိန်းကို ၅ နှင့်စား၍ပြတ်သည်။

(၃) ပေးထားသောကိန်းတွင်ပါသည့် ဂဏန်း အားလုံး၏ ပေါင်းရကိန်းကို ၃ နှင့်စား၍ပြတ်လျှင်၊ ပေးထားသည့်ကိန်းကို ၃ နှင့်စား၍ပြတ်သည်။

ပုစ္ဆာ။ ၂၇၃၀ ၏ဆခွဲကိန်းများကိုရှာပါ။

တွက်နည်း။ ၂၇၃၀ ၏ ခုဂဏန်းသည် ဝ ဖြစ်သောကြောင့် ၂ နှင့် ၅ တို့သည် ဤကိန်း၏ဆခွဲကိန်းများဖြစ်ကြသည်။ တဖန် (၂ + ၇ + ၃ + ဝ) သည် ၁၂ နှင့်ညီ၍၊ ၁၂ ကို ၃ နှင့်ပြတ်အောင်စားနိုင်သောကြောင့်၊ ၃ သည်လည်း ထိုကိန်း၏ဆခွဲကိန်းဖြစ်သည်။

$$\begin{aligned} ၂၇၃၀ &= ၂၇၃ \times ၅ \times ၂ \\ &= ၉၁ \times ၃ \times ၅ \times ၂ \end{aligned}$$

၉၁ ကိုတဖန် ဆခွဲကိန်းဖွဲ့လိုက်သော်၊ ၁၃ နှင့် ၇ ကိုရသည်။ ၂၇၃၀ = ၁၃ × ၇ × ၃ × ၅ × ၂

အခွဲမြောက်ကိန်းတူအကြီးဆုံးနှင့် ဗုံသုန်းကိန်းအငယ်ဆုံး

အခွဲမြောက်ကိန်းတူအကြီးဆုံးဆိုသည်မှာ ပေးထားသော ကိန်းနှစ်ခု သို့မဟုတ်နှစ်ခုထက်ပိုသည့် ကိန်းအားလုံးကိုပြတ်အောင်စားနိုင်သော အကြီးဆုံးကိန်းဖြစ်သည်။

ပုံစံအားဖြင့် ၃၂၊ ၄၈၊ ၇၂ ဟူသောကိန်းသုံးခုလုံးကိုပြတ်အောင်စားနိုင်သော အကြီးဆုံးကိန်းသည် ၈ ဖြစ်သည်။ ထို့ကြောင့် ၈ ကို ၃၂၊ ၄၈၊ ၇၂ တို့၏ အခွဲမြောက်ကိန်းတူအကြီးဆုံးဟုခေါ်သည်။

ဗုံသုန်းကိန်းအငယ်ဆုံး

အောက်ပါ ၆ နှင့် ၈ တို့၏အလီပေါင်းများကိုစစ်ဆေးကြည့်ပါ။

၆၊ ၁၂၊ ၁၈၊ ၂၄၊ ၃၀၊ ၃၆၊ ၄၂၊ ၄၈

၈၊ ၁၆၊ ၂၄၊ ၃၂၊ ၄၀၊ ၄၈

၄၈ သည် ၆ နှင့် ၈ တို့၏ဆတိုးကိန်းဖြစ်သည်။ ၂၄ သည်လည်း ၆ နှင့် ၈ တို့၏ဆတိုးကိန်းဖြစ်သည်။ ဤဆတိုးကိန်းနှစ်ခုတွင် ၂၄ သည် ၄၈ ထက်ငယ်သောကြောင့် ၂၄ ကို ၆ နှင့် ၈ တို့၏ဗုံသုန်းကိန်းအငယ်ဆုံးဟုခေါ်သည်။

ကျွန်ုပ်တို့သည် ဆခွဲကိန်းကိုအသုံးပြု၍ အောက်ပါအတိုင်းအခွဲမြောက်ကိန်းတူ အကြီးဆုံးနှင့် ဗုံသုန်းကိန်းအငယ်ဆုံးကို တွက်ယူနိုင်သည်။

ပုစ္ဆာ။ ၁၃၅၊ ၂၂၅ တို့၏အခွဲမြောက်ကိန်းတူအကြီးဆုံးကိုရှာပါ။

တွက်နည်း။ အထက်ပါဆခွဲကိန်းဖွဲ့နည်းကိုအသုံးပြု၍ ၁၃၅ နှင့် ၂၂၅ ကိုခွဲခြမ်းသောအခါ အောက်ပါဆခွဲကိန်းများကိုရရှိသည်။

၁၃၅ = ၂၇ × ၅ = ၅ × ၃ × ၉ = ၅ × ၃ × ၃ × ၃

၂၂၅ = ၄၅ × ၅ = ၅ × ၅ × ၉ = ၅ × ၅ × ၃ × ၃

ဤကိန်းနှစ်လုံးကိုပြတ်အောင် စားနိုင်သော ဂဏန်းများမှာ (၅ × ၃ × ၃) ပင်ဖြစ်သည်။ ထို့ကြောင့် အခွဲမြောက်ကိန်းတူအကြီးဆုံးသည် ၄၅ ဖြစ်သည်။

ဖြေရှင်းချက်။ ပေးထားသည့်ကိန်းတို့၏ အခွဲမြောက်ကိန်းတူ အကြီးဆုံးကိုလိုလျှင်၊ ထိုကိန်းများတွင် ပါရှိသော ဆခွဲကိန်းတူများကို မြှောက်ယူပါလေ။ (၃ × ၃ × ၃) ဟူသောဆခွဲကိန်းနှင့် ၁၃၅ ကိုစား၍ပြတ်သော်လည်း၊ ယင်းနှင့် ၂၂၅ ကိုစား၍မပြတ်ချေ။ အကြောင်းမူကား၊ (၃ × ၃ × ၃) သည် ၂၂၅ ၏ဆခွဲကိန်းမဟုတ်။ (၃ × ၃) သာလျှင် ၂၂၅ ၏ဆခွဲကိန်းဖြစ်သောကြောင့်တည်း။ ထိုနည်းတူ (၅ × ၅) သည် ပေးထားသောကိန်း ၂ ခုနှင့် သက်ဆိုင်သောဆခွဲကိန်းမဟုတ်။ ၅ သာလျှင်ကိန်း ၂ ခုလုံးနှင့် သက်ဆိုင်ပေသည်။ ထို့ကြောင့် ၅ × (၃ × ၃) သာလျှင် ဆခွဲမြောက်ကိန်းတူအကြီးဆုံးဖြစ်သည်။

ပုစ္ဆာ။ အောက်ပါကိန်းတို့၏ အငယ်ဆုံး ဗုံသုန်းကိန်းကိုရှာပါ။

၁၂၀၊ ၁၄၄၊ ၉၆

အထက်တွင်ဖော်ပြထားသည့် ဆခွဲကိန်း ဖွဲ့ယူနည်းဖြင့်

၁၂၀ = ၁၂ × ၅ × ၂ = ၆ × ၂ × ၅ × ၂ = ၃ × ၂ × ၂ × ၅ × ၂

၁၄၄ = ၃ × ၄၈ = ၃ × ၃ × ၁၆ = ၃ × ၃ × ၂ × ၂ × ၂ × ၂

၉၆ = ၃ × ၃၂ = ၃ × ၂ × ၂ × ၂ × ၂ × ၂

∴ ဗုံသုန်းကိန်းအငယ်ဆုံး = (၂ × ၂ × ၂ × ၂ × ၂) × (၃ × ၃) × ၅ = ၁၄၄၀

ဖြေရှင်းချက်။ လိုအပ်သော ဗုံသုန်းကိန်းအငယ်ဆုံးတွင် (၂ × ၂ × ၂ × ၂ × ၂) ဟူသော ဆခွဲကိန်းပါရှိမှသာလျှင်၊ ထိုဗုံသုန်းကိန်းအငယ်ဆုံးကို ၉၆ နှင့်စား၍ပြတ်ပေမည်။ ထိုနည်းတူ ဗုံသုန်းကိန်းအငယ်ဆုံးတွင် (၃ × ၃) ဟူသော ဆခွဲကိန်းမပါလျှင် ထို ဗုံသုန်းကိန်းအငယ်ဆုံးကို ၁၄၄ နှင့်ပြတ်အောင်မစားနိုင်ချေ။

ထို့နောက် ဗုံသုန်းကိန်းအငယ်ဆုံးတွင် ၅ ဟူသော ဆခွဲကိန်းမပါရှိလျှင် ထိုဗုံသုန်းကိန်းအငယ်ဆုံးကို ၁၂၀ နှင့်စား၍မပြတ်နိုင်ချေ။ ထို့ကြောင့် လိုအပ်သောဗုံသုန်းကိန်း အငယ်ဆုံးသည် (၂ × ၂ × ၂ × ၂ × ၂) × (၃ × ၃) × ၅ = ၁၄၄၀ ဖြစ်သည်။ (ဂဏန်းသင်္ချာ — ရှု။)

**ဆဒုံးမြို့။** ။ကချင်ပြည်နယ်အတွင်းရှိ မြို့တမြို့ဖြစ်၍၊ မြစ်ကြီးနားမြို့အရှေ့ဖက် မိုင် ၄၀ ခန့်အကွာ ပေ ၄၀၀၀ ကျော်မြင့်သော တောင်တန်းတခုပေါ်တွင် တည်ရှိသည်။ ရာသီ



ဆဒုံးမြို့ခံတပ်ဟောင်း



ကချင်ပြည်နယ်ရှိ သာယာလှသော ဆဒုံးမြို့

ဥတု မျှတသော မြို့ဖြစ်သည်။ မြစ်ကြီးနားမှ တရုပ်နယ်စပ်ရှိ ကမ်ပိုင်တီတောင်ထိပ် သွားရာလမ်းတွင် တည်ရှိသည်။ လား၊ မြင်းစသော ဝန်တင်တိရစ္ဆာန်များဖြင့် သာ သွားလာနိုင်သည်။ ကချင်တောင်တန်းဒေသကို အုပ်ချုပ်သော နယ်ခြားဝန်ထောက် ရုံးစိုက်ရာဌာန ဖြစ်လေသည်။

ဆပရိုဖစ်တစ်ငင်း။ ။အပင်တို့သည် များသောအားဖြင့် ကလိုရိုဖီခေါ် အစိမ်းဓာတ်ရှိမှ မိမိတို့အလိုအလျောက် အာဟာရကို ဖြစ်ထွန်းစေနိုင်သည်။ အရပ်သုံးစကားနှင့် ဆိုသော်၊ မိမိတို့ ဖာသာ မိမိတို့ အစာချက်ယူနိုင်သည်ဟု ဆိုရမည်။ မှိုနှင့်ကျောက်ခက်ပင်တို့၌ ကလိုရိုဖီမရှိ၍ မိမိတို့ဖာသာ အစာမချက်လုပ်နိုင်ကြပေ။ ထိုအပင်မျိုးတို့သည် အသက်ရှင်လျက် ရှိသော အပင်နှင့် တိရစ္ဆာန်များမှရင်း၊ အသက်သေပြီးဖြစ်သောအပင်နှင့် တိရစ္ဆာန်များမှရင်း အစာရရှိကြသည်။ သက်ရှိအပင်နှင့် တိရစ္ဆာန်များမှ အစာရရှိသော အပင်မျိုးကို ပါရဆိုက်ဟု ခေါ်သည်။ သေပြီးအပင်နှင့် တိရစ္ဆာန်များမှ အစာရရှိသောအပင်မျိုးကို ဆပရိုဖိုက်ဟု ခေါ်သည်။ ဆပရိုဖိုက်တို့သည် အင်ဒိုင်းခေါ် ပဗ္ဗည်းများကို ထုတ်၍၊ သေပြီးအပင်နှင့် တိရစ္ဆာန်တို့ကို ဆွေးမြည့်စေသည်။ ဤသို့ဖြင့် မိမိတို့အတွက် အစာလည်းရရှိ၍ လူတို့အား အန္တရာယ်ဖြစ်စေမည့် ပုပ်သိုးသောအရာများကိုလည်း ပပျောက်အောင် ဆောင်ကြဉ်းပေးသည်။ ပါရဆိုက်တို့သည်ကား ရောဂါ အမျိုးမျိုးကျရောက်စေနိုင်သဖြင့် ဆပရိုဖိုက်တို့ကဲ့သို့ လူတို့အား အကျိုးမဖြစ်စေနိုင်ချေ။

ဆပင်စာ, ဟားဗတ် (ခရစ် ၁၈၂၀ - ၁၉၀၃)။ ။ဟားဗတ် ဆပင်စာသည် အင်္ဂလိပ်လူမျိုး ယထာဘူတပညာရှင်တဦးဖြစ်၍၊ ၁၈၂၀ ပြည့်နှစ် ဧပြီလ ၂၇ ရက်နေ့၌ အင်္ဂလန်ပြည် ဒါဗီမြို့တွင် မွေးဖွားသည်။ သူ၏ဖခင်မှာ ကျောင်းဆရာတဦးဖြစ်သည်။ ဖခင်ဖြစ်သူသည် ထုံးတမ်းစဉ်လာတို့ကို လိုက်နာလက်ခံသူ မဟုတ်ချေ။ ထိုကြောင့် ဖခင်ဖြစ်သူ၏ သွန်သင်မှုကိုခံယူခဲ့သော ဆပင်စာမှာ အတွေးအခေါ်အမြော်အမြင်ကြီးသူတယောက် ဖြစ်လာလေသည်။ သူသည် မွေးတာအလျောက် အဆင့်ဆင့် ဖွံ့ဖြိုးကြီးပွားလာခြင်းနှင့် ပြောင်းလဲမှုများကိုသာ တွေးခေါ်ကြံဆနေတတ်သူ ဖြစ်သည်။ သူ့ခေတ်တွင် ထွန်းကားလျက်ရှိသော သိပ္ပံပညာ



အင်္ဂလိပ်လူမျိုး ယထာဘူတပညာရှင် ဟားဗတ် ဆပင်စာ

ဆိုင်ရာအတွေ့သစ်များကို မှီငြမ်းပြုလျက် ဘာသာရပ်များအားလုံးတွင် အသုံးပြုနိုင်မည့် ယထာဘူတပညာတရပ်ကို ဖော်ထုတ်ရန် အထူးကြိုးစားခဲ့ခြင်းကြောင့်လည်း ကျော်ကြားခဲ့ပေသည်။

ဆပင်စာသည် ၁၈၃၇ ခုနှစ်မှ ၁၈၄၆ ခုနှစ်အထိ လန်ဒန်နှင့်ဗာမင်ဂမ်မီးရထားကုမ္ပဏီတွင် အင်ဂျင်နီယာအဖြစ် အမှုထမ်းခဲ့ပြီးနောက်၊ ထိုအလုပ်ကို စွန့်လွှတ်၍၊ 'စီးပွားရေး' သတင်းစာတွင် လက်ထောက်စာတည်းအဖြစ်ဖြင့် ၁၈၄၈ ခုနှစ်မှ ၁၈၅၃ ခုနှစ်အထိ လုပ်ကိုင်ယင်း စာပေပညာရပ်အမျိုးမျိုးတို့ကို လေ့လာလိုက်စားခဲ့သည်။ သူသည် သိပ္ပံပညာ၊ ယထာဘူတပညာတို့နှင့် သက်ဆိုင်သော အကြောင်းရပ် များစွာကို ရေးသားထုတ်ဝေခဲ့လေသည်။ ၁၈၆၀ ပြည့်နှစ်တွင် သူ၏ 'သမ္ဘာရ ယထာဘူတပညာရပ်' ဆိုင်ရာ စာစဉ်များကို စတင်ထုတ်ဝေလိုက်၏။ အထင်ရှားဆုံးသော စာစဉ်များမှာ 'ရှေးဦးအခြေခံသဘောတရားများ'၊ 'ဇီဝဗေဒအခြေခံသဘောတရားများ'၊ 'စိတ်ပညာအခြေခံသဘောတရားများ'၊ 'လူမှုရေးရာအခြေခံသဘောတရားများ' နှင့် 'လူ့ကျင့်ဝတ်အခြေခံ သဘောတရားများ' စသည်တို့ ဖြစ်ကြသည်။ ဆပင်စာသည် ၁၉၀၃ ခုနှစ် ဒီဇင်ဘာလ ၈ ရက်နေ့တွင် ဗရိုက်တန်မြို့၌ ကွယ်လွန်လေသည်။

**ဆပင်စာ, အက်ဒမန်** (ခရစ် ၁၅၅၂–၉၉)။ ။အယ်လစ်ဇဗက်ခေတ်တွင် ထင်ရှားကျော်ကြားခဲ့သော ကဗျာစာဆိုများအနက် အက်ဒမန် ဆပင်စာသည်တဦးအပါအဝင် ဖြစ်သည်။ ၁၅၅၂ ခုနှစ်တွင် လန်ဒန်မြို့၌ ဖွားမြင်ခဲ့သည်။ 'မားချင့်တေလာကျောင်း' မှတဆင့် ကိန်းဗရစ်တက္ကသိုလ်ကျောင်းသို့ ကူးပြောင်း၍ ပညာသင်ယူခဲ့၏။ ၁၅၇၉ ခုနှစ် ကျောင်းမှထွက်စတွင် ဆပင်စာသည် 'သ ရှက်ပတ် ကယ်လင်ဒါ' ခေါ် ကဗျာကို သူ၏မိတ်ဆွေ ဆာ ဖိလစ် ဆစ်ဒနီအား ရည်ညွှန်းလျက် ရေးသားခဲ့၏။ (ဆစ်ဒနီ, ဆာဖိလစ် — လည်းရှု။) ဆာဖိလစ်၏ဦးရီးတော် လက်စတာ မြို့စား၏အကူအညီဖြင့် ၁၅၈၀ ပြည့်နှစ်တွင် အိုင်ယာလန်ပြည်ဘုရင်ခံ၏အတွင်းဝန်အဖြစ်ခန့်အပ်ခြင်းခံခဲ့ရသည်။ အိုင်ယာလန်ပြည်တွင် ပုန်ကန်ထကြွမှုများ ပေါ်ပေါက်လာသောအခါ၊ 'အိုင်ယာလန်ပြည်၏ လက်ရှိအခြေအနေနှင့် ကျွန်ုပ်၏အမြင်' ခေါ် စာစောင်ကို ထုတ်ဝေလိုက်လေသည်။ ယင်းစာစောင်မှာ အယ်လစ်ဇဗက်ခေတ် အိုင် ယာ လန် ပြည် ကို ဖိနှိပ်သောဝါဒအား အကျိုးပြုသော စာစောင်ဖြစ်လေရာ၊ ဆပင်စာသည် ကော့ခရိုင်တွင် မြေကေ ၃၀၀၀ နှင့် ကီလကိုမန် ရဲတိုက်ကို ဆုလပ်အဖြစ်ဖြင့် ချီးမြှင့်ခြင်း ခံရလေသည်။

ဆပင်စာအား ကျော်စောထင်ရှားလာစေသောကဗျာမှာ



အယ်လစ်ဇဗက်ခေတ် ကဗျာဆရာကြီး အက်ဒမန် ဆပင်စာ

အခန်း ၁၂ ခန်းဖြင့်ဖွဲ့ဆိုသီကုံးသော 'ဖယ်ရီကွင်း' ဟူသော လင်္ကာကြီး ဖြစ်ပေသည်။ ထိုလင်္ကာ၏ ဖွဲ့ပုံဖွဲ့နည်းတို့မှာ ကဏ္ဍသုခ ဖြစ်စေသောကြောင့်၊ အင်္ဂလိပ်ကဗျာ စာဆိုအပေါင်းက ဆပင်စာကို ကဗျာစာဆိုတို့၏ကဝိဟု အသိအမှတ်ပြုကြသည်။ ထိုလင်္ကာကြီးကို ဆပင်စာသည် အိုင်ယာလန်ပြည်၌နေထိုင်စဉ် ရေးသားစီကုံး၍၊ ဆာဝေါလတာရော်လီ၏ အကူအညီဖြင့် အယ်လစ်ဇဗက်ဘုရင်မ၏ရှေ့မှောက်သို့ ဝင်ရောက်၍ ယင်းလင်္ကာကြီးကို ဆက်သခွင့်ရခဲ့သည်။ ခရစ် ၁၅၉၀ ပြည့်နှစ်တွင် လန်ဒန်မြို့၌ ရိုက်နှိပ်ထုတ်ဝေခဲ့သည်။

ဆပင်စာသည် ၁၅၉၄ ခုနှစ်တွင် အယ်လစ်ဇဗက် ဗွိုင်းနှင့် လက်ထပ်ထိမ်းမြား၍၊ ကီလကိုမန် ရဲတိုက်၌ ဆက်လက်နေထိုင်ခဲ့သည်။ သို့သော် အိုင်ယာလန်ပြည်နှင့် စပ်လျဉ်းသော သူ၏ ပြင်းထန်သည့် ဖိနှိပ်ရေးအယူအဆတို့ကြောင့်၊ အိုင်ရစ်သူပုန်များ ထကြွသောအခါ၊ ဆပင်စာသည် သူ၏ဇနီးနှင့်အတူ လက်လွတ်ထွက်ပြေးရသည်။ နေထိုင်ရာရဲတိုက်မှာလည်း သူပုန်တို့မီးတင်ရှို့ဖျက်ဆီးခြင်းကိုခံရသည်။ သူပုန်ရန်မှထွက်ပြေးတိမ်းရှောင်၍၊ လန်ဒန်မြို့သို့ ပြန်ရောက်ပြီး တလမျှအကြာတွင်၊ ၁၅၉၉ ခုနှစ် ဇန္နဝါရီလ ၁၃ ရက်နေ့၌ ဆပင်စာ ကွယ်လွန်အနိစ္စရောက်လေသည်။ သူ၏ရုပ်ကလာပ်ကို ဝက်စမင်စတာအက်ဗေးတွင် သင်္ဂြိုဟ်မြှုပ်နှံထားသည်။

**ဆပင်နိုဇာ, ဗီ (ခရစ် ၁၆၃၂–၁၆၇၇)။** ။ဗာရွတ် ဆပင်နိုဇာသည် ၁၆၃၂ ခုနှစ် နိုဝင်ဘာလ ၂၄ ရက်နေ့တွင် ဟော်လန်နိုင်ငံ၊ အမ်စတာဒမ်မြို့၌ မွေးဖွားခဲ့သော ယဟူဒီမျိုးနွယ် ယထာဘူတ ပညာရှင်တဦးဖြစ်သည်။ သူ၏မိဖများမှာ ခရစ်ယန် သာသနာရေးဆိုင်ရာ တရားရုံးတော်၏ ပညတ်ချက်တို့ကြောင့် ပေါ်တူဂီနိုင်ငံမှအမ်စတာဒမ်မြို့သို့ထွက်ပြေးတိမ်းရှောင်လာခဲ့ကြသော အယူသည်း ယဟူဒီလူမျိုးများတွင် အပါအဝင် ဖြစ်ကြသည်။ သူ့အား ငယ်စဉ်က ယဟူဒီကျောင်းတကျောင်းတွင်ထားကာ မိရိုးဖလာ ဟီဗြူစာပေပညာကိုသာ သင်ကြားစေခဲ့သော်လည်း၊ သူသည် ဘာသာစကားများ၊ သင်္ချာနှင့် ရူပဗေဒ ပညာရပ်တို့ကို အပြင်တွင် လေ့လာသင်ကြားတတ်မြောက်ခဲ့၏။ သူသည် လွတ်လပ်စွာတွေးတောကြံဆလိုသူဖြစ်ရာ၊ ၁၈ နှစ်အရွယ်သို့ ရောက်လျှင် ယဟူဒီတို့၏ အယူအဆများကို လက်မခံနိုင်တော့ကြောင်းတွေ့ရလေသည်။ သူ၏ရင်တွင်း၌ ပေါ်ပေါက်လာသော ယုံမှားသံသယများကို လူအများအား ဖွင့်ဟ ပြောဟောခြင်းမပြုရန် အတွက် သာသနာရေးဆိုင်ရာတို့က လာဘ်ထိုးတောင်းပန်ခဲ့ဘူးသည်။ သို့သော်ငြင်းပယ်ခဲ့သောကြောင့် သူတပါးတို့က သေကြောင်းကြံစည်သည်ကို ခံခဲ့ရသည်။ ကံကောင်းထောက်မ၍ မသေချေ။ သို့ရာတွင် ၁၆၅၆ ခုနှစ်၌ ယဟူဒီတို့က သူ့အား ကြဉ်လိုက်ကြလေသည်။

ထိုနောက် ဆပင်နိုဇာမှာ မိတ်ဆွေတဦးထံတွင် မှီခိုနေထိုင်၍၊ မှန်ဘီလူးများသွေးသော အလုပ်ဖြင့် အသက်မွေးဝမ်းကျောင်းလျက် အေးဆေးစွာနေခဲ့၏။ ယင်းပညာကို သူသည် အတော်ပင် ကျွမ်းကျင်တတ်မြောက်ခဲ့လေသည်။ ထိုစဉ်က ဟော်လန်ပြည်သည် လွတ်လပ်စွာ တွေးတောကြံဆလိုသူများ၏ ခိုလှုံရာဖြစ်ခဲ့၏။ သို့ဖြစ်ရာ၊ ဆပင်နိုဇာသည် ထိုလွတ်လပ်စွာ တွေးတောတတ်သူပုဂ္ဂိုလ်များနှင့် တွေ့ဆုံခွင့်ရခဲ့လေသည်။ သူသည် ဒေးကတ်၏ ယထာဘူတပညာရပ်ကို အထူးသဖြင့် နှစ်သက်သဘောကျခဲ့သည်။ (ဒေးကတ်, အာ — လည်းရှု။) ၁၆၆၀ ပြည့်နှစ်မှ ၁၆၇၅ ခုနှစ်အထိဖြစ်သော အချိန်ကာလအတွင်း သူသည် 'အက်သစ်' ခေါ် နီတိ



ယဟူဒီလူမျိုး သဘာဝတ္တပညာရှင် ဆပင်နိုဇာ

ကျမ်းတစောင်ကို ရေးသား ပြုစုခဲ့၏။ ထိုကျမ်းတွင် သူ၏ ယထာဘူတ ပညာရပ်ဆိုင်ရာ အဆိုများကို ဖော်ပြထားလေသည်။ သူသည် ပင်ပန်းစွာ လုပ်ကိုင်စားသောက်ခဲ့ရသဖြင့် အသက်အရွယ် ငယ်ငယ်နှင့်ပင်၊ ၁၆၇၇ ခုနှစ် ဖေဖွာရီလ ၂၁ ရက်နေ့၌ အနိစ္စရောက်လေသည်။

**ဆမိုးဝါးကျွန်းစု။** ။ဆမိုးဝါးကျွန်းစုသည် ပစိဖိတ်သမုဒ္ဒရာတောင်ပိုင်းတွင် ရှိ၍၊ ကျွန်းကြီး ကိုးကျွန်းနှင့် ကျွန်းငယ် ငါးကျွန်းပါဝင်၏။ ထိုကျွန်းများသည် တွန်းဂါးကျွန်းစုမှ မြောက်ဖက် ၁၃၀ မိုင်အကွာတွင် ရှိ၍၊ ဖီးဂျီးကျွန်းမှ အရှေ့မြောက်ဖက်မိုင် ၄၀၀ မှမိုင် ၅၀၀ အထိ ကွာဝေးလေသည်။ ထိုကျွန်းအားလုံးတို့သည် မီးတောင်များမှ ဖြစ်ပေါ်

ခဲ့သော ကျွန်းများ ဖြစ်ကြ၏။ ယင်းတို့အားလုံးလိုလိုပင် သန္တာကျောက်တန်းများနှင့်ဝန်းရံလျက်ရှိသည်။ ထိုကျွန်းများ၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၂၀၃ မိုင်မျှရှိ၍၊ လူဦးရေ ၁၁၃,၀၀၀ ယောက်ရှိလေသည်။

ဆမိုးဝါးကျွန်းများတွင် တောင်ကုန်းများရှိ၍၊ အတွင်းဖက်၌ သစ်တောများဖုံးလွှမ်းလျက် ရှိ၏။ ပင်လယ်ကမ်းရိုးမှာ ကမ်းပါးစောက်များ ဖြစ်သည်။ တူးတုအီးလားကျွန်းရှိပါးဂိုးပါးဂိုးမြို့သည် ပစိဖိတ်သမုဒ္ဒရာ တောင်ပိုင်းတွင် သင်္ဘောဆိပ်ကောင်း တခု ဖြစ်၍ အမေရိကန်ရေတပ်စခန်းမြို့လည်းဖြစ်လေသည်။ ထိုကျွန်းစု၏ထွက်ကုန်များမှာ အုန်းသီးဆန်ခြောက်၊ ကိုကိုး၊ ကြက်ပေါင်စေး၊ ငှက်ပျောသီးနှင့် သစ်သီးများ ဖြစ်သည်။

ထိုကျွန်းစုကို ၁၇၂၂ ခုနှစ်က ပင်လယ်ခရီးသွား ဒပ်ချ်လူမျိုး တဦးက စတင်တွေ့ရှိခဲ့၏။ ၁၇၆၈ ခုနှစ်တွင် ဗူးဂင်ဗီးကနဲဗီလေး တားကျွန်းစုဟု အမည်ပေးခဲ့သည်။ ၁၈၆၈ ခုနှစ်မှစ၍ ထိုကျွန်းစုရှိ တိုင်းရင်းသားအကြီးအကဲများသည် အချင်းချင်းတန်ခိုးအာဏာလုပွဲဖြစ်ကာ တိုက်ခိုက်ခဲ့ကြ၏။ ထိုအခါ ဂရိတ်ဗြိတိန်၊ ဂျာမနီနှင့် အမေရိကန်တို့သည် တိုင်းရင်းသားများ အရေးတွင် ဝင်ရောက်စွက်ဖက်ကြပြီးလျှင်၊ ထိုကျွန်းစုများကို ပိုင်ဆိုင်လွှမ်းမိုးနိုင်ရန်ကို ကြိုးစားလာကြလေ၏။ ၁၈၉၉–၁၉၀၀ ခုနှစ်များတွင်ကားသဘောတူစာချုပ်ကို ချုပ်ဆိုခဲ့ကြရာ၊ ထိုစာချုပ်အရ ဂရိတ်ဗြိတိန်သည် ဆမိုးဝါးကျွန်းစုများတွင် ရရှိထားသောအခွင့်အရေးများကို စွန့်လွှတ်၍၊ ဂျာမနီနှင့် အမေရိကန်တို့ကို အလျှော့ပေးရလေ၏။ ယင်းသို့ဖြင့် ထိုနိုင်ငံကြီးနှစ်နိုင်ငံက ပဌမကမ္ဘာစစ်ကြီးမဖြစ်မီအထိ ထိုကျွန်းစုများကို ကြီးစိုးနေခဲ့၏။

ပဌမကမ္ဘာစစ်ကြီး ဖြစ်ပွားသောအခါ၊ ဗြိတိသျှစစ်တပ်များသည် ဂျာမန်ပိုင် အူပိုးလူကျွန်းရှိ အားပီယားသင်္ဘောဆိပ်မြို့ကို သိမ်းပိုက်လိုက်ကြ၏။ ၁၉၂၀ ပြည့်နှစ်တွင်ကား နိုင်ငံပေါင်းချုပ်အသင်းကြီးက ဆမိုးဝါးကျွန်းစုထဲမှ ဂျာမန်တို့ကြီးစိုးခဲ့သော ကျွန်းအားလုံးကို နယူးဇီလန်၏ဩဇာခံအဖြစ် ထားပေးခဲ့၏။ ထိုကျွန်းများကို အနောက်ဖက်ဆမိုးဝါးနယ်ဟု ခေါ်သည်။



ဆမိုးဝါးကျွန်းသားတဦး

အမေရိကန်ပိုင်သော ဆမိုးဝါးကျွန်းများကို အမေရိကန်ရေတပ်က စောင့်ကြပ်အုပ်ချုပ်လျက်ရှိ၏။ တူးတုအီးလားမှာ အမေရိကန်ပိုင် ဆမိုးဝါးကျွန်းစုထဲတွင် အရေးပါဆုံးကျွန်းဖြစ်သည်။ ထိုကျွန်းသည် ပစိဖိတ်သမုဒ္ဒရာဖက်ရှိ အမေရိကန်စစ်စခန်းများ၊ ရေကြောင်းခံတပ်များနှင့် ဆက်သွယ်ရာ၌ အရာရောက်လှသောရေတပ်စခန်းဖြစ်၏။

ဆမိုးဝါးကျွန်း ချိုင့်ဝှမ်းဒေသတို့မှာ မြေဩဇာကောင်း၏။ ရာသီဥတုလည်း သင့်တင့်မျှတသည်။ ဆမိုးဝါးတိုင်းရင်းသားများသည် ပေါ်လီနီးရှင်း လူမျိုးစုမှ ဆင်းသက်လာသူများ ဖြစ်ကြသည်။ အရပ်ထောင်ထောင်မောင်းမောင်း ရှိ၍၊ အသားညိုလျက် ရုပ်ရည်တင့်တယ်သည်။ ရိုးရိုးနှင့် အေးအေးနေတတ်သည်။ စေတနာကောင်း၍ စိတ်ထားမြင့်မြတ်သူများလည်း ဖြစ်ကြ၏။ များသောအားဖြင့် ခရစ်ယန်များ ဖြစ်ကြ၏။

အူပိုးလူကျွန်း၌ အင်္ဂလိပ်စာရေးဆရာကြီး ရောဗတ် လူဝီစတီဗင်ဆန်သည် နှစ်ပေါင်းများစွာ နေထိုင်ခဲ့၍၊ ထိုကျွန်း၌ပင် ကွယ်လွန်ခဲ့ရာ၊အားပီယားမြို့အနီးတွင် မြှုပ်နှံထားလေသည်။ (စတီဗင်ဆန်၊ အာ၊ အယ် — ရှု။)

**ဆရာတော်များ။** ။သံဃာဂိုဏ်းဝင် ဆရာတော်အရှင်သူမြတ်တို့သည် မြန်မာတို့၏ ကျေးဇူးရှင်ကြီးများ ဖြစ်ကြပေသည်။ ဆရာတော်တို့၏ ဂုဏ်ကျေးဇူးကြောင့်၊ မြန်မာတို့သည် ဗုဒ္ဓသာသနာ၏ အဆုံးအမ၌ တည်၍၊ ဗုဒ္ဓသာသနာကို အခြေခံသော မြန်မာ့ယဉ်ကျေးမှုတို့ ထွန်းကားခဲ့ရပေသည်။ မြန်မာတို့သည် ငယ်စဉ်အခါကစ၍ မြန်မာ ဘုန်းတော်ကြီးကျောင်းများတွင် စာပေသင်ကြားခဲ့ရသည်။ ရှေးခေတ်က ဘုန်းကြီးကျောင်းများဟူသည်မှာ လောကီလောကုတ္တရာ နှစ်ဖြာသော ပညာဗဟုသုတတို့ကို သင်ကြားပေးရာဌာနကြီးများဖြစ်သည့်အားလျော်စွာ၊ အနောက် ဥရောပနိုင်ငံတို့တွင်

အလယ်ခေတ်ကအစပြု၍ ထွန်းကားခဲ့သော ခရစ်ယန် ဘုန်းတော်ကြီးကျောင်းများကဲ့သို့ပင် ပညာရေး၌ အချက်အခြာမဏ္ဍိုင်ကြီးများ ဖြစ်သည်။ ခရစ်ယန်ဘုန်းတော်ကြီးကျောင်းများမှ တစတစ တက္ကသိုလ်ကျောင်းများ ပေါ်ထွန်းလာခဲ့သည်။ မြန်မာဘုန်းတော်ကြီး ကျောင်းများသည်လည်း မြန်မာဘုရင်တို့ လက်ထက်တွင် မြန်မာ့တက္ကသိုလ်ကျောင်းကြီးများ ဖြစ်ကြသည်။ ထိုသို့ တက္ကသိုလ်နှင့်တူသော မြန်မာဘုန်းတော်ကြီးကျောင်းများ၌ ငယ်စဉ်ကစ၍ ပညာသင်ကာ ကြီးပြင်းရသော မြန်မာတို့သည် ဗုဒ္ဓအယူဝါဒ၌ ရှိသေကိုင်းညွတ်ရုံမျှ မကသေး၊ ဗုဒ္ဓသာသနာကို အခြေခံသော ယဉ်ကျေးမှု ဓလေ့ထုံးတမ်းတို့ကိုလည်း ခိုင်မာစွာ ထူထောင်နိုင်ခဲ့သည်။

ဘုန်းကြီးကျောင်း ပညာသင်ကြားရေးသည် လောကီလောကုတ် နှစ်ဝယဉ်၍ သင်ကြားပေးသော စံနစ်ဖြစ်ခြင်းကြောင့်၊ မြန်မာတို့၌ စာပေအမွေအနှစ်နှင့် အခြားသော သုခုမနှင့် ဗိသုကာဆိုင်ရာ အနုပညာအမွေအနှစ်တို့သည် သားစဉ်မြေးဆက် အစဉ်မပျက် တည်ရှိခဲ့လေသည်။ အဆက်ဆက်သော ဆရာတော်များသည် ဗုဒ္ဓမြတ်စွာ၏ ပါဠိပိဋကတော်များကို နိဿယပြန်အားဖြင့်၎င်း၊ စကားပြေဖြင့်၎င်း၊ ပျို့ကဗျာလင်္ကာစသည်တို့ဖြင့်၎င်း၊ အများအပြား ပြန်ဆိုရေးသားတော်မူခဲ့ကြသည်။ နှောင်းလူဖြစ်သော လူပုဂ္ဂိုလ်၊ ရဟန်းပုဂ္ဂိုလ်အသီးသီးတို့သည်လည်း ယင်းတို့ကိုပတ်ရှုလေ့လာ၍၊ စာပေအစဉ်ကို မပြတ်စေရအောင်၊ ထပ်မံဆက်လက်ရေးသားကြပြန်သည်။ ဤနည်းဖြင့် မြန်မာစာပေ အစဉ်အလာသည် ဆက်ကာဆက်ကာ တိုးတက် ပြန့်ပွားလာလေရာ၊ ယခုခေတ်အထိ မြန်မာကဝိစာဆိုပုဂ္ဂိုလ်များ၊ ကျမ်းပြုဆရာများ၊ စာရေးဆရာများသည် ဆက်လက် ထွန်းကားလျက်ရှိလေသည်။

ထို့ပြင်၊ 'အလိမ္မာစာမှာရှိ' ဟူသောစကားပုံအရ၊ ဆရာတော်များကထားခဲ့သော စာအမွေအနှစ်တို့ကြောင့်၊ မြန်မာတို့သည် လူမှုရေးရာတို့၌ လိမ္မာကျွမ်းကျင် လာကြရသည်။ ထို လူမှုရေး အခြေခံတို့ဖြင့်လည်း မြန်မာ့ ယဉ်ကျေးမှု အဆောက်အအုံကို ခိုင်မြဲအောင် ထူထောင်၍၊ ထိန်းသိမ်းစောင့်ရှောက်နိုင်ခဲ့ကြလေသည်။ ထိုမျှမကသေး၊ ဆရာတော်များ၏ သမ္မာဒိဋ္ဌိတရား လေးပါး အဆုံးအမတို့ကြောင့်၊ မြန်မာတို့၏စီးပွားရေးသည်လည်းညီညွတ်မျှတသော စီးပွားရေးဖြစ်ခဲ့သည်။

ထိုမျှလောက် ကျေးဇူးကြီးမားသော ဆရာတော်များ၏ အကြောင်းကို သိထားထိုက်သည် ဖြစ်သောကြောင့်၊ ပုဂံခေတ်သက္ကရာဇ် ၄၀၀ ခန့်မှအစပြု၍၊ ယခုခေတ်အထိ ထင်ရှားခဲ့သော ဆရာတော်များကို ခေတ်အလိုက်သော်၎င်း၊ သက္ကရာဇ်အလိုက်သော်၎င်း ဖော်ပြအပ်ပါသည်။ ယင်းသို့ ဖော်ပြရာ၌ ကျော်စောထင်ရှားသော ဆရာတော်များသည် ခေတ်တိုင်း၌ပင်အလွန်များပြားသောကြောင့်၊ ဤ၌ အလုံးစုံမဖော်ပြလိုက်ပါ။ ခေတ်စုံရုံမျှ ရွေးချယ်၍ ဖော်ပြပါသည်။

ဆရာတော်များ၏အကြောင်းကို ရေးသားရာ၌၊ (၁) ၁၁၉၃ ခုနှစ်၊ မင်းတိုင်ပင်အမတ် မဟာဓမ္မသင်္ကြံ ပြုသော သာသနာလင်္ကာရစာတမ်း၊ (၂) ၁၂၁၃ ခုနှစ်၊ မင်းလှသီရိသီဟသူပြုသော ဆရာတော်များဦးရေစာရင်း၊ (၃) ၁၂၄၈ ခုနှစ်၊ မိုင်းခိုင်းမြို့စား အတွင်းဝန် ပိဋကတ်တော်အုပ်ဦးရန်ပြုသော ပိဋကတ်သမိုင်းစာတမ်း၊ (၄) ဟင်္သာတမြို့ မြစ်ကွေ့ဆရာတော်ဦးပညာဝံသ၏မှတ်စုများကို အရင်းခံမှီငြမ်းပြု၍၊ ဟင်္သာတမြို့ သပြေပင်ဆရာတော် အဂ္ဂမဟာပဏ္ဍိတ ဦးသောဘဏပြုစုသော သာသနဝံသဒီပနီ (၁၂၈၂) နှင့် အခြားထေရုပ္ပတ္တိများ၊ ကျမ်းနိဒါန်း၊ နိဂုံးများနှင့် ညှိနှိုင်းတိုက်ဆိုင်ရေးသားပါသည်။ အချို့ အထူး ထင်ရှားသော ဆရာတော်များ၏ထေရုပ္ပတ္တိအကျယ်ကို စွယ်စုံကျမ်းတွင် သီးခြားဖော်ပြထားပါသည်။

၁။ ။ရှင်အရဟံ

ရှင်အရဟံသည် ပုဂံပြည် အနော်ရထာမင်းလက်ထက်တွင် မြန်မာနိုင်ငံ၌ ဗုဒ္ဓသာသနာကို စတင်ပြုစုသောဆရာတော်ဖြစ်သည်။ ဘွဲ့မှာ ရှင်ဓမ္မဒဿီဖြစ်၏။ ဇာတိကား သထုံမြို့ဟုဆိုသည်။ ရှင်အရဟံက အနော်ရထာမင်းအား သထုံပြည်၌ပိဋကတ်တော်ရှိကြောင်းပြောဆိုသဖြင့်၊ အနော်ရထာမင်းသည် သက္ကရာဇ် ၄၁၉ ခုနှစ်၌ ပိဋကတ်အစုံ ၃၀ နှင့် အရိယာသံဃာတော် ၁၀၀၀ တို့ကို ပုဂံပြည်သို့ ပင့်ဆောင်သည်။ (အရဟံ၊ ရှင်။ အနော်ရထာ — ရှု။)

၂။ ။သဒ္ဒနီတိ ဆရာတော်

သဒ္ဒနီတိ ဆရာတော်ရှင်အဂ္ဂဝံသသည် ၄၅၄ ခုနှစ်တွင် မင်းပြုသော အလောင်းစည်သူမင်း၊ ၅၂၉ ခုနှစ်တွင် မင်းပြုသော နရသူမင်း၊ ၅၃၃ ခုနှစ်တွင် မင်းပြုသော မင်းယဉ်နရသိင်္ခမင်းနှင့် ၅၃၆ ခုနှစ်တွင် မင်းပြုသော နရပတိစည်သူမင်းတို့၏ လက်ထက်တွင် ပိဋကတတ်ပုဂ္ဂိုလ်အဖြစ် ကျော်စောထင်ရှားခဲ့သည့် ဆရာတော်တပါးဖြစ်သည်။ ထိုခေတ်က သာသနာတော်ကျမ်းနှင့် သဒ္ဒါကျမ်းများကို တတ်သော ရှင်မဟာအဂ္ဂပဏ္ဍိတဆရာတော်ဟု ရှိသည်။ ထိုဆရာတော်သည် ၅၃၅ ခုနှစ်ခန့်လောက်တွင် ပျံလွန်တော်မူသည်ဟု ဆိုကြ၏။

ယင်းဆရာတော်၏တပည့်ဖြစ်သူဒုတိယ အဂ္ဂပဏ္ဍိတ ဆရာတော်တပါးလည်း ရှိသေးသည်။ ဒုတိယ အဂ္ဂပဏ္ဍိတဆရာတော်ကား လောကုပ္ပတ္တိ ပကာသနီကျမ်းကို ပြုတော်မူခဲ့သူတည်း။

သဒ္ဒနီတိဆရာတော် ရှင်အဂ္ဂဝံသကား ဒုတိယ အဂ္ဂပဏ္ဍိတဆရာတော်၏တူအရင်းဖြစ်၏။ ပဥ္စမ မဟာအဂ္ဂပဏ္ဍိတဆရာ

တော်၏ တပည့်ဖြစ်သည်။ တတိယ အဂ္ဂပဏ္ဍိတဖြစ်တော်မူသော ဆရာတော် ရှင်အဂ္ဂဝံသသည် ၅၁၆ ခုနှစ်တွင် သဒ္ဒနီတိကျမ်းကြီးသုံးစောင်ကို ပြုစုတော်မူခဲ့သည်။ သဒ္ဒနီတိကျမ်းကား ထိုခေတ်က စာတတ်အကျော် သီဟိုဠ်ဆရာတော်များကပင် ချီးမွမ်း အံ့ဩရသော ကျမ်းဖြစ်သည်။ ယခုတိုင်ပင်ပရိယတ္တိသာသနာ၌ လွန်စွာထင်ရှား၍၊ အားကိုးအားထားပြုရသော ကျမ်းကြီးဖြစ်သည်။

## ၃။ ။ပေါင်လောင်ရှင် ကဿပ

ပေါင်လောင်ရှင်ကဿပသည် သက္ကရာဇ် ၅၃၆ ခုနှစ်တွင် နန်းတက်သော ပုဂံပြည့်ရှင် နရပတိစည်သူမင်း လက်ထက်တွင် ကျော်စောထင်ရှားသော ဆရာတော်ဖြစ်၏။ ထီးလင်းမြို့စီရင်စု၊ ပေါင်လောင်ရွာဇာတိဖြစ်၍၊ ပုဂံမြို့ တောင်ဖက်ခရီးတတိုင်ကျော် ကွာသော တောရကျောင်း၌ သီတင်းသုံးတော်မူသည်။ ယင်း၌သီတင်းသုံးစဉ် ကျမ်းဂန်လည်းပြုစုတော်မူခဲ့သည်။ ပြုစုသောကျမ်းများကား၊ (၁) ခုဒ္ဒသိက္ခာ နိသျှဟောင်း၊ (၂) မဟာဗောဓိဝင်ဋီကာတို့ ဖြစ်သည်။ ပေါင်လောင်ရှင်ဟု တွင်သည်ကား၊ ပေါင်လောင်အရပ်သို့ ဒေသစာရီလှည့်သည်ကာလ၊ ပေါင်လောင်ကြီးတို့ကပေါင်လောင်ယံ နှစ်ယောက်ကို အလုပ်အကျွေးအပ်လှူ၍၊ ပေါင်လောင် လူမျိုးတို့ ကိုင်းညွတ်သောကြောင့် ပေါင်လောင်ရှင်ဟု တွင်လေသည်။

## ၄။ ။ပုံ့သုကူ ငစွယ်ရှင် ဆရာတော်

ငစွယ်ရှင် ဆရာတော်သည် အထက်ဖော်ပြရာပါ ပုဂံခေတ် နရပတိစည်သူမင်း လက်ထက်တွင် ကျော်စောထင်ရှား၍၊ ရဟန္တာဟုပင်သမုတ်ခြင်းခံရသော ဆရာတော်ဖြစ်သည်။ ဘွဲ့တော်မှာ ရှင်သီလဗုဒ္ဓိ ဖြစ်သည်။ ထိုဆရာတော်သည် လှူသောသင်္ကန်းကို မခံ၊ ပုံ့သုကူသင်္ကန်းကိုသာ ကောက်၍ အမြဲသုံးဆောင်တော်မူသည်။ ထိုအကြောင်းကြောင့် ပုံ့သုကူ မဟာထေရ်ဟု အမည်တွင်ဟန်တူ၏။ အခါတပါး၌ ငစွယ်ငယ်ဆိုသူသည် နွားကျောင်းဖော် သူငယ်ချင်းများကို 'ငါသေဟန်ဆောင်မည်၊ ငါ့အပေါ်မှာ အဝတ်ပုဆိုးလွှမ်းပြီး မထေရ်မြတ်ကို ပုံ့သုကူကောက်ပါဟု လျှောက်ကြ' ဟုပြောဆိုသဖြင့် သူငယ်ဖော်များက ထိုအတိုင်းပြုလုပ်၍ မထေရ်မြတ်ကို လျှောက်ကြလေသော်၊ မထေရ်မြတ် ကြွလာပြီးလျှင် ပုံ့သုကူကောက်တော်မူသည်။ ထိုအခါ ငစွယ်ငယ်မှာ အဟုတ် တကယ် သေနေသဖြင့် မိဖများကို ပြောကြား၍ မထေရ်မြတ်အား လျှောက်ထားရာ၊ မထေရ်မြတ် ပရိတ်မေတ္တာပြုမှ ငစွယ်ငယ်ထ၍ရှိခိုးလေသည်။ ထိုအခါမှစ၍ ငစွယ်ရှင်ဟုထင်ရှားကျော်စောတော်မူသည်။ မြန်မာ ရာဇဝင် အစောင်စောင်တို့တွင် ပုံ့သုကူ ငစွယ်ရှင်မဟာထေရ်ဟု ဖော်ပြပါရှိသည်။

ထိုရာဇဝင်တို့တွင် စူဠာမဏိဘုရားကို တည်သော အခြင်းအရာမှ အစပြု၍၊ နရပတိစည်သူမင်းကြီးသည် ပုံ့သုကူမဟာထေရ်၏ အဆုံးအမဖြင့် တည်လာသည့် အကြောင်းကို ဖော်ပြထားသည်။ (စူဠာမဏိစေတီ — ရှု။) အဖြစ်အပျက်မှာ ဤသို့တည်း။ နရပတိစည်သူမင်းကြီးသည် တူရွင်းတောင်သို့တက်၍ပြန်တော်မူသောအခါ၊ စူဠာမဏိ တည်သောအရပ်ချောက်တွင် ပတ္တမြားအရောင် တောက်သည်ကို မြင်တော်မူ၍၊ ဤအရပ်၌ ငါ့ကိုကောင်းမှုပြုစေလိုသည်ဟု ထိုချောက်ကို ပြည်သူအပေါင်းတို့ ဖို့ရ၏။ ထိုအခါ ပုံ့သုကူ ငစွယ်ရှင် မဟာထေရ်သည် 'မင်းကြီးကောင်းမှုဖြစ်စိမ့်မည်ဟူ၍ ယခုပြုသော အမှုသည် ကောင်းမှုမဖြစ်၊ မကောင်းမှုသာ ဖြစ်သည်။ မင်းကြီးလှူသောဆွမ်းကို ငါမခံ၊' ဟုဆိုတော်မူ၏။ မင်းကြီးလည်း 'ငါ့ဆွမ်းကို ဘုန်းပေးတော်မမူသော်၊ ငါ့ပြည်တွင် နေတော်မမူသည်ဖြစ်စေ လွတ်တော်မူမည်။ ပြည်သူတို့လှူသော ဆွမ်းသည်လည်း ငါ့ဆွမ်းမဟုတ်တုံလော၊' ဟုမိန့်တော်မူ၏။ သခင်မြတ် ပုံ့သုကူလည်း မင်းကြီးဤသို့ဆိုခဲ့ပါလျှင်၊ သီဟိုဠ်ကျွန်းသို့ ကူးမည်ဟု အကြံတော်ရှိ၍၊ စွယ်ကြို့အရပ် တောကြီးဝယ် သီတင်းသုံးနေတော်မူ၏။ သခင်မြတ် ပုံ့သုကူထေရ်သွားခဲ့လျှင်၊ သရပါတံခါးစောင့် ဘီလူးသည် မင်းကြီးထွက်တော်မူသောအခါ မလွှဲမဖယ် တံခါးထက်ဝယ် ကားရားရပ်၏။ ဟူးရားဖြူ ဟူးရားညိုတို့လည်း ပုံ့သုကူထေရ်ကို မသင့်သောစကားဖြင့် မိန့်တော်မူ၍၊ ဘီလူး မလွှဲမဖယ်နေတော်မူသည်ဟု နားတော်လျှောက်၏။ ထိုကြောင့် မင်းကြီးသည် အမတ်တို့ကိုခေါ်၍၊ ပုံ့သုကူထေရ်ကို အကြိမ်ကြိမ်ပင့်စေ၏။ သို့သော်မထေရ်သည် သီဟိုဠ်သို့ ကြွအံ့ဟု သဘော်ဆိပ်သို့သွားသည်တွင်၊ အမတ် တုရက်ပစ္စည်းသည် အထူးထူးသော တောင်းပန်ခြင်းတို့ဖြင့် သာသနာကို ချီးမြှောက်ပါဟု တောင်းပန်၏။ သခင်မြတ်လည်း သာသနာတော်ကိုစွဖြစ်၍ လိုက်တော်မူလေ၏။ မင်းကြီးလည်း အမတ်ပေါင်းခြံရံလျက်၊ ခရီးဦးကြိုဆိုတော်မူပြီးလျှင်၊ သခင်မြတ်လက်တော်ကို မ၍ နန်းတော်သို့ ပင့်ဆောင်လေ၏။ ထိုအခါမှ ဘီလူးသည် တံခါးမှဆင်း၍ သခင်မြတ်ကို ဦးချလင့်၏။ နန်းတော်သို့ရောက်လျှင် မင်းကြီးလက်တော်နှင့် ဆွမ်းကိုပြင်၍ လုပ်ကျွေးတော်မူ၏။ ယနေ့မှစ၍ သခင်မြတ်အဆုံးအမကို ခံပါတော့မည်ဟု လျှောက်ပြီးလျှင်၊ သားတော်ငါးပါးတို့ကိုလည်း သခင်မြတ်ထံ အပ်လေသည်။

## ၅။ ။ဆရာတော် ဦးကျည်ပွေ့

ဆရာတော် ဦးကျည်ပွေ့သည် ၆၁၇ ခုနှစ်တွင် ပုဂံပြည်၌ မင်းပြုသော နရသီဟပတေ့မင်းလက်ထက်၌ အသက် ၆၀ ကျော်မှ စာသင်၍၊ အံ့ဩ လောက်အောင် တတ်သည်ဟု ကျော်ကြားသော ဆရာတော်တပါးဖြစ်သည်။ တနေ့သော်

ဦးကျည်ပွေ့သည် တန်ပူပစ်ချရာတွင်း၌ တန်ပူများပြည့်နေသည်ကို မြင်လေသော်၊ 'ဤတန်ပူတွင်း၌ တန်ပူတို့သည် တနေ့ တချောင်း ကျရောက်ရာမှ တွင်းပြည့်သည်။ ငါသည်လည်း တနေ့လျှင် စာတကြောင်း မျှ သင်အံလေ့ကျက်သော် ကျမ်းတတ်ပုဂ္ဂိုလ် ဖြစ်ရာ၏' ဟုဆင်ခြင်မိ၍၊ အသက် ၆၀ ကျော်မှ စာသင်ရန်အတွက် ဘုရင့်ထံဝင်၍ ကန့်ကူဆံ အလှူခံရာ ဘုရင်က 'ကျည်ပွေ့အတက်ပေါက်မှ စာတတ်တော့မည်ပ' ဟု လျှောက်ထားလိုက်သည်။ နောက်စာသင်၍ တတ်သောအခါ ကျည်ပွေ့ကို သစ်ခက်ညွန့်စည်း၍ ဘုရင့်ထံဝင်လေရာ၊ ဘုရင်က ဆရာတော်များအား မေးမြန်းစစ်ဆေးစေသည်တွင် အမှန်ပင်စာတတ်ကြောင်း သိရသဖြင့်၊ လွန်စွာကြည်ညို၍ ဒိသာပါမောက္ခဟူသော ဘွဲ့တံဆိပ်နာမံ ဆက်ကပ်ပြီး ကိုးကွယ်လေသည်။ ထိုအခါမှစ၍ ဆရာတော်ဦးကျည်ပွေ့ဟု ယနေ့တိုင် ကျော်ကြားလျက်ရှိသည်။ ပြုစုသော ကျမ်းများမှာ။ (၁) သင်ပုန်းကြီးဋီကာပါဠိ၊ (၂) သဒ္ဒါကျမ်းနက်ပါဠိတို့ဖြစ်သည်။

၆။ ။ပထူးကြီး သဃ်ရာဇာ

ပထူးကြီး သဃ်ရာဇာ ဆရာတော်သည် ၇၂၆ ခုနှစ် အင်းဝခေတ် သတိုးမင်းဖျား လက်ထက်တွင် ထင်ရှားသော ဆရာတော်ဖြစ်သည်။ ပထူးကြီးကို ရာဇဝင်အစောင်စောင်တို့တွင် ပိထူး၊ ပန်းထူး၊ ပန်းတူးဟူ၍ အမျိုးမျိုးရေးသည်။ သဃ်ရာဇာ ဆရာတော်သည် ပိဋကတ်ကျမ်းဂန်အရာ၌ တန်ရုံသာ ရှိသည်၊ ဗေဒင်အရာ၌ကား လွန်စွာကျမ်းကျင် တတ်မြောက်တော်မူသည်။ သတိုးမင်းဖျား အင်းဝမြို့ကို တည်မည်ကြံစဉ် အိပ်မက် မက်သည်ကို ပထူးကြီး သဃ်ရာဇာ ဆရာတော်ပင် ဖတ်ရသည်။ ထိုဆရာတော်သီတင်းသုံးသည့် ကျောင်းကို သဃ်ရာဇာကျောင်းဟုခေါ်တွင်၍၊ ကျောင်းအနီးရှိ ချောင်းကိုလည်း သဃ်ရာဇာချောင်းဟု ခေါ်တွင်သည်။ ကာလရွေ့လျောလျှင် သင်္ဂဇာချောင်းဟုခေါ်တွင်ရာ ယခုတိုင်ဖြစ်သည်။ ပြုစုသည့်ကျမ်းများမှာ။ (၁) လောကဒီပနီကျမ်း။ (၂) သြကာသဒီပနီကျမ်းတို့ ဖြစ်သည်။

၇။ ။ရှင်ခေမာစာရ ဆရာတော်

ရှင်ခေမာစာရ ဆရာတော်သည် အင်းဝခေတ် မင်းကြီးစွာစော်ကဲလက်ထက် (၇၃၀) တွင်ထင်ရှားသော ဆရာတော်ဖြစ်သည်။ ဘုရင်က သီလဝန် ဂုဏဝန်မဟုတ်သော ပုဂ္ဂိုလ်များကိုသာ ချီးမြှောက်သဖြင့် ရှင်ခေမာစာရ ဆရာတော်သည် ညဉ့် ၂ ချက်တီးအချိန်တွင် ဘုရားရှေ့၌ ဆွဲထားသော စည်ကြီးကို အချက်များစွာ တီးခတ်လေသည်။ ဘုရင်က စုံစမ်းမေးမြန်းသောအခါ 'သိကြားမင်းသေ၍ စည်တီးသည်။ သိကြားမင်းသည် မြတ်စွာဘုရားထံ၌ သာသနာကိုစောင့်ရှောက်ပါမည်ဟု ဝန်ခံထားလျက် ယခုမစောင့်ရှောက်သောကြောင့် သိကြားမင်းသေကြောင်းသိရသည်' ဟု အမိန့်ရှိသဖြင့် ဘုရင်မင်းမြတ် သတိရကာ ဝမ်းဘဲအင်းမြောက်ဖက် ဒန့်တောအရပ်၌ ကျောင်းဆောက်ကိုးကွယ်လေသည်။

၈။ ။စကြို့သူမြတ်

စကြို့သူမြတ် ဆရာတော်သည် ၇၆၃ ခုနှစ် ဘုရင်မင်းခေါင်လက်ထက်တွင် ထင်ရှားသော ဆရာတော်ဖြစ်သည်။ ပုဂံမြို့အောက် စကြို့အရပ်တွင် ၇၃၅ ခုနှစ်ခန့်၌ ဖွားမြင်သည်။ ပင်းယမြို့ ရွှေစည်းခုံဘုရားအနီး အထက်ကျောင်း၌ သီတင်းသုံး၍၊ ပင်းယ စကြို့သူမြတ်ဟု ထင်ရှားသည်။ (စကြို့သူမြတ် — ရှ။)

၉။ ။ရေငုံ ဆရာတော်

ရေငုံ ဆရာတော်သည် အင်းဝခေတ် ထူပါရုံဒါယကာ နရပတိမင်းလက်ထက် (၈၀၄) တွင်ကျော်စောသော ဆရာတော်ဖြစ်သည်။ စစ်ကိုင်းမြို့ ပုညရှင်စေတီ မြောက်ဖက်တွင် သီတင်းသုံးတော်မူသည်။ ပိဋကတ်ကျမ်းဂန် အလွန်တတ်လှပေသည်။

စာချသော အချိန်မှတပါး အခြားအချိန်များ၌ ရေငုံ၍နေလေ့ ရှိသောကြောင့် ရေငုံ ဆရာတော်ဟု ကျော်ကြားတော်မူသည်။ ရေငုံဆရာတော်သည် စာပေ အရအမိများပါလျက် ဆရာနည်းမရသေးသောရှင်အရိယဝံသအား နှစ်ရက်သုံးရက်နှင့် ဆရာနည်းပေးတော်မူသည်။

၁၀။ ။ရှင်အရိယဝံသ ဆရာတော်

ရှင်အရိယဝံသ ဆရာတော်သည် အင်းဝခေတ် ၈၀၄ ခုနှစ် နန်းတက်သော ထူပါရုံဒါယကာ နရပတိမင်း လက်ထက်တွင် ကျော်စောထင်ရှားသော ဆရာတော်ဖြစ်သည်။ ပင်းယမြို့တောင်၊ စကားအင်းရွာ ဇာတိဖြစ်၍၊ စကားအင်း ရှင်အရိယဝံသဟုလည်း ခေါ်တွင်သည်။ ပင်းယ စကားကျောင်းတွင် စာပေသင်ကြား၍ ကိုယ်ဝန်ဆောင်မိန်းမ တခွက်စာခန့် နှုတ်လွတ်အာဂုံရသည်။ နောက် စစ်ကိုင်းဖက်ကူး၍ ရေငုံဆရာတော်ထံ နည်းခံသင်ကြားရာ ၂ ရက် ၃ ရက်မျှဖြင့် စာပေတတ်မြောက်၍၊ မဏိသာရမဉ္ဇူသာဋီကာကို ပြုစုတော်မူသည်။ ဆရာတော်သည် ယင်းကျမ်းကိုပြုစု၍ သံဃာအများ ရှေ့၌ဖတ်ပြရာ ရဟန်းတပါးက မှားယွင်းသော အချက်နှစ်ခုကိုသတိပေးသဖြင့် ထိုရဟန်းကို နှစ်ထပ်သင်္ကန်းဖြင့် ကျေးဇူးဆပ်ပူဇော်လေသည်။ ပြုစုသောကျမ်းများမှာ၊ (၁) ဂန္ထာဘရဏပါဠိ၊ (၂) ဇာတကဝိသောဓန၊ (၃) မဏိဒီပဋီကာ၊ (၄) မဏိသာရမဉ္ဇူသာ ဋီကာ၊ (၅) အနုဋီကာနိသျှတို့ ဖြစ်သည်။

၁၁။ ။ဆူးတွင်းပစ် ဆရာတော်

ဆူးတွင်းပစ် ဆရာတော်သည် ၇၁၃ ခုနှစ်တွင် နန်းတက်သော ပင်းယဘုရင် ဆင်ဖြူလေးစီးရှင် ကျော်စွာမင်း လက်ထက်၌ ထင်ရှားသောဆရာတော်ဖြစ်သည်။ (ဆူးတွင်းပစ်ဆရာတော် — ရှု။)

၁၂။ ။ရှင်ဥတ္တမကျော်

ရှင်ဥတ္တမကျော်သည် တောင်တွင်းကြီးမြို့မြောက်ဖက် မြို့လုလင်ရွာ၌ ၇၁၅ ခုနှစ်တွင် ဖွားမြင်သည်။ ဆရာတော်သည် ကျမ်းဂန်အများကို ပြုစုတော်မူ၏။ သို့သော်မြန်မာစာပေသမိုင်းတွင် စက်ဆယ့်နှစ်လီချီ တောလားကို စီကုံးရေးသားခြင်းကြောင့် ပိုမိုထင်ရှား၏။ (ဥတ္တမကျော်၊ ရှင် — ရှု။)

၁၃။ ။ရှင်မဟာသီလဝံသ

ရှင်မဟာသီလဝံသသည် ရှင်ဥတ္တမကျော်ကဲ့သို့ပင် တောင်တွင်းကြီးမြို့မြောက်ဖက် မြို့လုလင်ရွာ၌ ၇၁၅ ခုနှစ်တွင်ဖွားမြင်၍၊ မြန်မာစာပေသမိုင်းတွင် ထင်ရှားကျော်စောသော ပုဂ္ဂိုလ်ဖြစ်သည်။ (မဟာသီလဝံသ၊ ရှင် — ရှု။)

၁၄။ ။ရှင်မဟာရဋ္ဌသာရ

ရှင်မဟာရဋ္ဌသာရသည် အင်းဝခေတ် မဟာသီဟသူရ (ပြည်စုန်မင်း) လက်ထက် ၇၃၀ ပြည့်နှစ်တွင် အင်းဝမြို့၌ ဖွားမြင်သော ပုဂ္ဂိုလ်ဖြစ်သည်။ မြန်မာစာပေသမိုင်းတွင် ရှင်မဟာသီလဝံသနှင့်အပြိုင် အဆိုင် ကျော် စော ထင် ရှား ခဲ့သောဆရာတော်ဖြစ်သည်။ (မဟာရဋ္ဌသာရ၊ ရှင် — ရှု။)

၁၅။ ။ရှင်အဂ္ဂသမာဓိ

ရှင်အဂ္ဂသမာဓိသည် ၇၄၁ ခုနှစ်တွင် ဒီပဲရင်းမြို့အရှေ့တောင် လက်ကန်ဖျားရွာတွင် မွေးဖွားရှ၍၊ငယ်မည် မောင်နိုးဟုတွင်သည်။ မြန်မာစာပေသမိုင်း၌ နေမိငရဲခန်းပျို့နှင့် နေမိဘုံခန်းပျို့တို့ကို ရေးသား စီကုံးခဲ့သဖြင့် ကျော်စောသည်။ (အဂ္ဂသမာဓိ၊ ရှင် — ရှု။)

၁၆။ ။ရွှေဥမင် ဆရာတော်

ရွှေဥမင်ဆရာတော်သည် ၉၉၁ ခုနှစ် အဝမြို့တွင် နန်းတက်သော သာလွန်မင်းတရားလက်ထက်တွင်ထင်ရှားသော ဆရာတော်ဖြစ်သည်။ ဘွဲ့တော်မှာ ရှင်ဇမ္ဗုဓဇဖြစ်သည်။ ပုဂံ ၄ စုယ်ရှင်ဆရာတော် ရှင်သီလဗုဒ္ဓိ၏ အနွယ်ဖြစ်သော ရှင်ဓမ္မနန္ဒ၏ တပည့်ဖြစ်သည်။ ပခန်းကြီးမြို့ ရွှေဥမင်ကျောင်း၌ သီတင်းသုံးတော်မူသောကြောင့်၊ ရွှေဥမင်ဆရာတော်ဟု တွင်သည်။ ရွှေဥမင် ဆရာတော်သည် ပါဠိအဋ္ဌကထာဋီကာကျမ်းဂန် ကျနသည်။ အနက်မြန်မာ နိုင်နင်းလှသည်။ ဆရာတော်ရေးသားတော်မူခဲ့သည့်ဝိနည်းငါးကျမ်းနှင့်ယင်းအဋ္ဌကထာနိသျတို့သည် ယခုတိုင်ပင်ကျော်ကြားလျက်ရှိလေသည်။ ဆရာတော်သည် အလုပ်အကျွေးသူတော်တယော က်နှင့်သာလျှင် ခေါင်းခေါင်းပါးပါးနေတော်မူသည်။ မင်းဆရာတော်ဖြစ်သော တောင်ဖီလာဆရာတော်က ‘ပရိသတ်ခြေရံ နည်းလှသည်။ ကြောက်တော်မမူလော’ ဟုမေးသဖြင့်၊ ရွှေဥမင်ဆရာတော်က ‘ကြောက်၍ပင် ပရိသတ်နည်းနှင့်နေပါသည်’ ဟု မိန့်တော်မူသည်။ (တောင်ဖီလာဆရာတော် — ရှု။) သာလွန်မင်းတရားကြီးလက်ထက် ‘ဇမ္ဗုဒီပဓဇ’ ဟူသော ဘွဲ့တံဆိပ်ကို အလှူခံရသည်။ ပြုစုသောကျမ်းများမှာ ပါရာဇိကဏ်ပါဠိတော်နှင့် ယင်းအဋ္ဌကထာနိသျ၊ပါစိတ်ပါဠိတော်နှင့် ယင်းအဋ္ဌကထာ နိသျ၊ ဝိနည်းမဟာဝါ ပါဠိတော်နှင့် ယင်းအဋ္ဌကထာနိသျ၊ စူဠဝါပါဠိတော်နှင့် ယင်းအဋ္ဌကထာ နိသျနှင့် ဓာတုဝိဇ္ဇာမယကျမ်းတို့ဖြစ်ကြသည်။

၁၇။ ။မဏိကုဏ္ဍလ ဆရာတော်

မဏိကုဏ္ဍလ ဆရာတော်သည် အင်းဝခေတ် အနောက်ဖက်လွန်နှင့် သာလွန်မင်းတရားတို့လက်ထက်၌ ထင်ရှားသော ဆရာတော် ဖြစ်သည်။ ဘွဲ့တော်မှာ ရှင်ဝရာဘိသံဃနာထ ဖြစ်သည်။ ရတနာပူရ အင်းဝမြို့ လေးထပ်ကျောင်းဆရာတော် မဟာရာမ၊ မဟာသံဃနာထ နှစ်ဘွဲ့ရဆရာတော်ကြီး၏ တပည့်ဖြစ်သည်။ ဝရာဘိသံဃနာထ ဆရာတော်သည် ၉၉၁ ခုနှစ်တွင် မဏိကုဏ္ဍလဝတ္ထုကြီးကို ပြီးပြည့်စုံစွာ ရေးသားပြုစုတော်မူခဲ့လေသည်။

၁၈။ ။တောင်ဖီလာ ဆရာတော်

တောင်ဖီလာ ဆရာတော်သည် သာလွန်မင်းတရားကြီး ကိုးကွယ်သော ဆရာတော်ဖြစ်သည်။ ၉၄၀ ပြည့်နှစ်တွင် မွေးဖွား၍၊ ၁၀၁၂ ခုနှစ်တွင် ပျံလွန်တော်မူသည်။ (တောင်ဖီလာဆရာတော် — ရှု။)

၁၉။ ။နန်းကျောင်း ဆရာတော်

နန်းကျောင်း ဆရာတော်သည် အင်းဝခေတ် ၁၀၂၃ ခုနှစ် နန်းတက်သော ပြည်မင်း လက်ထက်တွင် ကျော်စောထင်ရှားသော ဆရာတော်ဖြစ်သည်။ ဖခင်မှာ အမတ် ဝန်ကြီးနေမျိုးနော်ရထာဖြစ်သည်။ ဘွဲ့တော် ရှင်အဂ္ဂဓမ္မာလင်္ကာရဖြစ်သည်။ ဘုရင် က မြောက်နန်း တော် ဆောင် ကို ဖျက်ပြီး ကျောင်း ဆော က် ၍ တင် လှူသော ကြောင့် မြောက်နန်းကျောင်း ဆရာတော်ဟု ခေါ် ကြသည်။ ကာလကြာသော အခါ၊ နန်းကျောင်း ဆရာတော်ဟု ခေါ် တွင်လေသည်။ ဆရာတော်သည် အမတ်ကြီး၏သား မှူးမျိုးမတ်နွယ် တပါးဖြစ်သော်လည်း၊ မှူးမတ်ဂုဏ်သိရ်များကို အထင်ကြီးတော်မမူ

ချေ။ တခါက ရဟန်းလူထွက်ဖြစ်သော သတိုးမင်းကြီးသည် မှူးမတ်အဆောင်အယောင်ဖြင့် ကျောင်းသို့လာ၍ စကားစမြည်ပြောပြီး လျှင်၊ မိမိ၏ အဆောင် အယောင် ကို ပြလျက် 'အရှင်ဘုရား လူဖြစ်လျှင် ဤမျှလောက်စည်းစိမ်ကို ရလိမ့်မည်' ဟုလျှောက်လျှင်၊ 'ဤမျှလောက်စည်းစိမ်သည် ငါတို့ ရေအိမ်တခါတက်ကိုမျှ မတန်လေ၊ ရေအိမ်တခါတက်လျှင်ပင် အသုဘကမ္မဋ္ဌာန်းကို များစွာ ပွားရသည်မဟုတ်လော' ဟု မိန့်ကြားတော်မူလေသည်။

ပြုစုသောကျမ်းများမှာ။ (၁) ကလာပ်ကျမ်း သန္နိမ္မလနိသျ။ (၂) ဓာတုကထာအကောက်။ (၃) ပဋ္ဌာန်းအကောက်။ (၄) မာတိကာအကောက်။ (၅) မူလဋီကာဒွါရကထာအဖွင့်နိသျ။ (၆) ယမိုက်အကောက်။ (၇) ရာဇဝင်ချုပ်။ (၈) သဂြိုဟ်ကျမ်းရိုးကြီး။ (၉) သဒ္ဒါကြီးနိသျ။ (၁၀) အဘိဓမ္မတ္ထသင်္ဂဟ အဋ္ဌကထာနိသျတို့ဖြစ်သည်။

## ၂၀။ ။တိလောကဂုရု ဆရာတော်

တိလောကဂုရုဆရာတော်သည် ၁၀၃၄ ခုနှစ်တွင် နန်းတက်သော နရဝရမင်းလက်ထက်တွင်ကျော်စောသောဆရာတော်ဖြစ်သည်။ ဇာတိမှာ ပခန်းကြီးမြို့ အနောက်လက် ခရီး ၆ တိုင်ကွာ ဆိတ်ဆင်းရွာဖြစ်၏။ ပဉ္စင်းပျိုဘဝတွင် စာပေသင်ကြားတတ်မြောက်ပြီးမှ လူထွက်မည်ပြု၍၊ ရွှေစည်းခုံဘုရားသို့ ဘုရားဖူးကြွလာစဉ် 'ဖြစ်လေတိုင်းသောဘဝ၌ လူထွက်မယားမဖြစ်ရပါလို' ဟု ဒါယိကာမ တယောက် ရှိခိုးဆုတောင်းသံကို ကြား၍မေးမြန်းရာ 'သူတပါး လှူသောပစ္စည်းဖြင့် ချမ်းသာစွာနေရသည်ဖြစ်လျက် သူ့ကျွန်ခံဦးမည်၊ မယားကျွန်ပြုဦးမည်ဟု လူထွက်သောရဟန်းထက်မိုက်သောလူမရှိပြီ၊ လူမိုက်မယား မဖြစ်လို၍ဆုတောင်းသည်' ဟု ပြောသဖြင့်၊ လူမထွက်ဘဲ စစ်ကိုင်းဖက်သို့ကူးပြီးလျှင် စာပေနည်းနာခံသည်။ နောက် ပုညစေတီတောင် ကျောင်းယော်တွင် စာပေပို့ချ၍ ဘုရင်က ဥမင်နှင့်တကွ ကျောင်းဆောက်လှူသည်။ 'တိလောကဂုရု' တံဆိပ်နာမ်လည်း ဆက်ကပ်သည်။ ပြုစုသောကျမ်းများမှာ၊ (၁) ဓာတုကထာ ဋီကာဝဏ္ဏနာ၊ (၂) ဓာတုကထာ အနုဋီကာဝဏ္ဏနာ၊ (၃) ပဋ္ဌာနဝဏ္ဏနာ ဋီကာ၊ (၄) ယမကဝဏ္ဏနာ ဋီကာတို့ဖြစ်သည်။

## ၂၁။ ။ကြက်သွန်ခင်း ဆရာတော်

ကြက်သွန်ခင်း ဆရာတော်သည် အင်းဝခေတ်နှင့် ကုန်းဘောင်ခေတ်များတွင်ထင်ရှားသောဆရာတော်ဖြစ်သည်။ ကြက်သွန်ခင်းရွာ၌ သက္ကရာဇ် ၁၀၅၅ ခုနှစ်တွင် ဖွားတော်မူသည်။ ဘွဲ့တော် ရှင်ပါသံသဖြစ်သည်။ ဆင်ဖြူရှင်မင်းတရားကိုး ကွယ် သည်။ ရတနာပူရမြို့တော် အနောက်မျက်နှာ ကြက် သွန် ခင်း ကျောင်းတိုက်၌ သီတင်းသုံးတော်မူသည်။ ကျမ်းဂန်သင့်မြတ်လှသည်။ မင်းကရောင်ဆရာတော်ဖြစ်သော်လည်း၊ ပစ္စည်းလပ်လာဘ အပိုအလွန်ကို အလိုမရှိ။ သက် ရွယ် ကြီး ရင့် သည် တိုင် အောင် အမြဲ ဆွမ်း ခံတော်မူသည်။ ကိုယ်တော်နှင့် အလုပ်အကျွေး သူတော်တယောက်ပါ နှစ် ယောက် စာ မျှ လောက် အောင် ရလျှင် ပြန်ခဲ့ သည်။ ပစ္စည်း၌ မက်မောတော်မမူ။ တခါက ရဟန်းတပါး ဆွမ်းဟင်းလျာ စားဖွယ် စားရာအစုံ တပည့်ဝန်ထမ်း တထမ်းနှစ်ထမ်းနှင့် စစ်ကိုင်းမြို့မှ ဆွမ်းခံပြန်လာသည်ကို တွေ့သဖြင့် 'ငါ့ရှင်၊ သင့်မယားမာ၏လော' ဟုမေးတော်မူသည်။ တခါကလည်း စရစ်ဆရာတော်၏တူ ဦးသာပုံသည် သာသနာပိုင်ဖြစ်သောအခါ စိတ်ပျိုကိုယ်နုဖြစ်၍ ဝါသနာအလျောက် သိုင်းကိုင်နှင့် ဆွမ်းခံဝင်သည်ကို တွေ့သဖြင့် 'ဟဲ့သာပုံ၊သည်နှင်တံနှင့် နင့်ကို လူကြောက် ချိမ့်မည်လော။ ကြောက်လောက်အောင် အမြောက်ဆောင်' ဟု မိန့်တော်မူလေသည်။ ကြက်သွန်ခင်း ဆရာတော်သည် သက်တော် ၈၃ နှစ်၊ ဝါတော် ၆၃ ဝါ၊ သက္ကရာဇ် ၁၁၃၇ ခုနှစ်တွင် ပျံလွန်တော်မူသည်။ ပြုစုသောကျမ်းမှာ၊ ကေက္ခရကောသအဖွင့် ဋီကာနိသျဖြစ်သည်။

## ၂၂။ ။နေရင်း ပုဗ္ဗာရုံ ဆရာတော်

ပုဗ္ဗာရုံ ဆရာတော်သည် ပခန်းကြီးမြို့ကျေး၊ နေရင်းရွာ၌ သက္ကရာဇ် ၁၀၆၅ ခုနှစ်တွင် ဖွားတော်မူသည်။ ဘွဲ့တော် ရှင်သာရဒဿီ ဖြစ်သည်။ အရုံကိုဏ်း တကျိပ်နှစ်ပါးအဝင် မြောင်ရွာဆရာတော် ရှင်ပညာသာရ၏ တပည့်ဖြစ်သည်။ နေရင်းရွာ၊ ပုဗ္ဗာရုံကျောင်း၌ သီတင်းသုံးတော်မူသည်။ ဤဆရာတော်သည် ဉာဏ်ပညာ ကြီးကျယ်နက်နဲလှသည်။ စာပေကျမ်းဂန်တတ်လှသည်။ သက္ကရာဇ် ၁၁၃၅ ခု (၁၁၂၉) နှစ်တွင် ပျံလွန် တော်မူသည်။ ပြုစုသော ကျမ်းများမှာ၊ (၁) ဂုဠ္ဌတ္ထဝဏ္ဏနာဋီကာပါဠိ၊ (၂) စရိယာပိဋကတ် အဋ္ဌကထာ နိသျ၊ (၃) ဋီကာဒွါရနိသျ၊ (၄) ဓာတုကထာ မူလဋီကာနိသျ၊ (၅) ဓာတုကထာမူလဋီကာယောဇနာပါဠိ၊ (၆) နေတ္တိပါဠိတော်နိသျ၊ (၇) သုတ္တနိပါတ်ပါဠိတော်နိသျ၊ (၈) သုတ်သီလက္ခန် ပါဠိတော် ဂဏ္ဌိ၊ (၉) ဝိသုဒ္ဓိမဂ်အဋ္ဌကထာဂဏ္ဌိတို့ဖြစ်သည်။

## ၂၃။ ။ပဌမ ကျော်အောင်စံထား ဆရာတော်

ပဌမ ကျော်အောင်စံထား ဆရာတော်သည် ဟံသာဝတီပါ မင်းတရားကြီးက အင်းဝသို့ ပင့်၍၊ ကျော်အောင်စံထား ကျောင်းတိုက်ကို တင်လှူ၍ ကိုးကွယ်သော ဆရာတော် ဖြစ်သည်။ ၁၀၆၇ ခုနှစ်၌ဖွားမြင်သည်။ (ကျော်အောင် စံထားဆရာတော်များ — ၅၃။)

၂၄။ ။နေရင်း မဏိရတနာ ဆရာတော်

မဏိရတနာ ဆရာတော်သည် အင်းဝခေတ်၊ ၁၀၇၆ ခုနှစ်တွင်နန်းတက်သော မှန်နန်းဆင်ဖြူရှင် တနင်္ဂနွေမင်း လက်ထက်တွင် ကျော်စောထင်ရှားသော ဆရာတော်ဖြစ်သည်။ ပခန်းကြီးမြို့စီရင်စု၊ နေရင်းရွာဇာတိဖြစ်သည်။ ဘွဲ့တော်ရှင်အရိယာလင်္ကာရ ဖြစ်၏။ နေရင်းရွာ အနောက်မြောက်၊ မဏိရတနာ ကျောင်းတိုက်၌ သီတင်း သုံးတော်မူသဖြင့် နေရင်း မဏိရတနာဆရာတော်ဟု ခေါ် တွင်သည်။ ဆရာတော်သည် နိသျအများအပြား ရေးသားပြုစုတော်မူခဲ့သည်။ အနက်မြန်မာ သန်လှသည်။ ကျမ်းဂန်ရေးသောအခါ ပုရပိုက်တွင် ဦးစွာတင်၍ အကြမ်းမရေးဘဲ၊ ပေ၌သာ ကညစ်ဖြင့် တောက်လျှောက် အချောရေးတော်မူသည်။

ပြုစုသောကျမ်းများမှာ၊ (၁) ကစ္စာယန ဝဏ္ဏနာနိသျ၊ (၂) ကစ္စာယန သုတ္တနိဒ္ဒေသနိသျ၊ (၃) ခုဒ္ဒသိက္ခာ နိသျ၊ (၄) ဇိနာလင်္ကာရဋီကာနိသျ၊ (၅) ဇိနာလင်္ကာရအဋ္ဌကထာ နိသျ၊ (၆) ဋီကာ ကျော် နိသျ၊ (၇) ဘိက္ခုနီပါဠိ ဝိတရဏီ အဋ္ဌကထာ နိသျ၊ (၈) မူလ သိက္ခာ နိသျ၊ (၉) သခေ်ပဝဏ္ဏနာဋီကာနိသျ၊ (၁၀) သဒ္ဒသာရတ္ထဇာလိနီစာကိုယ်နိသျ၊ (၁၁) သုတ်ပါထေယျ ပါဠိတော် နိသျ သစ်၊ (၁၂) သုတ် ပါထေယျ အဋ္ဌကထာ နိသျ သစ်၊ (၁၃) သုတ်မဟာဝါပါဠိတော် နိသျသစ်၊ (၁၄) သုတ်မဟာဝါ အဋ္ဌကထာနိသျသစ်၊ (၁၅) သုတ်သီလက္ခန်ပါဠိတော်နိသျသစ်၊ (၁၆) သုတ်သီလက္ခန် အဋ္ဌကထာ နိသျသစ်၊ (၁၇) သမ္မောဟ ဝိနောဒနီ အဋ္ဌကထာ နိသျ၊ (၁၈) အဋ္ဌသာလိနီ အဋ္ဌကထာ နိသျတို့ဖြစ်သည်၊

၂၅။ ။ရွှေယင်မြော် ရှင်ဥက္ကံသမာလာ ဆရာတော်

ရှင်ဥက္ကံသမာလာ ဆရာတော်သည် အင်းဝခေတ်၊ ၁၀၇၆ ခုနှစ်တွင် နန်းတက်သော တနင်္ဂနွေမင်း လက်ထက်၌ ထင်ရှားသော ဆရာတော်ဖြစ်သည်။ ဇာတိ ရွှေယင်မြော်ရွာ ဖြစ်သည်။ အင်္ဂလိပ်ဂိုဏ်း တကျိပ်နှစ်ပါးအဝင် ထန်းပေါက်ကုန်း ဆရာတော် အရှင်ဝရဝံသ၏ တပည့်ဖြစ်သည်။ တွင်းသင်းမျုးကြီးကပင့်၍ ရွှေကြက်ယက်တွင် ကျောင်းဆောက်ကိုးကွယ်ခြင်းခံရသည်။ ပါဠိအဋ္ဌကထာ ဋီကာ ကျနစွာတတ်သည်။ လောက ရာဇ အရေးအကြောင်း၌ လိမ်မာလှသည်။ မင်းကရောင်က မကိုးကွယ်သည်မှာ ရွာကြီးသားဖြစ်၍ မကိုးကွယ်ခြင်းဖြစ်သည်ဟု ပဌမမောင်းထောင်ဆရာတော်ဖြစ်ခဲ့သူမင်းတိုင်ပင်အမတ် မဟာမေ့သကြံ ပြုခဲ့သောသာသနာလင်္ကာရစာတန်းတွင် ဆိုသည်။ ပြုစုသောကျမ်းများမှာ၊ (၁) ကဝိကဏ္ဍပါသအလင်္ကာကျမ်း၊ (၂) တောင်ငူဆိုရတုအဖြေ၊ (၃) ဝဏ္ဏဗောဓန သတ်အင်း ကျမ်း၊ (၄) ရှင်ဥက္ကံသမာလာသတ်ညွန်းကျမ်းတို့ဖြစ်သည်။

၂၆။ ။အတုလ သာသနာပိုင် ဆရာတော်

အတုလ သာသနာပိုင် ဆရာတော်သည် ၁၀၇၆ ခုနှစ်တွင် အုတ်ရှစ်ကျေးရွာ၌ ဖွားမြင်၍၊ ယေ်မည် ဦးပန်းထွေး၊ ရဟန်းဘွဲ့ ရှင်ယသဖြစ်သည်။ (သာသနာပိုင်များ — ရှု။)

၂၇။ ။သာသနာပိုင် ဆုံတား ဆရာတော်

သာသနာပိုင် ဆုံတား ဆရာတော်သည် ၁၀၈၀ ပြည့်နှစ်တွင်ဖွားမြင်သည်။ အမရပူရမြို့တည် နန်းတည် မင်းတရားကြီး ကိုးကွယ်သော ဆရာတော်ဖြစ်သည်။ (ဆုံတားဆရာတော် — ရှု။)

၂၈။ ။ဒုတိယ ကျော်အောင်စံထား ဆရာတော်

ဒုတိယ ကျော်အောင်စံထား ဆရာတော်သည် ၁၀၈၀ ပြည့်နှစ်တွင် ဖွားမြင်သည်။ ပဌမ ကျော်အောင်စံထား ဆရာတော်ပျံလွန်တော်မူသော အခါ၊ ကျော်အောင်စံထား ကျောင်းတိုက်ကို ဆက်ခံ သီတင်းသုံးတော်မူခြင်းကြောင့်၊ ဒုတိယ ကျော်အောင်စံထား ဆရာတော်ဟု တွင်သည်။ (ကျော်အောင်စံထား ဆရာတော်များ — ရှု။)

၂၉။ ။တောင်တွင်းကြီး ဆရာတော် (ခင်ကြီးပျော်)

တောင်တွင်းကြီး ဆရာတော်သည် တောင်တွင်းကြီးနယ်တွင် ၁၀၈၆ ခုနှစ်တွင် ဖွားမြင်၍၊ ယေ်မည် မောင်ပျော်၊ ရဟန်းဘွဲ့ရှင် ဉာဏသဒ္ဓမ္မဟု တွင်သောပုဂ္ဂိုလ်ဖြစ် လေသည်။ (တောင်တွင်းကြီးဆရာတော် (ခင်ကြီးပျော်) — ရှု။)

၃၀။ ။ပဌမ ဗားကရာ ဆရာတော်

ပဌမ ဗားကရာ ဆရာတော်သည် ပခန်းကြီးမြို့ကျေး မြိုင်ရွာ၌ ၁၁၀၀ ပြည့်နှစ်တွင် ဖွားမြင်တော်မူသည်။ ရတနာပုရ အင်းဝမြို့ အနောက်မျက်နှာ ဗားကရာတိုက်၌သီတင်းသုံးတော်မူ၍ ဗားကရာ ဆရာတော်ဟု တွင်သည်။ (ဗားကရာ ဆရာတော်များ — ရှု။ သာသနာပိုင်များ — လည်းရှု။)

၃၁။ ။ပဌမ ဆင်တဲ ဆရာတော်

ပဌမ ဆင်တဲ ဆရာတော်သည် ပခန်းကြီးမြို့ အရှေ့တောင်ထောင့် ဆင်တဲရွာ၌ ၁၁၀၆ ခု၊ နယုန်လတွင် ဖွားတော်မူသည်။ ယေ်မည် ဦးရွှဲဖြစ်သည်။ ဘွဲ့ ရှင်ဉာဏသဒ္ဓမ္မ (ဉာဏလင်္ကာ) ဖြစ်သည်။ 'ဉာဏလင်္ကာရာဘိသဒ္ဓမ္မဇမဟာဓမ္မရာဇဂုရု' တံဆိပ်တော်ရသည်။ အမရပုရမြို့တော်မြောက်၌ အတွင်းဝန် မင်းကြီးမဟာသက်တော်ရှည်ဆောက်လုပ်သည့် ကျောင်း၌ သီတင်းသုံးတော်မူသည်။ နောက် ရွှေတောင်ကျောင်းတိုက်သို့ပြောင်းရွှေသီတင်းသုံးသည်။ သက်တော် ၇၂ နှစ်၊ ဝါတော် ၅၂ ဝါ၊ သက္ကရာဇ် ၁၁၇၈

ခုနှစ်တွင် ရွှေတောင်ကျောင်းတိုက်၌ ပျံလွန်တော်မူသည်။

ပြုစုသောကျမ်းများမှာ၊ (၁) စန္ဒသူရိယဂတိ ဒီပနီ နိသျ၊ (၂) ဓာတုကထာ မူလဋီကာ နိသျနံကျယ်၊ (၃) ပရမတ္ထ ဝိနိစ္ဆယ အဋ္ဌကထာ နိသျ၊ (၄) မုခမတ္တ ဒီပနီ နိသျသစ်၊ (၅) မူလဋီကာ ဒွါရကထာအဖွင့် အထိ နိသျ။ (၆) ဝဇီရဗုဒ္ဓိ ဋီကာ နိသျ၊ (၇) ဝိနည်းငါးကျမ်း အဋ္ဌကထာဂဏ္ဌိ (၈) သဒ္ဒါရှစ်စောင် နိသျ၊ (၉) သစ္စသံခိပ် အဋ္ဌကထာ နိသျ။ (၁၀) သမ္မန္တစိန္တာ နိသျချုနက်၊ (၁၁) အသိတိ နိပါတ် ဇာတ်အဋ္ဌကထာ နိသျတို့ဖြစ်သည်။

၃၂။ ။ပဌမ မောင်းထောင် ဆရာတော်

ပဌမ မောင်းထောင်ဆရာတော်သည် အလုံမြို့ ကျေး၊ မောင်းထောင်ရွာ၌၊ ၁၁၁၅ ခုနှစ်တွင် ဖွားမြင်သည်။ ဘိုးတော် မင်းတရားကြီးက အင်းဝသို့ ပင့်ဆောင်ကိုးကွယ်၍၊ ၁၁၅၀ ပြည့်နှစ်တွင် သာသနာပိုင်အပ်သည်။ (မောင်းထောင် ဆရာတော်များ — ရှု။ သာသနာပိုင်များ — လည်းရှု။)

၃၃။ ။ဒုတိယ ညောင်ကန် ဆရာတော်

ဒုတိယ ညောင်ကန်ဆရာတော်သည် အလုံမြို့ ကျေး ညောင်ကန်ရွာ၌ ၁၁၁၅ ခုနှစ်တွင် ဖွားမြင်သည်။ ရဟန်းဘဝ၌ ဘိုးတော်မင်းတရားကြီး၏ မြောက်နန်းမတော် မိဖုရားကြီးကောင်းမှု မင်္ဂလာဘုံကျော်ကျောင်းတော်၌ သီတင်းသုံးတော်မူသည်။ (ညောင်ကန် ဆရာတော်များ — ရှု။)

၃၄။ ။ဒန့်တိုင် ဆရာတော်

ဒန့်တိုင် ဆရာတော်သည် သက္ကရာဇ် ၁၁၂၅ ခုနှစ် နန်းတက်သော ကုန်းဘောင်ဆင်ဖြူရှင်မင်း လက်ထက်တွင် ကျော်စောထင်ရှားသောဆရာတော်ဖြစ်သည်။ ပင်းတလဲမြို့ စီရင်စု၊ လှည်းကူးမရွာ ဇာတိဖြစ်သည်။ ဘွဲ့တော်မှာ ဂုဏာလင်္ကာရ (ဂုဏရံသာလင်္ကာရ) ဖြစ်သည်။ မြင်းခြံခရိုင် သစိုးမလည်ရွာ ဂေါစရဂါမ် ရှိသော ဒန့်တိုင်၊ သစ်ညို ကျောင်းတို့၌ တလှည့်စီ သီတင်းသုံးတော်မူသည်။ ပြုစုသော ကျမ်းများမှာ၊ (၁) ခုဒ္ဒကပါဌ ပါဠိတော် နိသျ၊ (၂) ခုဒ္ဒကပါဌ အဋ္ဌကထာ နိသျ၊ (၃) စတုဘာဏဝါရ ပါဠိတော် နိသျ၊ (၄) စရိယာပိဋကတ် ပါဠိတော် နိသျ (၅) စရိယာပိဋကတ် အဋ္ဌကထာ နိသျ၊ (၆) စန္ဒကုမာရဇာတ် အဋ္ဌကထာ နိသျ၊ (၇) တေမိယဇာတ် အဋ္ဌကထာ နိသျ၊ (၈) နာရဒဇာတ် အဋ္ဌကထာ နိသျ၊ (၉) နေမိဇာတ် အဋ္ဌကထာ နိသျ၊ (၁၀) ဘူရိဒတ်ဇာတ် အဋ္ဌကထာ နိသျ၊ (၁၁) မဟာဇနကဇာတ် အဋ္ဌကထာ နိသျ၊ (၁၂) မဟောသဓဇာတ် အဋ္ဌကထာ နိသျ၊ (၁၃) မိလိန္ဒပဉှာ ပါဠိတော် နိသျ၊ (၁၄) မိလိန္ဒပဉှာ ဝတ္ထု၊ (၁၅) ဝိဓုရဇာတ် အဋ္ဌကထာ နိသျ၊ (၁၆) ဝေဿန္တရာဇာတ် အဋ္ဌကထာ နိသျ၊ (၁၇) သုဝဏ္ဏသာမဇာတ် အဋ္ဌကထာ နိသျ (၁၈) သုတ္တနိပါတ် ပါဠိတော် နိသျ၊ (၁၉) သုတ္တနိပါတ် အဋ္ဌကထာ နိသျတို့ ဖြစ်လေသည်။

၃၅။ ။မင်းပူး ဆရာတော် ဦးဩဘာသ

မင်းပူးဆရာတော် ဦးဩဘာသသည် ၁၁၄၃ ခုနှစ်တွင်မင်းဖြစ်သော ဘိုးတော် မင်းတရားကြီး လက်ထက်တွင် ပေါ်ပေါက်၍၊ ဇာတ်ကြီးဆယ်ဘွဲ့အနက် စန္ဒကုမာရ ဇာတ်တော်ကြီး၊ တေမိ ဇာတ်တော်ကြီး၊ နာရဒ ဇာတ်တော်ကြီး၊ နေမိ ဇာတ်တော်ကြီး၊ မဟာဇနက ဇာတ်တော်ကြီး၊ မဟောသဓ ဇာတ်တော်ကြီး၊ ဝိဓုရ ဇာတ်တော်ကြီးနှင့် ဝေဿန္တရာ ဇာတ်တော်ကြီးတို့ကို ပါဠိမှ မြန်မာသို့ ပြန်ဆိုတော်မူ၍၊ မြန်မာစာပေတွင် ထင်ရှားသော ပုဂ္ဂိုလ်ဖြစ်သည်။ (ဩဘာသ၊ ဦး၊ မင်းပူးဆရာတော် — ရှု။)

၃၆။ ။ဂူကြီး ဆရာတော်

ဂူကြီး ဆရာတော်သည် ယိုးဒယားလူမျိုးဖြစ်သည်။ ဖခင်မှာ ယိုးဒယား အမတ်ကြီးဟောင်း ဖြစ်သည်။ ၁၁၂၁ ခုနှစ်တွင် ဖွားမြင်၍၊ ၁၁၂၉ ခုနှစ်၊ အသက် ၈ နှစ်သားအရွယ်တွင် မြန်မာပြည် အင်းဝမြို့သို့ပါလာသည်။ ငယ်မည်ဦးယာဖြစ်သည်။ ပဌမ ဗားကရာ ဆရာတော်ကြီးက စာပေသင်ကြားပေး၍၊ ယင်းဆရာတော်ထံ၌ပင် သာမဏေ ဖြစ်သည်။ သာမဏေဘွဲ့ ရှင်ပညာဖြစ်သည်။ အသက်စေ့တွင် ရဟန်းပြုသည်။ ရဟန်းဘွဲ့ ရှင်ပညာသီဟ ဖြစ်သည်။ ရဟန်း ၉ ဝါရတွင် ပဌမကျော် အောင်သည်။ အမရပူရမြို့အနောက်ဖက် ဂူကြီးတိုက်၌ သီတင်းသုံးတော်မူသည်။ 'ပညာသီဟာဘိသိရိသဒ္ဓမ္မဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု' တံဆိပ်တော်ရသည်။ ၁၁၆၃ ခုနှစ်တွင် လူထွက်၍ သီရိနန္ဒသင်္ကြံ ဘွဲ့ဖြင့် မဟာဒါန်ဝန် ဖြစ်သည်။ ၁၁၇၆ ခုနှစ်တွင် မုတ္တမရုံးပေါ်၌ မွန်ယိုးဒယားတို့သတ်၍ဘဝပြောင်းသည်။

ပြုစုသောကျမ်းများမှာ၊ (၁) ဆန္ဒောဂုဏ္ဍတ္ထ ဒီပနီ ပါဌ်၊ (၂) ဇိနာလင်္ကာရ ဋီကာ နိသျ၊ (၃) ဇင်းမယ် ပဏ္ဏာသ နိသျ၊ (၄) နာဋိက ဝိနိစ္ဆယ ကျမ်း၊ (၅) ပဏာမ ဒီပနီ ကျမ်း၊ (၆) ပဋ္ဌာန်ကြိုက် အဋ္ဌကထာ နိသျသစ်၊ (၇) မူလဋီကာ နိသျ၊ (၈) သုတ်သီလက္ခန် ဋီကာဟောင်း နိသျ၊ (၉) အနုဋီကာ နိသျ၊ (၁၀) အဘိဓမ္မတ္ထ ဒီပကကျမ်းဟောင်း၊ (၁၁) ဥပါသကပဋိပဒါ ကျမ်းတို့ဖြစ်သည်။

၃၇။ ။သာသနာပိုင် စလင်း ဆရာတော်

ဤသာသနာပိုင်စလင်းဆရာတော်သည် ပဌမ စလင်းဆရာတော်ဖြစ်၏။ စကုမြို့အဝင် ကန့်ကလာရွာ၌ အဖ ဦးညိုသီလ

အမိ ဒေါ်မိတို့မှ ၁၁၂၅ ခု တော်သလင်း လဆန်း ၈ ရက် ကြာသပတေးနေ့တွင် ဖွားမြင်၍၊ ငယ်မည် ဦးချစ်လေက်၊ ရဟန်းမည် ရှင်ပညာသီဟ ဖြစ်သည်။
(သာသနာပိုင်များ — ရှု။)

၃၈။ ။သဲအင်း သာသနာပိုင် ဆရာတော်

သဲအင်း ဆရာတော်သည် ပခန်းကြီးမြို့ကျေး သဲအင်းရွာ၌ အဖ ဦးအောင်စံ အမိ ရှင်ပုံတို့မှ ၁၁၂၅ ခု နတ်တော် လဆန်း ၇ ရက် သောကြာနေ့တွင် ဖွားမြင်၍၊ ငယ်မည် ဦးကြောင်၊ ရဟန်းဘွဲ့ ရှင်သူရိယ ဖြစ်သည်။
(သာသနာပိုင်များ — ရှု။)

၃၉။ ။မုံရွေး ဇေတဝန် ဆရာတော်

မုံရွေး မေတ္တာစာကို ရေးသား စီရင်၍ ကျော်စောထင်ရှားသော မုံရွေး ဇေတဝန် ဆရာတော်သည် မုံရွာခရိုင် ကြေးမုံမြို့ သူကြီး ဦးဇေယျ သူကြီးကတော် ဒေါ်မင်းလှတို့မှ ၁၁၂၈ ခု နယုန်လဆန်း ၄ ရက် တနင်္ဂနွေနေ့တွင် ဖွားမြင်၍၊ ငယ်မည် မောင်နိုး၊ မိဖတို့ခေါ်ဝေါ်သောအမည် မောင်မြအောင်၊ ရဟန်းအမည် ရှင်အာဒိစ္စရံသီဖြစ်သည်။
(မုံရွေး ဇေတဝန် ဆရာတော် — ရှု။)

၄၀။ ။ပဥ္စမ ငါးခုန် ဆရာတော်

ပဥ္စမ ငါးခုန် ဆရာတော်သည် ထီးလဲ့ရွာ၌ သက္ကရာဇ် ၁၁၃၂ ခုနှစ်ခန့်တွင် ဖွားမြင်သည်။ နောက် ငါးခုန်ရွာသို့ရောက်၍ အသက် ၂၀ လွန်မှ ရဟန်းပြုသည်။ ဘွဲ့တော် ရှင်အာဒိစ္စဝံသ ဖြစ်၏။ ရတနာပုရ စတုတ္ထမြို့တည် နန်းတည် ဘကြီးတော်မင်းတရားလက်ထက်၌ ထင်ရှားသော ဆရာတော်ဖြစ်သည်။ 'အာဒိစ္စဝံသာဘိဓဇမဟာဓမ္မရာဇဂုရု' တံဆိပ်တော်ရသည်။ အမရပုရမြို့တော်၊ တောင်သမန် တောရ၌ သီတင်းသုံးသည်။ တောင်လေးလုံးတိုက်၊ မင်္ဂလာကျောင်း ၌လည်း သီတင်းသုံးသည်။ သက်တော် ၇၀၊ ဝါတော် ၄၀ ကျော်၊ သက္ကရာဇ် ၁၂၀၂ ခုခန့်တွင် ပျံလွန်တော်မူသည်။

ပြုစုသောကျမ်းများမှာ၊ (၁) ကာရိကာ နိသျသစ်၊ (၂) ခုဒ္ဒကပါဌဋီကာပါဌ်၊ (၃) စရိယာပိဋကတ် အဋ္ဌကထာ နိသျ၊ (၄) ဆက္ကနိပါတ်ဇာတ် အဋ္ဌကထာ နိသျ၊ (၅) ဋီကာကျော် ဂဏ္ဌိဟောင်း၊ (၆) ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာ နိသျဟောင်း၊ (၇) ဗုဒ္ဓဝံသ အဋ္ဌကထာ နိသျ၊ (၈) မဏိသာရမဉ္ဇူသာ ဋီကာ နိသျ၊ (၉) မဟာဗုဒ္ဓဝင် ဝတ္ထုတော်ကြီး၊ (၁၀) မူလဋီကာ (ဒွါရကထာထိ) ဂဏ္ဌိကျမ်း၊ (၁၁) မူလ ပဏ္ဏာသ ပါဠိတော် နိသျသစ်၊ (၁၂) သတ္တကနိပါတ် ဇာတ်အဋ္ဌကထာ နိသျ၊ (၁၃) သဒ္ဒနီတိ ပဒမာလာ နိသျ၊ (၁၄) သဒ္ဒနီတိ သုတ္တမာလာ နိသျ၊ (၁၅) သမ္မန္တစက္ခု ဋီကာသစ် ပါဌ်၊ (၁၆) ဝိသတိဂါထာ ဝဏ္ဏနာ ပါဌ်၊ (၁၇) အတ္ထုဒ္ဓါရ ဝိဘာဝနီ ကျမ်းတို့ဖြစ်သည်။

၄၁။ ။ဒုတိယ ဗားကရာ သာသနာပိုင် ဆရာတော်

ဒုတိယ ဗားကရာ ဆရာတော်သည် ပခန်းကြီးမြို့ကျေး မြိုင်ရွာနေ မောင်ကြင် မယ်ကြင်ဟူသော မိဖနှစ်ပါးတို့ ချောင်းကောက်ရွာသို့ ခေတ္တလာခိုက်၊ ထိုချောင်းကောက်ရွာ၌ ၁၁၄၇ ခုနှစ် ကဆုန်လပြည့်ကျော် ၁၃ ရက် ကြာသပတေးနေ့တွင် ဖွားမြင်သည်။ ငယ်မည် ဦးအင်၊ သာမဏေဘွဲ့ ရှင်ပညာဖြစ်သည်။ (ဗားကရာ ဆရာတော်များ — ရှု။ သာသနာပိုင်များ — လည်းရှု။)

၄၂။ ။ဆရာတော် ဦးပုတ်

ဆရာတော် ဦးပုတ်သည် အလုံမြို့ကျေး ညောင်ကန်ရွာ၌ အဖမောင်အို အမိ ရှင်မွေးတို့မှ ၁၁၄၉ ခုနယုန်လပြည့်ကျော် ၅ ရက် အင်္ဂါနေ့တွင် ဖွားမြင်၍၊ ငယ်မည် ဦးပုတ်ဟု တွင်သည်။ (ပုတ်၊ဦး၊ ဆရာတော် — ရှု။ ညောင်ကန်ဆရာတော်များ — လည်းရှု။)

၄၃။ ။ပြည် ဆရာတော်

ပြည် ဆရာတော်သည် အလုံမြို့ကျေး ညောင်ကန် ရွာ၌ အဖ ဦးဖြူ အမိ ဒေါ်ညွန့်တို့မှ ၁၁၅၀ ပြည့်နှစ် ဝါဆိုလဆန်း ၇ ရက် ကြာသပတေးနေ့တွင် ဖွားမြင်၍၊ ငယ်မည် ဦးကျီး တွင်သည်။ အချို့ကလည်း ဦးကျီးညိုဟု တွင်သည်ဟူ၏။ (ပြည်ဆရာတော် — ရှု။)

၄၄။ ။ပင်း ဆရာတော်ကလေး

ပင်း ဆရာတော်ကလေးသည် မိတ္ထီလာမြို့နယ်၊ သပြေကုန်းရွာ၌ ဦးကြာထွား ဒေါ်ဖြူတို့မှ သက္ကရာဇ် ၁၁၅၅ ခုနှစ် နတ်တော်လဆန်း ၁၄ ရက်၊ တနင်္လာနေ့တွင် ဖွားမြင်သည်။ ငယ်မည်ဦးလွမ်းပြေဖြစ်သည်။ သာမဏေဘွဲ့ရှင်ကဝိန္ဒ၊သက်တော်စေ့ ရဟန်းဖြစ်သည်။ ရဟန်းဘွဲ့ ရှင်ကဝိန္ဒာဘိ ဖြစ်သည်။ ဘကြီးတော်ဘုရား လက်ထက်တွင် အင်းဝမြို့၊ မဲထီးကျောင်းတိုက်၌ သီတင်းသုံး၍၊ ရွှေဘိုမင်း လက်ထက်တွင် အမရပုရမြို့တော် အရှေ့တောင်ယွန်း၊ မဲထီးကျောင်းတိုက် အတွင်း၌ ရေနံချောင်းမြို့စားဝန်ကြီး ဆောက်လုပ်သည့် သုံးထပ်ကျောင်း၌ သီတင်းသုံးတော်မူ၏။ ကဝိန္ဒာဘိသိရိသဒ္ဓမ္မဇောတိကဓဇမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်နှင့်တကွ တံဆိပ်တော် ၂ ထပ်ရသည်။ သက်တော် ၅၈ နှစ်၊ ဝါတော် ၃၈ ဝါ၊ သက္ကရာဇ် ၁၂၁၂ ခုနှစ်တွင် မိတ္ထီလာမြို့စီရင်စု၊ မိုးကောင်းတောင်နှာမောင်း တောကျောင်းတွင် တောမီးသင့်၍ ပျံလွန်တော်မူသည်။ ပြုစုသောကျမ်းများမှာ၊ (၁) ခုဒ္ဒကပါဌ

ပါဠိတော် နိဿျသစ်၊ (၂) ထေရဂါထာ ပါဠိတော် နိဿျသစ်၊ (၃) ထေရီဂါထာ ပါဠိတော် နိဿျသစ်၊ (၄) ပဋိသမ္ဘိဒါမဂ် ပါဠိတော် နိဿျသစ်၊ (၅) ဗုဒ္ဓဝင် ပါဠိတော်နိဿျသစ်၊ (၆) မနောရထပူရဏီ ဆေးကျမ်းပါဠိ၊ (၇) မဟာနိဒ္ဒေသ ပါဠိတော် နိဿျသစ်၊ (၈) ရာဇာဘိဟိတ ဒီပနီကျမ်း၊ (၉) ဝိသုဒ္ဓိမဂ္ဂ သင်္ဂဟ ပါဌ်၊ (၁၀) သံယုတ်ငါးကျမ်းပါဠိတော်နိဿျသစ်၊ (၁၁) အဘိဓမ္မတ္ထ ဒီပနီကျမ်း၊ (၁၂) ဇာတ်ဝတ် ပါဠိတော် နိဿျသစ်၊ (၁၃) ဥဒါန်း ပါဠိတော်နိဿျသစ်တို့ဖြစ်သည်။

၄၅။ ။ထွင့်ခေါင် ဆရာတော်

ထွင့်ခေါင် ဆရာတော်သည် ဟသ်ာတခရိုင် လေးမျက်နှာမြို့ အနီး အနောက်မြောက်ဖက် မြင်းကုန်းရွာ၌ ဦးလှကြီး ဒေါ်မေတို့မှ ၁၁၆၀ ပြည့်နှစ် တပေါင်းလပြည့် အင်္ဂါနေ့တွင် ဖွားမြင်၍၊ ငယ်မည် မောင်စိုးဟု တွင်သည်။ (ထွင့်ခေါင်ဆရာတော် — ရှု။)

၄၆။ ။သာသနာပိုင် ဒုတိယ မောင်းထောင် ဆရာတော်

ဒုတိယမောင်းထောင်ဆရာတော်သည်ကန့်ဘလူမြို့ကျေးနတ်ရဲတောင်ရွာ၌ ဦးထွန်းဝါ ဒေါ်ယာတို့မှ ၁၁၆၁ ခု ပဥ္စမဝါဆိုလဆန်း ၁၀ ရက် အင်္ဂါနေ့တွင် ဖွားမြင်၍၊ ငယ်မည် မောင်မှိုဟုတွင်သည်။ (မောင်းထောင်ဆရာတော်များရှု။ သာသနာပိုင်များ — လည်းရှု။)

၄၇။ ။ဗန်းမော် ဆရာတော်

ဗန်းမော် ဆရာတော်သည် ရွှေတောင်မြို့ ကွပ်ညှပ်စင်ရွာ၌ သက္ကရာဇ် ၁၁၆၇ ခုတွင် ဖွားမြင်၍၊ ငယ်မည် မောင်ဖြူဝင်း၊ ရဟန်းဘွဲ့ဦးပဏ္ဍိတဖြစ်သည်။ (ဗန်းမော်ဆရာတော် — ရှု။)

၄၈။ ။ဘုရားကြီး ဆရာတော်

ဘုရားကြီး ဆရာတော်သည် မိတ္ထီလာမြို့နယ် ကဖြူရွာ၌ ၁၁၇၂ ခုနှစ်တွင် ဖွားမြင်၍၊ ငယ်မည် ဦးညို၊ ရဟန်းဘွဲ့ ဦးဇာဂရဖြစ်သည်။ (ဘုရားကြီးဆရာတော် — ရှု။)

၄၉။ တတိယ မောင်းထောင် ဆရာတော်

တတိယမောင်းထောင် ဆရာတော်သည် အလုံမြို့ မောင်းထောင်ကြီးရွာ၌ ၁၁၇၇ ခုနှစ် ဝါဆိုလဆန်း ၈ ရက် ကြာသပတေးနေ့တွင် ဖွားမြင်၍၊ ငယ်မည် မောင်သော်၊ ရဟန်းဘွဲ့ ဦး ပညာသာမိ တံဆိပ် ပညာသာမိ ကဝိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရုဖြစ်သည်။ (မောင်းထောင်ဆရာတော်များ — ရှု။)

၅၀။ ။သင်္ဂဇာ ဆရာတော်

သင်္ဂဇာ ဆရာတော်သည် စကားအရာတွင် တခ်ဏုပ္ပတ္တိ ဉာဏ်ထက်မြက်သော ပုဂ္ဂိုလ်ဖြစ်၍၊ ဆရာတော်မိန့်ကြားသောပုံတိုများသည် ဥပမာသမ္ပဟာဂိရက္ကမကျမ်း အဖြစ်ဖြင့် မြန်မာဂန္ထဝင်တွင် ထင်ရှားသည်။ ဆရာတော်သည် မြင်းခြံခရိုင်၊ တလုပ်မြို့ကျေး ပေါက်ချောင်းရွာ၌ ၁၁၇၇ ခုနှစ်တွင် ဖွားမြင်သည်။ (သင်္ဂဇာဆရာတော် — ရှု။)

၅၁။ ။ကျီးသဲလေးထပ် ဆရာတော်

ဇိနတ္ထ ပကာသနီကျမ်းနှင့် ကဗျာသာရတ္ထသင်္ဂဟကျမ်း စသည်တို့ကို ပြုစုရေးသားစီရင်၍ ထင်ရှားသော ကျီးသဲလေးထပ်ဆရာတော်သည်။ ရွှေတောင်မြို့၊ ကျီးသဲရွာတွင် ၁၁၇၉ ခုနှစ်၌ဖွားမြင်သည်။ (ကျီးသဲလေးထပ်ဆရာတော် — ရှု။)

၅၂။ ။အုတ်ဖို ဆရာတော်

အုတ်ဖို ဆရာတော်သည် သာရဝေါတိုက်နယ် ရွာကလေးရွာ၌ ၁၁၇၉ ခုနှစ်တွင် ဖွားမြင်၍၊ ဒွါရဂိုဏ်းကို စတင်တည်ထောင်သော ပုဂ္ဂိုလ်ဖြစ်သည်။ (အုတ်ဖိုဆရာတော် — ရှု။ ဒွါရဂိုဏ်း — လည်းရှု။)

၅၃။ ။ရွှေကျင် ဆရာတော်

ရွှေကျင် ဆရာတော်သည် ရွှေကျင်ဂိုဏ်းကို ဦးစီးတည်ထောင်ခဲ့သော ဆရာတော်ကြီးဖြစ်ပေသည်။

၁၁၈၄ ခုနှစ်တွင် ရွှေဘိုမြို့အပိုင် ရွှေကျင်ရွာ၌ ဖွားမြင်သည်။ (ရွှေကျင်ဆရာတော် — ရှု။ ရွှေကျင်ဂိုဏ်း — လည်းရှု။)

၅၄။ ။ဒုတိယမြို့မြင်ကြီး ဆရာတော်

ဒုတိယ မြို့မြင်ကြီး ဆရာတော်သည် သက္ကရာဇ် ၁၁၈၉ ခုနှစ်၊ တပေါင်းလဆန်း၌ ဖွားမြင်သည်။ ပဥ္စမ မြို့မြင်ကြီး ဆရာတော် ဦးအရိန္ဒမ၏ တူတော်အရင်း ဖြစ်သည်။ သက်တော် ၇၄ နှစ်၊ သက္ကရာဇ် ၁၂၆၃ ခု၊ နယုန်လတွင် ရန်ကုန်မြို့၊ ကျောင်းတော်ရာ ဗဟ်လားတိုက်၌ ပျံလွန်တော်မူသည်။

ပြုစုသောကျမ်းများမှာ၊ (၁) ကင်္ခါဝိတရဏီ ဝိနိစ္ဆယကျမ်း၊ (၂) စက္ခုဒီပုပ္ပတ္တိ ဒီပကကျမ်း၊ (၃) ဒိဋ္ဌိဘေဒ ပကာသနီကျမ်း၊ (၄) နိဗ္ဗာန သရုပဒီပကကဏ္ဍ ကျမ်း၊ (၅) ပဋိစ္စသမုပ္ပါဒ နယ ဒီပနီကျမ်း၊ (၆) ပုစ္ဆာ ဗျာကရဏကျမ်း၊ (၇) ဖလဋ္ဌဘေဒ ပကာသနီကျမ်း၊ (၈) ရုပဝီထိ ပကာသနီကျမ်း၊ (၉) သရဏာသရုပါဒိ ဒဿန ကျမ်း၊ (၁၀) သီလသမာဒါန ဝိနိစ္ဆယကျမ်း၊ (၁၁) သမ္ဗောဟ ဆောဒနီကျမ်း၊ (၁၂) အဘိဓမ္မတ္ထ သရုပဒီပက ကျမ်း၊ (၁၃) အဋ္ဌသာလိနီ အဋ္ဌကထာ ဂဏ္ဌိသစ်ကျမ်းတို့ဖြစ်သည်။

၅၅။ ။ဆရာတော် ဦးသီလ

ဆရာတော် ဦးသီလသည် တောရဆောက်တည်၍၊ တရားကျင့်ရာတွင် ထင်ရှားသည်။ ၁၁၉၄ ခုနှစ်တွင် ပခုံးမြို့အပိုင် ဘုရားကလေးရွာ၌မွေးဖွား၍၊ငယ်မည်မောင်ရွှေသာ၊ရဟန်းအမည် ဦးသီလသာရဟုတွင်သည်။ (သီလ၊ ဦး၊ ဆရာတော် — ရှု။)

၅၆။ ။ရေစကြို ဆရာတော်

ရေစကြို ဆရာတော်သည် ပခန်းကြီးမြို့၊ မြို့နယ်၊ အလယ်ကန်တိုက်၊ ညောင်ပင်ရွာ၌ ယောမြို့ဝန်ကြီး ဦးနိုး၏သားဖြစ်သော ဦးလူပု ဒေါ်မင်းခဲတို့မှ သက္ကရာဇ် ၁၁၉၄ ခု၊ တပေါင်းလပြည့်ကျော် ၁၃ ရက်၊ တနင်္လာနေ့တွင် ဖွားမြင်သည်။ ငယ်မည် ဦးထပ် ဖြစ်သည်။ ဘွဲ့ဦးဂန္ဓသာရ ဖြစ်သည်။ ရေစကြိုမြို့၊ အောင်မြေသာယာမင်္ဂလာမင်းကျောင်းတိုက်၌ ပဌမသီတင်းသုံး၍၊ ၁၂၅၈ ခုနှစ်တွင် ပခုက္ကူမြို့သို့ ပြောင်းရွှေ့သီတင်းသုံးတော်မူသည်။ ပိဋကတ်စာပေ ချပို့ရာ၌ အဓိပ္ပါယ်မပြောဘဲ အနက်ချည်းသက်သက် ချပို့သောနည်းကို တွင်ကျယ်စွာ ဆောင်ရွက်ခဲ့သည်။ ယခုခေတ်တိုင်ပင် ပခုက္ကူစာချနည်းဟူ၍ တပည့်အစဉ်အဆက် တိုက်ခွဲပေါင်းများစွာ လိုက်နာ ချပို့လျက်ရှိသည်။ သက်တော် ၈၂ နှစ်၊ သက္ကရာဇ် ၁၂၇၆ ခု၊ သီတင်းကျွတ်လပြည့်ကျော် ၂ ရက်၊ တနင်္လာနေ့တွင် ပခုက္ကူမြို့၊ မဟာဝိသုတာရာမတိုက်၌ပျံလွန်တော်မူ၏။

ပြုစုသောကျမ်းများမှာ၊ (၁) ကင်္ခါဝိတရဏီ အဋ္ဌကထာနိဿယ၊ (၂) ငါးရာ့ငါးဆယ် ဇာတ်အဋ္ဌကထာနိဿယ (၂၂ နိပါတ်)၊ (၃) ဒီဃနိကာယ် သုံးကျမ်း ပါဠိတော်နိဿယ၊ (၆) မဇ္ဈိမနိကာယ် သုံးကျမ်း ပါဠိတော် နိဿယ၊ (၉) ဝိနည်းမဟာဝါ ပါဠိတော် နိဿယ၊ (၁၀) ဝိနည်းမဟာဝါ အဋ္ဌကထာ နိဿယ၊ (၁၁) သံယုတ္တနိကာယ် ငါးကျမ်း ပါဠိတော်နိဿယ၊ (၁၆) ဥဘတောဝိဘင်း ပါဠိတော် နိဿယ ၂၊ (၁၈) ဥဘတောဝိဘင်း အဋ္ဌကထာ နိဿယ၊ (၁၉) အင်္ဂုတ္တရနိကာယ် ၁၁ ကျမ်း ပါဠိတော် နိဿယတို့ဖြစ်သည်။

၅၇။ ။မဟာဝိသုဒ္ဓါရုံ ဆရာတော်

မဟာဝိသုဒ္ဓါရုံဆရာတော်သည် ရွှေကျင်ဆရာတော်ပျံလွန်တော်မူလေသည့်နောက် ရွှေကျင်ဂိုဏ်းကို အုပ်ချုပ်လျက် တိုးတက်ပြန့်ပွားအောင် ဆောင်ရွက်တော်မူခဲ့သော ဆရာတော်ဖြစ်သည်။

၁၂၀၀ ပြည့်နှစ်တွင် ရွှေဘိုမြို့တောင်လက် စမွန်ရွာ၌ ဖွားမြင်တော်မူ၍ ငယ်မည် မောင်မောက်ဟုတွင်လေသည်။ ၁၂၇၈ ခုနှစ်တွင် ပျံလွန်တော်မူလေသည်။ (မဟာဝိသုဒ္ဓါရုံ ဆရာတော်— ရှု။)

၅၈။ ။မန်လည် ဆရာတော်

မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကို စီရင်ရေး သားသဖြင့်ထင်ရှားသော မန်လည်ဆရာတော်သည် ၁၂၀၃ ခုနှစ်တွင်ဖွားမြင်၍၊ ၁၂၈၁ ခုနှစ်တွင် မန်လည်ရွာ၌ ပျံလွန်တော်မူသည်။ (မန်လည်ဆရာတော် — ရှု။)

၅၉။ ။လယ်တီ ဆရာတော်

လယ်တီ ဆရာတော်သည် ဒီပဲရင်းမြို့ စိုင်ပြင်ကြီးရွာ၌ ဦးထွန်းသာ ဒေါ်ကျူးတို့မှ ၁၂၀၈ ခုနှစ်တွင် ဖွားမြင်သည်။ ငယ်မည် မောင်တက်ခေါင်ဖြစ်သည်။ ၁၂၈၅ ခုနှစ်၌ပျံလွန်တော်မူသည်။ မုံရွာမြို့ လယ်တီကျောင်းတိုက်ကို တည်ထောင်၍၊ မြန်မာနိုင်ငံအရပ်ရပ်သို့ လှည့်လည်သာသနာပြုပြီးလျှင် မြတ်စွာဘုရား၏ တရားဓမ္မခန်တို့ကို သာမန်လူထုတို့နားလည်လွယ်အောင် ဟောကြားပြသ၍ ကျမ်းဂန်စာအုပ်များ ရေး သား ပြုစုသော ကြောင့် ကျော်စောသည်။ (လယ်တီဆရာတော် — ရှု။)

၆၀။ ။ညောင်ရမ်း ဆရာတော်

၁၃၁၆ ခုနှစ် ကဆုန်လပြည့်နေ့တွင် စတင်ကျင်းပသော ဆဋ္ဌသင်္ဂါယနာတင် မဟာဓမ္မသဘင်ကြီး၌ သံဃနာယကအဖြစ်ဖြင့်ဆောင်ရွက်ခဲ့သော ညောင်ရမ်း ဆရာတော်သည် ၁၂၃၅ ခုနှစ်၌ မွေးဖွား၍၊ ဆဋ္ဌသင်္ဂါယနာတင်ဆဲ ၁၃၁၆ခုနှစ်တွင် ပျံလွန်တော်မူသည်။ (ညောင်ရမ်းဆရာတော် —ရှု။)

၆၁။ ။ပခုက္ကူ ဆရာတော်

ပခုက္ကူ ဆရာတော်သည် မြင်းခြံခရိုင်၊ ပုပ္ပါးတောင်အနီး တောင်ဆင်းနယ်၊ ခွေးပြုတ်ရွာ၌ ဦးပြော ဒေါ်မင်းဂုဏ်တို့မှ သက္ကရာဇ်၁၂၄၀ ပြည့်နှစ်၊ ကဆုန်လဆန်း ၂ ရက် ကြာသပတေး နေ့တွင်ဖွားမြင်သည်။ ငယ်မည် ဦးပေါ်ဥာဏ် ဖြစ်သည်။ ၁၄ နှစ်သားအရွယ်တွင် နဂါးရစ်ဆရာတော် ဦးဥာဏထံ၌ ရှင်သာမဏေ ဖြစ်သည်။ သာမဏေဘွဲ့ ရှင်မေဓာဖြစ်သည်။ ထိုနောက် ငန်းမြာကြီးရွာ ဆရာတော် အရှင်မေဓာထံ စာပေသင်ကြားရာ ဆရာတော်၏ဘွဲ့နှင့် တူနေသဖြင့် ရှင်ပညာဟု ဘွဲ့အမည် ပြောင်း၏။ ၁၆ နှစ်သားအရွယ်တွင် ပခုက္ကူမြို့ ရေစကြို ဆရာတော်ကြီး ထံသို့ရောက်၍၊ အသက် ၂၀ ပြည့်သောအခါ ၁၂၅၉ ခုနှစ်၊ တပေါင်း လပြည့်ကျော် ၅ ရက်နေ့၌ နဂါးရစ်ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ်ရောက်သည်။ ရဟန်းဘွဲ့ ဦးပညာဖြစ်သည်။ ပခုက္ကူမြို့၊ ရေစကြိုဆရာတော်ကြီး ထံ၌ စာပေသင်ကြား၍၊ ရဟန်းဝါ ၄ ဝါရသောအခါ စာချပုဂ္ဂိုလ် မြောက်ခြင်းကို ခံရသည်။ ၇ဝါရသောအခါ မန္တလေးမြို့သို့ ကြွရောက်၍ ခင်မကန်တိုက်၊ ရွှေရေးဆောင်တိုက်တို့၌ နည်းနာခံယူပြီး ၁၂၇၆ ခု၊ သီတင်း

ကျွတ်လပြည့်ကျော် ၂ ရက်နေ့တွင် ရေစကြို ဆရာတော်ကြီး ပျံလွန်တော်မူသဖြင့် ပခုက္ကူသို့ ပြန်ကြ၍၊ မဟာဝိသုတာရာမ စာသင်တိုက်ကြီးကို ဦးစီးအုပ်ချုပ်လျက် စာပေ ပို့ချတော်မူသည်။ ထိုအခါမှစ၍ ပခုက္ကူဆရာတော် ဦးပညာဟု ကျော်စောထင်ရှားလျက် မြန်မာနိုင်ငံတွင် ဆရာတော်ဦးပညာ ထံနည်းမခံဘူးသော စာချပုဂ္ဂိုလ်ဟူ၍ မရှိသလောက်ပင် ဖြစ်သည်။ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် ဆက်ကပ်ခံရသည်။ သက်တော် ၆၉ နှစ်၊ ဝါတော် ၅၀၊ သက္ကရာဇ် ၁၃၀၈ ခုနှစ်၊ တော်သလင်း လပြည့်ကျော် ၆ ရက်နေ့တွင် ပျံလွန် တော်မူသည်။

ပြုစုသော ကျမ်းများမှာ၊ (၁) ဋီကာကျော် နိသျ၊ (၂) မင်္ဂလတ္ထ ဒီပနီတို့ဖြစ်သည်။

အထက်ဖော်ပြပြီးသော ဆရာတော်တို့အပြင်၊ အင်းဝ ခေတ်၌ ထင်ရှားသော ဆီးတော ဆရာတော်၊ ကုန်းဘောင်ခေတ်တွင် ထင်ရှားသော ချောင်းကောက်ဆရာတော်၊ မဲထီး ဆရာတော်၊ သက်ငယ်ကျင်း ဆရာတော်၊ သာသနာပိုင် ထန်းတပင် ဆရာတော်၊ ဒီပဲရင်း ဆရာတော်၊ သီးလုံး ဆရာတော်၊ ခင်မကန် ဆရာတော်၊ ဝက်ခုတ် ဆရာတော်၊ စရစ် ဆရာတော်၊ ဆီးပန်းနီ ဆရာတော်၊ ရေစကြို မင်းအိုဆရာတော်၊ ကျပင်းဆရာတော်၊ မန္တလေးခေတ်တွင် ထင်ရှားကျော်စောသည့် မြတောင် ဆရာတော်၊ စံလင်း ဆရာတော်၊ စံကျောင်း ဆရာတော်၊ မိုးထား ဆရာတော်၊ မိုးကောင်းဆရာတော်၊ ဗဂ်လားဆရာတော်၊ မိုင်းခိုင်း ဆရာတော်၊ ကျောင်းတော်ရာ ဆရာတော်၊ ချမ်းသာကြီး ဆရာတော်၊ ဗြိတိသျှအစိုးရခေတ်တွင်ထင်ရှားသော အင်္ဂပူ ဆရာတော်၊ ဝတ်ချက်ဆရာတော်၊ ဖက်ပင်အိုင် ဆရာတော်၊ ဆရာတော်ဦးပခန်း (ပခုက္ကူ)၊ ပခုက္ကူအရှေ့တိုက်ဆရာတော်၊ ဝေဠုဝန် ဆရာတော်၊ သေက္ခတောင်ဆရာတော်၊ တောင်ပေါက် ဆရာတော်၊ ဟသံာဘုရားကြီးတိုက် ဆရာတော်စသည်တို့နှင့် ယခုခေတ် ပဋိပတ္တိသာသနာဖက်၌ ကျော်စောထင်ရှားသည့် မိုးညှင်းဆရာတော်ကြီး၊ မင်းကွန်း ဇေတဝန် ဆရာတော်ကြီး၊ ဝေဘူ ဆရာတော်၊ ဟံသာဝတီဆရာတော် ဦးဂန္ဓမာအစရှိသည့် ဆရာတော်များသည်လည်း မှတ်တမ်းတင်ထိုက်သောဆရာ တော်များ ဖြစ်လေသည်။

**ဆရားဝပ်နယ်။** ။ဆရားဝပ်နယ်သည် ဗော်နီယိုကျွန်း အနောက်မြောက်ဖက်ကမ်းခြေဒေသရှိ ဗြိတိသျှ ကိုလိုနီနယ်တခုဖြစ်သည်။ ထိုနယ်၏အနောက်မြောက်ဖက်တွင် ဗရူနေးနယ်၊ အရှေ့မြောက်ဖက်တွင် ဗြိတိသျှပိုင် ဗော်နီယိုမြောက်ပိုင်းနယ်နှင့် အခြားဖက်များတွင် ဒပ်ချပိုင် ဗော်နီယိုနယ်နှင့် တောင်ပိုင်း တရုပ်ပင်လယ် တို့ရှိသည်။ ဆရားဝပ်နယ်သည် စတုရန်းမိုင် ၄၇,၀၀၀ မိုင်ခန့် ကျယ်ဝန်းသည်။ ၁၉၅၄ ခုနှစ် အတွက် လူဦးရေ ခန့်မှန်းခြေ ၆၀၀,၀၀၀ ရှိသည်။ လူများစုမှာ ဒယက်လူမျိုး၊ ပသျှူးလူမျိုးနှင့် တရုပ်လူမျိုးတို့ဖြစ်ကြသည်။ မြစ်ကြီးမြစ်ငယ်အသွယ်သွယ်တို့သည် ဆရားဝပ်နယ်ကို ဖြတ်သန်းစီးဆင်းလျက်ရှိကြသည်။ အချို့သောမြစ်များသည် လှေသင်္ဘောများ မိုင်ပေါင်းများစွာ ဆန်တက်သွားလာနိုင်လောက်အောင် ကြီးကျယ်လေသည်။ ဆရားဝပ်နယ်၏ကမ်းရိုးတန်းမှာ မိုင် ၄၅၀ မျှရှည်လျားသည်။

ဆရားဝပ်နယ်သည် အပူပိုင်းဒေသတွင်တည်ရှိသဖြင့် ရာသီဥတုမှာ ပူအိုက်စိုစွတ်သည်။ မိုးများစွာရွာသွန်း၍ သစ်တောကြီးများ ထူထပ်စွာပေါက်ရောက်သည်။ ကာဖီ၊ ရော်ဘာ ကောင်း၊ သာဂူ၊ ကော်ဖတ်၊ ပရုတ်၊ ပီလောပီနံစသော အသီးအနှံများကို စိုက်ပျိုးလုပ်ကိုင်ကြသည်။ ဆရားဝပ်နယ်၏အရေးအကြီးဆုံး တွင်းထွက်ပစ္စည်းမှာ ရေနံဖြစ်၍၊ မိရိဆိပ်ကမ်းမြို့ အနီးတဝိုက်တွင် အများဆုံးထွက်သည်။




ဆရားဝပ်နယ် တည်နေရာပြ မြေပုံ

အခြားတွင်းထွက်ပစ္စည်းများမှာ ရွှေ၊ ကျောက်မီးသွေး၊ ခနောက်စိမ်း၊ စိန်၊ ကြေးနီနှင့်မန်ဂနိဖြစ်သည်။ တနေရာမှ တနေရာသို့ ကူးသန်းသွားလာရေးအတွက် ကမ်းခြေတလျှောက်တွင် မီးသင်္ဘောများကိုရင်း၊ အတွင်းဖက်ကုန်းပိုင်းတွင် မော်တော်ကားများနှင့် မြစ်ကြောင်းခရီးကိုရင်း အသုံးပြုကြသည်။ မီးရထားလမ်းဟူ၍မရှိချေ။

ဆရားဝပ်နယ်၏မြို့တော်မှာ ကူးချင်မြို့ဖြစ်သည်။ ထိုမြို့မှာ ဆရားဝပ်မြစ်ပေါ်တွင်တည်ရှိ၍၊ လူဦးရေ ၃၀,၀၀၀ ကျော်ရှိသည်။

ယခုရှိရင်းစွဲဆရားဝပ်နယ်မှာ ခရစ် ၁၈၄၁ ခုနှစ် ဇန်နဝါရီ လ ၂၄ ရက်နေ့တွင် ဗရူးနေးနယ်စား စူလတန်ထံမှ ဆာဂျိမ်း ဗရွတ်က ရရှိလိုက်သောနယ်ဖြစ်သည်။ ထိုအခါမှစ၍ ဗရွတ်၏သားစဉ်မြေးဆက်တို့သည် စော်ဘွားအဖြစ်ဖြင့်အုပ်စိုးခဲ့၏။ ခရစ် ၁၈၈၈ ခုနှစ်စာချုပ်အရ ဆရားဝပ်နယ်သည် ဗြိတိသျှအစိုးရအစောင့်အရှောက်ခံ (ဝါ) သြဇာခံနယ်ဖြစ်လာသည်။ ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၁၆ ရက်နေ့၌ ဆရားဝပ်နယ်မှာ ဂျပန်တို့ လက်သို့ကျရောက်ခဲ့သည်။ ဒုတိယကမ္ဘာစစ်ကြီး ပြီးသောအခါ၊ ဆာဂျိမ်းဗရွတ်၏အနွယ်ဖြစ်သော ဆရားဝပ် ရာဇာသည် အခြေခံဥပဒေဖြင့်အုပ်စိုးခဲ့၏။ သို့သော် ၁၉၄၆ ခုနှစ် မေလ ၁၇ ရက်နေ့တွင် ဆရားဝပ်နယ်ကို ဗြိတိသျှအစိုးရသို့ လွှဲအပ်လိုက်သည်။ ယခုအခါ ဆရားဝပ်နယ်ကို ဗြိတိသျှအစိုးရကခန့်အပ်သော ဘုရင်ခံက ဥပဒေပြု လွှတ်တော်နှင့် လူမျိုးစု ကိုယ်စားလှယ်အကြံပေးကောင်စီတို့၏အကူအညီဖြင့် အုပ်ချုပ်သည်။

**ဆလဗလူမျိုး။** ။ဆလဗလူမျိုးသည် အရှေ့ဥရောပနှင့် ဆိုက်ဗီးရီးယားတွင် နေထိုင်ကြသူများဖြစ်သည်။ ကမ္ဘာပေါ်တွင် ဆလဗပေါင်း သန်း ၂၀၀ ခန့်ရှိ၏။ ယင်းတို့တွင် ရုရှလူမျိုး၊ ပိုးလူမျိုး၊ ဝင်းလူမျိုး၊ ရုသီးနီးယန်း၊ ချက်၊ ဆလိုဗက်၊ ကရိုးအက်၊ ဆားဗီးယန်း၊ ဗူလဂေးရီးယန်း နှင့် မှန် တီနီးဂရင်းလူမျိုးများပါဝင်၏။

ဆလဗလူမျိုးများ၏မူလဇာစ်မြစ်မှာ အာရိယန်သို့မဟုတ် အင်ဒိုယူရိုပီယန်မျိုးရင်းမှ ဆင်းသက်လာသူများဖြစ်၏။ ရှေးဦးဆလဗတို့သည် ယူကရိန်းပြည်၏အနောက်မြောက်ဖက်နှင့် ပိုလန်ပြည်၏အရှေ့တောင်ဖက်ဒေသများတွင် နေထိုင်ခဲ့ကြသည်။ ထိုစဉ်က ဆလဗတို့သည် လယ်လုပ်၍ သိုးနွားတို့ကို မွေးမြူကာ အသက်မွေးခဲ့ကြသည်။ အေဒီ ၂၀၀ မှ ၅၀၀ အတွင်း၌ကား ဆလဗတို့သည် ရေကြည်ရာ မြက်နုရာ ဥရောပတိုက်ဒေသအနှံ့ အပြားသို့ သွားရောက်နေထိုင်ကြလေသည်။ ယင်းသို့ဖြင့် ဆလဗတို့သည် ဂျာမနီ၊ မွန်တီနီးဂရိုး၊ အယ်လဗေးနီးယားနှင့် ရုရှပြည်များသို့ စတင်ရောက်ရှိလာကြလေ၏။

ထိုစဉ်က ဆလဗလူမျိုးများမှာ အရပ်မြင့်မား၍၊ ဦးခေါင်းရှည်ပြီးလျှင်အသားလတ်ကြ၏။ ထိုနောက် နှစ်ပေါင်းများစွာကြာသောအခါ အခြားလူမျိုးများနှင့် ရောနှောနေထိုင်ကြသဖြင့် ပုံပန်းသဏ္ဌာန်ပြောင်းလဲလာကြလေသည်။ ထိုကြောင့် ဆလဗအဆက်အနွယ်ချင်းဖြစ်သော်လည်း၊ မြေထဲပင်လယ်ဖက်မှဆလဗများနှင့် ရုရှဖက်မှဆလဗများသည် ရုပ်ရူပကာအားဖြင့် မတူကြချေ။ ထိုနည်းအတူ အခြားတိုင်းပြည်များမှ ဆလဗများသည်လည်း ရုပ်ရည်အားဖြင့်ကွဲပြားခြားနားလေသည်။

ဆလဗနိုင်ငံများမှာ ဥရောပတိုက်တွင် မဖွံ့ဖြိုးသောနိုင်ငံများဖြစ်ခဲ့သည်။ ဆလဗတို့မှာ ရဲစွမ်းသတ္တိနှင့် ပြည့်စုံသော်လည်း၊ စည်းလုံးညီညွတ်မှုမရှိဘဲ၊ အချင်းချင်းတိုက်ခိုက်နေကြသောကြောင့် အင်အားမရှိချေ။ ထိုကြောင့် အတိုင်းတိုင်း အပြည်ပြည်မှ ဆလဗလူမျိုးမှန်သမျှတို့မှာ သူတပါး၏ကျူးကျော်တိုက်ခိုက်ခြင်းကို ခံရသည်သာဖြစ်ခဲ့၏။ သူတို့နိုင်ငံများ၏ ပထဝီအနေအထားမှာလည်းမကောင်းမွန်ချေ။ သူတို့သည် ဥရောပတိုက်အရှေ့ဆုံးအပိုင်း၌နေထိုင်ကြရသဖြင့် အာရှတိုက်မှလူများ ဥရောပတိုက်ထဲသို့ ဝင်ရောက်လာသောအခါတိုင်း သူတို့၏ပြည်များမှာ ပဌမဆုံးအတိုက်အခိုက်ခံကြရသည်။ အခြားတိုင်းပြည်များမှ ဆလဗများနှင့်စာလျှင် ရုရှတို့မှာ ဖိနှိပ်တိုက်ခိုက်ခြင်းအခံရနည်းခဲ့သည်။ သို့သော် ရုရှတောင်ပိုင်းပင်လျှင် ဂျင်ဂစ်ခန် ခေါင်းဆောင်



ဆလဗအနွယ်ဝင် ဗူလဂေးရီးယားလူမျိုးတို့၏ ရှေးရိုးအက



ဆလဗအန္ဒယ်ဝင် ယူဂိုစလပ်အမျိုးသားတို့၏ ရိုးရာ ကခုန်ပွဲ

သော ကြမ်းတမ်းရက်စက်သည့်လူမျိုးများ၏တိုက်ခိုက်ခြင်းကို ခံရသေးသည်။ (ဂျင်ဂစ်ခန် — လည်းရှု။) ဆားဗီးယန်းလူမျိုးတို့သည်လည်း ကောဆိုဗိုတိုက်ပွဲတွင်ကျူးကျော်မှုကိုခံရ၍ နာလန်မထူနိုင်အောင် ဖြစ်ခဲ့ရသည်။ ချက်လူမျိုးများကား ဝှိုက်မောင်းတိန်းတိုက်ပွဲတွင် ရက်စက်စွာ နှိမ်နင်းခြင်းကိုခံရသည်။ ပိုလန်သည် သုံးကြိမ်တိုင်တိုင် ရန်သူတို့၏ဖြိုဖျက်မှုကို ခံရသည်။ သို့သော် ဆလဗအန္ဒယ်တို့သည် သူတို့၏ လွတ်လပ်မှုကို ရရှိအောင် ကြိုးစားခဲ့ကြသည်။ (ပိုလန်နိုင်ငံ။ ရုရှနိုင်ငံ။ ချက်ကိုဆလိုဗားကီးယားနိုင်ငံ။ ယူဂိုဆလားဗီးယားနိုင်ငံ — ရှု။)

**ဆလမန္ဒာကောင်။** ။ဆလမန္ဒာကောင်သည် ပုံသဏ္ဌာန်အားဖြင့် အိမ်မြှောင်နှင့်တူသည်။ ခြေလေးချောင်းရှိ၍ အမြီးရှည်သည်။ ဖား၊ ရေပုတ်သင်တို့နှင့် အမျိုးနီးစပ်၏။ ရေကိုနှစ်သက်သောသတ္တဝါမျိုးဖြစ်သည်။ များသောအားဖြင့် အရွယ်ငယ်၏။ သို့ရာတွင် ဂျပန်နိုင်ငံ၌ ၅ ပေ ရှည်သော ဆလမန္ဒာကောင်မျိုးရှိသည်။

ဆလမန္ဒာကောင်သည် ကြောက်တတ်၏။ ဖြည်းညှင်းစွာကိုင်တွယ်လျှင် ဘာမျှပြန်၍မလုပ်တတ်ပေ။ သို့သော် ကြမ်းကြမ်းတမ်းတမ်းကိုင်တွယ်လျှင် အရေခွံမှ အဆိပ်ပါသည့် အဖြူရည်ကိုပက်ထုတ်တတ်သည်။ ဆလမန္ဒာအမသည် အိုင်ထဲ၊ စမ်းထဲသို့ဥများကိုအုချသည်။ ရက်သတ္တ ၂ ပတ်မှ ၄ ပတ်အတွင်း ဥများမှ အကောင်ကလေးများ ပေါက်လာကြသည်။ ဆလမန္ဒာကောင်ကလေးသည် ပါးဟက်ဖြင့် အသက်ရှူသည်။ ခြေလေးချောင်း ရှိ၏။ သို့သော် ငယ်ရွယ်စဉ် ရေထဲ၌ပင် ငါးကဲ့သို့နေသည်။ ကြီးပြင်းလာသောအခါမှ ကုန်းပေါ်၌နေသည်။

အကွက် အပြောက်များရှိသော ဆလမန္ဒာကောင်မျိုးကို ဥရောပတိုက်၊ အမေရိကတိုက်၊ အာရှမိုင်းနားနယ်တို့တွင် တွေ့ရသည်။

**ဆလေဒင်၊ ကာနယ်။** ။ဆလေဒင်သည် ၁၂၄၇ ခုနှစ် သီပေါမင်းပါတော်မူ အရေးတော်ပုံနှင့် စပ်လျဉ်း၍ ထင်ရှားခဲ့သော အင်္ဂလိပ်စစ်ဗိုလ်တဦးဖြစ်လေသည်။ ဆလေဒင်သည် သီပေါမင်း နန်းမတက်မီ မင်းတုန်းမင်း၏ လက်ထက်ကပင် အင်္ဂလိပ်အရေးပိုင်ကိုယ်စားလှယ်အဖြစ်ဖြင့် အထက်မြန်မာနိုင်ငံတွင် အမှုထမ်းခဲ့ဘူးသည်။

သူ၏နာမည် အပြည့်အစုံမှာ အက်ဒွပ် ဗီ ဆလေဒင် ဖြစ်သည်။ မြန်မာနိုင်ငံသို့ရောက်လာစတွင် လက်ဖတင်နင် (ဗိုလ်) ရာထူးမျှသာဖြစ်ခဲ့သော်လည်း၊ နောင်တစစ ကက်ပတိန် (ဗိုလ်ကြီး)၊ မေဂျာ (ဗိုလ်မှူး)၊ ကာနယ် (ဗိုလ်မှူးကြီး) ရာထူးများဖြင့် တိုးတက် ချီးမြှင့်ခြင်းခံခဲ့ရသည်။ နောက်ဆုံးတွင် ဆာဘွဲ့ချီးမြှင့်ခြင်းခံခဲ့ရလေသည်။ မန္တလေး၌ အင်္ဂလိပ်အရေးပိုင် ကိုယ်စားလှယ်အဖြစ် မဆောင်ရွက်မီ မော်လမြိုင်၌ရင်း၊ ပဲခူး၌ရင်း အမှုထမ်းခဲ့ဘူးလေသည်။

မန္တလေး၌ အရေးပိုင် ကိုယ်စားလှယ်အဖြစ် အမှုထမ်းခဲ့သည့်နှစ်များ (ခရစ် ၁၈၆၄ — ၁၈၆၉ ခုနှစ်) အတွင်း မင်းတုန်းမင်းနှင့် များစွာအကျွမ်းဝင်သည်။ မင်းတုန်းမင်းသည် အင်္ဂလိပ်နှင့်ဆက်ဆံရေးတွင် ဆလေဒင်အား များစွာပင် အရေးပေးခဲ့လေသည်။



ဆလမန္ဒာကောင်

ဆလေဒင်သည် မင်းတုန်းမင်း၏နန်းတွင်းရေးများမှအစ မြန်မာလူမျိုးတို့၏ ထုံးတမ်းစဉ်လာ ဓလေ့အမူအရာများကို ကောင်းစွာနားလည်ခဲ့သူဖြစ်သည်။

၁၈၆၆ ခုနှစ် မြင်ကွန်း မြင်းခုံတိုင်အရေးတော်ပုံတွင် ဆလေဒင်သည် နွေရာသီစံနန်းတော်အတွင်း၌ပိတ်မိနေခဲ့သဖြင့် အသက်ဆံဖျားလွတ်မြောက်အောင်ထွက်ပြေးခဲ့ရ၏။ ထိုနောက် ပန်းတိမ်းမင်းသား ပုန်ကန်မှုနှင့်စပ်လျဉ်း၍ ဖမ်းဆီးအကျဉ်းချထားသော ပန်းတိမ်းမင်းသားအပါအဝင် မင်းညီမင်းသားများအား ကွပ်မျက်မည်ပြုသောအခါ၊ သတင်းတင်ကြိုရရှိထားသော ဆလေဒင်သည် မင်းတုန်းမင်းထံပြေး၍ လွတ်စေအမိန့်ကို လျှောက်တင်ပန်ကြားခဲ့၏။ မင်းတုန်းမင်းလည်း လွတ်စေအမိန့်ကို ချမှတ်ခဲ့သည်။ သို့သော် ယင်းအမိန့်ကား အချိန်နှောင်းခဲ့သဖြင့် ဆလေဒင်၏ကြိုးပမ်းမှုသည် အချည်းနှီးဖြစ်ရလေသည်။

ဆလေဒင်သည် မင်းတုန်းမင်းနှင့် သင့်မြတ်ခြင်းကြောင့်၊ မြန်မာဝန်ကြီး၊ မင်းကြီးများနှင့် နိုင်ငံရေးတွင် သဘောချင်းမကိုက်ညီ ဖြစ်ခဲ့လေရာ၊ ရန်ကုန်မြို့ရှိ ဝန်ရှင်တော်မင်းကြီး လက်ဖတင်နင်ဂျင်နရယ် (ဗိုလ်ချုပ်ကြီး) ဖိုက်က ဆလေဒင်အား ၁၈၆၉ ခုနှစ်တွင် မန္တလေးမှနုတ်သိမ်း၍ ရန်ကုန်မြို့သို့ ပြန်ခေါ်လေသည်။

ဆလေဒင်သည် မန္တလေးတွင် အရေးပိုင်ကိုယ်စားလှယ်ဟုခေါ်သောအရာရှိအဖြစ်ဖြင့်ဆောင်ရွက်နေစဉ် တရုပ်ပြည်ယူနန်နယ်အထိ လမ်းပန်းဆက်သွယ် ဖေါက်လုပ်ရန်ကြိုးပမ်းခဲ့သည်။ ၁၈၆၇ ခုနှစ်တွင် မြန်မာမင်းနှင့်အင်္ဂလိပ်ဝန်ရှင်တော်မင်းကြီး လက်ဖတင်နယ်ဂျင်နရယ်ဖိုက်တို့ နှစ်ဦးပူးတွဲ၍ ကုန်သွယ်ရေးဆောင်းဝယ်ရေးစာချုပ်ချုပ်ဆိုရာတွင်လည်း ဆလေဒင် ပါဝင်ဆောင်ရွက်ခဲ့လေသည်။

ဆလေဒင်သည် ရန်ကုန်မြို့တွင်စိန့်ဂျွန်းကောလိပ်ကျောင်းကို တည်ထောင်ခဲ့သော ဆရာမှတ်ခေါ် ဒေါက်တာမတ်နှင့်လည်း မော်လမြိုင်မြို့တွင် အမှုထမ်းဆောင်ခဲ့စဉ်က သိကျွမ်းခင်မင်ခဲ့၏။ ဒေါက်တာမတ်မန္တလေးမြို့သို့တက်၍ မင်းတုန်းမင်းထံမှ သာသနာပြုကျောင်းကိုတည်ထောင်ခွင့် တောင်းခံခဲ့စဉ်ကလည်း၊ ဆလေဒင်သည် များစွာကူညီခဲ့ပေသည်။ ဆလေဒင်၏ကူညီမှုများကြောင့် မန္တလေးတွင် ဒေါက်တာမတ်၏ သာသနာပြုကျောင်းဖြစ်မြောက်ခဲ့ရပေသည်။

မြန်မာဝန်ကြီးမင်းကြီးများနှင့် မသင့်မတင့်သောကြောင့် မန္တလေးမှ ပြန်သွားပြီးခဲ့သည့်နောက်၌ ဆလေဒင်၏ အကြောင်းသည်အနည်းငယ်တိမ်မြုပ်နေခဲ့၏။ သို့သော်ဆလေဒင်သည် ၁၈၈၅ ခုနှစ် နိုဝင်ဘာလ ၂၈ ရက်နေ့တွင် အင်္ဂလိပ်ဗိုလ်ချုပ် ပရင်းဒါဂတ်နှင့်အတူ သီပေါမင်းအား ဖမ်းဆီးနန်းချ၍ မြန်မာနိုင်ငံတခုလုံးကို သိမ်းပိုက်ရန် နောက်ဆုံးအကြိမ်မန္တလေးသို့ ဆိုက်ရောက်လာလေသည်။ သီပေါမင်းလည်း ကင်းဝန်မင်းကြီးနှင့်အတူ ဗိုလ်ချုပ်ပရင်းဒါဂတ်နှင့် ကာနယ် ဆလေဒင်တို့ကို နန်းတော်ခန်းမကြီး အတွင်း၌ ကောင်းစွာလက်ခံပြောဆိုလေသည်။ ကာနယ် ဆလေဒင်က အိန္ဒိယဘုရင်ခံချုပ်၏အမိန့်အရ မြန်မာနိုင်ငံကို ထီးနန်းနှင့်တကွ အရှင်နှစ်ပါးကိုပါ သိမ်းယူရမည့်အကြောင်း တင်လျှောက်၏။ ထိုညဉ့်၌ ကာနယ် ဆလေဒင်လည်း လွှတ်တော်အဆောက်အအုံ၌စခန်းချ၏။ နောက်တနေ့တွင် ဂျင်နရယ် ပရင်းဒါဂတ် နှင့် ကာနယ် ဆလေဒင်တို့သည် သီပေါမင်းအား ဂေါဝိန်ဆိပ်ကမ်းမှ သူရိယ သင်္ဘောဖြင့် ဖမ်းဆီးခေါ်ဆောင်သွားလေသည်။ သီပေါမင်းနှင့်မိဖုရားနှစ်ပါးပိုင် နန်းစဉ် ငမောက်ကျောက်အပါအဝင် ကျောက်မျက်ရတနာများကို သူခိုးဓားပြရန်မှကာကွယ်ရန်ဟုအကြောင်းပြ၍ သိမ်းဆည်းယူငင်သွားသည်ဟု ကုန်းဘောင်ဆက်ရာဇဝင်၌အဆိုရှိခဲ့လေသည်။

**ဆလိုဗားကီးယားပြည်နယ်။** ။ချက်ကိုဆလိုဗားကီးယားသမတနိုင်ငံ၏ အရှေ့ဖက်ပိုင်းအမည်ဖြစ်သည်။ နယ်နိမိတ်မှာ မြောက်ဖက်၌ပိုလန်နိုင်ငံ၊ အရှေ့ဖက်၌ရူမေးနီးယားနိုင်ငံ၊ တောင်ဖက်၌ဟန်ဂေရီ၊ အနောက်ဖက်၌မိုရေးဗီးယားတို့ဖြစ်သည်။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၁၈,၉၂၁ မိုင်ရှိ၍၊ လူဦးရေ ၃၅၀,၀၀၀ ခန့်ရှိသည်။ ဆလိုဗားကီးယား၊ အရှေ့ဖက်အစွန်နှင့် အနောက်ဖက် အစွန်တို့မှ တပါး ကျန်နေရာများတွင် တောတောင်ထူထပ်သည်။

မြေနိမ့်လွင်ပြင်များတွင် လယ်ယာစိုက်ပျိုးလုပ်ကိုင်ကြ၍ တောင်တန်းဒေသတွင် သစ်ခုတ်ခြင်းနှင့် သိုးဆိတ်မွေးမြူခြင်းတို့ကို လုပ်ကိုင်ကြသည်။ မြို့တော်မှာ ဗရတစ်ဆလားဗား ဖြစ်၍၊ လူဦးရေမှာ ၁၉၄၇ ခုနှစ် သန်ကောင်စာရင်းအရ ၁၇၂,၆၆၄ ယောက်ခန့်ရှိသည်။ ဆလိုဗက်လူမျိုးများမှာ ဆလဗအဆက်အနွယ်များဖြစ်ကြ၍၊ ရှေးရိုးဓလေ့ထုံးစံ




ဆလိုဗားကီးယားပြည်နယ် တည်နေရာပြမြေပုံ

များကို ရှိသေလေးစားလိုက်နာတတ်ကြသည်။ လူများစုမှာ လယ်ယာလုပ်ငန်းကို ပင်ပန်းကြီးစွာလုပ်ကိုင်ခြင်းဖြင့် အသက်မွေးမြူကြရသည်။ (ချက်ကို ဆလိုဗားကီးယားနိုင်ငံ — ရှု။)



ဆလိုးဝမ်းကောင်

**ဆလိုးဝမ်းကောင်။** ။ဆလိုးဝမ်းကောင်သည် အိမ်မြှောင်အမျိုးဝင် သတ္တဝါဖြစ်၍ တနေရာရာတွင် မလှုပ်မရှက်ဘဲ၊ နာရီပေါင်းများစွာနေလေ့ရှိသည်။ အလျား ၁၇ လက်မမှ ၁၈ လက်မအထိရှိသည်။

ဆလိုးဝမ်းကောင်နှင့်စပ်လျဉ်း၍ ထူးခြားသည့်အချက် တချက်မှာ အမြီးပြတ်လွယ်ခြင်းပင်ဖြစ်သည်။ အနည်းငယ်ထိခိုက်မိရုံနှင့်အမြီးသည် ကိုယ်မှပြတ်ထွက်သွားပြီးနောက် တမိနစ် သို့မဟုတ် နှစ်မိနစ်ခန့်ခုန်နေတတ်သည်။ ဤသို့ အမြီးပြတ်ထွက်ခြင်းမှာ အမြီး ခုန်ရာသို့ ရန်သူ၏ စိတ်အာရုံကို ပြောင်းစေ၍ မိမိကိုယ်ကို လွတ်အောင် ရှောင်ရှားစေနိုင်ရန် ဖြစ်ဟန်တူသည်။ မကြာမီပင် အမြီးဟောင်းနေရာ၌ နောက်ထပ် အမြီးသစ်တခုပေါက်လာသည်။ ဆလိုးဝမ်းကောင်များကို ဥရောပတိုက်တွင် မြောက်ပိုင်းဒေသများမှလွဲ၍ နေရာတိုင်း၌လိုပင်တွေ့ရသည်။ အင်္ဂလန်ပြည်တွင် အနောက်တောင်ပိုင်း၌အတွေ့ရများသည်။ နွေရာသီတွင် နေရောင် ရရှိသော မြစ်ကမ်းပါးများ၌၎င်း၊ ဆောင်းရာသီတွင် ကျောက်ခဲ သို့မဟုတ် အမှိုက်ပုံများ အောက်တွင်၎င်း ခိုအောင်း၍ နေလေ့ရှိသည်။ ပိုးကောင် အမျိုးမျိုး ကို စားသည်။ အထူးသဖြင့် အသီးအနှံများကိုဖျက်ဆီးတတ်သော ပက်ကျိကို အလွန်ကြိုက်နှစ်သက်သည်။

ဆလိုးဝမ်းကောင်များပေါက်ချိန်မှာ နွေရာသီ ကုန်ဆုံးခါနီးတွင်ဖြစ်သည်။ ဤအချိန်တွင် ဆလိုးဝမ်းကောင်ကလေး ၆ ကောင်မှ ၁၂ ကောင်အထိပေါက်လေ့ရှိသည်။ မွေးစတွင် ဆလိုးဝမ်းကောင်ကလေးတို့သည် ဖြူဖွေး၏။ ဆလိုးဝမ်းကောင်သည် မြွေပွေးနှင့် အသွင်အပြင်များစွာကွဲပြားခြားနားသော်လည်း၊ မကြာခဏ မြွေပွေးဟု အထင်မှား၍သတ်ဖြတ်ခြင်းခံရတတ်သည်။

**ဆလောက်ကောင်။** ။ဆလောက်ကောင်သည် ပါဏဗေဒအရ 'အီဒင်တာတာ' မျိုးစဉ်ဝင် ဖြစ်သည်။ ပုံသဏ္ဌာန်အားဖြင့် မျောက်နှင့်တူသည်။ တိုဝိုင်းသောဦးခေါင်း၊ ကြီးသောမျက်လုံး၊ သေးငယ်သောနားရွက်တို့ရှိသည်။ သုန်သုန်မှုန်မှုန် နေတတ်သည်။ အမွေးများမှာ အလွန်ရှည်၍ ညစ်ပတ်ပေကျံလျက်ရှိ၏။ အမြီးဟူ၍ပြောပလောက်အောင်မရှိချေ။ အရှေ့ ခြေထောက်တို့မှာ အနောက် ခြေထောက်များထက် ပို၍ရှည်သည်။

ခြေထောက်ကြားတွင် ဦးခေါင်းကိုလျှိုလျက် တနေ့လုံး အိပ်နေတတ်၏။ သစ်ကိုင်းတွင်တွဲလွဲ ခိုနေသောအခါ အရွက်အလက်များနှင့် ရောထွေးနေသောကြောင့် ရုတ်တရက်မမြင်နိုင်ချေ။ ညအချိန်၌သာ တပင်မှ တပင်သို့ကူး၍ သစ်သီးများကိုရှာဖွေစားလေ့ရှိသည်။

ဆလောက်ကောင်သည် သစ်ပင်ပေါ်မှာမွေးပြီးလျှင် သစ်ပင်ပေါ်မှာကြီးပြင်းလာရသောကြောင့် မျောက်ကဲ့သို့ပင်



စောက်ထိုးနေလေ့ရှိသည့် ဆလောက်ကောင်

အခုန်အလွှားကျင်လျှင်သည်။ မလှဲမရှောင်သာသောအခါမှသာ မြေပေါ်သို့ဆင်းလာသည်။ ခြေထောက်များမှာ မညီမညာရှိသောကြောင့် မြေပေါ်တွင်ခဲခဲ ယဉ်းယဉ်း လျှောက်ရသည်။

အမေရိကတိုက်အပူပိုင်းတောများ၌ ဆလောက် နှစ်မျိုးကိုတွေ့နိုင်သည်။ တမျိုးမှာ ခြေထောက်အားလုံး၌ ခြေချောင်းကလေး ၃ ချောင်းစီနှင့်ခြေသည်း ၃ ခုစီရှိသည်။ အခြားတမျိုးမှာ နောက်ခြေ၌ ခြေချောင်းကလေး ၃ ခုရှိသော်လည်း၊ ရှေ့ခြေတို့၌ ၂ ချောင်းစီသာရှိသည်။

**ဆလိုက်ရှူး။** ။သချ်ာလျှောတံ — ရှု။

**ဆလတ်ပင်။** ။ဆလတ်ပင်သည် 'လက်တျူကာ မျိုးစုတွင်၎င်း၊ 'ကွန်ပေါ်ဇီတီ' မျိုးရင်းတွင်၎င်း ပါဝင်၍၊ ယင်းကို သိပ္ပံအမည်အားဖြင့် 'လက်တျူကာ စတီဗား'ဟုခေါ်သည်။ ဆလတ်ပင်သည် အပင်စိမ်းမျိုးဖြစ်သည်။ အရွက်များမှာကြွပ်ဆတ်၏။ ဆလတ်ပင်ကိုကမ္ဘာ့မြောက်ပိုင်းဒေသတို့တွင် ခြံဥယျာဉ်များ၌စိုက်ပျိုးကြသည်။



အာဟာရဓာတ်ကြွယ်ဝသည့် ဆလတ်ပင်

သိပ္ပံအလိုအားဖြင့် ဆလတ်မျိုးများစွာရှိသော်လည်း၊ အဓိကအားဖြင့် ဆလတ်ပင်နှစ်မျိုးရှိသည်။ ပဌမအမျိုးမှာ ဂေါ်ဘီထုပ် သို့မဟုတ် မုန်လာထုပ်ကဲ့သို့သောဆလတ်ထုပ်မျိုးဖြစ်သည်။ အရွက်များမှာကျယ်ပြန့်၏။ ဒုတိယအမျိုးမှာ ဆလတ်ပင်ရိုးရိုးဖြစ်သည်။ ထိုဆလတ်မျိုး၏ အရွက်မှာ ဆလတ်ထုပ်အရွက်လောက်မပြန့်ဘဲ၊ အနည်းငယ်ချွန်ပြီး၊ ဆလတ်ထုပ်အရွက်ထက်ပို၍အရည်ရွှမ်း၏။ ထိုအမျိုးကိုမြန်မာနိုင်ငံတွင်စိုက်ပျိုးကြ၏။

အလွန်အေးသောတိုင်းပြည်များတွင် ဆလတ်ထုပ်များကို ပဌမဦးစွာ ဖန်မိုးဖန်ကာတဲငယ်များ တွင် စိုက်ပျိုးပြီး လျှင် ထွက်လာသောအပင်ကလေးများကို ခြံများအတွင်းသို့ ရွှေ့ပြောင်း၍ စိုက်ပျိုးရသည်။ နှစ်လခွဲမှ သုံးလအကြာတွင် ဆွတ်ခူးယူနိုင်သည်။ ဆလတ်ပင်သည် စိုစွတ်အေးမြသောရာသီဥတုကို နှစ်သက်သည်။ ဆလတ်ပင် ရိုးရိုးစိုက်ပျိုးရာတွင် မျိုးစေ့များကို အတန်းလိုက်ပျိုးရသည်။ မြေကိုနက်အောင် မတူးဆွရဘဲ၊ အပေါ်ယံ၌သာ မျိုးစေ့များ ကိုပျိုးရသည်။ ဩဂုတ်လမှ အောက်တိုဘာလ အလယ်လောက် အတွင်းတွင် မျိုးစေ့ပျိုးနိုင်သည်။ မျိုးစေ့များကို ပရွက်ဆိတ်များ ဖျက်ဆီး တတ် သဖြင့်၊ ပျိုး ခင်း ကို ရေနံချေး စိမ်ထားသောအဝတ်ဖြင့်ကာရံထားရသည်။ အညှောက်ထွက်လာသော မျိုးစေ့ကို ပရွက်ဆိတ်များ မဖျက်ဆီးကြတော့ချေ။ အရွက်အနည်းငယ်ထွက်လာပြီး၊ ပျိုးခင်းမှ ရွှေ့ပြောင်းစိုက်ရန်အချိန်ရောက်ခါနီးတွင် ပျိုးပင်များကို ၄ လက်မ သို့မဟုတ် ၅ လက်မခန့်ခြားအောင်ရှင်းပေးရသည်။ ဆလတ်ပင် ရွှေ့ပြောင်းစိုက်ရန်ရာသီ ကျရောက်သောအချိန်တွင် ပျိုးထားသည့် ဆလတ်ပင်ကလေးများကို ပျိုးခင်းတွင် မထားတော့ဘဲ၊ မြေဩဇာကောင်းသောမြေသို့ရွှေ့ပြောင်း၍စိုက်ပျိုးရသည်။ ထိုသို့ရွှေ့ပြောင်းစိုက်ရာတွင် တပင်နှင့်တပင်ကို ၁၂ လက်မစီခြား၍ တတန်းနှင့်တတန်းကို ၁၅ လက်မခြားထားရသည်။ ပြောင်းရွှေ့ပြီးသော အပင်ငယ်များကို နေပူမထိုးအောင် ရက်အနည်းငယ်မျှ ကာကွယ်ပေးရသည်။ ရာသီဥတုခြောက်သွေ့လျှင်ရေလောင်းပေးရသည်။ အပင်အတော်ကြီးရင့်လာသောအခါ၊ အပွင့်မပွင့်မီနုတ်ယူရသည်။

နှစ်ထောင်ပေါင်းများစွာကပင် ဆလတ်ပင်ကို အာရှတိုက်တွင် ဦးစွာစိုက်ပျိုးခဲ့သည်။ ခရစ်မပေါ်မီနှစ်ပေါင်း ၅၀၀ က ပါးရှားဘုရင်များပွဲတော်တည်ရာတွင် ဆလတ်ရွက်ကို စားတော်ဆက်ခဲ့သည်။ ဆလတ်ပင်စိုက်ပျိုးခြင်းသည် ပါးရှားပြည်မှဥရောပတိုက်သို့ ပျံ့နှံ့လာခဲ့ပြီးလျှင်၊ ၁၃၄၅ ခုနှစ်တွင် အင်္ဂလန်ပြည်၌ စိုက်ပျိုးခဲ့သည်။ ဆလတ်ထုပ်စိုက်ပျိုးခြင်းမှာ မကြာသေးမီကမှစတင်စိုက်ပျိုးခြင်းဖြစ်သည်။ အအေးဓာတ်ပေးကုန်တွဲများ ပေါ်ပေါက်လာပြီးသည့်နောက် ဆလတ်ထုပ်များကို လူသိများလာကြသည်။ ယခုအခါ အမေရိကန်ပြည်ထောင်စုနှင့် အခြား အနောက်နိုင်ငံများတွင်ဆလတ်ထုပ်များကို တနှစ်ပတ်လုံးရနိုင်သည်။

ဆလတ်ရွက်သည် ဗီတာမင် အေ နှင့်ဗီတာမင် ဘီ တို့ဖြင့်ကြွယ်ဝ၏။ ကျန်းမာရေးကိုဖြည့်စွမ်းနိုင်သဖြင့် စားသုံးရန် အထူးသင့်လျော်သော ဟင်းရွက်မျိုးဖြစ်ကြောင်း ဆရာဝန်များက ထောက်ခံကြသည်။ ဆလတ်ရွက်ကို များသောအားဖြင့် အစိမ်းစားကြသည်။ မြန်မာတို့၏ဟင်းလျာ၌ ဆလတ်ထုပ်ကို ကြော်ချက်၍စားကြသည်လည်းရှိ၏။

ဆလတ်ပင်ကို မြန်မာနိုင်ငံ ပြည်မနှင့် ရှမ်းပြည်နယ် တွင် အနှံ့အပြားစိုက်ပျိုးကြသည်။



တံငါအလုပ်ဖြင့်အသက်မွေးသည့် ဆလုံရွာငယ်

ဆလုံလူမျိုး။ ။မြန်မာနိုင်ငံမြိတ်စိရင်စုပင်လယ်ကမ်းခြေတလျှောက်နှင့် ပင်လယ်ပြင်၌ရှိသော ကျွန်းကြီး ကျွန်းငယ်အသွယ်သွယ်တို့တွင် တနေရာတည်း၌ အိုးအိမ်အတည်အကျမတည်ထောင်ဘဲ၊ ကဗန်း ခေါ် လှေငယ်တို့ဖြင့်လှည့်လည်သွားလာနေထိုင်သော ဆလုံလူမျိုးတို့ရှိကြ၏။ ယင်းတို့ကိုဘုတ်ပြင်းမြို့နယ်အတွင်းရှိ၊ လမ်းပိကျွန်းနှင့် ပလောမြို့နယ်အတွင်းရှိ၊ ဒုန်းကျွန်းတို့၌ အများအပြားတွေ့ရတတ်သည်။

## မျိုးရိုးဇာစ်မြစ်

ဆလုံဟူသောအခေါ် မှာ မြန်မာတို့က ခေါ် သောအခေါ်ဖြစ်သည်။ ဆလုံတို့ကမူ၊ သူတို့ကိုယ်ကိုသူတို့ မော်ခင်ဟုခေါ်ကြသည်။ မော်ခင်ဟူသော ဝေါဟာရ၏အဓိပ္ပါယ်မှာ ပင်လယ်တွင်နစ်သူ ဟူ၍ဖြစ်သည်။ မောရစ် ကောလစ်ရေး ‘ယိုးဒယားဝိုက်’ ဟူသောစာအုပ်တွင် ခရစ် ၁၆၇၅ ခုနှစ်နေ့စွဲဖြင့် ဖေါင်းရေးဆိုသူ ရေးသားသော ခရီးစဉ်မှတ်တမ်းတခုကိုကိုးကား၍၊ ဆလုံတို့ကို ဆီလီတာဟုခေါ် ကြောင်းဖော်ပြထားသည်။ ၁၈၉၁ ခုနှစ် သန်ကောင်စာရင်း အစီရင်ခံစာတွင်၊ ဆလုံကို ဆီလုန်ဟုဖော်ပြထားသည်။ ယင်းတို့၏မူလနေထိုင်ရာဒေသမှာ၊ မလေးကျွန်းဆွယ်ဖြစ်ဟန်တူသည်။ သူတို့၏ရုပ်ရည်မှာ မလေးလူမျိုးနှင့်၎င်း၊ မြန်မာလူမျိုးနှင့်၎င်း၊ ခပ်ဆင်ဆင်ဖြစ်သည်။ ဆလုံတို့သည် မလေးကျွန်းဆွယ်တွင်နေထိုင်ခဲ့ရာမှ မလေးလူမျိုးတို့ဝင်ရောက်လာကြသောအခါ၊ မူလဇာတိဒေသကိုစွန့်ပစ်၍၊ ပင်လယ်ပြင်ရှိကျွန်းများတွင် လှည့်ပတ်နေထိုင်ကြသည်ဟု ယူဆဖွယ်ရာရှိလေသည်။ ထိုကြောင့် ‘မြန်မာနိုင်ငံရှိလူမျိုးများ’ စာတမ်းတွင် လောင်းဝစ်ဆိုသူက ဆလုံတို့သည် တိဗက်မြန်မာလူမျိုး၊ မွန်ခမာလူမျိုး၊ ယိုးဒယားတရုပ်လူမျိုးဟူသော လူမျိုးအုပ်စုကြီး သုံးစုထဲတွင်မပါဝင်ဘဲ၊ မလေးလူမျိုးအဆက်အနွယ်ဖြစ်သည်ဟု ရေးသားထားလေသည်။ လူမျိုးတို့၏ သမိုင်းကြောင်းရပ်ကိုလေ့လာသော စကိနှင့် ဗလက်ဂဒင်ပညာရှိနှစ်ဦးကမူ၊ ရှေးလွန်လေပြီးသောအခါက၊ အင်ဒိုချိုင်းနားတောင်ပိုင်းဒေသ၌ ဆလုံနှင့်မွန်ခမာ တို့သည် လူမျိုးချင်းအဆက်အနွယ်ဖြစ်ခဲ့ဘူးလိမ့်မည်ဟု ထင်မြင်သဘောရရှိကြသည်။ ဤသို့ထင်မြင်ခြင်းမှာ ဆလုံတို့သည် မလေးကျွန်းဆွယ်ရှိ ဂျာကွန်လူမျိုးနှင့်ဆက်စပ်နေသည်ဟူသော အယူအဆကြောင့် ဖြစ်သည်။ ဂျာကွန်တို့မှာ မလေးကျွန်းဆွယ်ရှိ ခေတ်ဦး မလေးလူမျိုးများဖြစ်သည်။ ယင်းတို့တွင်၊ ဩရန်ဗူကစ်ခေါ် တောင်တန်းသားများနှင့် ဩရန်လောက်ခေါ် ပင်လယ်သားများ ဟူ၍ ရှိကြရာ၊ ဩရန်လောက်လူမျိုး ထဲတွင် ဆလုံတို့သည်အပါအဝင်ဖြစ်သည်။ မလေးလူမျိုးတို့ကိုယ်တိုင်က ဆလုံတို့ကို ဩရန်ဗီဆင်ဟုခေါ် သည်။ ဩရန်ဗီဆင်ဟူသော ဝေါဟာရမှာ ဆီလန်ဂါနှင့် မလက္ကာကမ်းခြေရှိ ဂျာကွန်လူမျိုးအပါအဝင် ဩရန်ဗီဆီဆိုခေါ် ပင်လယ်သားတို့၏အမည်နှင့် အနည်းငယ်ဆင်သည်။



ဆလုံအမျိုးသားနှင့်အမျိုးသမီး

ဆလုံတို့ပြောဆိုသောစကားမှာ မလေးစကားနှင့်နွယ်သည်ဟု စကီနှင့် ဗလက်ဂဒင်က အယူရှိသည်။ ထိုအယူအဆကိုများသောအားဖြင့်လက်ခံကြသည်။ ခရစ် ၁၈၄၆ ခုနှစ်တွင် ဒေါက်တာ ဗရေတန်ဆိုသူသည် မစ္စတာစတီဗင်၏မှတ်စုတို့ကို မှီငြမ်းပြု၍၊ ဆလုံ သင်ပုန်းကြီးတစောင်ကို ပြုစုပြီးလျှင်၊ အော၊ ဘီ၊ အမ်၊ စာပုံနှိပ်တိုက်တွင်ရိုက်နှိပ်ထုတ်ဝေခဲ့ဘူးသည်။ သို့ရာတွင် ဆလုံတို့သည် စာသင်ကြားရေး၌ စိတ်ပါဝင်စားခြင်းမရှိကြပေ။

## နေပုံထိုင်ပုံ

ဆလုံတို့၏လှေကို ယင်းတို့ဘာသာစကားဖြင့် ကဗန်းဟုခေါ်သည်။ ကဗန်းမှာ ကြိမ်ဖြင့်ချုပ်ထားသော လှေဖြစ်သည်။ ပေါင်းမိုးမှာ ဓနိရွက်တို့ကိုစပ်၍ ရက်ထားသော ပေါင်းမိုးဖြစ်သည်။ ဆလုံတို့အဖို့ ထိုလှေသည်ပင်လျှင် အိမ်ဖြစ်သည်။ ရာသီဥတုသာယာသမျှ ကာလပတ်လုံး ဆလုံတို့သည် လှေငယ်တွင်သားမယားများကိုပါတင်ဆောင်၍လှည့်လည်နေထိုင်ကြသည်။ မိုးကာလကျရောက်သောအခါ၌မူ၊ ကျွန်းကြီး၊ ကျွန်းငယ်၊ ပင်လယ်ကမ်းခြေတို့၌ သုံးလေးလမျှ မိုးခို၍နေထိုင်ကြသည်။ ထိုအခါ ခြေတံရှည်သောတဲများကို ကမ်းစပ်တွင် ဆောက်လုပ်လျက်နေထိုင်ကြသည်။

## အလုပ်အကိုင်

ဆလုံတို့သည် ရေကူးရေငုပ်ကျင်လျင်သည်။ သူတို့၏ အဓိကလုပ်ငန်းမှာ ငါးဖမ်းခြင်း၊ ပုလဲငုပ်ခြင်း၊ ခရင်းခွာခြင်း၊ ကျောက်ပန်းကျောက်ခက်ခူးခြင်း၊ ငါးကြီးအန်ဖတ်ရှာဖွေခြင်း၊ ငှက်သိုက်နိုက်ခြင်း၊ ပျားရည်နှင့်ဖယောင်းများရှာဖွေခြင်းစသည်တို့ဖြစ်သည်။ လယ်ယာစိုက်ပျိုးခြင်းကို နားမလည်ကြချေ။ ကမ်းခြေနှင့်ကျွန်းများတွင် မိုးခိုနေစဉ်ကာလအတွင်း၌ နီးစပ်ရာ ခဲမဖြူသတ္တုတွင်းတို့တွင် ကူလီအလုပ်



ကဗန်းခေါ် ကြိမ်ဖြင့်ချုပ်ထားသော မနစ်မြုပ်နိုင်သည့် ဆလုံလှေများ



ဆလုံသဘင်သည်နှစ်ဦး ပုံတီးနေပုံ

ကို ဝင်ရောက်လုပ်ကိုင်လေ့ရှိကြသည်။ ပင်လယ် ကမ်းခြေ တလျှောက်၌ ကနစိုတော များရှိရာ၊ အချို့ဆလုံတို့သည်ကနစိုခေါက်ခွာခြင်းဖြင့် အသက်မွေးကြသည်။

## အယူဝါဒ

ဆလုံတို့သည် နတ်ကိုးကွယ်သော လူမျိုးများဖြစ်သည်။ ဆလုံတို့ ကိုးကွယ်သောနတ်တို့တွင် တူးဒါးဟူသော နတ်မှာ လောကကို ဖန်ဆင်းသောနတ်ကောင်း နတ်မြတ် ဖြစ်သည်ဟုယူဆကြသည်။ နတ်ကောင်း နတ်မြတ်ဖြစ်သည့်အားလျော်စွာ ယင်းကိုမပူဇော်မပသလျှင် အပြစ်မရောက်နိုင်ဟု အယူရှိသည်။ သို့ရာတွင် ကျွန်းစောင့်နတ်များနှင့် ရေနတ်များမှာ မကောင်းကျိုးကိုပေးနိုင်သောနတ်များဖြစ်သည်ဟု အယူရှိသောကြောင့်၊ ဆလုံတို့သည် ယင်းနတ်တို့ကိုပူဇော်ပသလေ့ရှိသည်။ နတ်ပသပုံမှာ နတ်တိုင်ထူပြီးလျှင်၊ နတ်တိုင်၌ တံခွန်ကုက္ကားများတပ်ဆင်ပြီးနောက်၊ ဘဲ၊ ကြက်၊ ငှက်၊ လင်းပိုင်၊ တောတိရစ္ဆာန် စသည်တို့၏သွေးကို နတ်တို့အား တိုင်တည်၍ တင်မြှောက်လေ့ရှိသည်။ ထိုနောက် နတ်ပွဲတွင် ပါဝင်သော နတ်ကသူတို့သည် တယောက်နောက်၌တယောက် တန်းစီ၍ ထိုင်ပြီးလျှင် လှေလှော်ဟန်ပြုကာ ညာသံပေးလျက်၊ ပင်လယ် ကမ်းစပ်ဖက်သို့ တရွေ့ရွေ့ ရွေ့သွားကြရ၏။ ပင်လယ်ကမ်းစပ်သို့ရောက်သောအခါ သံကုန်ဟစ်အော်ကြွေးကြော်၍၊ မကောင်းဆိုးရွားတို့ကို တောထုတ်ကြသည်။

## ဆလုံတို့၏ဓလေ့

ဆလုံတို့သည် တလင်တမယားစံနစ်ဖြင့်အိမ်ထောင်ပြုလေ့ရှိသည်။ ဆလုံလူငယ်လူရွယ်တို့၌ နှစ်ရှည်လများလူပျိုလှည့်သောအလေ့ရှိသည်။ လူငယ်ဘာဝ ချစ်ကြိုက်ကြပြီဆိုလျှင်၊ အောင်သွယ်မှတဆင့် လူကြီးမိဘတို့ကိုနားဖောက်သည်။ မြန်မာတို့နှင့်နီးစပ်သော ဆလုံလူမျိုးတို့၏ထုံးစံ၌မူ၊ သတို့သမီး၏မိခင်ဖခင်ဆွေမျိုးညာတိတို့အား နားဖေါက်သည့်အခါ



ကွမ်းကမ်းလှမ်းရသည်။ သတို့သမီးဖက်က ယင်းသို့ကမ်းလှမ်းသောကွမ်းကိုလက်ခံလျှင်၊ မိဖသဘောတူသည်ဟုဆိုရရောက်သည်။ ထိုအခါ သတို့သမီးသည် သတို့သားနေထိုင်ရာလှေသို့ လိုက်ပါသွားရလေသည်။ ထိုနောက် သတို့သားသည် သူတို့ အိမ်ထောင်စုနှစ်ဦး နေထိုင်ရန်အတွက် လှေကိုတည်ရသည်။ များသောအားဖြင့် သားဦးရလျှင် မိဖနှင့်ခွဲ၍နေထိုင်လေ့ရှိကြသည်။

ရှေးအခါက ဆလုံတို့သည် လူသေလျှင် မြေတွင် မြှုပ်နှံလေ့မရှိချေ။ သေလွန်သူ၏ရုပ်ကလာပ်ကို လူသူမနီးသောကျွန်းငယ်တခုသို့ယူဆောင်၍၊ လင့်စင်ပေါ်တွင်တင်ပြီးလျှင်၊ စွန့်ပစ်ခဲ့လေသည်။ ထိုနောက် လူသေစွန့်ရာကျွန်းကို ခပ်ဝေးဝေးရှောင်ကြဉ်ကြလေသည်။ လှေကိုပိုင်ဆိုင်သူတဦး အနိစ္စရောက်လျှင် ထိုလှေကိုထက်ခြမ်းခွဲစိတ်၍၊ ထိုလှေထက်ခြမ်းကွဲဖြင့် အသုဘကောင်ကို ဖုံးလွှမ်းပြီး လျှင် စွန့်ပစ်လေ့ရှိကြသည်။ သို့ရာတွင် ထိုဓလေ့ထုံးစံမှာ တဖြည်းဖြည်းပပျောက်သွားပြီးလျှင်၊ ယခုအခါ များသောအားဖြင့် သူကောင်ကို မြေမြှုပ်သင်္ဂြိုဟ်ခြင်းပြုကြလေပြီ။

**ဆဟာရားသဲကန္တာရ**။ ။အာဖရိကတိုက်မြောက်ပိုင်းရှိ ဆဟာရားသဲကန္တာရသည် ကမ္ဘာပေါ်တွင်အကြီးဆုံး သဲကန္တာရဖြစ်သည်။ မိုင်ပေါင်း ၃,၂၀၀ ရှည်၍၊ မိုင် ၁,၄၀၀ ကျယ်ပြီးလျှင် စတုရန်းမိုင် ၃,၅၀၀,၀၀၀ ကျယ်ဝန်း၏။ အတွင်းပိုင်း၌ ပေ ၇၀၀၀ မှ ၉၀၀၀ အထိမြင့်သောကုန်းမြေမြင့်များရှိ၏။ ဥရောပတိုက်နီးပါးမျှ ကျယ်ဝန်းသော ဤသဲကန္တာရကြီးသည် ရှေးအခါက အာဖရိကတိုက်၏မြောက်ဖက် နံရံကြီးသဖွယ်ဖြစ်ခဲ့၏။ သဲကန္တာရကြီးကိုဖြတ်ကျော်မသွားနိုင်သဖြင့် ဥရောပတိုက်သားတို့သည် အာဖရိကတိုက်အကြောင်းကို နှစ်ပေါင်းများစွာမသိရှိဘဲနေခဲ့ကြရသည်။

ဆဟာရားသဲကန္တာရကြီးသည် နေ့အခါ၌တခါတရံ ဖာရင်ဟိုက်ဒီဂရီ ၁၅၀ ကျော်အထိပူပြင်း၏။ ညအခါ၌မူ လွန်လွန်ကဲကဲအေး၍လာရာ ပြဒါးချိန်သည် ရေခဲသောအမှတ်ဒီဂရီအောက်သို့ပင် ကျဆင်းတတ်သည်။ ဤမျှလောက် အပူအအေး လွန်ကဲကွာခြားသောကြောင့် ကျောက်များ သည် အပူအအေးအပြောင်းအလဲဒဏ်ကိုမခံနိုင်ကြသဖြင့် ကွဲအက်ပြီးလျှင်သဲမှုန့်များဖြစ်လာကြ၏။ ထိုနောက် လေပြင်းတိုက်ခတ်သောအခါ အခြားကျောက်များနှင့် ရိုက်ခတ်မိကြပြန်သဖြင့် သဲမှုန့်များပွားများလာ၏။ ထိုသဲမှုန့်များသည် တနေရာ၌ ကျရောက်စုပုံနေသောအခါ သဲခုံများဖြစ်လာသည်။

အက်တလတ် တောင်တန်းများ၏ တောင်ဖက်တွင် ရေရနိုင်သော အိုအေးဆစ်ကြီးများရှိ၍၊ ထိုနေရာများ၌ စွန်ပ



ဆဟာရား သဲကန္တာရအတွင်းမှ ကုလားအုပ်ကုန်သည်တန်း



ဆဟာရား သဲကန္တာရအတွင်း အပန်းဖြေရပ်နားနေကြသော ကုန်သည်တစု

လှံ့ပင်အမြောက်အမြားရှိ၏။ လူနေထိုင်နိုင်သည့် နေရာ အချို့မှာ အယ်လဂျီးရီးယားပြည်၏ တောင်ဖက်နှင့် လစ်ဗျားနယ်၏ တောင်ဖက်ဒေသများဖြစ်သည်။

ဆဟာရား သဲကန္တာရ၏ အနောက်ပိုင်း နှင့် အလယ်ပိုင်း၌ တွားရက်ခေါ် လူမျိုးများနေထိုင်၍၊ မြောက်ပိုင်းတွင် ဗက်ဒူးအင်း လူမျိုးများနေထိုင်ကြ၏။ အနောက်ဖက်၌ ဗားဗားခေါ် လူမျိုးများကိုတွေ့ရသည်။

ဆဟာရားသဲကန္တာရအတွင်း၌နေထိုင်သောလူများသည် သိုး၊ ဆိတ်များမွေးမြူ၍သော်၎င်း၊ အိုအေးဆစ်များ၌ ဂျုံ၊ ပြောင်းစသောကောက်ပဲသီးနှံများစိုက်ပျိုး၍သော်၎င်း အသက်မွေးမြူကြ၏။ အချို့မှာ တနေရာမှ တနေရာသို့ ကုန်များကိုသယ်ယူရောင်းချကြ၏။ သဲကန္တာရထဲ၌ ကုလားအုပ်များနှင့် ခရီးသွားသောအခါ နံနက်အရုဏ် မတက်မီက ထ၍သွားကြရ၏။ (ကုလားအုပ် — လည်းရှု။) နေ့လည်နေပြင်းသောအခါ ရပ်နားနေရ၏။ ထိုသို့ ခရီးသွားရာ၌ လမ်းတွင် ရေပြတ်သွားမည်ကို၎င်း၊ သဲမုန်တိုင်း နှင့် တိုးမိနေမည်ကို၎င်း၊ တခါတရံ လူရိုင်းများအတိုက်အခိုက် ခံရမည်ကို၎င်း စိုးရိမ်ရသဖြင့် ဘေးရန်များလှ၏။

အနောက်ဖက် ကမ်းခြေရှိ နေရာအနည်းငယ်ကိုချန်လှပ်၍ ဆဟာရားသဲကန္တာရကြီးတခုလုံးကို ပြင်သစ်အစိုးရက ပိုင်၏။ ပြင်သစ်တို့သည် မြောက်ဖက်မှ သဲကန္တာရအတွင်းသို့ မီးရထားလမ်းများကို တိုးချဲ့ဖောက်လုပ်၍အချို့နေရာများ၌ အငီစိတွင်းများကို တူးဖေါ်ကာ လူများနေထိုင်နိုင်အောင် စီမံဆောင်ရွက်လျက်ရှိ၏။ မြောက်ဖက်မှ တောင်ဖက်သို့ မော်တော်ကား၊ လေယာဉ်ပျံများနှင့် ဖြတ်သန်းသွားလာလျက်ရှိကြ၏။ မြို့များမှာ အများအားဖြင့် သဲကန္တာရအစွန်အဖျား၌ရှိသည်။ ယင်းတို့အနက် တင်ဗတ်တူးမြို့မှာအနည်းငယ်ထင်ရှားသည်။ (ကန္တာရများ — လည်းရှု။)

ဆအူဒီ အာရေဗျနိုင်ငံ။ ။ဆအူဒီ အာရေဗျ နိုင်ငံသည် အာရေဗျ ကျွန်းဆွယ်အတွင်း ရှိ နိုင်ငံ တခုဖြစ်၏။ အနောက်ဖက်တွင် ပင်လယ်နီ၊ တောင်ဖက်တွင် ယေမင်နိုင်ငံနှင့် ဗြိတိသျှ အစောင့်အရှောက်ခံ အေဒင်နယ်များ အသီးအသီးတည်ရှိကြသည်။ အရှေ့ဖက်တွင် အိုမန်နိုင်ငံနှင့် ပါးရှင်းပင်လယ်ကွေ့တို့တည်ရှိလျက်၊ မြောက်ဖက်တွင်မူ ကုဝိတ်နိုင်ငံ၊ အီရက်နိုင်ငံနှင့် ဂျော်ဒန် နိုင်ငံတို့တည်ရှိကြသည်။ (အာရေဗျ — ရှု။)

ဆအူဒီ အာရေဗျနိုင်ငံမှာ ဟက်ဂျက်နိုင်ငံနှင့် နက်ဂျနိုင်ငံ နှစ်နိုင်ငံကို ပူးပေါင်းထားခြင်းဖြစ်၏။ ၁၉၂၆ ခုနှစ်တွင် အာရပ်ဘုရင် အစ်ဗင် ဆုအူးသည် ဟက်ဂျက်နှင့်နက်ဂျ နှစ်နိုင်ငံပိုင်ဘုရင်အဖြစ်ကိုခံယူ၍၊ ၁၉၃၂ ခုနှစ်၌ ထိုနှစ်နိုင်ငံကို ပူးပေါင်းပြီးလျှင်၊ သူ၏အမည်ကိုအစွဲပြုကာ၊ ဆအူဒီ အာရေဗျနိုင်ငံဟုတွင်စေ၏။ ဟက်ဂျက်နိုင်ငံ၏နယ်နိမိတ်ကို




ဆအူးဒီ အာရေဗျနိုင်ငံ တည်နေရာပြမြေပုံ

အတိအကျမကန့်သတ်ရသေးသောကြောင့် ဆအူးဒီအာရေဗျနိုင်ငံအကျယ်အဝန်းသည် စတုရန်းမိုင်ပေါင်း ၉၂၇,၀၀၀ ထက်မပိုဟုခန့်မှန်းကြသည်။ နက်ဂျနိုင်ငံ၏အလယ်ပိုင်းရှိ ကုန်းမြေမြင့်သည် ပါးရှင်းပင်လယ်ကွေ့ဖက်သို့ နိမ့်ဆင်းသွားသည်။ ပါးရှင်းပင်လယ်ကွေ့တဝိုက်၌ ကျယ်ပြန့်သောမြေနိမ့်လွင်ပြင်ရှိသည်။ အနောက်ဖက်ရှိ ပင်လယ်နီကမ်းခြေမှာ ကျဉ်းမြောင်းသော သဲကန္တာရ မြေနိမ့်ပိုင်းဖြစ်၏။ ထို ကမ်းမြောင်ဒေသ အနောက်ဖက်တွင် ဟက်ဂျက်တောင်တန်းရှိသည်။

ဆအူးဒီအာရေဗျနိုင်ငံ၌ မြစ်ကြီးများမရှိချေ။ ချောင်းငယ်တို့မှာလည်း ခန်းခြောက်နေသည်သာများ၏။ ရာသီဥတုမှာ ခြောက်သွေ့လှသည်။ နှစ်စဉ်ရွာသွန်းသော မိုးရေချိန်မှာ ပျမ်းမျှခြင်းအားဖြင့် ၁၀ လက်မအောက်သာဖြစ်၏။ ရံဖန်ရံခါရွာသောမိုးကြောင့် သစ်ပင်ငယ်များ ကျိုးကျဲပေါက်ရောက်၏။ အိုအေးဆစ်များတွင် စမ်းချောင်းနှင့် ရေတွင်းများရှိသဖြင့် စိုက်ပျိုးရေးအနည်းငယ်ဖြစ်ထွန်းသည်။ တနိုင်ငံလုံးမှာ သဲကန္တာရမြေချည်းလိုလိုပင်ဖြစ်၏။ သို့သော် ထိုသဲမြေများအောက်ရှိ ရေနံကြောင့် ဆအူးဒီ အာရေဗျနိုင်ငံမှာ ကမ္ဘာတွင်အရေးပါ အရာရောက်သောနိုင်ငံတနိုင်ငံဖြစ်လာသည်။ ရေနံတွင်းများကို နိုင်ငံတဝှန်းလုံးတွင်တွေ့ရ၏။ ရေနံတူးဖော်ရေးလုပ်ငန်းကို ဂရိတ်ဗြိတိန်၊ အမေရိကန်ပြည်ထောင်စုနှင့်အီဂျစ်နိုင်ငံတို့မှရေနံကုမ္ပဏီကြီးများက ဦးစီးလုပ်ကိုင်နေပေသည်။ ထိုနိုင်ငံမှထွက်ကုန်မှာ ပျားရည်၊ စွန်ပလွံသီး၊ သားရေ စိမ်း၊ သိုးမွေး၊ မီးသွေးနှင့် ထောပတ်တို့ဖြစ်၏။

ဆအူးဒီ အာရေဗျနိုင်ငံ၏လူဦးရေမှာ ဟက်ဂျက်နိုင်ငံအပိုင်းတွင် ၂,၀၀၀,၀၀၀ ကျော်ခန့်၊ နက်ဂျနိုင်ငံဖက်တွင် ၄,၀၀၀,၀၀၀ ကျော်ခန့်ရှိသည်ဟု ခန့်မှန်းကြသည်။ နှစ်ရပ်ပေါင်းသော် ၇,၀၀၀,၀၀၀ ခန့်ရှိမည်ဟု ၁၉၅၂ ခုနှစ်မှန်းခြေအရ သိရသည်။ လူမျိုးမှာ အများအားဖြင့် မွတ်စလင်များသာဖြစ်ကြသည်။ လူနေမှု အဆင့်အတန်းသည်လည်း အလွန်ရှေးဆန်လျက်ရှိသည်။ လမ်းပမ်းအဆက်အသွယ်လည်း ညံ့ဖျင်းလျက်ပင်ရှိသေး၏။ ဂျစ်ဒါနှင့် မက္ကာမြို့အကြားရှိ လမ်းတခုသာလျှင် ကောင်းမွန်ပေသည်။ အရေးပါသောမြို့ကြီးများတွင် လေကြောင်းခရီးလမ်းများဖွင့်ထား၏။ မြေပြင်၌ ကူးသန်းသွားလာရာတွင် ကုလားအုပ်များကိုအသုံးပြုကြသည်။

ဘုရင်ကြီး အစ်ဗင်ဆအူးသည် ဤနိုင်ငံကို စည်းရုံးတည်ထောင်ခြင်း မပြုသေးမီ ကာလက ဗက်ဒူးအင်းလူမျိုးများသည် နိုင်ငံတဝှန်းတွင် လှည့်လည် ကျက်စားနေကြ၏။ ယင်းလူမျိုးတို့သည် အုပ်စုဖွဲ့၍၊ မကြာခဏ အုပ်စုတစုနှင့်တစု ရန်စစ်ဖြစ်ပွားလျက် ရှိခဲ့ကြသည်။ သို့သော် အာရပ်အမျိုးသားရေးလုပ်ငန်း ဖြစ်ထွန်းပေါ်ပေါက်လာခဲ့သဖြင့်၊ တဖြည်းဖြည်း ညီညွတ်လာကြသည်။ ဘုရင်ကြီး အစ်ဗင်ဆအူး၏ အပြင်းအထန် ကြိုးပမ်းမှုများကြောင့်လည်း အကွဲကွဲအပြားပြားဖြစ်နေခဲ့သော လူမျိုးစုများ၏စည်းရုံးရေးသည် ပိုမိုလျင်မြန်ခဲ့လေသည်။

ဆအူးဒီ အာရေဗျနိုင်ငံဖြစ်ပေါ်လာပုံမှာ အာရပ်အမျိုးသားရေးစိတ်ဓာတ်ပြင်းပြလှုပ်ရှားမှုကြောင့်ဖြစ်၏။ ၁၉၀၀ ပြည့်နှစ်မတိုင်မီကပင် အာရပ်လူမျိုးခေါင်းဆောင်များသည် အာရပ် ပြည်ထောင်စုနိုင်ငံ တည်ဆောက်နိုင်ရေးကို ကြိုးပမ်းခဲ့ကြသည်။ ထိုကြောင့် အီဂျစ်၊ ပါလက်စတိုင်း၊ အီရက်နှင့် အာရေဗျနိုင်ငံများရှိ သန်းပေါင်းများစွာသော မွတ်စလင်များကိုစည်းရုံးရန် 'ပန်အာရပ်စီမံကိန်း' ကိုရေးဆွဲခဲ့၏။ သို့သော် ဆအူးဒီအာရေဗျနိုင်ငံသာလျှင် ထိုသို့စည်းရုံးနိုင်ခဲ့လေသည်။

ပဌမကမ္ဘာစစ်အပြီးတွင် ဆအူးဒီအာရေဗျနိုင်ငံမှ တူရကီလူမျိုးများ ထွက်ခွာသွားရသည်တွင် အာရပ်လူမျိုးများအဖို့ ကိုယ့်ကြမ္မာကိုယ်ဖန်တီးနိုင်ခွင့်ရခဲ့၏။ ၁၉၂၁ ခုနှစ်၌ နက်ဂျနိုင်ငံ၏ စူလတန်ဘုရင်ဖြစ်လာသော အစ်ဗင်ဆအူးသည် ၁၉၂၆ ခုနှစ်တွင် ဟက်ဂျက်နိုင်ငံကိုသိမ်းယူလျက် နက်ဂျနိုင်ငံနှင့်ပူးပေါင်းကာ၊ ထို ၂ နိုင်ငံတို့၏ဘုရင်အဖြစ်အုပ်စိုးသည်။ ၁၉၂၇ ခုနှစ်တွင် ဂျက်ဒါမြို့၌ ဂရိတ်ဗြိတိန်နှင့် ဘုရင်အစ်ဗင်ဆအူးတို့ စာချုပ်ချုပ်ဆိုပြီးသည့်နောက်၊ ထိုနိုင်ငံ၏ လုံးဝလွတ်လပ်ရေးကို ဗြိတိန်က အသိအမှတ်ပြုခဲ့၏။ ၁၉၃၂ ခုနှစ်တွင် ဘုရင် အစ်ဗင်ဆအူးသည် မိမိ၏နိုင်ငံတော်ကို ဆအူးဒီအာရေဗျနိုင်ငံဟူ၍ပြောင်းလဲကြေညာခဲ့၏။ မြို့တော်

များကိုမူကား၊ ယခင် ဟက်ဂျက်နှင့် နက်ဂျနိုင်ငံများ၏ မြို့တော်များဖြစ်သော မက္ကာမြို့နှင့် ရီယတ်မြို့ နှစ်မြို့စလုံးကိုပင် ဆက်လက်ထားရှိပေသည်။ သို့သော် မက္ကာမှာ သာသနာရေးဆိုင်ရာ မြို့တော်ဖြစ်၍၊ ရီယတ်မှာ စီရင်အုပ်ချုပ်ရေးဆိုင်ရာမြို့တော်ဖြစ်သည်။ (မက္ကာမြို့ — ရှု။)

၁၉၂၆ ခုနှစ်၌ နိုင်ငံတော်ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ တရပ်ကိုရေးဆွဲခဲ့သည်။ မျှားမကြာမီပင် ထိုအခြေခံဥပဒေ၌ အကြံပေးကောင်စီအဖွဲ့များဖွဲ့စည်းရန် ပြင်ဆင်ဖြည့်စွက်ခဲ့၏။ သို့သော် ကောင်စီအဖွဲ့ဝင်များကို ဘုရင်၏သဘောတူညီချက်ဖြင့်သာ ခန့်အပ်နိုင်၏။ ဘုရင်မှာ သက်ဦးဆံပိုင်ဖြစ်လေသည်။ နိုင်ငံသုံးဥပဒေမှာ အစ္စလမ်အယူဝါဒဆိုင်ရာ ပညတ်ချက်များဖြစ်သည်။ အမှုအခင်းများကိုလည်း သာသနာရုံးတော်များ၌စီရင်ဆုံးဖြတ်၏။ ၁၉၅၃ ခုနှစ် အောက်တိုဘာလတွင် ဘုရင်မင်းမြတ်ထံ တာဝန်ယူရသော ဝန်ကြီးများကောင်စီအဖွဲ့ကို ဖွဲ့စည်းခဲ့၏။

ဆအူးဒီအာရေဗျနိုင်ငံသည် ၁၉၃၇ ခုနှစ်၌ နိုင်ငံတော်နယ်နိမိတ်များ အရေးနှင့် စပ်လျဉ်း၍ ယေမင်နိုင်ငံနှင့် သဘောတူညီချက်ကို ရယူခဲ့သည်။ ၁၉၄၂ ခုနှစ်၌ ကူဝိတ်နိုင်ငံနှင့် ချစ်ကြည်ရေးစာချုပ်ကို ချုပ်ဆိုခဲ့သေးသည်။ ၁၉၅၅ ခုနှစ် အောက်တိုဘာလ၌ အီဂျစ်နိုင်ငံနှင့် စစ်စာချုပ်ချုပ်ခဲ့သည်။ ထိုနှစ်တွင်ပင် ဆအူးဒီအာရေဗျနိုင်ငံရှိ ဗူရေမီ အိုအေးဆစ်ဒေသနှင့် စပ်လျဉ်း၍ အဗုဒါဗီနှင့် မတ်စကက် နိုင်ငံတို့က ပိုင်ဆိုင်ခွင့်ရှိသည်ဟု ဆိုသဖြင့် ဗြိတိန်နိုင်ငံနှင့် ပဋိပက္ခဖြစ်ကြရ၏။ ယင်းသည့်ပဋိပက္ခမှုကို အပြည်ပြည်ဆိုင်ရာ အနုညာတ စီရင်ဆုံးဖြတ်ရေး ရုံးတော်သို့ တင်ပြ၏။ ရုံးတော်၌ စစ်ဆေးနေစဉ်အတွင်း ဗြိတိသျှတို့က ဆအူးဒီအာရေဗျသည် ရုံးတော်မှလက်ခံအတည်ပြုထားသောအချက်အလက်များကိုမလိုက်နာသဖြင့် တရားမျှတသောအဆုံးအဖြတ်မရနိုင်တော့ဟုဆိုကာ အဗုဒါဗီနှင့် မတ်စကက်နိုင်ငံမှစစ်တပ်များကိုဦးစီးလျက် ဗူရေမီ အိုအေးဆစ်ဒေသကို ၁၉၅၅ ခုနှစ် အောက်တိုဘာလတွင် ဝင်ရောက်တိုက်ခိုက် သိမ်းယူလေသည်။ ဆအူးဒီအာရေဗျအစိုးရသည် ဗြိတိသျှအစိုးရထံ ကန့်ကွက်လွှာပို့သည့်အပြင် ကမ္ဘာ့ကုလသမဂ္ဂသို့လည်း တိုင်ကြားခဲ့လေသည်။ အာရပ်အမျိုးသားအဖွဲ့သည် ဆအူးဒီအာရေဗျနိုင်ငံ၏ကန့်ကွက်လွှာကိုထောက်ခံ၍၊ ကုလသမဂ္ဂခုံရုံးတော်သည် ထိုအရေးကိုပြန်လည်ဆွေးနွေးဆုံးဖြတ်ပါရန် တောင်းဆိုထားသည်။

**ဆာဒင်းနီးယားကျွန်း။** ။ဆာဒင်းနီးယားကျွန်းသည် မြေထဲပင်လယ်[illegible] ကော်စီကားကျွန်း၏ တောင်ဖက်၌တည်ရှိ၍ အလျားမိုင် ၁၆၀၊ အနံ ၆၈ မိုင်ရှိ၏။ အကျယ်အဝန်းအားဖြင့် အနီးအပါးရှိ ကျွန်းများအပါအဝင် စတုရန်းမိုင် ၉၃၀၁ မိုင်ရှိသည်။ ၇မိုင်ခွဲခန့်ကျယ်သော ဗိုနီဖားချို ရေလက်ကြားသည် ဆာဒင်းနီးယားကျွန်းကို ကော်စီကားကျွန်းမှ ပိုင်းခြားထားလေသည်။ တောင်ထွတ်ထိပ်၍ ကျွန်းအလယ်ရှိအမြင့်ဆုံးသောနေရာမှာ ပေ ၆၀၀၀ခန့်ဖြစ်သည်။ ဆာဒင်းနီးယားကျွန်းတွင်အရှည်ဆုံးဖြစ်သော တီဆိုမြစ်မှာ ၉၃ မိုင်ရှည်လျား၏။

ထိုကျွန်းသည် ဘီစီ ၅ ရာစုတွင် ကားသေ့လူမျိုးတို့လက်အောက်သို့ ကျရောက်ခဲ့ပြီးနောက် ရောမလူမျိုးတို့ကကြီးစိုးကြပြန်၏။ သို့သော် အလယ်ခေတ်သို့ ရောက်သောအခါ စပိန်၊ ဩစတြီးယား၊ ဆဗွိုင်းအစိုးရတို့ လက်အောက်သို့ ရောက်ရှိခဲ့ပြီးလျှင်၊ ၁၈၆၁ ခုနှစ်တွင် ဣတလီနိုင်ငံ၏တစိတ်တဒေသဖြစ်လာလေသည်။

ဆာဒင်းနီးယားကျွန်းကို နှစ်ပိုင်းခွဲထားရာ မြောက်ပိုင်းမြို့တော်မှာ ဆာ့ဆရီဖြစ်၍၊ တောင်ပိုင်းမြို့တော်မှာ ကားလျားရီမြို့ဖြစ်လေသည်။ လူဦးရေမှာ၁၂ သိန်းကျော်ရှိ၍ ကျွန်းသူကျွန်းသားများသည် စပိန်လူမျိုးတို့နှင့် ရုပ်ချင်းတူသောကြောင့် မြေထဲပင်လယ်လူမျိုးများမှ ဆင်းသက်လာဟန်ရှိသည်ဟု ယူဆကြ၏။ အများအားဖြင့် ဗရင်ဂျီကိုဏ်းဝင်များဖြစ်ကြ၏။ စာရေး၊ စာဖတ်တတ်သူများ အလွန်ပင်နည်းပါးလေသည်။



ဆာဒင်းနီးယားကျွန်း တည်နေရာပြမြေပုံ

ဗြိတိသျှနိုင်ငံ၏ တစိတ်တဒေသပင် ဖြစ်လင့်ကစား ဗြိတာ လျံလူမျိုးတို့က ဆာ့ဒင်းနီးယားကျွန်းကို တကျွန်းတနိုင်ငံ ဟု သဘောထားကြသည်။ (ဗြိတိသျှနိုင်ငံ — ရှု။)

ကျွန်းတွင်ကြီးကျယ်သောသစ်တောများရှိ၍ သံ၊ ခဲ၊ သွပ်၊ ငွေ၊ ကြေးနီနှင့်ကျောက်မီးသွေးများ၊ မန်ဂနိနှင့် ခနောက် စိမ်းများထွက်သည့်သတ္တုတွင်းများလည်း ရှေးအခါကတည်း ကပင်ရှိခဲ့လေသည်။ တံငါလုပ်ငန်းမှာလည်း ကြီးပွားတိုး တက်လျက်ရှိသောလုပ်ငန်းတခုဖြစ်၏။

ကျွန်းသူကျွန်းသားတို့မှာ တောတောင်ထူထပ်သည့်နေရာ များ၌ အသီးအနှံများကိုစိုက်ပျိုးခြင်းဖြင့်၎င်း၊ သိုး၊ နွား၊ ဆိတ်များကိုမွေးမြူခြင်းဖြင့်၎င်း အသက်မွေးလျက် နေထိုင် ကြလေသည်။

**ဆာလဖာဆေးများ။** ။ဆာလဖာဆေးများ ဆိုသည် မှာ ဆာလဖာနီလာမိုက်၊ ဆာလဖာပိုင်ရာဇင်း၊ ဆာလဖာ သိုင်အာဇိုးစသည်တို့ဖြစ်သည်။ ခရစ် ၁၉၀၈ ခုနှစ်က ပေါဂဲမိုဆိုသူ ဂျာမန်လူမျိုး ဓာတုဗေဒပညာရှင်တဦးသည် အန်နလင်းဆိုးဆေးများကို စမ်းသပ်ပြုလုပ်နေစဉ် ဆာလဖာ ဆေးများ၏ အခြေခံဖြစ်သောဓာတ်တို့ကိုတွေ့ရှိခဲ့သည်။ ထို စဉ်အခါက ဆာလဖာဆေး၏တန်ခိုး ထက်မြက်ပုံကို မည်သူ မျှမသိရှိခဲ့ပေ။ ၁၉၃၅ ခုနှစ်သို့ရောက်သောအခါ ဂျာမန် လူမျိုးဓာတုဗေဒပညာရှင် ဂျာဟတ် ဒိုးမက်သည် ကြွက်များ တွင် စတြက်တိုကောကပ်ခေါ် ဗက်တီးရီးယားများကြောင့် သွေးဆိပ်တက်သော ရောဂါကိုဆာလဖာဆေးဖြင့် ကုစားနိုင် ကြောင်း စမ်းသပ်တွေ့ရှိခဲ့လေသည်။ ထိုသို့တွေ့ရှိ၍များမ ကြာမီပင် ထိုပညာရှင်၏သမီးငယ်၌စတြက်တိုကောကပ် ကူး စက်ခြင်းကြောင့် အပြင်းအထန်ဖျားနာလာသည်တွင် မိမိ တွေ့ရှိထားသော ဆာလဖာဆေးဖြင့် ကုသရာ၊ သမီး၏ရော ဂါမှာ ပျောက်ကင်းလေသည်။ ထိုသတင်းကို ကြားသိကြ သောအခါ ပြင်သစ်၊ အင်္ဂလန်၊ အမေရိကန်စသောတိုင်းနိုင် ငံများမှ ဓာတုဗေဒပညာရှင်များသည် ဤဆေးမျိုး ထောင် ပေါင်းများစွာကိုပြုလုပ်၍ စမ်းသပ်ခဲ့ရာ၊ အလွန် ထက်မြက် သော ဆာလဖာဆေးအချို့ကို တွေ့ရှိခဲ့ကြလေသည်။

ဆာလဖာဆေးများသည် ရောဂါကိုဖြစ်စေသည့်ဗက်တီး ရီးယားပိုးများကို အစာတော်၍သေကြေပျက်စီးစေသည်။ (ဗက်တီးရီးယား — ရှု။) ဤဆေး၏တန်ခိုးမှာ အလွန်အံ့ ဩဖွယ်ကောင်းအောင်ထက်မြက်၏။ ဤဆေးကြောင့် ယနေ့ အထိ မရေမတွက်နိုင်အောင် များပြားသည့် လူတို့သည် အသက်ချမ်းသာရာရခဲ့ကြသည်။ ဆာလဖာဆေးများ မ ပေါ်မီက အဆုတ်ရောင်နာရောဂါရသူများသည် အဆုတ် ရောင်နာဆေးရည်ကိုအသုံးပြုလျက်နှင့်ပင် လူ ၁၀၀ တွင် ၂၅ ရာခိုင်နှုန်းမျှ ပျက်စီးခဲ့ကြရသည်။ ယခုအခါ၌မူကား အ ဆုတ်ရောင်နာကြောင့်အပျက်အစီးမှာ ၅ ရာခိုင်နှုန်းခန့်သာ ရှိတော့သည်။ ဦးနှောက်မြှေးရောင်ရောဂါတွင် ရှေးအခါ က ၃၅ ရာခိုင်နှုန်းခန့်သေကြေကြသည်။ ဆာလဖာဆေး များပေါ် ပေါက်လာသည့်အခါတွင် အပျက်အစီးမှာ ၅ ရာ ခိုင်နှုန်းမျှပင် မရှိတော့ချေ။

ဆာလဖာဆေးကို လိမ်းဆေးအဖြစ်ဖြင့်ဖြစ်စေ၊ သောက် ဆေးအဖြစ်ဖြင့်ဖြစ်စေ၊ သို့မဟုတ် ထိုးဆေးအဖြစ်ဖြင့်ဖြစ်စေ အသုံးပြုလေ့ရှိသည်။ သို့သော် လိမ်းဆေးများသည် လူနာ အား တခါတရံဥပဒ်ပေးတတ်သည်။ ထို့ကြောင့် ဤဆေးကို အများအားဖြင့်သောက်ဆေးနှင့် ထိုးဆေးအဖြစ်ဖြင့် အသုံး များသည်။ ဆရာဝန်သည် လူနာ၏ရောဂါကိုစမ်းသပ်ပြီးမှ ရောဂါ၏အခြေအနေနှင့် ရောဂါကိုဖြစ်စေသောဗက်တီးရီး ယားမျိုးကိုလိုက်၍ ဆေးကိုညွှန်ကြားလေ့ရှိသည်။

ဆာလဖာဆေးများသည် ရောဂါကိုပျောက်ကင်းစေသည် မဟုတ်ဘဲ၊ အနာရောဂါဖြစ်စေသည့် သက်ရှိများကိုသာ သုတ်သင်ရှင်းလင်းပစ်သည်။ အဆုတ်ရောင်နာဖြစ်၍ ဆာ လဖာဒိုင်ယာဇင်းကို သောက်သုံးလိုက်သောအခါ ထိုဆေး သည် အဆုတ်ရောင်နာဖြစ်စေသည့် ရောဂါပိုးများကို ဖျက် ဆီးပစ်လိုက်သည်။ သို့သော် အဆုတ်ရောင်နာရောဂါ အ မျိုးမျိုး ရှိသည်နှင့်အမျှ ရောဂါဖြစ်တတ်ပုံသည်လည်း အ ကြောင်းအမျိုးမျိုးကြောင့်ဖြစ်သည်။ အဆုတ်ရောင်နာ ရောဂါဟူသမျှကို ဆာလဖာဆေးဖြင့် မကုစားနိုင်သော ကြောင့် အဆုတ်ရောင်နာဖြစ်လျှင် ပဋိမဇ္ဈိဆေးကို အသုံးမ ပြုမီ မည်သည့်အဆုတ်ရောင်နာမျိုးဖြစ်ကြောင်းစိစစ်ရမည်။ အချို့အဆုတ်ရောင်နာရောဂါမျိုးကို ဆာလဖာဆေးအစား နောက်ပေါ် ဆေးများဖြစ်သော ပင်နီဆလင် သို့မဟုတ် အော်ရီအိုမိုင်စင် စသည့်ဆေးများဖြင့် ပျောက်ကင်းအောင် ကုသနိုင်သည်။ (ပင်နီ ဆလင် — ရှု။) အဆုတ်ရောင်နာ အပြင် ဆာလဖာဆေးများကို ဝမ်းကိုက်ရောဂါ၊ ဦးနှောက် မြှေးရောင်ရောဂါ၊ သွေးအဆိပ်တက်ရောဂါ၊ အရိုးနှင့်ခြင်ဆီ ရောင်နာ၊ အချို့ကာလသားရောဂါများတွင် သုံးသည်။ အ နာအဆိပ်တက်ခြင်း၊ အယ်ရီစစ်ပလတ်ခေါ် အနာမီး၊ ဆံလျှ လိုက်တစ်ခေါ် ဆံဆက်ရောင်နာတို့ကိုလည်း ဆာလဖာဆေး ဖြင့် ပျောက်ကင်းစေနိုင်သည်။

ပဌမဆုံးပေါ် ပေါက်ခဲ့သည့်ဆာလဖာဆေးများမှာ ဆာလ ဖာနီလာမိုက်၊ ဆာလဖာပိုင်ရာဇင်းနှင့် ဆာလဖာသိုင်အာ ဇိုးများ ဖြစ်သည်။ ဤဆေးများပေါ် စက အလွန်အသုံး များသော်လည်း၊ ဆေး၏ဒဏ်ပြင်းမှုကြောင့် ယခုအခါ အ သုံးအစွဲ ယခင်ကလောက်မများတော့ချေ။ ယခုခေတ်တွင် အမြောက်အမြားအသုံးပြုလျက်ရှိသောဆာလဖာဆေးများ မှာ ဆာလဖာမီရာဇင်း၊ ဆာလဖာဒိုင်ယာဇင်း၊ ဆာလဖာ မက်သာဇင်း၊ ဆပ်ဆီနီဆာလဖာသိုင်အာဇိုးနှင့် သယ်လီ

ဆာလဖာသိုင်အာဇိုးခေါ် ဆေးများဖြစ်သည်။ ဤဆေးငါးမျိုးအနက် ပဌမဆေးသုံးမျိုးသည် ကိုယ်ခန္ဓာ၏အထွေထွေရောဂါဝေဒနာများကိုကုသရာ၌ အသုံးပြုသည့်ဆေးများဖြစ်၍၊ ကျန်ဆေးနှစ်မျိုးမှာကား၊ အူကြောင်းနှင့်ပတ်သက်သည့်ရောဂါဝေဒနာများကို ကုသရာ၌အသုံးပြုရန် ဆေးဖြစ်သည်။

ဆာလဖာဆေးအားလုံးပင် တခုနှင့်တခု ဓာတ်အလိုအားဖြင့် မျိုးချင်းဆင်တူ၏။ ဤဆေးများတွင် ဆာလဖာ၊ နိုက်ထရိုဂျင်၊ ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်ဒြပ်စင်တို့ပါရှိသည်။ သို့သော် ဤ ဒြပ်စင်များဖွဲ့စည်းတည်ရှိပုံအစီအစဉ်မှာ ဆေးကိုလိုက်၍ကွဲပြားသည်။ ဤဆာလဖာဆေးအားလုံးတွင်တူညီချက်မှာ $SO_2N$ ဟူသောဓာတ်အစုပါရှိခြင်းပင်ဖြစ်၏။

**ဆာလဖျူရစ် အက်ဆစ်။** ။ဟိုက်ဒရိုဂျင် ဆာလဖိတ်ခေါ် ဆာလဖျူရစ်အက်ဆစ်သည် ရှိသမျှ အက်ဆစ် အပေါင်းတို့တွင် အရေးပါအရာရောက်ဆုံး အက်ဆစ်ဖြစ်သောကြောင့် ကမ္ဘာပေါ် ရှိမည်သည့်လုပ်ငန်းများ၌မဆို ထိုအက်ဆစ်မပါလျှင် မပြီးနိုင်သလောက်ဖြစ်လေသည်။

ဆာလဖျူရစ်အက်ဆစ်သည် ဆီကဲ့သို့သောအရည်ဖြစ်၍ အရောင်အဆင်းလည်းမရှိ၊ အနံ့လည်းမရှိချေ။ ရေထက်နှစ်ဆနီးပါးမျှပို၍လေး၏။ အက်ဆစ်အပြင်းရည်သည်အောက်ဆီဂျင်ဓာတ် ပေးစွမ်းနိုင်သော ဓာတ်ပစ္စည်းဖြစ်သည့်ပြင်၊ ရေနှင့်အလွန်ပေါင်းစပ်လွယ်၏။ စိုစွတ်ထိုင်းမှိုင်းသော ဓာတ်ငွေ့ပုလင်းထဲသို့ ထိုဆာလဖျူရစ် အက်ဆစ်ရည် ထည့်လိုက်သောအခါ ဓာတ်ငွေ့တွင်ရှိနေသောရေငွေ့ကို ဆာလဖျူရစ်အက်ဆစ်က စုတ်ယူလိုက်သဖြင့် ခြောက်သွား၏။ ထို့ကြောင့် ဤအက်ဆစ်သည် စိုစွတ် ထိုင်းမှိုင်းနေသော ပစ္စည်းများကိုခြောက်အောင်လုပ်ပေးနိုင်သောဓာတ်ပစ္စည်း တခု အဖြစ်ဖြင့်လည်းအသုံးဝင်၏။ မည်မျှလောက် ရေနှင့်ပေါင်းစပ်လွယ်သနည်းဟူမူ သကြား၊ ကော်မှုန့်၊ စက္ကူ၊ သစ်သားစ၊ ဝါဂွမ်းစသောပစ္စည်းများပေါ် သို့ ဆာလဖျူရစ် အက်ဆစ်ရည်ကိုအစက်ချပေးလိုက်လျှင်ပင် ထိုပစ္စည်းများတွင်ရှိသော ရေကို အက်ဆစ်က စုတ်ယူလိုက်သောကြောင့် ကာဗွန်အမည်းသာလျှင်ကျန်ရစ်သည်ကိုတွေ့ရ၏။ ထိုအက်ဆစ်ကို ရေနှင့်ရောစပ်သောအခါ အပူဓာတ်ပေါ် လာ၏။ အပူဓာတ် ပေါ် လာကြောင်းကို ဤသို့သိအပ်၏။ ရေရှိသောခွက်တခွက်ထဲသို့ ဆာလဖျူရစ် အက်ဆစ် အပြင်းရည်ကိုတဖြည်းဖြည်း လောင်းထည့်၍ မွှေပေးလိုက်သောအခါ ရေပူလာသည်ကိုတွေ့ရ၏။ အက်ဆစ်အပြင်းရည်ထဲသို့ ရေအစက်အနည်းငယ်ချပေးလိုက်လျှင်လည်း ရေသည်တမုဟုတ်ခြင်း အလွန်ပူလာသဖြင့် တခါတရံ အက်ဆစ်ရည်သည်ပင်လျှင် စင်၍ထွက်လာတတ်၏။ ထို့ကြောင့် အက်ဆစ်အပြင်းရည်ကို အပျော့ရည်ပြုလုပ်လိုသောအခါ အက်ဆစ်ထဲသို့ ရေကို မလောင်းထည့်ဘဲ၊ ရေထဲသို့သာ အက်ဆစ်ရေကို တဖြည်းဖြည်းလောင်းထည့်၍မွှေပေးရလေသည်။ အသားပေါ် သို့အက်ဆစ်ကျရောက်လျှင် အသားကိုလောင်တတ်သည်။

ဆာလဖျူရစ် အက်ဆစ် ချက်ယူကြရာ၌ အသုံးပြုသော နည်းနှစ်နည်းမှာ ခဲပြင့်စိမ်ထားသောအခန်းတွင်ချက်သော နည်းဟောင်းနှင့် ဓာတ်ကူပစ္စည်းကို သုံး၍ ချက်ယူသော နည်းသစ်ဖြစ်၏။ ဆာလဖျူရစ်အက်ဆစ် မော်လီကျူးတခုတွင် ဟိုက်ဒရိုဂျင်အက်တမ်နှစ်ခု၊ ဆာလဖာ (ကန့်) အက်တမ်တခုနှင့်အောက်ဆီဂျင် အက်တမ်လေးခုပါဝင်လျက်ရှိ၍၊ ထိုအက်ဆစ်၏ ဓာတုသင်္ကေတမှာ $H_2SO_4$ ဖြစ်၏။

ဆာလဖျူရစ်အက်ဆစ်ကိုချက်ယူသောပဌမနည်းဟောင်းတွင်လိုအပ်သောပစ္စည်းများမှာ (၁) ဆာလဖာ ဒိုင်အောက်ဆိုက် $SO_2$ (၂) နိုက်ထရစ် အောက်ဆိုက် NO (၃) လေ (၄) ရေနွေးငွေ့ သို့မဟုတ် ရေတို့ဖြစ်ကြ၏။ ပဌမ၌ လေထဲတွင် ပါသော အောက်ဆီဂျင်သည် နိုက်ထရစ် အောက်ဆိုက်နှင့် ပေါင်းလိုက်သောအခါ နိုင်ထရိုဂျင် ပါအောက်ဆိုက် ရ၏။ ဆာလဖာ ဒိုင်အောက်ဆိုက်နှင့် လေတို့ကို ထိုသို့ရခဲ့သော နိုက်ထရိုဂျင် ပါအောက်ဆိုက် $NO_2$ နှင့် ရေနွေးငွေ့တွင်ရော၍ ချက်လိုက်သောအခါ ဓာတ်ဖောက်ပြန်မှုများဖြစ်ပေါ် လာပြီးလျှင် နောက်ဆုံး၌ ဆာလဖျူရစ် အက်ဆစ် $H_2SO_4$ ရည်ကိုရရှိသည်။ နိုက်ထရိုဂျင် ပါအောက်ဆိုက် $NO_2$ နှင့် ဆာလဖာ ဒိုင်အောက်ဆိုက် $SO_2$ တို့ကိုရော၍ချက်သောအခါ $NO_2$ မှအောက်ဆီဂျင်ဓာတ် ကွဲထွက်လာပြီးလျှင် $SO_2$ နှင့်ပေါင်းစပ်သဖြင့် $SO_2$ သည် ဆာလဖာ ထရိုင်အောက်ဆိုက် $SO_3$ ဖြစ်လာ၍ $NO_2$ သည် နိုက်ထရစ်အောက်ဆိုက် NO ဖြစ်လာလေသည်။ ဖြစ်လာပုံမှာ



$$SO_2 + NO_2 = SO_3 + NO$$

ဆာလဖာ ဒိုင်အောက်ဆိုက် + နိုက်ထရိုဂျင် ပါအောက်ဆိုက် = ဆာလဖာ ထရိုင်အောက်ဆိုက် + နိုက်ထရစ် အောက်ဆိုက်

တဖန် $SO_3$ နှင့်ရေနွေးငွေ့တို့ရောစပ်ကြရာမှ $H_2SO_4$ ကိုရရှိပုံမှာ $SO_3 + H_2O = H_2SO_4$

နိုက်ထရစ်အောက်ဆိုက် NO သည် လေထဲမှအောက်ဆီဂျင်ဓာတ်ကို ရသောကြောင့် နိုက်ထရိုဂျင် ပါအောက်ဆိုက် $NO_2$ အဖြစ်သို့တဖန်ပြောင်းလဲသွားပြီးလျှင် $SO_2$ နှင့်ပေါင်းစပ်ပြန်၏။ ဤသို့လျှင် ဓာတ်ပေါင်းစပ်မှုတို့သည် အဆက်မပြတ်ဖြစ်နေလေသည်။ ဖြစ်နေပုံမှာ



$$2NO + O_2 = 2NO_2$$
$$SO_2 + NO_2 = SO_3 + NO$$
$$SO_3 + H_2O = H_2SO_4$$
$$2NO + O_2 = 2NO_2$$




**ကမ္ဘာပေါ်ရှိလုပ်ငန်းတိုင်း၌မပါလျှင်မပြီးသလောက်ပင်အသုံးများလှသည့် ဆာလဖျူရစ်အက်ဆစ်ကိုအသုံးပြုရသော လုပ်ငန်းအချို့**

ဒုတိယနည်းဖြင့်ချက်ယူသော နည်းသစ်တွင် လိုအပ်သော ပစ္စည်းများမှာ (၁) ဆာလဖာ ဒိုင်အောက်ဆိုက် $SO_2$ (၂) လေ (၃) ပလက်တီနမ်တို့ဖြစ်ကြ၏။ ခြောက်သွေ့၍ မည်သည့်အညစ်အကြေးမှ ရောမနေသော ဆာလဖာ ဒိုင်အောက်ဆိုက် $SO_2$ သန့်သန့်ကို လေနှင့်ပေါင်းစပ်ပြီးနောက် အလွန်ပူအောင်မီးပြင်းတိုက်ထားသော ပလက်တီနမ်အမှုန့်များရှိရာသို့သွင်းလိုက်သောအခါ $SO_2$ သည် လေထဲမှအောက်ဆီဂျင်ဓာတ်ကိုရရှိသဖြင့် $SO_3$ ဖြစ်သွားသည်။ ဤနေရာ၌ ပလက်တီနမ်အမှုန့်သည် မည်ကဲ့သို့မျှ ဓာတ်ဖောက်ပြန်ခြင်းမရှိဘဲ၊ ဓာတ်ကူပစ္စည်းအနေဖြင့်သာ ပါဝင်သည်။ ထိုရရှိသော $SO_3$ ကိုရေနှင့်ရောစပ်လိုက်သောအခါ $H_2SO_4$ ကိုရရှိ၏။ ရရှိပုံမှာ

$2SO_2 + O_2 +$ ပလက်တီနမ်မှုန့် $= 2SO_3 +$ ပလက်တီနမ်မှုန့်

$$SO_3 + H_2O = H_2SO_4$$

တွင်းထွက်ရေနံစိမ်းသည် အညစ်အကြေးများနှင့် ရောနှောလျက်ရှိရာ ဆာလဖျူရစ်အက်ဆစ်ဖြင့်စင်ကြယ်အောင် ပြုလုပ်ပေးရ၏။ ဤအက်ဆစ်ကို ဓာတ်မြေဩဇာများ ပြုလုပ်ရာ၌လည်း များစွာအသုံးပြုရ၏။ ထိုဓာတ်မြေဩဇာကို စူပါဖော့စဖိတ်ဟုခေါ်၏။ ထိုပြင် ဓာတ်ပစ္စည်းများ ပြုလုပ်ရာ၌၎င်း၊ သံနှင့်သံမဏိလုပ်ငန်းများ၌၎င်း၊ ကျောက်မီးသွေးမှ ဓာတ်ပစ္စည်းများချက်လုပ်သော လုပ်ငန်းများ၌၎င်း၊ ဆိုးဆေးနှင့် ခြယ်ဆေးများပြုလုပ်သော လုပ်ငန်းများ၌၎င်း၊ ပေါက်ကွဲစေတတ်သည့် ခဲယမ်းမီးကျောက်များ ပြုလုပ်ရာ၌၎င်း၊ ရက်ထည်များပြုပြင်လုပ်ကိုင်ရာ၌၎င်း၊ ပိုးတုအထည်များစီမံပြုလုပ်ရာ၌၎င်း၊ သံမပါသည့်သတ္တုဗေဒလုပ်ငန်းများ၌၎င်း၊ အခြားအထွေထွေလုပ်ငန်းများ၌၎င်း ဤအက်ဆစ်ကိုအသုံးပြုကြရ၏။

ဤမျှမကသေး၊ ဆာလဖျူရစ်အက်ဆစ်သည် ဟိုက်ဒရိုကလောရစ်အက်ဆစ် HCl နိုက်ထရစ် အက်ဆစ် $HNO_3$ နှင့် အခြား အက်ဆစ်များချက်ယူရာ၌၎င်း၊ အဝတ်လျှော်ဆိုဒါနှင့် ဖော့စဖောရပ်များပြုလုပ်ရာ၌၎င်း၊ များစွာအသုံးဝင်သေး၏။ ဤမျှအသုံးဝင်သော်လည်း ဤအက်ဆစ်ကို တနေရာမှတနေရာသို့ အမြောက်အမြားသယ်ယူပို့ဆောင်ရန်

အလွန်ခက်ခဲသည့်အတွက် အများအစားအသုံးပြုကြသော လုပ်ငန်းရှင်ကြီးများသည် များသောအားဖြင့်မိမိတို့ဖာသာ အက်ဆစ်ကိုချက်ယူကြလေသည်။

**ဆား။**  ။ကျွန်ုပ်တို့နေ့စဉ်သုံးစွဲလျက်ရှိသော ဟင်းခတ်ဆားကို သိပ္ပံဝေါဟာရအလိုအားဖြင့် ဆိုဒီယမ် ကလိုရိုက်ဟုခေါ်၏။ ဆိုဒီယမ်ကလိုရိုက်၏ဓာတုသင်္ကေတမှာ NaCl ဖြစ်သည်။ ဆားကို ကမ္ဘာမြေပေါ်တွင် အနှံ့အပြား တွေ့ရ၏။ ပင်လယ်ရေတွင် ဆားပါရှိမှုန်းလူတိုင်းသိ၏။ ထိုသို့ပါရှိရခြင်းမှာ မိုးရေသည် မြေတွင်ရှိသောဆားကို ပျော်ဝင်စေပြီးလျှင် ပင်လယ်ထဲသို့ဆောင်ယူသွားသောကြောင့်ဖြစ်၏။ ပင်လယ်မှရေသည် နေ၏အပူကြောင့် အငွေ့ပျံတက်သွားပြီးလျှင် မိုးရေအဖြစ်သို့ ပြောင်းလဲသွားသည်။ (အငွေ့ပျံခြင်း — ရှု။) တဖန်မိုးရေသည်မြေသို့ကျ၍ မြေမှဆားကို ထပ်မံယူဆောင်သွားပြန်သည်။ ထိုသို့ဖြစ်နေသည်မှာ နှစ်ပေါင်းသန်းပေါင်းများစွာရှိပြီဖြစ်သောကြောင့်ယခုအခါပင်လယ်ရေတဂါလံတွင် ပျမ်းမျှခြင်းအားဖြင့် ဆား ၄ အောင်စခန့် ပါရှိနေ၏။ အပူပိုင်းဒေသပင်လယ်တွင် အခြားအရပ်ဒေသရှိ ပင်လယ်များထက် ရေငွေ့ အလွန်များစွာ ပျံတက်လျက်ရှိသဖြင့် ဆားပိုမို၍ပါရှိလေသည်။ ပင်လယ်သမုဒ္ဒရာတွင် ပျော်ဝင်ပါရှိသည့်ဆားကို ဖြန့်လိုက်လျှင် အမေရိကန်ပြည်ထောင်စုကဲ့သို့ ကျယ်ပြောသော မြေနေရာကွက်ကြီးပေါ်တွင် တမိုင်ခန့် ထုတက်လာနိုင်ပေသည်။

ယူးတားပြည်နယ်ရှိရေနံအိုင်ကြီးနှင့် ဒက်ဆီးပင်လယ်တို့တွင် ဆားအများပါရှိ၏။ ထိုအိုင်ကြီးနှင့်ပင်လယ်တို့သည် သမုဒ္ဒရာနှင့်ဆက်စပ်လျက်မတည်ရှိသောကြောင့် ဆား၏အတိုင်းအဆမှာ အလွန်များလေသည်။ ပျော်ဝင်ပါရှိသည့်ဆား၏အတိုင်းအဆမှာအလွန်များသောကြောင့် ထိုရေနံအိုင်နှင့် ပင်လယ်ထဲတွင် လူ၏ကိုယ်ခန္ဓာကို နစ်မြုပ်အောင်ပြုလုပ်သော်လည်း မနစ်မြုပ်နိုင်ချေ။ အထူးသဖြင့် ဒက်ဆီးပင်လယ်တွင် ဆားများလွန်းသဖြင့် ရေထဲတွင် ငါးများမနေနိုင်ကြချေ။ ကမ်းခြေအနီးတွင်လည်း အပင်များမပေါက်နိုင်ပေ။ ထိုပင်လယ်ရှိရေသည် သမုဒ္ဒရာရေထက် ရှစ်ဆမျှ အလေးချိန်စီးသည်။ (ဒက်ဆီးပင်လယ် — ရှု။)

ပင်လယ်နှင့် ဆားငန်အိုင်တို့ အပြင် မြေအောက်တွင်ရှိသောရေ၌လည်းဆားပါရှိတတ်သည်။ ဤဆားရေအစုမှာ ဆားလွှာမှရေများ ယိုစိမ့်ထွက်လာသောကြောင့် ဖြစ်လာဟန်တူသည်။ တခါတရံ ပင်လယ်လက်ကြားတခုသည် ပင်လယ်နှင့်အဆက်ပြတ်၍ခန်းခြောက်သွားတတ်သည်။ တခါတရံဆားအိုင်များသည် တဖြည်းဖြည်းခန်းခြောက်၍ ဆားလွှာများအနည်ထိုင်၍ကျန်ရစ်တတ်သည်။ ဤကဲ့သို့ရှေးနှစ်ပေါင်း သန်းပေါင်းများစွာက ဖြစ်ပျက်ခဲ့၍ ကာလကြာမြင့်သောအခါ အထက်မှမြေနှင့်ရွှံ့များ တဖြည်းဖြည်းဖို့လာသဖြင့် မြေအောက်တွင် ဆားလွှာများနစ်မြုပ်လျက်ရှိနေတော့သည်။ ထိုသို့ခန်းခြောက်၍ ဆားလွှာဖြစ်သွားသောဆားမျိုးကို သိန္ဓောဆားဟုခေါ်လေ့ရှိ၏။ နယူးယော့မြို့၊ မစ်ရှီဂန်ပြည်နယ်၊ လူဝီးဇီယန္နားပြည်နယ်၊ ပိုလန်နိုင်ငံတို့တွင် တွေ့ရှိကြရသော သိန္ဓောဆားများမှာ ဤနည်းဖြင့်ဖြစ်ခဲ့ကြဟန်တူသည်။ ကမ္ဘာပေါ်တွင် အကြီးဆုံးဆားတွင်းများကို ပိုလန်နိုင်ငံတွင်တွေ့ရ၏။ ထိုနိုင်ငံရှိ ဆားလွှာတခုသည် မိုင် ၅၀၀ ခန့်ရှည်၍၊ မိုင် ၂၀ ခန့်ကျယ်ပြီးလျှင်၊ ပေ ၁၂၀၀ ခန့်ထူသည်။ အထူးသဖြင့် ဗျေလိကခေါ်အရပ်တွင် ၁၃ ရာစုကတည်းကပင် ဆားကိုတူးဖော်ယူခဲ့သည်။ ထိုအရပ်တွင် ဆားလုပ်ငန်းအတွက် တည်ဆောက်ထားသော အလွန်ထူးဆန်း၍လှပသည့် မြေအောက်မြို့ကြီးတမြို့ရှိ၏။ မြို့တွင်း၌ရှိသောမီးရထားဘူတာရုံ၊ လူနေအိမ်၊ ဘုရားရှိခိုးကျောင်းအစရှိသည့် အဆောက်အအုံအားလုံးကို သိန္ဓောဆားဖြင့် တည်ဆောက်ထားသည်။ ထိုမြို့ရှိလူအချို့တို့မှာ မွေးဖွားသည့်



ဒက်ဆီးပင်လယ်တွင် ဆားများစွာပါရှိခြင်းကြောင့် ရေ၌မနစ်မြုပ်ပေ



မြေအောက်မှတူးဖော်ယူရသော ဆားတွင်းတခု၏ရှုခင်းတရပ်

အချိန်မှ သေသည်အထိ မြေပြင်ပေါ်သို့ တခေါက်တခါမျှပင် မရောက်ဘူးကြချေ။

ဆားလွှာရှိသော အရပ်ဒေသများတွင် ဆားကိုမြေအောက်မှ ကျောက်မီးသွေးတူးသကဲ့သို့ တူးဖော်ယူကြရသည်။ အခြားအရပ်ဒေသများတွင် ဆားကို ပင်လယ်ရေမှ ထုတ်ယူကြသည်။ အပူပိုင်းဒေသများ၌ ဆားငန်ရေမှ ဆားထုတ်ယူပုံနည်းတနည်းမှာ နေဖြင့်ရေကိုအခြောက်ခံယူသည့်နည်းပင် ဖြစ်၏။ အိင်္ဂလိပ်နိုင်ငံ အယ်လက်ဇန္ဒြီးယားမြို့တွင် ခြောက်သွေ့လျက်ရှိသော မားယုအိုင်မှ ဆားကို ဤနည်းဖြင့်ထုတ်ယူသည်။ ဆားထုတ်ယူရာ၌ ပဌမဆုံး အိုင်ထဲတွင် တိုင်များကိုအနှံ့အပြားစိုက်ရသည်။ ထိုနောက် ရေသွင်းပေးရသည်။ ရေသည် အိုင်ထဲ၌တင်လျက်ရှိသောဆားကို ပျော်ဝင်စေ၍ ဆားရည်အဖြစ်သို့ ပြောင်းလဲသွားစေသည်။ ထိုပျော်ဝင်ရည်သည် နေပူကြောင့်ခန်းခြောက်သွားသောအခါ ဆားသည် တိုင်များပတ်လည်၌ ခဲ၍ကျန်ရစ်သည်။ ထိုဆားကိုပေါက်ချွန်းဖြင့်ပေါက်ယူကြရသည်။ ဤနည်းအားဖြင့် တနှစ်လျှင် မားယုအိုင်တခုတည်းမှ ဆားတန်ချိန် ၁၀၀,၀၀၀ ခန့်ကိုထုတ်ယူနိုင်သည်။ အခြားတိုင်းပြည်တို့၌မူ ဆားရည်ကို မီးဖြင့်ချက်၍ ထုတ်ယူကြသည်။

မြန်မာနိုင်ငံတွင် ဆားထုတ်ယူသောနည်းမှာ ပဌမ၌ ဆားရည်ကို အသင့်အတင့်ခန်းခြောက်သွားသည်အထိ မြေတွင်းများတွင်နေလှန်း၍၊ ထိုဆားရည်ကိုတဖန် မီးဖြင့်ချက်ယူကြသည်။ အချို့သော အရပ်ဒေသများတွင်မူကား၊ ဆားရေတွင်နစ်မြုပ်လျက်ရှိသော သစ်ဆွေးတုံးများကို ဆယ်တင်၍ အခြောက်ခံထားပြီးလျှင်မီးတိုက်ပေးသည်။ ကျန်ရစ်သောပြာကို ဆားပြာဟုခေါ်၍၊ ထိုပြာတွင် ဆားအမြောက်အမြား ပါရှိလေသည်။ ဆားပြာကိုတဖန် ပင်လယ်ရေတွင် ဖျော်၍ ထိုရေငန်ကိုမီးဖြင့် ချက်ယူကြလေသည်။ ဆားကိုအဓိကတင်ပို့ရောင်းချသောတိုင်းပြည်များသည်ကား အင်္ဂလန်၊ ပြင်သစ်၊ ဂျာမနီ၊ ဣတလီ၊ ရုရှ၊ အိန္ဒိယ၊ အမေရိကန်ပြည်ထောင်စုနှင့် တရုပ်နိုင်ငံများဖြစ်ကြသည်။ ထိုသို့ တင်ပို့ရောင်းချသော ဆားအနက် အချို့မှာ သိန္ဓောဆားဖြစ်၍၊ အချို့မှာပင်လယ်ရေကို ချက်၍ရရှိသည့် ဆားဖြစ်သည်။

ကျွန်ုပ်တို့နှင့်တကွ သက်ရှိသတ္တဝါဟူသမျှတို့သည် အသက်တည်တံ့နေနိုင်ရန်အတွက် ဆားကိုလို၏။ ပမာအားဖြင့်ကျွန်ုပ်တို့သည် စားသောက်သည့်အစာကိုချေချက်ရန် ဟိုက်ဒရိုကလောရစ်အက်ဆစ်ကိုလိုသည်ဖြစ်ရာ၊ ထိုလိုသောအက်ဆစ်ကိုဆားမှရရှိကြ၏။ ကျွန်ုပ်တို့၏အစားအစာတွင် ကိုယ်ခန္ဓာ၌ လိုအပ်သောဆား လုံလုံလောက်လောက်မပါတတ်သောကြောင့် ဆားကိုဖြည့်စွက်၍ သုံးဆောင်ကြရသည်။ သမင်၊ ဒရယ်နှင့်အခြား သားရဲတိရစ္ဆာန်တို့မှာမူကား မိမိတို့လိုသည့်ဆားကို ဆားကျင်းမှဖြစ်စေ၊ ဆားငန်ရည်ထွက်သောစမ်းမှဖြစ်စေ ရရှိကြသည်။ တခါတရံ တောထဲ၌နေထိုင်သူတို့သည် မိမိတို့၏ဆားကို ညအချိန်တွင် လုံခြုံစွာသိမ်းဆည်းမထားမိသဖြင့် တောတိရစ္ဆာန်များကဝင်ရောက်စားသောက်သွားသည်ကိုတွေ့ကြရသည်။



စုပုံထားသော အိမ်သုံး ဆားတုံးကြီးများ

ရှေးအခါက ပင်လယ်ကမ်းမှ ဝေးလံသော အရပ်ဒေသ၌ နေထိုင်သူတို့တွင် ဆားရရှိရန်မလွယ်ကူချေ။ ထိုလူများသည် ဆားကို ဆားငန်ရည်စမ်းများမှရကြ၏။ တခါတရံ ဤစမ်းများကို သူပိုင်သည် ငါပိုင်သည်ဟု အငြင်းအခုံဖြစ်ပြီးလျှင် တဦးနှင့်တဦး အလွန်ရက်စက်စွာ သတ်ဖြတ်လေ့ရှိခဲ့ဘူးလေသည်။ သဲကန္တာရများတွင် ရှေးအခါက ဆားကို အိုအေးဆစ်များမှရရှိခဲ့ကြ၏။ ယခုလည်း အချို့သဲကန္တာရရှိအရပ်ဒေသများတွင် အိုအေးဆစ်မှထွက်သည့် ဆားကို မှီခိုကြရလျက်ပင် ရှိသေးသည်။ သဲကန္တာရများတွင် ဝန်တင်ကုန်သည်စုများ အသုံးပြုလျက်ရှိသော လမ်းများမှာလည်း အလွန်ပူပြင်းသည့် သဲပြင်ပေါ်တွင် မနေမနား ဆားရှာထွက်ခဲ့သောလူများသတ်မှတ်ထားခဲ့ကြသည့် လမ်းများဖြစ်သည်။ ကမ္ဘာပေါ်ရှိရှေးအကျဆုံးလမ်းများတွင် အချို့လမ်းများမှာ ဆားသယ်ယူရန်အတွက်ဖောက်လုပ်ခဲ့ကြသောလမ်းများဖြစ်၏။ ဣတလီနိုင်ငံရှိ ဆားလမ်းဟုအမည်ရသော ဗိုင်ယာဆာလဲရီးယားခေါ် လမ်းမကြီးသည် ထိုသို့ အသုံးပြုရန် ဖောက်လုပ်ခဲ့သောလမ်းဖြစ်သည်။ လမ်းပန်း အဆက်အသွယ် ခက်ခဲမှုကြောင့် လူသူ အရောက်အပေါက် နည်းသည့် ကမ္ဘာပေါ်ရှိ အချို့ အရပ်ဒေသများတွင် ယခုထက်တိုင်အောင်ပင် ဆားအလွန်ရှားပါးလျက်ရှိသေးသည်။ အာဖရိကတိုက်ရှိအချို့လူရိုင်းများသည် ဆားကိုမရရှိနိုင်သည့်အတွက်မျက်နှာဖြူလူမျိုးခရီးသည်များထံမှ ဆားကိုတွေ့လျှင် ငမ်းငမ်းတက်လက်ဖြင့်ကျုံးယူ၍စားသောက်တတ်ကြသည်။

ဆားကိုအစားအသောက်၌ အသုံးပြုသည့်အပြင် အစားအစာများကိုတာရှည်ခံအောင်စိမ်ရာ၌လည်းအသုံးပြုကြ၏။ ဆားနယ်ထားသောအသား သို့မဟုတ် ငါးသည် ပပ်သိုးခြင်းကိုဖြစ်စေသည့် ဗက်တီးရီးယားများမှကင်းနိုင်သဖြင့် မပုပ်သိုးဘဲတာရှည်ခံ၏။ (ဗက်တီးရီးယား — ရှု။) ရောဂါပိုးများကို သေစေနိုင်သောကြောင့် လည်ချောင်းနာသည့်အခါ၌ဖြစ်စေ၊ သွားနာသည့်အခါ၌ဖြစ်စေ ဆားရည်ဖြင့် အာခလေ့ာက်ပေးရ၏။ ရေခဲပေါ်တွင် ဆားဖြူးပေးသောအခါ ရေခဲမှာအရည်ပျော်၍၊ ထိုအရည်သည် ရေခဲထက်ပို၍ အေးသည်။ ကြွေရည်သုတ်ခြင်း၊ ဖန်ချက်ခြင်း၊ ဆပ်ပြာချက်ခြင်းနှင့် ဓာတ်မြေသြဇာပြုလုပ်ခြင်းစသောလုပ်ငန်းတို့တွင် ဆားကိုအသုံးပြုရသည်။

ရှေးအထက်ကျော်ကာလကပင် ဆားသည် လူတို့၏ကျန်းမာမှုနှင့်ပျော်ရွှင်မှုအတွက် အလွန်အရေးကြီးကြောင်းသိရှိခဲ့ကြသဖြင့် ဆားနှင့်စပ်လျဉ်း၍ အလေ့အထနှင့်အသုံးအနှုန်းများစွာပေါ်ပေါက်ခဲ့သည်။ အင်္ဂလိပ်ဝေါဟာရတွင် လစာငွေဟု အဓိပ္ပါယ်ထွက်သောစကားလုံးသည် လက်တင်ဝေါဟာရ ဆာလာရီယမ်ဟုခေါ်သော စကားမှ ဆင်းသက်ခဲ့သည်။ ဆာလာရီယမ်မှာ ဆားဝယ်ငွေဟု အဓိပ္ပါယ်ရ၍၊ ရောမနိုင်ငံကောင်းစားစဉ်က စစ်သည်တော်များအား ဆားဝယ်ရန်ပေးကမ်းခြီးမြှင့်သောငွေကို ခေါ်သည့်စကားဖြစ်၏။ မြန်မာလူမျိုးများတွင် နေရာတိုင်း၌မပါလျှင်မပြီးသူကို ပဲခူးဆားဟူ၍၎င်း၊ ပေါသောအဓိပ္ပါယ်ကိုပြောလိုလျှင် ဆားမပါသောဟင်းလျာကဲ့သို့ဟူ၍၎င်း ပြောဆိုလေ့ရှိကြ၏။

**ဆားဂျင့်, ဂျွန် ဆင်းဂါး** (ခရစ် ၁၈၅၆–၁၉၂၅)။ ။ ဥရောပတိုက်၌ ထင်ရှားခဲ့သောပန်းချီကျော်များတွင် အမေရိကန်လူမျိုး ဂျွန် ဆင်းဂါးဆားဂျင့်လည်း အပါအဝင်ဖြစ်သည်။ ဆားဂျင့်သည် အမေရိကန်လူမျိုးမိဖများမှ ၁၈၅၆ ခုနှစ်ဇန်နဝါရီလ ၁၂ ရက်နေ့တွင် ဣတလီနိုင်ငံ ဖလော်ရင့်မြို့၌ ဖွားမြင်သည်။



ပုံတူရေး ပန်းချီကျော် ဂျွန် ဆင်းဂါး ဆားဂျင့်

ဂျွန် ဆားဂျင့်သည် ဥရောပတိုက်တွင်သာ နေထိုင်ခဲ့၏။ ငယ်စဉ်အခါမှစ၍ ဂျာမန်ဘာသာစကားကို ပြောတတ်သည်။ ပန်းချီပညာကို ဣတလီနိုင်ငံတွင်လေ့လာသည်။ ဆားဂျင့်သည် ဆီဆေး၊ ပုံတူကားများကို ရေးခြယ်ရာ၌ ကျော်စောခဲ့ရုံသာမက ရေဆေးရေးဆွဲခြင်းတွင်လည်း ထင်ရှားသူဖြစ်သည်။ နိုင်ငံအနှံ့အပြားလှည့်လည်သွားလာဘူးသူဖြစ်၍ အတွေ့အမြင်ဗဟုသုတစုံ၏။ အမေရိကန်နိုင်ငံသို့လည်း မကြာခဏသွားရောက်လည်ပတ်လေ့ရှိ၏။ ဥရောပတိုက်နှင့် အမေရိကန်ပြည်ထောင်စုရှိ ထင်ရှားသော ပုဂ္ဂိုလ်ကြီးများ၏ ပုံတူကားများကိုရေးခြယ်ခဲ့၏။ သူ၏လက်ရာမှာ အလွန်ကောင်းမွန်သောကြောင့် လူကြိုက်များခဲ့သည်။

၁၈၈၅ ခုနှစ်ခန့်မှစ၍ ၁၉၂၅ ခုနှစ်တွင် ကွယ်လွန်သည်အထိ အင်္ဂလန်ပြည်တွင်နေထိုင်၏။

သူရေးဆွဲခဲ့သောပန်းချီကားများတွင် အမေရိကန်ပြည်



ဆားဂျင့်၏လက်စွမ်းပြ ပန်းချီကားတခု

ထောင်စု၏သမတ သီယိုဒို ရူးဇဗဲ့၊ ဂျီးဇက်ဂျက်ဖာဆန် စသောပုဂ္ဂိုလ်ကြီးများ၏ ပုံတူကားများမှာ ထင်ရှားသည်။ ဆားဂျင့်သည် ၁၉၂၅ ခုနှစ် ဧပြီလ ၁၄ ရက်နေ့တွင် အင်္ဂလန်ပြည်၌ကွယ်လွန်လေသည်။

**ဆားဗိုနာရော်လာ, ဂျီ** (၁၄၅၂–၁၄၉၈)။ ။ဂျီရော်လာမို ဆားဗိုနာရော်လာသည် ဣတလီနိုင်ငံ ဖာရားရမြို့တွင် ၁၄၅၂ ခုနှစ်၌ဖွားမြင်သည်။ ငယ်စဉ်က သူသည် ယထာဘူတပညာနှင့် ဆေးပညာတို့ကို လေ့လာလိုက်စားခဲ့သည်။ ဆေးဆရာတဦးဖြစ်သူ အဖိုးသည် ဆားဗိုနာရော်လာအား သူကဲ့သို့ပင် ဆေးဆရာဖြစ်စေလိုသည်။ သို့ရာတွင် ဆားဗိုနာရော်လာ၏ပဋိသန္ဓေစိတ်မှာ လောကီအာရုံကာမဂုဏ်တို့ကို ရွံရှာသော စိတ်ဖြစ်ရကား၊ သာသနာရေးကိုပို၍စိတ်ညွှတ်သည်။ ဆားဗိုနာရော်လာ လူလားမြောက်သောအရွယ်၌ ဣတလီနိုင်ငံတွင် ဥာဏ်သစ်အရေးပုံထွန်းကားနေသော အချိန်အခါဖြစ်သည်။ ထိုအခါ၌ လူအပေါင်းတို့သည် ပညာအရပ်ရပ်ပြန့်လည်ထွန်းကားခြင်းကိုအကြောင်းပြု၍ ပွဲလမ်းသဘင် ပျော်ရွှင်မှုတည်းဟူသော ကာမဂုဏ်ငါးပါးတို့၌သာ အာရုံစွဲလမ်းနေကြသည်ဖြစ်သောကြောင့်၊ ဆားဗိုနာရော်လာသည် လောကီကိုစက်ဆုပ်ငြီးငွေ့ပြီးလျှင်၊ အသက် ၂၂ နှစ်အရွယ်တွင် ဗလုံးညားမြို့ စိန်ဒိုမိနီကို ဘုန်းကြီးကျောင်း၌ ရောမကက်သလစ်သာသနာ့ဘောင်သို့ဝင်ခဲ့လေသည်။ ဤသို့ သာသနာ့ဘောင်သို့ဝင်ရောက်ခဲ့သည့်အတွင်း၊ ဆားဗိုနာရော်လာသည် ခရစ်ယန်ဝါဒကိုကောင်းစွာလေ့လာ၍ ထင်ရှားသော ဓမ္မကထိကပုဂ္ဂိုလ်ဖြစ်လာလေသော်၊ လောကီစည်းစိမ်တို့ဖြင့်ယစ်မူး၍နေသော ဖလော်ရင့်မြို့တော်သို့ ဝတ်တရားအရ ရောက်ရှိလာခဲ့လေသည်။ ဤသည်တွင် သူ၏တရားဟော စင်မြင့်မှနေ၍ ခရစ်တော်ညွှန်ပြသည့် လောကတ္ထစရိယာလမ်းစဉ်ပေါ် တွင် တည်ဆောက်အပ်သော နိုင်ငံရေးအတွေးအခေါ် တို့ကိုဟောကြားလေသည်။ ထိုအတွေးအခေါ် တို့၏မူရင်းသုံးချက်မှာ နိုင်ငံသူနိုင်ငံသားတိုင်း အတူတကွ ညီညွတ်ချစ်ခင်စွာ ဆက်ဆံပေါင်းသင်းနေထိုင်ကြခြင်း၊ ပြည်သူအများ၌ တတ်နိုင်သမျှသော အချုပ်အချာအာဏာ



အဖမ်းမခံရမီ တပည့်များအားဖျောင်းဖျနေသော ဆားဗိုနာရောလာ

ရှိစေခြင်းနှင့် ပစ္စည်းဥစ္စာပိုင်ဆိုင်သူတို့အား ညီညီမျှမျှအခွန်အကောက်ကိုကောက်စေခြင်းဟူသည်တို့ဖြစ်လေသည်။ သူ၏ဟောပြောချက်များကို မြို့သူမြို့သားများ နားဝင်သဖြင့် ဖလော်ရင့်အာဏာရှင် ပီယာရို မဲဒီချီအား မြို့မှနှင်ထုတ်၍ မြို့မိမြို့ဖများကအစိုးရဖွဲ့လိုက်၏။ ဆားဗိုနာရော်လာသည် အစိုးရအဖွဲ့တွင် အကြံပေးအနေမျှဖြင့်ပင်လျှင် မပါဝင်ပါဘဲလျက်၊ သူ၏တရားဟောစင်မြင့်ပေါ်မှနေ၍ နိုင်ငံရေးအတွေးအခေါ်တို့ကို လူထုအားညွှန်ကြားပြသ၍ ခေါင်းဆောင်ခြင်းကိုပြုလေရာ၊ ဖလော်ရင့်မြို့တော်၏ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေပြုရာ၌ပင်လျှင် သူ၏အတွေးအခေါ်တို့ကိုလက်ခံလာကြရသည်။ ဖလော်ရင့်မြို့တော်ကို တဦးတည်းသဘောဖြင့် စိုးမိုးအုပ်ချုပ်ခဲ့သော လော်ရင်ဇို မဲဒီချီလက်ထက်၌ပေါ်ပေါက်ခဲ့သော ကာမဂုဏ်လိုက်စားမှုတို့သည်ပပျောက်၍၊ သာသနာရေးကိုင်းရှိုင်းမှုသည်ပေါ်ထွန်းလာလေသည်။ ကလေးသူငယ်ကအစ သာသနာရေးဖြင့် စာရိတ ပြုပြင်ပြောင်းလဲမှုတို့ကို လုပ်ဆောင်လာကြသည်။ သို့သော် ထိုအတွင်း ဖလော်ရင့်၏ပြည်တွင်းနိုင်ငံရေးမှာ ရှုပ်ထွေးလာခဲ့သည်။ လော်ရင်ဇို၏သား၊ မြို့နှင်ခံရသူ ပီယာရို မဲဒီချီကို ပုပ်ရဟန်းမင်း ဆဋ္ဌမ အယ်လက်ဇန္ဒာသည် အားပေးအားမြှောက်ပြုကာ၊ ဆားဗိုနာရော်လာအား တရားမဟောရန်တားမြစ်၏။ မနာခံသောအခါ သူ့အား ရောမသာသနာမှ ကြဉ်လိုက်သည်။ ထိုနောက်၌ကား ဆားဗိုနာရော်လာ၏သြဇာအာဏာတို့မှာ သက်ဆင်းလျော့ကျလာလေရာ၊ ၁၄၉၈ ခုနှစ်၌သူသည် မိစ္ဆာဒိဋ္ဌိတဦးအနေဖြင့် မီးတင်ရှို့ကာ ကွပ်မျက်ခြင်းကိုခံရလေသည်။ (ဥာဏ်သစ်အရေးပုံ — ရှု။)



ဆားလင်းကြီးမြို့တောင်ဖက်ရှိ ချမ်းသာကြီးစေတီ

ဆားလင်းကြီးမြို့။ ။အောက်ချင်းတွင်းခရိုင်အပိုင် မြို့နယ်တနယ်ဖြစ်သည်။ ဆားလင်းကြီးမြို့သည် မုံရွာမြို့၏တောင်ဖက်၊ ချင်းတွင်းမြစ်၏အနောက်ဖက်ကမ်းတွင်တည်ရှိသည်။ မြို့နယ်အကျယ်အဝန်းမှာ စတုရန်းမိုင် ၂၈၆ မိုင်မျှဖြစ်သည်။ မြို့နယ်အတွင်း ဝါဂွမ်း၊ နှမ်း၊ ပဲ၊ ပြောင်း၊ ကုလားပဲ စသည်တို့ကို များစွာ စိုက်ပျိုးလုပ်ကိုင်ကြသည်။ ဆားလင်းကြီးနယ်၌ ဆားတောင်မှတူး၍ရသောဆားများထွက်သည်။ အောက်ချင်းတွင်း ခရိုင်တွင် လူနေထူထပ်သောမြို့တမြို့ဖြစ်၍၊ မြိုင်မြို့နှင့်ရေစကြိုမြို့များသို့ မော်တော်ကားလမ်းဖြင့်ဆက်သွယ်ထားသည်။

ဆားလင်းကြီးမြို့၏လူဦးရေမှာ ၁၉၅၄ ခုနှစ်သန်းကောင်စာရင်းအရ ၂,၄၅၅ ယောက်ခန့်ရှိလေသည်။



နဂါးရန်ကိုနှိမ်နင်းနေသော ဆိဖရိမင်းသား

**ဆိဖရိ။** ။ဂျာမန် လူမျိုး ကဗျာနှင့် ဂီတဆရာ ဗားဂနား သည် တေးသံစုံဇာတ်ထုပ် လေးထုပ်ကိုရေး၍၊ ၁၈၇၆ ခုနှစ် တွင် လေးညဆက်ကာ ကပြစေခဲ့သည်။ (ဗားဂနား၊ ရစ်ချတ် — ရှု။) ယင်းတေးသံစုံဇာတ်ထုပ်များအနက် ဇာတ် ထုပ်နှစ်ထုပ်တွင် ဆိဖရိသည် အဓိကဇာတ်ဆောင်သူတဦး ဖြစ်ပေသည်။ ဆိဖရိ၏ဇာတ်လမ်းအတိုချုပ်မှာ ဤသို့ဖြစ် ၏။ ဆိဖရိသည် သူ၏ဖခင်ထံမှ ကျိုးပဲ့လျက်ရှိသော သန် လျက်တခုကိုရရှိလေသည်။ ထိုအခါ ထိုသန်လျက်ကို သန် လျက်အသစ်တခုဖြစ်အောင် ပြန်လည်သွန်းလုပ်ပြီးလျှင်၊ ဆိ ဖရိသည် နဂါးရန်ကိုနှိမ်၍၊ လက်စွပ်နှင့်ဝတ်ရုံကိုအရသိမ်း ပိုက်လိုက်သောအခါ၊ ကာယသိဒ္ဓိပြီးသော သူရဲကောင်း ယောကျ်ားဖြစ်လာလေသည်။ ထိုမှစ၍ဆိဖရိသည် စစ်ပွဲအ သီးအသီးတို့ကိုအောင်နိုင်ကာ၊ ဂွန်တာဘုရင်၏ နှစ်မတော် ကရင်ဟီးနှင့်ထိမ်းမြားလက်ထပ်လေသည်။ ဆိဖရိသည် ဂွန် တာဘုရင်နှင့် မိန်းမသူရဲကောင်း ဗရွန်ဟီးတို့သင့်မြတ်ထိမ်း မြားသည့်အရေး၌လည်းကူညီခဲ့၏။ သို့သော် ကရင်ဟီးနှင့် ဗရွန်ဟီးတို့ မိန်းမချင်းမတည့်ရာမှ အစပြု၍၊ ဆိဖရိကိုအ ကောက်ကြံသော ဟာဂင်သည် ဆိဖရိကိုလုပ်ကြံရန်အတွက် အကွက်ရလာလေသည်။ ဆိဖရိသည် ကာယသိဒ္ဓိပြီးသည် မှန်သော်လည်း၊ ကျောပြင်ရှိနေရာတကွက်ကား၊ ကာယ သိဒ္ဓိမပြီးချေ။ ထိုကြောင့်တနေ့သောအခါ၊ ဆိဖရိကို ဟာ ဂင်သည် နောက်ကျောမှနေ၍ ဓားဖြင့်ထိုးကာ အဆုံးစီရင် လိုက်လေသည်။ ထိုပုံပြင်မှာ ဂျာမန်စာပေတွင် ထင်ရှား သော ၁၂ ရာစုနှစ်ကုန်ခါနီးခေတ်၏ အဲပစ်ကဗျာများမှမှီးယူ ထားသောပုံပြင်ဖြစ်လေသည်။

**ဆီကွိုင်းယားပင်။** ။ဆီကွိုင်းယားပင်ကြီးများသည် အမေရိကန်ပြည်ထောင်စု ကာလီဖိုးနီးယား ပြည်နယ်တွင် ပေါက်လေ့ရှိသည့် ဆယ့်နှစ်ရာသီစိမ်းလန်းသော အပင်ကြီး များဖြစ်၍၊ ထင်းရှူးပင်မျိုးတွင်ပါဝင်၏။ ဆီကွိုင်းယား ပင်နှစ်မျိုးနှစ်စားရှိရာ၊ တမျိုးမှာအလွန်ကြီးမားသည့်အပင် မျိုးဖြစ်၍၊ ကာလီဖိုးနီးယားပြည်နယ်ရှိ ဆီယယ်ရာနီဗားဒ အနောက်ဖက်တောင်ခြေတွင်တွေ့ရှိနိုင်သည်။ ဤအပင် ကြီးမျိုးသည် ပေပေါင်း ၂၀၀ မှ ၃၅၀ ထိမြင့်၍၊ အချင်းပေ ၂၀ မျှရှိပြီးလျှင် နှစ်ပေါင်း ၁,၁၀၀ မှ ၁,၅၀၀ ထိအသက်ရှည် ကြသည်။ အခြားတမျိုးမှာ သစ်နီပင်မျိုးဖြစ်၍၊ သစ်နီ ပင်က သစ်သားကို ပရိဘောဂများပြုလုပ်ရာ၌ များစွာ အ သုံးပြုကြသည်။ သစ်နီပင်ကြီးမျိုးကို ကာလီဖိုးနီးယား ပြည်နယ်ကမ်းခြေတလျှောက် တောင်တန်းများတွင် တွေ့ရှိ နိုင်သည်။

ထိုသစ်ပင်ကြီးမျိုးသည် တောနက်များ၌လည်း ပေါက် တတ်ကြသည် ။ သီးခြားသစ်ပင်အုပ်များ၌လည်း ပေါက် တတ်ကြသည်။ ပေါက်သည့်အပင် အရေအတွက်မှာ နည်း ပါး၏။ ဤအပင်ကြီးမျိုးကို ခရစ် ၁၈၅၂ ခုနှစ်ခန့်က စတင်



ပေ ရာကျော်မြင့်မားသော ဆီကွိုင်းယားပင်များ

တွေ့ရှိခဲ့ကြသည်။ အင်္ဂလန်ပြည်၌ကား ၁၈၅၃ ခုနှစ်ခန့်တွင် ဆီကွိုင်းယားပင်ကို စတင်စိုက်ခဲ့ကြသည်။ ဆီကွိုင်းယားပင်များသည် ကြီးမားတင့်တယ်သောကြောင့် အင်္ဂလန်ပြည်တွင် ထိုအပင်ကြီးမျိုးကို အများအပြား စိုက်ပျိုးကြသည်။ ထို့ကြောင့်လည်း အင်္ဂလန်ပြည်တောင်ပိုင်းနှင့်အနောက်ပိုင်းရှိ ခြံများနှင့်ဥယျာဉ်များတွင် ဆီကွိုင်းယားပင်များကိုတွေ့နိုင်လေသည်။

ပင်ရင်းဒေသများတွင် ဆီကွိုင်းယားပင်သည် တောက်ပြောင်သောသစ်ကြံပိုးရောင်ရှိ၍၊ ဖြောင့်စင်းသည့် ပင်စည်များလည်းရှိတတ်ကြသည်။ ပေပေါင်း ၁၈၀ မျှတိုင်အောင် အကိုင်းအခက်များမရှိဘဲ၊ စင်းလုံးချောပင်စည်ကြီးများ ရှိသဖြင့် ရှုချင့်စဖွယ်တင့်တယ်လှပ၏။ အဖျားဖက်တွင် ရှူး၍လုံးဝန်းလျက်၊ ရှည်၍ချွန်သော အမြဲစိမ်းအရွက်များ ရှိ၏။ အပင်အိုကြီးတို့၏ထိပ်ဖျားများသည် ဆီးနှင်း၏ အလေးဒဏ်နှင့် လေပြင်းတိုက်ခတ်သည့်ဒဏ်ကြောင့် ကျိုးပဲ့လျက်ရှိတတ်သည်။ အကြီးဆုံး အပင်ကြီးများကို လှဲ၍ သက်ရစ်များကိုကြည့်ရခြင်းအားဖြင့် ထိုအပင်များ၏အသက်သည် နှစ်ပေါင်း ၁,၁၀၀ မှ ၁,၅၀၀ အတွင်းတွင်ရှိကြောင်းသိရလေသည်။

ထင်ရှားသည့်ဆီကွိုင်းယားပင်ကြီးတပင်၏အချင်းမှာ ၉၃ ပေမျှရှိသည်။ ကြီးမားသော အခြားအပင်ကြီးတပင်၏ အောက်ခြေတွင် လိုဏ်ခေါင်းတခုကိုဖောက်လုပ်ထားရာ၊ ထိုလိုဏ်ခေါင်းတွင်းမှမြင်းစီးသမားတစုပင်ဖြတ်သွားနိုင်သည်။ ထိုသစ်ပင်ကြီးမျိုး၏အသားမှာ အနီရောင်ရှိ၍ ပေါ့ပြီးလျှင် အလွန်ခိုင်မာသည်။ ယခုအခါဆိုင်ရာအစိုးရများက ထိုအပင်မျိုးကိုမလှဲရန်အမိန့်ထုတ်ထားလေသည်။

သစ်နီပင်မျိုးများသည် ကမ်းခြေတလျှောက် နှင်းပိတ်အောင်ကျသောသစ်တောများ၌ပေါက်လေ့ရှိကြသည်။ အရွက်များသည် ထင်းရှူးပင်အရွက်နှင့်တူ၍၊ ဘေးဖက်သို့ပြန့်ကားနေတတ်သည်။ တလက်မခန့်ရှိ ကတော့ပုံအသီးများကို အခိုင်လိုက် သစ်ပင်၏အဖျားတွင် တွေ့မြင်နိုင်သည်။ ထိုသစ်နီပင်မျိုးမှာ အမြင့်ပေ ၁၁၀ ကျော်မျှ ရှိတတ်သည်။

ဆီဆရို။ ။ဆစ်ဆရို — ရှု။

**ဆီဇာ, ဂျူးလယပ်** (ဘီစီ ၁၀၂–၄၄)။ ။ဂျူးလယပ် ဆီဇာသည် ရောမစစ်သူကြီးနှင့်တိုင်းပြည်ခေါင်းဆောင်ကြီးဖြစ်သည်။ (ရောမနိုင်ငံသမိုင်း — ရှု။) ကမ္ဘာ့သမိုင်း၌ မော်ကွန်းတွင်ခဲ့သူများ အနက် တဦး၊ အပါအဝင် ဖြစ်ပေသည်။ ဂျူးလယပ် ဆီဇာသည် ရောမသူကောင်းမျိုးမှ ဆင်းသက်လာသူဖြစ်၍၊ ဘီစီ ၁၀၂ ခုနှစ်ခန့်တွင် မွေးဖွားခဲ့၏။ ထိုခေတ်အခါက ရောမမြို့သည် သမတနိုင်ငံအဖြစ်ဖြင့်တည်ရှိခဲ့၏။ သူကောင်းမျိုးများပါဝင်သော ဆီနိတ်အဖွဲ့က စီမံခန့်ခွဲလျက်၊ ကွန်ဆာလူကြီးရာထူးအပ်နှင်းခံရသူက တိုင်းပြည်ကိုအုပ်ချုပ်ရ၏။ ထိုကွန်ဆာလူကြီးများသည် တန်ခိုးကြီးမားလာပြီးလျှင် အာဏာရှင်သဖွယ်ဖြစ်လာလေသည်။ ဂျူးလယပ် ဆီဇာသည် အထက်တန်းစားမိဖများမှ မွေးဖွားလာသူဖြစ်သော်လည်း၊ ထိုခေတ်ကရောမမြို့တွင် သူကောင်းမျိုးနှင့်ဆင်းရဲသားတို့ အာဏာလုနေကြသည့် အရေးတွင် ဆင်းရဲသားပြည်သူတို့ဖက်သို့ယိမ်းခဲ့လေသည်။ ထို့ကြောင့် ၁၇ နှစ်အရွယ်တွင် မိမိအတွက်ရွေးချယ်ထားသော သဋ္ဌေးသမီးကို မယူဘဲ၊ ဆင်းရဲသား ပြည်သူ့ခေါင်းဆောင် ဆင်နာ၏သမီး ကော်နီလီယာနှင့်လက်ထပ်ခဲ့သည်။ သူကောင်းမျိုးတို့၏ခေါင်းဆောင် ရောမအာဏာရှင် ဆာလာသည် ဆီဇာ၏အပြုအမူကိုဒေါသထွက်၍၊ ဆီဇာအား ကော်နီလီယာနှင့်ကွာရှင်းခိုင်းလေသည်။ သို့သော်ဆီဇာသည် ဆာလာ၏အမိန့်ကိုမလိုက်နာသဖြင့်၊ ရောမမြို့မှထွက်ပြေးတိမ်းရှောင်ခဲ့ရသည့်ပြင်၊ သူ၏အိုးအိမ်ပစ္စည်းများကိုလည်း အစိုးရဘဏ္ဍာတော်အဖြစ်သိမ်းယူခြင်းခံခဲ့ရလေသည်။



ရောမစစ်သူကြီး ဂျူးလယပ်ဆီဇာ

ဆာလာကွယ်လွန်ပြီးနောက်၊ ဘီစီ ၇၈ ခုနှစ်တွင် ဆီဇာသည်ရောမသို့ပြန်လာခဲ့၏။ ထိုအချိန်မှစ၍ ပြည်သူတို့၏



ရောမအင်ပိုင်ယာကိုချဲ့ရာ၌ ဆီဇာသည် ဗြိတိန်နိုင်ငံကိုတိုက်ခိုက်ခဲ့ပုံ

၏။ ဂေါလနယ်တွင် ၉ နှစ်ကျော် ခန့်နေ၍၊ အနောက်ဖက်ဒေသ များကို ရောမလက်အောက်သို့ တိုက်ခိုက်သိမ်းသွင်းခဲ့၏။ ဤသို့ ဖြင့် ထိုစဉ်ကလူအကြည်ညိုများ သော ပွန်ပီကဲ့သို့ပင် မိမိလည်း စစ်သားကောင်းပီသကြောင်းကို အစွမ်းပြနိုင်ခဲ့လေသည်။ ဆီဇာ သည် ဂျာမန်နှင့် ဗဲလဂျီယန် လူမျိုးတို့အား တိုက်ခိုက် နှိမ် နင်း ခဲ့၏။ ဗြိတိန်နိုင်ငံကိုလည်း ဘီစီ ၅၅ ခုနှစ်တွင်တကြိမ်၊ ဘီစီ ၅၄ ခုနှစ်တွင်တကြိမ်၊ ပေါင်းနှစ်ကြိမ် မျှဝင်ရောက်တိုက်ခိုက် ခဲ့၏။ ဆီ ဇာသည်ခေါင်းဆောင်မှုနှင့်စည်း ရုံးမှုဖက် တွင် သာမက၊ စစ်ရေး စစ်မှုဖက်၌လည်း ထူးချွန်သည်ကို

အကျိုးကိုရှေးရှုလျက် ပြည်သူ့ဝန်ထမ်းလုပ်ငန်းများကို အားကြိုးမာန်တက်ဆောင်ရွက်ခဲ့လေသည်။ ဘီစီ ၆၆ ခုနှစ် တွင် ပြည်သူ့ကျန်းမာရေးကစားခုန်စားပွဲများ၌ကြီးကြပ် သူ ဖြစ်လာသောအခါ၊ ခမ်းနားထည်ဝါသောကစားပွဲများ ဖြစ်မြောက်စေရန် ကိုယ်တိုင်ကြွေးတင်ခံ၍ပင် စီမံလုပ်ကိုင်ခဲ့ ၏။ ထိုအတွက်ကြောင့်ဆီဇာသည် အများ၏ခင်မင်လေး စားမှုကို ရရှိခဲ့လေသည်။

ဂျူးလယပ် ဆီဇာသည် ရောမနိုင်ငံတော်အုပ်ချုပ်ရေး၌ ချွတ်ယွင်းနေပုံကိုသိမြင်ထား၏။ ရောမနိုင်ငံတော်ကြီးမပျက် စီးစေရန် တဦးတယောက်၏ လက်ထဲတွင် အချုပ်အချာ အာဏာရှိသည့် အုပ်ချုပ်ရေးမျိုး လိုအပ်သည်ဟု ယုံကြည် ထား၏။ ထိုအခြေအနေကို သူသည်ဖန်တီးပေးနိုင်လိမ့်မည် ဟုလည်း ယူဆထားလေသည်။

ဆီဇာသည် သူ၏ရည်မှန်းချက်ထမြောက်အောင်မြင်ရေး အတွက် လူချစ်လူခင်ပေါသော စစ်ဗိုလ်ချုပ်ကြီး ပွန်ပီ၊ ငွေကြေးတောင့်တင်းသောသူဌေး ကရက်ဆပ်တို့နှင့်မိတ်ဖွဲ့ ပူးပေါင်း၍ နိုင်ငံရေးလုပ်ငန်းများကိုဆောင်ရွက်လေသည်။ ထိုသို့ဆောင်ရွက်သဖြင့် ဘီစီ ၅၉ ခုနှစ်တွင် ကွန်ဆာလူကြီး အဖြစ်ရွေးချယ်တင်မြှောက်ခြင်းခံခဲ့ရ၏။ ဘီစီ ၆၀ ပြည့်နှစ် တွင် ပွန်ပီ၊ ကရက်ဆပ်တို့နှင့်အတူ ပဌမသုံးပွင့်ဆိုင်အဖွဲ့ဟူ၍ ဖွဲ့ကာ ရောမနိုင်ငံကိုအုပ်ချုပ်လေသည်။ (ပွန်ပီ — ရှု။) ဆီဇာသည် ပြင်သစ်နိုင်ငံဟု ခေါ်သော ဂေါလနယ်ကို တာဝန်ခံအုပ်ချုပ်ရ၏။

ထိုအခါဆီဇာသည် သူ၏ရည်မှန်းချက်အကောင်အထည် ပေါ်ရေးအတွက်ဆောင်ရွက်ရန် အခွင့်ကောင်းရလာတော့

ထင်ရှားစေခဲ့သည်။ စစ်တိုက်ရာတွင် အေးအတူပူအမျှ သ ဘောထား၍ သာမန်စစ်သားတို့နှင့်အတူ ပြုမူလုပ်ကိုင်တတ် ခြင်းကြောင့် စစ်သည်တော်တို့၏ ချစ်ကြောက်ရိုသေမှု ကို ခံယူခဲ့ရလေသည်။

ထိုသို့အနောက်နိုင်ငံများတွင် စစ်ပွဲများကိုအောင်နိုင်ကာ တန်ခိုးကြီးလာသောအခါ၊ ဆီဇာကို ရောမမြို့ရှိ ပွန်ပီသည် မနာလိုစိတ်ဖြစ်ပေါ်လာတော့၏။ ထိုအတွင်း သုံးပွင့်ဆိုင် အ ဖွဲ့ဝင်၊ ကရက်ဆပ်ကွယ်လွန်သွား၏။ ဤသို့သုံးပွင့်ဆိုင်အဖွဲ့ ပျက်သွားလေရာ၊ ပွန်ပီသည် ဆီဇာကိုနှိမ်နင်းရန် အခွင့် ကောင်းယူ၍၊ ဘီစီ ၄၉ ခုနှစ်တွင် ဆီနိတ်အဖွဲ့အားဆွဲဆောင် ပြီးလျှင်၊ ဆီဇာ၏စစ်တပ်များကို ဖျက်သိမ်းရန် အမိန့်ထုတ် စေလေသည်။ သို့သော် ဆီဇာသည် ရရှိပြီးသောတန်ခိုး အာ ဏာကို လက်မလွှတ်တော့ဘဲ၊ ၅၀၀၀ တပ်ကိုဦးစီး၍ ဂေါလ နယ်နှင့်ရောမနိုင်ငံ၏နယ်ခြားဖြစ်သော ရူဗီကွန်မြစ်ကိုဖြတ် ကျော်ကာ ရောမမြို့သို့ရှေးရှု ချီတက်လေသည်။ ဆီဇာ၏ စစ်တပ်နှင့်ပွန်ပီ၏စစ်သည်များတိုက်ခိုက်ကြရာ၌ ပွန်ပီ၏စစ် သည်များ ရှုံးနိမ့်၍၊ ပွန်ပီသည် ဂရိနိုင်ငံသို့ ထွက်ပြေးရလေ သည်။ ဆီဇာကလည်း ပွန်ပီဆုတ်ပြေးရာသို့လိုက်၍တိုက် ခိုက်လေရာ၊ ဘီစီ ၄၈ ခုနှစ်တွင် ဖားဆေးလပ်တိုက်ပွဲ၌ ပွန်ပီ မလှန်နိုင်အောင်နိုင်လိုက်လေသည်။ ထိုစစ်မြေပြင်မှတဖန် ပွန်ပီသည် အီဂျစ်သို့ထွက်ပြေးပြန်တော့၏။ ဆီဇာသည် ပွန် ပီထွက်ပြေးသောအီဂျစ်သို့ဆက်၍လိုက်ပြန်သည်။ သို့သော် ဆီဇာအီဂျစ်သို့မရောက်မီ ပွန်ပီမှာလုပ်ကြံခြင်းခံရလေ၏။

ထိုသို့ ရန်သူအားနှိမ်နင်းရန် လိုက်လံတိုက်ခိုက်ရာမှ ဆီဇာ သည် အီဂျစ်ဘုရင်မ၊ ကလီယိုပါးထရားနှင့်တွေ့လေသည်။

ကယ်လီယိုပါးထရားသည် ဆီဇာအား သူ၏ရူပါရုံနှင့်ဖြား ယောင်း၍၊ အီဂျစ်ပြည်၏တဦးတည်းသောဘုရင်မအဖြစ်သို့ ရောက်အောင် သူ၏ရန်သူအပေါင်းတို့အား တိုက်ခိုက်ရှင်း လင်းစေရာ၊ ဆီဇာကလည်း ထိုဘုရင်မ၏အလိုကျ ဆောင် ရွက်ပေးလေသည်။ ကလီယိုပါးထရားနှင့်သားတယောက် ရရှိပြီးမှ၊ ဆီဇာသည်ရောမသို့ပြန်ခဲ့၏။ (ကလီယိုပါးထရား ဘုရင်မ — ရှု။) အီဂျစ်ဘုရင်မ ကလီယိုပါးထရားကိုလည်း ရောမသို့ခေါ်ဆောင်ခဲ့လေသည်။ အီဂျစ်တွင်အောင်ပွဲများ ရရှိပြီးနောက်၊ ဆီဇာသည် အာဖရိကနှင့်အာရှမိုင်းနားဖက် သို့စစ်ဦးလှည့်၍ ရန်သူတို့အားနှိမ်နင်းခဲ့သေး၏။ စစ်ပွဲများ တွင်ရှုံးသည်ဟူ၍မရှိ၊ နိုင်သည်ချည်းသာဖြစ်သောကြောင့် ဆီဇာသည် အာရှမိုင်းနားမှ ရောမမြို့တော်၌ရှိသောဆီနိတ် အဖွဲ့သို့ 'ကျွန်ုပ်ရောက်ခဲ့ရာအရပ်၊ မြင်တွေ့ခဲ့ရာအရပ်တို့၌ အောင်မြင်ခဲ့သည်ချည်းသာရှိ၏' ဟူသောအဓိပ္ပါယ်ရှိသည့် စကားသုံးလုံးရေးသားပို့ခဲ့ရာ၊ ထိုစကားများမှာ ဥဒါန်းတွင် ရစ်ခဲ့သည်။ ဘီစီ ၄၆ ခုနှစ်တွင် ဆီဇာသည် အရှေ့ဖက်နိုင်ငံ များမှ ရောမသို့ပြန်ခဲ့၏။ သို့ရာတွင် အေးဆေးစွာ မနေရ သေးဘဲ၊ စပိန်ဖက်သို့ချီတက်ရပြန်သည်။ ပွန်ပီ၏သား ၂ ဦးသည် စစ်သည် အင်အားစုဆောင်း၍ စပိန်တွင်ပုန်ကန်ထ ကြွကြ၏။ ဆီဇာသည် သူပုန်တို့အား မန်ဒါစစ်ပွဲတွင်နှိမ်နင်း လိုက်ပြီးနောက်၊ တိုင်းပြည်ငြိမ်ဝပ်မှုကိုအရယူခဲ့လေသည်။

ဆီဇာသည် ရောမမြို့တော်သို့ ဘီစီ ၄၅ ခုနှစ်တွင်ပြန်လည် ရောက်ရှိ၏။ ကျယ်ပြန့်သောရောမနိုင်ငံတော်ကြီးသည် ဆီ ဇာ၏လက်သို့ရောက်ခဲ့လေပြီ။ အောင်ပွဲခံ ဆီဇာအား တိုင်း သူပြည်သားများသည် သောင်းသောင်းဖြဖြ ကြိုဆိုကြ၏။ ဆီနိတ်လူကြီးများသည် ဆီဇာ အားများစွာချီးကျူး၍၊ တ သက်ပန် အာဏာရှင်ဘွဲ့ကို အပ် နှင်းကြ၏။ ဆီဇာ၏ရုပ်ပုံတံဆိပ် ကိုရောမဒင်္ဂါးများပေါ်တွင်ခတ် နှိပ်သုံးစွဲကြ၏။ ပြည်သူ့စည်း ဝေးပွဲတရပ်တွင် ပြည်သူ့ကိုယ် စားလှယ် မတ်အန်တိုနီသည် ဆီဇာအား ဘုရင်အဖြစ်ခံယူ စေရန် သရဖူကိုပင်ဆက်သခဲ့၏။ သို့ရာတွင် ဆီဇာသည် လက်မခံခဲ့ ချေ။

ဆီဇာသည် မိမိလက်ဝယ်ရရှိ လာသော တန်ခိုးအာဏာများ ကို တိုင်းပြည်ကောင်းကျိုး အ တွက်အသုံးချ၍ ပြုပြင်မှုများ ကိုစတင်ဆောင်ရွက်လေသည်။ ချွတ်ယွင်းချက်တို့နှင့် ပြည့်နှက်နေသော ပြက္ခဒိန်ကို စံနစ် တကျပြင်ဆင်စေခဲ့၏။ ဣတလီနိုင်ငံအနှံ့အပြား၌ဒေသန္တရ အုပ်ချုပ်ရေး ထွန်းကားလာစေရန် စီစဉ်ခဲ့၏။ မရိုးသား သောဘုရင်ခံများကို ပယ်၍ တည်ကြည်သူများကို ခန့်အပ် အစားသွင်းခဲ့၏။ ပွန်ပီ၏ ဖက်သားဖြစ်စေကာမူ၊ အရည် အချင်းပြည့်စုံက နိုင်ငံ့ဝန်ထမ်းရာထူးများတွင် လုပ်ကိုင်ခွင့် ပြု၏။ ရောမဆင်းရဲသားများအား ကားသေ့နှင့် ကော်ရင့် ပြည်တို့သို့ သွားရောက်နေထိုင်၍ နယ်သစ်ဖွင့်စေရန် အား ပေးခဲ့၏။ လယ်ယာစိုက်ပျိုးရေး တိုးတက်စေရန် စီမံခဲ့၏။ သို့သော် ထိုသို့သော တိုင်းပြည်ပြုလုပ်ငန်းများကို ဆီဇာ သည် ခြောက်လခန့်မျှသာ ဆောင်ရွက်နိုင်ခဲ့လေသည်။

သရဖူကိုဆင်မြန်း၍ ဘုရင်အဖြစ်ခံယူရန် ဆီဇာငြင်းပယ်ခဲ့ သည်မှာမှန်၏။ သို့ရာတွင် အချုပ်အချာအာဏာကို သူတဦး တည်းလက်၌သာ ထားရှိသဖြင့် ဆီနိတ်အဖွဲ့မှာ အုပ်ချုပ် ရေးဖက်တွင် အရေးမပါတော့ဘဲ၊ အကြံပေးအဖွဲ့ဘဝသို့ လျှောကျခဲ့ရလေသည်။ ထိုအတွက်ကြောင့် သူ၏မိတ်ဆွေ များကပင် ဆီဇာသည် အသက်ဦးဆံပိုင်ဘုရင်သဖွယ် အုပ်စိုး သွားတော့မည်ဟု အယူရှိလာကြသည်။ ထို့ကြောင့် ဆီဇာ အား လုပ်ကြံရန်စိုင်းပြင်းကြတော့၏။ ဘီစီ ၄၄ ခုနှစ် မတ် လ ၁၅ ရက်နေ့တွင် ဆီနိတ်လွှတ်တော်အစည်းအဝေးရှိ၍ လွှတ်တော်ခန်းမကြီး၌ ဆီဇာ ထိုင်လိုက်သည်နှင့် မရှေး မ နှောင်းပင် လုပ်ကြံမည့်လူတစုသည် ဆီဇာအားဝိုင်း၍ ဓား နှင့်ထိုးရန်ဟန်ပြင်ကြ၏။ ဆီဇာသည် ခုခံရန်ပြင်သည်တွင် လုပ်ကြံမည့်လူစု၌ မိမိနှင့်ရင်းနှီးသူ ဗရူးတပ် ပါဝင်သည်ကို မြင်သောအခါ 'အော်၊ ဗရူးတပ်၊ သင်ကပင်ကြံရာပါဖြစ်နေ



အာဏာကို မိမိတဦးတည်းလက်ဝယ်ထားသဖြင့်လုပ်ကြံခံရသော ဆီဇာ

ပါတကား ' ဟုမြည်တမ်းလျက် အားလျှော့လိုက်လေသည်။ (ဗရူးတပ်,အမ်၊ ဂျေ — ရှု။) ဆီဇာသည် ဓားချက်ပေါင်း ၂၀ ကျော်မျှ အထိုးခံရပြီးနောက်၊ ရန်သူပေါင်း ပွန်ပီ၏ ကျောက်ရုပ်ခြေရင်းတွင် အသက်ပျောက်သွားရလေသည်။

ဆီဇာ သေလွန်သဖြင့် တပိုင်းတစကျန်ခဲ့သော ပြုပြင်ရေး လုပ်ငန်းများမှာ အုပ်ချုပ်ရေးဥပဒေများပြဋ္ဌာန်းခြင်း၊ ပြည်သူ့စာကြည့်တိုက်များ တည်ထောင်ခြင်း၊ ပွန်တိုင် ညွန်ပျောင်းဒေသကို ခန်းခြောက်စေရန် ရေထုတ်မြောင်း တူးဖော်ခြင်း၊ အော့စတီးယားဆိပ်ကမ်းကို တိုးချဲ့ခြင်း၊ သန်ကောင်စာရင်းကောက်ယူခြင်း စသည်တို့ပင်ဖြစ်၏။ ဆီဇာသည်ကား စစ်ရေးနှင့် အုပ်ချုပ်ရေးဖက်တို့တွင်သာ ကျွမ်းကျင်သည်မဟုတ်၊ စာပေဖက်တွင်လည်းထင်ရှားခဲ့ပေသည်။ တိုက်ယင်း ခိုက်ယင်း မအားလပ်ဖြစ်လျက်နှင့်ပင်၊ လက်တင်ဘာသာဖြင့် မိမိတိုက်ခိုက်ခဲ့သော စစ်ပွဲများအကြောင်းကို မှတ်တမ်းတင်ခဲ့သည်။ သူ၏ရေးသားပုံမှာ ရိုးရိုးနှင့်ပြတ်သားရှင်းလင်းလှသောကြောင့် လက်တင်စာပေလိုက်စားသူတိုင်း ယနေ့တိုင်လေ့လာနေကြရလေသည်။

ဤသို့အဖက်ဖက်တွင်ပြည့်စုံ ထူးချွန်သူ ဆီဇာမှာ မနာလိုသူများလက်ချက်ဖြင့်ကျဆုံးရလေရာ၊ ရောမနိုင်ငံတော်ကြီးသည် အဖိုးတန်သားကောင်းတယောက်ဆုံးရှုံးရလေတော့၏။ ဆီဇာ၏ရန်သူများကား အသက်ဦးဆံပိုင် ဘုရင့် အုပ်ချုပ်ရေးစံနစ်ကို တွန်းလှန်၍၊ သမတနိုင်ငံထူထောင်ရန် ရည်မှန်းပြုလုပ်ခဲ့ကြသော်လည်း၊ နောင် ၁၇ နှစ်ကြာသောအခါ ဆီဇာ၏အဆက်အနွယ်များသည် ရောမနိုင်ငံကို အသက်ဦးဆံပိုင်ဘုရင့်စံနစ်ဖြင့်သာလျှင် အုပ်စိုးသွားကြလေသည်။

**ဆီနှင့်အဆီခဲ**။ ။စက်ယန္တရားများသည် ဓာတ်ဆီ ရေနံဆီတို့ရှိမှ ပူနွေးလာ၍ လှုပ်ရှားနိုင်ကြသည်။ ထိုနည်းအတူ လူကိုယ်ခန္ဓာစက်ကြီးသည်လည်း ဆီနှင့်အဆီခဲတို့ရှိမှ ပူနွေးလာ၍ လှုပ်ရှားနိုင်ကြသည်။ ဆီနှင့်အဆီခဲတို့မှာ ကာဗိုဟိုက်ဒရိတ်ဓာတ်ထက်ပိုမို၍ ခန္ဓာကိုယ်အား အပူဓာတ်ပေးစွမ်းနိုင်သည်။ (ကာဗိုဟိုက်ဒရိတ် — ရှု။) ယင်းတို့သည် ကိုယ်ခန္ဓာ သွားလာ လှုပ်ရှားမှုအတွက် အင်အားကို ရရှိစေရန်သာအသုံးဝင်သည်မဟုတ်ချေ။ စက်မှုလက်မှုလုပ်ငန်းဆောင်တာများ၌လည်း များစွာအသုံးဝင်လေသည်။

ဟင်းသီးဟင်းရွက်၊ အသီးအနှံများမှထုတ်ယူရရှိသောဆီနှင့် ကျွဲနွား၊ ဝက်၊ ဆိတ်စသည့်တိရစ္ဆာန်များမှရရှိသော အဆီခဲများမှာ ဓာတုဗေဒနည်းအရ ဓာတ်ခွဲစမ်းသပ်ကြည့်ရှုလျှင်၊ ယင်းတို့၌ပါဝင်သောဓာတ်သတ္တိများမှာ အတူတူလိုပင်ဖြစ်သည်ကိုတွေ့ရသည်။ သို့ရာတွင် အဆီခဲမှာ ဖာရင်ဟိုက် ၆၇ ဒီဂရီ၌ခဲသွားတတ်၍၊ ဆီမှာမူကား ထိုဒီဂရီချိန်၌ အရည်အဖြစ်တည်ရှိနေသေးသည်ကိုတွေ့ရသည်။

အသီးအရွက်တို့မှရရှိသောအဆီများမှာ နှမ်းဆီ၊ မြေပဲဆီ၊ အုန်းဆီ၊ သံလွင်ဆီ၊ ဝါစေ့ဆီ၊ ကြက်ဆူဆီ၊ ဘိန်းစေ့ဆီ စသည် တို့ဖြစ်ကြသည်။ ထိုဆီများမှာ အထူးစီမံပြုလုပ်ထားသောစက်တွင် အသီးအစေ့တို့ကိုကြိတ်၍ ဆီကို ညှစ်ထုတ်ယူရသည်။ အချို့ဆီသည် အဝတ်၊ စက္ကူတို့အပေါ်၌ကျလျှင် စွန်း၍ကျန်ခဲ့တတ်သည်။ အချို့မှာကား၊ လျင်မြန်စွာသွေ့ခြောက်တတ်သည်။ ထိုသို့ လျင်မြန်စွာ သွေ့ခြောက်တတ်သောဆီအမျိုးအစားမှာ ထိုဆီထုတ်ယူသောအပင်၊ အရွက်၊ အပွင့်တို့၏အနံ့ကိုချုပ်ယူထားနိုင်သဖြင့်၊ ရေမွှေးနှင့်ဆေးဝါးများတွင် အနံ့ထည့်ရန်အတွက်အသုံးပြုကြသည်။

အချို့ဆီများသည် လေထိလျှင် အောက်ဆီဂျင်ကို စုတ်ယူ၍ လျင်မြန်စွာခြောက်သွေ့သွားသဖြင့် ထိုဆီသုတ်လိမ်းထားသော မျက်နှာပြင်သည် တင်းပြောင်လျက်ကျန် ခဲ့သည်။ ဘိသွာ ဆီမှာ ထိုသဘောမျိုးရှိ၍၊ ယင်းကိုသဘော်ဆေး၊ အရောင်တင်ဆေးတို့၌ ထည့်သွင်း၍ အသုံးပြုကြသည်။ ဖယောင်းပုဆိုးလုပ်ငန်းများ၌လည်း အသုံးပြုကြသည်။

အချို့ဆီများသည် အောက်ဆီဂျင်စုတ်ယူခြင်းနည်းသည်။ ထိုကြောင့် လျင်မြန်စွာ မခြောက်သွေ့ဘဲ၊ လေထိလျှင် တဖြည်းဖြည်းအရောင်ပျက်၍ အနံ့လည်းတမျိုးဖြစ်လာသည်။ သံလွင်ဆီ၊ ဝါစေ့ဆီ၊ ဆိုယာပဲခေါ် ပဲပိဆီများသည်ကား ထိုကဲ့သို့သောဆီမျိုးဖြစ်သည်။ ထိုဆီမျိုးကို စားသုံးရန် အတွက်ငှင်း၊ ဆပ်ပြာချက်ရန်အတွက်ငှင်း အသုံးပြုကြသည်။ နှမ်းဆီနှင့်မြေပဲဆီများကို စားသုံးရန်အတွက်သာအသုံးများသည်။ အုန်းဆီကို ဆေးဝါးအတွက်ငှင်း၊ အလှကုန်ပစ္စည်းများအတွက်ငှင်း၊ ဆပ်ပြာလုပ်ငန်းအတွက်ငှင်း အသုံးပြုကြသည့်ပြင်၊ အချို့က စားသုံးရန်အတွက်လည်း အသုံးပြုကြသည်။ ကြက်ဆူဆီကို စက်ဆီအဖြစ်ငှင်း၊ ဆေးဝါးအဖြစ်ငှင်း၊ ဆပ်ပြာလုပ်ရန်အတွက်ငှင်းအသုံးချကြသည်။

အသီးအနှံများမှ ဆီ ညှစ်ထုတ်ယူလိုက်ပြီးနောက် ကျန်သောနှမ်းဖတ်များသည် သစ်ပင်ပန်းပင် စိုက်ပျိုးရန်အတွက် ကောင်းမွန်သောမြေသြဇာများဖြစ်သည်။ ထို့ပြင် ကျွဲနွား တိရစ္ဆာန်တို့အတွက် အလွန်ကောင်းမွန်သော အစားအစာလည်း ဖြစ်ပေသည်။

တိရစ္ဆာန်မှရရှိသောအဆီများမှာ ထောပတ်၊ အမဲဆီ၊ ငါးကြီးဆီ၊ အခြားငါးအမျိုးမျိုးမှအဆီ၊ ဝက်ဆီတို့ဖြစ်သည်။ ထိုအဆီများအနက် ထောပတ်မှလွဲလျှင် ဝက်ဆီမှာအသုံး အဝင်ဆုံး ဖြစ်သည်။ အမဲဆီသည် ကျွဲနွားသိုးဆိတ်တို့မှ ရရှိသောအဆီခဲဖြစ်၍၊ မာဂျရင်းခေါ် ထောပတ်တုပြုလုပ်ရာ၌ အသုံးဝင်လေသည်။ (မာဂျရင်း — ရှု။)

သားငါးတိရစ္ဆာန်တို့မှ အဆီခဲကို ထုတ်ယူပုံမှာ အဆီရှိသောအပိုင်းကိုခုတ်ထစ်ဖြတ်တောက်၍၊ ရေထည့်ထားသော သံစည်ကြီးများတွင်ထည့်ရသည်။ ထိုနောက်အပူတိုက်ပေး

ဆီနှင့်အဆီခဲရနိုင်သည့်
တိရစ္ဆာန်များ



အလင်းရောင်၊အပူရှိန်နှင့်စွမ်းအင်
ရရှိရန်
ဆီနှင့်အဆီခဲကိုသုံးစွဲကြသည်

ဆီနှင့်အဆီခဲရနိုင်သည့်
အသီးအပင်များ





































တွင်းထွက်ပစ္စည်း



၍၊ ပူလာသောအခါ၌ အဆီသည်အပေါ် သို့တက်လာ၏။ ထိုအဆီကို ခပ်ယူရသည်။ စားသုံးရန်အတွက် အဆီခဲများကို ဂရုစိုက်၍သန့်ရှင်းစွာပြုလုပ်ရလေသည်။

အဆီခဲများသည် အဝတ်စက္ကူတို့ အပေါ်၌ ကျလျှင် လျှင်မြန်စွာမခြောက်ဘဲ၊ အစွန်းထင်၍ကျန်ခဲ့သည်။ အမျိုးအစား ညံ့သောဆီများကို ဆပ်ပြာလုပ်ငန်းများ၌ အသုံးချသည်။ ဆီနှင့်အဆီခဲတို့သည် ရေနှင့်မရောစပ်နိုင်ကြသော်လည်း အရက်၊ အီသာတို့နှင့်မူရောစပ်နိုင်၏။

လူတို့၏အရေပြားပေါ်တွင် အဆီခဲကလေးများရှိသည်။ ထိုအဆီခဲများကြောင့်သာ အရေပြားနှင့် အမွေးကလေးများသည် လိုအပ်သောဆီကိုရနိုင်ကြသည်။ သို့မဟုတ်ပါက ခြောက်သွေ့လျက်ရှိပေမည်။ ထိုအဆီခဲကလေးများကြောင့်လည်း လူတို့၏အရေပြားသည် ချောမွတ် ပျော့ပျောင်းလျက် ရှိနေနိုင်ပေသည်။

တိရစ္ဆာန်နှင့်အပင်တို့မှရသောအဆီသည် အခဲသော်၎င်း၊ အရည်သော်၎င်းဖြစ်သည်။ တိရစ္ဆာန်အားလုံး၌ မဟုတ်စေကာမူ၊ တိရစ္ဆာန်အများ၌အဆီသည်အခဲဖြစ်၏။ ထိုအဆီများတွင် ကာဗွန်၊ ဟိုက်ဒရိုဂျင်နှင့်အောက်ဆီဂျင်များပါရှိသည်။ ထိုအဆီခဲ သို့မဟုတ် အဆီရည်ကို လေထဲ၌တာရှည်ပစ်ထားက ပျက်စီးသွားတတ်သည်။ ထိုသို့ဖြစ်ရခြင်းမှာ အဆီရှိဒြပ်စင်များသည် ပြိုကွဲသွား၍ အဆီအက်ဆစ်သည် ဓာတ်သဘောအရ ပြောင်းလဲသွားခြင်းကြောင့်ဖြစ်သည်။



ဆိဗတ်စတိုပိုမြို့ကို ပင်လယ်ဖက်မှ ရှုမြင်ရပုံ

**ဆိဗတ်စတိုပိုမြို့။** ။ဆိဗတ်စတိုပိုမြို့သည် ရုရှနိုင်ငံ ကရိုင်းမီးယန်း ကျွန်းဆွယ် အနောက်တောင် ကမ်းခြေပေါ်ရှိသင်္ဘောဆိပ်မြို့ ဖြစ်သည်။ ပင်လယ်နက် ကမ်းခြေတွင် ရုရှရေတပ်၏အခြေခံ စခန်းကြီးလည်းဖြစ်၏။ သဘာဝအတိုင်းဖြစ်ပေါ်နေသောဆိပ်ကမ်းတွင် သင်္ဘောကြီးများ အခါမရွေး ဝင်ရောက် ဆိုက်ကပ်နိုင်ပေသည်။ သို့သော် ၁၈၉၀ ပြည့်နှစ်မှစ၍ ဆိဗတ်စတိုပိုမြို့ဆိပ်ကမ်းမှာ ရေတပ်လက်နက်ခဲယမ်းမီးကျောက်များ ထုတ်လုပ်သိုလှောင်သော ဌာနဖြစ်ခဲ့သဖြင့် နိုင်ငံခြားသင်္ဘောကြီးများဆိုက်ကပ်ရန် ခွင့်မပြုခဲ့ချေ။ ရုရှနိုင်ငံအတွက် စက်ကရိယာများနှင့်ကျောက်မီးသွေးများ တင်ဆောင်လာသည့်အခါ၌သာ ဆိုက်ကပ်ရသည်။

ကရိုင်းမီးယန်းစစ်ပွဲအတွင်း ၁၇၅၄ ခုနှစ်တွင် ရုရှနှင့်စစ်ဖက်ပြုသော အင်္ဂလိပ်၊ ပြင်သစ်နှင့် တူရကီမဟာမိတ်တပ်များသည် ဆိဗတ်စတိုပိုမြို့ကို ၁၁ လကြာမျှ ဝန်းရံတိုက်ခိုက်ခဲ့လေသည်။ ၁၇၅၅ ခုနှစ်၌ ရုရှတို့ဆုတ်ခွာပေးရသည်။ ထိုအခါ ဆိဗတ်စတိုပိုမြို့သည် အခိုင်အမာဆောက်လုပ်ထားသောခံတပ်များနှင့်တကွ တမြို့လုံး ပြိုကွဲ ပျက်စီးခဲ့ရလေသည်။ ၁၇၅၆ ခုနှစ်စစ်ပြေငြိမ်းကြသောအခါ၊ ပါရစ်စစ်ပြေငြိမ်းရေးစာချုပ်တွင် ဆိဗတ်စတိုပိုမြို့၌ ခံတပ်များပြန်လည်တည်ဆောက်ခြင်းမပြုရဟု ပညတ်ခဲ့သည်။ သို့သော်လည်း ၁၇၇၀ ပြည့်နှစ် ပြင်သစ် ပရပ်ရှား စစ်ပွဲအတွင်းတွင် ဆိဗတ်စတိုပိုမြို့ကို ရေတပ်လက်နက်စခန်းအဖြစ် ပြန်လည်အသုံးချခဲ့လေသည် ။ သို့ရာတွင် ဒုတိယကမ္ဘာစစ်ဖြစ်လေသော် ဂျာမန်တပ်များသည် မြို့ကို ၈ လကြာမျှဝိုင်းထားပြီးနောက် ၁၈၄၂ ခုနှစ်တွင်သိမ်းပိုက်ခဲ့ပြန်သည်။ ၁၈၄၄ ခုနှစ်၌ ရုရှတို့က ပြန်လည်သိမ်းယူနိုင်သောအခါတွင် မြို့မှာ

စစ်ဒဏ်ကြောင့်မရှုမလှပျက်စီးယိုယွင်းနေပြီဖြစ်၏။ ဒုတိယကမ္ဘာစစ်အပြီးတွင် ဆီဗတ်စတိုပိုမြို့ပြန်လည်ထူထောင်ရေးကို အားသွန်ဆောင်ရွက်ခဲ့ခြင်းကြောင့် ယခုအခါပြန်လည်စည်ပင်နေလေပြီ။

ဆီဗတ်စတိုပိုမြို့၌ စက်ကရိယာများ ထုတ်လုပ်သော လုပ်ငန်းကြီးများအပြင်ဂျုံ ၊ သားရေ၊ ဆပ်ပြာနှင့် အုတ်ကြွပ်လုပ်ငန်းများလည်းရှိ၏။ သင်္ဘောများ တည်ဆောက်ပြုပြင်ရာ အလုပ်ရုံများလည်း ရှိသည်။ ဆီဗတ်စတိုပိုမြို့မှ မောစကိုမြို့တော်သို့ ခါးရကပ်မြို့ကို ဖြတ်လျက် မီးရထားလမ်းဖောက်လုပ်ဆက်သွယ်ထား၏။ ရေကြောင်းအတတ်သင်ကျောင်းများနှင့် နာမည်ကျော် သတ္တဗေဒဆိုင်ရာ ပြတိုက်တခုလည်းရှိ၏။ ဆီဗတ်စတိုပိုမြို့မှာ အပန်းဖြေပင်လယ်ရေချိုးဆိပ်ကမ်းမြို့လည်းဖြစ်၏။

၁၉၃၉ ခုနှစ် သန်းကောင်စာရင်းအရ၊ မြို့နေလူဦးရေမှာ ၁၁၁,၉၄၆ ယောက်ဖြစ်လေသည်။

**ဆီလီကွန်**။ ။ဆစ်လီကွန် — ရှု။

**ဆီလီနီယမ်**။ ။ဆီလီနီယမ်သည် အတွေ့ရနည်းသောဒြပ်စင်တခုဖြစ်သည်။ ထိုဒြပ်စင်သည် သတ္တုမဟုတ်သော ဒြပ်စင်မျိုးဖြစ်၍၊ အောက်ဆီဂျင်၊ ကန့်၊ တယ်လျူရီယမ်ဒြပ်စင်အစုတွင်ပါဝင်သည်။ ၁၈၁၇ ခုနှစ်တွင် ဆွီဒင်နိုင်ငံသား ဓာတုဗေဒပညာရှင် ဗာဇီးလီယပ်ကစတင်၍တွေ့ရှိသည်။ အက်တမ်နံပတ်စဉ်မှာ ၃၄ ဖြစ်၍၊ အက်တမ် အလေးဆမှာ ၇၈.၉၆ ဖြစ်သည်။

ဆီလီနီယမ်၌ ထူးခြားသော သတ္တိများရှိသည်။ အမှောင်ထဲတွင် ဆီလီနီယမ်သည် လျှပ်စစ်ဓာတ်လိုက်ညံ့သော ဒြပ်စင်ဖြစ်သည်။ သို့ရာတွင် ဆီလီနီယမ်ပေါ် သို့ အလင်းရောင်ကျရောက်လျှင် ကျခြင်းပင် ကျရောက်သော အလင်းရောင်၏အားနှင့်အမျှ လျှပ်စစ်ဓာတ်အလိုက်မှာ ပို၍ကောင်းလာ၏။ ထိုထူးခြားသည့် သတ္တိကိုအကြောင်းပြု၍ အလင်းရောင်အားကိုတိုင်းသောကရိယာ ပြုလုပ်ရာတွင် ဆီလီနီယမ်ကိုအသုံးပြုရခြင်းဖြစ်သည်။ (အလင်း — ရှု။) ဆီလီနီယမ်ကိုအသုံးပြု၍ အလင်းအားကို တိုင်းပုံမှာ အောက်ပါအတိုင်းဖြစ်သည်။ ပြင်ပနှောင့်ယှက်မှုများမှ ကင်းစေရန်အတွက် ဆီလီနီယမ်ကို အိမ်ယေ်အတွင်းတွင် ထားပြီးနောက် လျှပ်စစ်ဓာတ်ဆားကစ်နှင့် ဆက်သွယ်ထားရသည်။ ထိုလျှပ်စစ်ဓာတ်ဆားကစ်တွင် ဂယ်လဗာနိုမီတာဟုခေါ်သော လျှပ်စစ်ဓာတ်စီးအားတိုင်းကရိယာကိုတပ်ဆင်၍ထား၏။ အလုံပိတ်ထားသော အိမ်ယေ်၏ အလင်းဝင်ပေါက်ကိုဖြတ်၍ အလင်းတန်းကို လွှတ်လိုက်သောအခါ ထိုအလင်းတန်း၏အားကို ဆီလီနီယမ်ကတိုင်းတာဖော်ပြလေသည်။ ထိုအပြင် ဆီလီနီယမ်ကိုအသုံးချခြင်းဖြင့် အလင်းရောင်မှ လျှပ်စစ်ဓာတ်စီးအဖြစ်သို့၎င်း၊ လျှပ်စစ်ဓာတ်စီးမှတဖန် စကားပြောကြေးနန်းကရိယာမှာကဲ့သို့ အသံအဖြစ်သို့၎င်း ပြောင်းလဲစေနိုင်သေးသည်။

ဆီလီနီယမ်သည် မျက်မမြင်များအတွက် အထူးအကျိုးများစေသောဒြပ်စင်ဖြစ်သည်။ မျက်မမြင်များ စာဖတ်နိုင်ရန်အတွက်ပြုလုပ်ထားသော လင်းသံပြောင်း (အော့ပတိုဖုန်း) ခေါ် ကရိယာတွင် ဆီလီနီယမ်ကိုအသုံးပြုထားသည်။ ထိုကရိယာသည် စာလုံးများမှလာသော အလင်းရောင်ပြောင်းလဲချက်များကို အသံအဖြစ် ကြားစေနိုင်စွမ်းရှိ၏။ ဂရေဟမ် ဗဲသည် စကားပြောကြေးနန်းကိုမတီထွင်မီ၊ ဖိုတိုဖုန်း ခေါ် ကရိယာကိုဦးစွာစမ်းသပ်ကြည့်၏။ ဖိုတိုဖုန်းတွင် စကားပြောလိုက်သောအခါ၊ အသံသည် အဝေး၌ရှိသောဆီလီနီယမ်အသံဖမ်းခွက်ပေါ်၌ တုန်ခါသောအလင်းတန်းတခုကို ဖြစ်ပေါ်ကျရောက်စေသည်။

ဆီလီနီယမ်၏ဓာတုဂုဏ်များသည် ကန့်၏ဓာတုဂုဏ်များနှင့်ဆင်တူသည်။ ဆီလီနီယမ်သည် ဖန်အရောင်ကိုချုပ်စေရာတွင်အထူးအသုံးဝင်၏။ ညအခါ လမ်းပြမီးတိုင်တွင်ရှိသော အနီရောင်ဖန်မျိုး၌ ဆီလီနီယမ်များစွာပါ၏။ ဆီလီနီယမ်သည် အလင်းရောင်၏အားကိုတိုင်းရာတွင် အလွန်အသုံးဝင်သောကြောင့် နေရောင်၊ လရောင်နှင့် သာမန်မျက်စိဖြင့် မမြင်နိုင်သော ကြယ်ရောင်ခြည်များကို တိုင်းတာရန်အတွက် ဆီလီနီယမ် ဓာတ်အိုးများကို အသုံးပြုရ၏။ စကားပြောကြေးနန်းနှင့် ကြိုးမဲ့ကြေးနန်းအားဖြင့် ရုပ်ပုံများကိုခရီးဝေးသို့ပေးပို့ရန်အတွက်၎င်း၊ နေ့ဖက်တွင်ငြိမ်း၍ညဖက်တွင်လင်းသော ဆိပ်ကမ်းဓာတ်မီးများနှင့် လမ်းပြဓာတ်မီးများထွန်းရန်အတွက်၎င်း ဆီလီနီယမ်ကိုအသုံးပြုရ၏။ ဆီလီနီယမ်သည် အလင်းအား အနည်းအများလိုက် သတ္တိပြနိုင်သည်မှန်သော်လည်း၊ ယခုခေတ်တွင်ထိုဒြပ်စင်အစား ဖိုတိုအီလက်ထြစ်အိမ်ကို အသုံးများကြပေသည်။ အလင်းအားနှင့်ပတ်သက်သည့်နေရာတွင် ဖိုတိုအီလက်ထြစ်အိမ်က ဆီလီနီယမ်ထက်ပိုမိုလျင်မြန်စွာသတ္တိပြနိုင်သည်။ (ဖိုတိုအီလက်ထြစ်ကရိယာများ — လည်းရှု။)

**ဆီးနှင်း**။ ။နှင်း — ရှု။

**ဆီးပင်**။ ။ဆီးပင်သည် ပင်လတ်မျိုးဖြစ်သည်။ ရုက္ခဗေဒအရ 'ဇီဇိုင်ဖတ် ဂျူဂျူဗာ' ဟုခေါ်သည်။ အကိုင်းများငိုက်၍ပေါက်ကြသည်။ အကိုင်းများတွင်ဆူးရှိသည်။ ဆူးလုံးဝကင်းသော ဆီးပင်ဟူ၍ မရှိသလောက်ပြင်သည်။ အရွက်များမှာ အချိုးခပ်ဝိုင်းဝိုင်း၊ အချိုးခပ်မျောမျောဖြစ်သည်။ ၁ လက်မမှ ၂½ လက်မအထိ ရှည်သည်။ အပုင့်



ဆီးသီး

အရောင်မှာ ဖက်ဖူးရောင်ဖြစ်သည်။ အခိုင်လိုက်ပွင့်တတ်သည်။ အသီးသည် အများအားဖြင့်လုံးဝန်းသည်။ အသီး၏အရွယ်နှင့် ပုံပန်းတို့မှာ အမျိုးမျိုးကွဲပြားသည်။ အများအားဖြင့် ½ လက်မမှ ¾ လက်မအထိရှည်သည်။ အသီးမှာ အသားများ၍ချွဲကျိကျိဖြစ်သည်။ မှည့်သောအခါ လိမ်မော်ရောင် သို့မဟုတ် အနီရောင်ရှိသည်။ အစေ့သည်မာ၍ မညီညာသောမြောင်းများရှိသည်။

မြန်မာနိုင်ငံအနှံ့ အပြားတွင် ဆီးပင်များကို တွေ့မြင်နိုင်သည်။ အထူးသဖြင့် သွေ့ခြောက်သောမန္တလေး၊ မကွေးနှင့် စစ်ကိုင်းနယ်ပယ်များတွင် ဆီးပင်ပေါသည်။ ထိုဆီးပင်များသည် စိုက်ပျိုးရသောအပင်များမဟုတ်ဘဲ၊ အလေ့ကျပေါက်သောအပင်များဖြစ်သည်။ တခါတရံ ဥယျာဉ်များတွင် ဆီးပင်များကို စိုက်ပျိုးထားတတ်ကြသည်။

မြန်မာနိုင်ငံ၌ဆီးပင်ကို အစေ့များမှမျိုးပွားယူကြသည်။ မြေထုပ်စည်းခြင်းဖြင့်လည်းမျိုးပွားယူနိုင်သည်။ အစေ့က မျိုးပွားလျှင် ခြောက်နှစ်၊ ခုနစ်နှစ်ကြာမှ အသီးသီးသည်။ သို့သော် မြေထုပ်စည်းခြင်းဖြင့် မျိုးပွားယူလျှင်၊ ပဌမနှစ် သို့မဟုတ်ဒုတိယနှစ်တွင်သီးသည်။ ဆီးပင်ကိုစိုက်ပျိုးရာတွင် အတန်းလိုက် တပင်နှင့်တပင်ပေ ၂၀ စီခွာ၍စိုက်ပျိုးသင့်သည်။ ဆီးကိုင်းများကို အပင်ငယ်စဉ်တွင် ချိုင်ပေးသင့်သည်။ ထိုသို့ချိုင်မပေးလျှင် အကိုင်းများငိုက်ကျလျက်နေမည်ဖြစ်၏။

ဆီးပင်သည် အေးသောရာသီဥတုတွင် အပွင့်များပွင့်သည်။ ပူသောရာသီ၌အသီးမှည့်သည်။

ဆီးတော်သီးသည် အသားများ၍ချို၏။ စလေဆီးသီးခေါ် ဆီးသီးတမျိုးတွင် အလွန်သေးငယ်သောအစေ့ပျော့များရှိသည်။ ဆီးသီးအမျိုးမျိုးရှိရာ များစွာသောဆီးသီးတို့မှာချဉ်၏။ ဆီးသီးမှည့်များကိုခူး၍ အခြောက်ခံထားတတ်ကြသည်။ ဆီးသီးခြောက်များကို ဆီးယိုထိုးကြသည်။ အမှုန့်ပြု၍လည်း ဆီးပေါင်းလုပ်ကြသည်။ ထို့ပြင် ဆီးပြားလည်းလုပ်ယူတတ်ကြသည်။ ပူအိုက်သောရာသီတွင် ဆီးသီးခြောက်မှုန့်များဖြင့် ဆီးဖျော်ရည်ဖျော်သောက်ကြသည်။



မြန်မာနိုင်ငံ အနှံ့ အပြားပေါက်ရောက်လေ့ရှိသော ဆီးပင်

**ဆီးပန်းနီ ဆရာတော်။** ။ဆီးပန်းနီဆရာတော်သည် အနောက်မင်းကွန်းဖက်တွင် မြန်မာသက္ကရာဇ် ၁၁၇၃ ခုနှစ်၊ ပြာသိုလပြည့်ကျော် ၁ ရက် စနေနေ့၌ဖွားမြင်တော်မူသည်။ ခမည်းတော်မှာ အမရပုရ ပဌမမြို့တည်နန်းတည် ဘိုးတော်မင်းတရားလက်ထက် အတိုင်ပင်ခံအမတ်ကြီး မဟာရာဇသင်္ကြံ'ဖြစ်သည်။ မယ်တော်၏အမည်ကိုမသိရ။ ငယ်မည်မှာ မောင်မှော်ဖြစ်သည်။ ရတနာပုရစတုတ္ထမြို့တည် ဘကြီးတော်မင်းတရားကြီး လက်ထက်တွင် စလင်းမင်းသားကြီး ဆရာတော်နှင့် မြသိန်းတန် ဆရာတော်တို့၏ ထံ၌ ကျောင်းသားမှ သာမဏေအထိ ပညာသင်ကြားသည်။ သာမဏေဘွဲ့မှာ ရှင်နရိန္ဒဖြစ်သည်။

စာပေပညာ လွန်စွာထူးချွန်သဖြင့် ကျောင်းသားအဖြစ်ဖြင့်တကြိမ်၊ သာမဏေအဖြစ်ဖြင့်နှစ်ကြိမ် ပေါင်းသုံးကြိမ်မျှ ငယ်စဉ်ကပင် ပဌမစာတော်ပြန်ပွဲ၌ ဝင်နွှဲပြန်ဆိုအောင်မြင်တော်မူသည်။

ရဟန်းအဖြစ်ရောက်ပြီးနောက်၊ ရွှေဘိုမင်းနှင့် ပုဂံမင်းတို့လက်ထက်တွင် အမရပူရမြို့၊ မိုးထိတိုက်၌နေထိုင်လျက်ပြည်ဆရာတော်ဘုရားကြီးနှင့် မိုးထိဆရာတော်ဘုရားကြီး တို့ထံ၌ ပညာဆည်းပူးတော်မူသည်။

ပဉ္စမသင်္ဂါယနာတင်ဘဝရှင်မင်းတုန်းမင်းတရားကြီးလက်ထက်၌ 'နရိန္ဒာဘိ သီရိ သဒ္ဓမ္မ ဇောတိပါလ ဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု' ဟူသောပဌမတံဆိပ်တော်၊ 'နရိန္ဒာဘိ သီရိ သဒ္ဓမ္မ ဇောတိပါလ ဓဇ မဟာဓမ္မ ရာဇာဓိရာဇဂုရု' ဟူသော ဒုတိယတံဆိပ်တော်တို့ကိုခံယူရရှိသည်။ ပဉ္စမသင်္ဂါယနာ တင်သောအခါ၌လည်း ပိဋကတ်သုံးပုံကို သုတ်သင်ကြီးကြပ်တည်းဖြတ်တော်မူသည်။ သားတော် သီပေါမင်းလက်ထက်၌လည်း 'နရိန္ဒာဘိ ဓဇ အတုလဓိပတိ သီရိ ပဝရ မဟာဓမ္မ ရာဇာဓိရာဇဂုရု' ဟူသော တတိယတံဆိပ်တော်ကို ခံယူတော်မူရပြန်သည်။

ဆီးပန်းနီဆရာတော်သည် 'ကဝိမဏ္ဍနမေဒနီ' ကျမ်းကို ရဟန်း၁၀ါတော်တဆယ်ကျော်လောက်မှစ၍ တဖြည်းဖြည်းတစတစ ရေးသားပြုစုတော်မူခဲ့သည်။ ကဗျာလင်္ကာသွဲ့ဆိုမှု၌ လေ့လာကျွမ်းကျင်တော်မူသည်။ သီပေါမင်းတရား ကုလားနိုင်ငံသို့ ပါတော်မူခြင်းနှင့် စပ်လျဉ်း၍ သံဝေရတု ကောပိဒ်ကို ဖွဲ့ဆိုတော်မူရာ၊ ယင်းလင်္ကာ၌

'မိုက်မှားလှစွာ၊ ကိုယ်မှီရာကို၊ ကိုယ်သာဖျက်ဆီး၊
ဘိကာစီးသည်၊ မှူးကြီးမတ်ငယ်၊ မာလောနွယ်တို့၊'

ဟူသောအပိုဒ်မှာ လူကြိုက်များသောအပိုဒ်ဖြစ်သည်။ ကင်းဝန်မင်းကြီးက အထက်ပါလင်္ကာကို 'မန်းမကိုရ်မှာမှ' အစချီသောလေးချိုးဖြင့် ချေဆိုရေးသားသဖြင့် ဆရာတော်က ဒုတိယတပန်ရေးသားသည့်လင်္ကာ၌ပါသော

'ထီးသုဉ်းနန်းသုဉ်း၊ မြို့သုဉ်းသုညာ၊ သုဉ်းသုံးဝဖြင့်၊
သုဉ်းနှင့် ရလစ်၊ သုည ခေတ်ဝယ်၊ ဖြစ်လာရလေ၊
တို့တတွေသည်၊ သေသော်မှတည့်၊ ခြောက်ကောင်း၏။'

ဟူ သောအပိုဒ်မှာ စာဆိုတို့၏ နှုတ်ဖျားသို့ ရောက်ရှိနေလေသည်။ ဆီးပန်းနီဆရာတော်ဘုရားကြီးသည် သက်တော် ၇၇၊ ဝါတော် ၅၇၊ မြန်မာသက္ကရာဇ် ၁၂၅၀ ပြည့်နှစ် ကဆုန်လပြည့်ကျော် ၁ ရက် ဗုဒ္ဓဟူးနေ့၌ ဘဝနတ်ထံပျံလွန်တော်မူသည်။ ဦးကြီးမေ

**ဆီးမြူပင်။** ။ဆီးမြူပင်သည် အပင်ငယ်ငယ် သို့မဟုတ် အပင်လတ်စားမျိုးဖြစ်သည်။ ရုက္ခဗေဒအလိုအားဖြင့် 'ဖိုင်လင်သပ် အင်ဗလီကာ' ဟုခေါ်သည်။ သစ်ခေါက်သည် အကြေးများကွာနေသကဲ့သို့ရှိသည်။ သစ်ခေါက်ရောင်မှာ ရေညိုရောင်ဖြစ်သည်။ အကိုင်းမှထွက်သော အခက်ကလေးများသည် ၄ လက်မမှ ၈ လက်မအထိ ရှည်သည်။ အရွက်များသည် လက်မဝက်ခန့်ရှည်၍ ထပ်ထပ်စွာပေါက်ကြသည်။ ပန်းပွင့်အရောင်မှာ ဖက်ဖူးရောင်ဖြစ်သည်။ အသီးသည် အသားပေါ၍ လုံးသည်။ အချင်း ½ မှ ¾ လက်မအထိ ရှိပြီး ယင်း၌ ထောင်လိုက် မြောင်း ခြောက်မြောင်းရှိသည်။



ဆီးမြူပင်



ဆီးဖြူသီး

အသီးအရောင်မှာ အဝါနုရောင်ဖြစ်သည်။ မှည့်သောအခါ တခါတရံအနီရောင်ရှိသည်။ အရသာမှာ ချဉ်ဖန်ခါးသည်။ အသီးမှည့်ကိုဆားစိမ်၍ဖြစ်စေ၊ သနပ်လုပ်၍ဖြစ်စေ စားလေ့ရှိကြသည်။

မြန်မာနိုင်ငံတွင် ဆီးဖြူပင်များကို တောအရပ်များ၌ တွေ့မြင်နိုင်သည်။ အစေ့မှမျိုးပွားယူကြ၏။ သို့ရာတွင် အကိုင်းကိုဖြတ်၍လည်းစိုက်ပျိုးနိုင်၏။ ထို့ပြင် မြေထုပ်စည်း၍လည်း စိုက်ပျိုးနိုင်သေးသည်။

**ဆီးမိုက်လူမျိုး။** ။ဆီးမိုက်လူမျိုးသည် အာရှအနောက်ပိုင်းနှင့် အာဖရိကအရှေ့ပိုင်းတွင် အများဆုံးနေထိုင်ကြသော လူမျိုးတမျိုးဖြစ်သည်။ မူလက ဆီးမိုက်လူမျိုးတို့သည် မည်သည့်နိုင်ငံမှ စတင်ပေါက်ဖွားလာသည်ကိုကား မည်သူမျှ တပ်အပ်သေချာမသိကြချေ။ သို့သော် ခရစ်မပေါ်မီနှစ်ပေါင်း ၂၀၀၀ ခန့်ကမူ၊ အဆိုပါလူမျိုးများသည် ယခုအခါအီရက်ဟုခေါ်သော မက်ဆိုပိုတေးမီးယားနယ်တွင် နေထိုင်ခဲ့ကြဘူးသည်ဟူသောအချက်ကိုကား သေချာစွာသိရှိရပေသည်။ ထိုသူတို့အထဲတွင် ယဟူဒီလူမျိုးများသည် တောင်ဖက်သို့ တဖြည်းဖြည်း ရွှေ့ပြောင်းလာကြပြီးနောက် ပါလက်စတိုင်းပြည်တွင် အခြေစိုက်နေထိုင်ခဲ့ကြလေသည်။ (ယဟူဒီလူမျိုး — ရှု။)

ဆီးမိုက်လူမျိုးဆက်ကို ခွဲခြားရာ၌ မည်သည့်လူမျိုးသည် ဆီးမိုက်အဆက်အနွယ်ဖြစ်၍၊ မည်သည့်လူမျိုးကား ဆီးမိုက်အနွယ်ဝင်မဟုတ်ဟုခွဲခြားရန် များစွာခဲယဉ်းခြင်းမရှိလှပေ။ ဘာသာစကားကို ဆီးမိုက်အဆက်အနွယ်ဟုတ်မဟုတ်ခွဲခြား သိရှိရန်သာလျှင်ခက်သည်။ ဆီးမိုက်အဆက်အနွယ်များထဲတွင် တောင်ပိုင်းလူမျိုး၊ မြောက်ပိုင်းလူမျိုးဟူ၍ နှစ်မျိုးရှိသည်။ တောင်ပိုင်းလူမျိုးများမှာ အာရပ်လူမျိုးဖြစ်၍၊ မြောက်ပိုင်းလူမျိုးများမှာ ယဟူဒီများဖြစ်ကြသည်။

ကမ္ဘာ့အဆင့်အတန်း တိုးတက်မှုတွင် ဆီးမိုက်လူမျိုးများလည်း အရေးပါအရာရောက်သောအပိုင်းမှပါဝင်ခဲ့ပေသည်။



ဆီးမိုက်အနွယ်ဝင် ၂ ဦး

အထူးသဖြင့် ကုန်ကူးသန်းရောင်းဝယ်ရေးတွင် ဆီးမိုက်လူမျိုးတို့၏ ခြေရာလက်ရာများကို ထင်ရှားစွာ တွေ့ရှိကြရပေသည်။ ကမ္ဘာ့အက္ခရာစာလုံးကိုရှေးဦးစွာတီထွင်ခဲ့ကြသော ဖီနီရှန် လူမျိုးများမှာ ဆီးမိုက် အဆက်အနွယ်များပင် ဖြစ်သည်။ (ဖီနီရှန်လူမျိုး — ရှု။)

**ဆီးရီးယားနိုင်ငံ။** ။အာရှတိုက်ရှိအလွန်ရှေးကျသော တိုင်းနိုင်ငံများတွင် ဆီးရီးယားနိုင်ငံသည် အပါအဝင်ဖြစ်သည်။ ဆီးရီးယားနိုင်ငံဟောင်းမှာ မြေထဲပင်လယ်၏ အရှေ့ကမ်းရိုးတန်းမှသည် ယခုခေတ် နိုင်ငံသစ်များ ဖြစ်ကြ

သော ဆီးရီးယားနိုင်ငံ၊ လက်ဗနွန်နိုင်ငံ၊ အဇ္ဇရီယယ်နိုင်ငံ၊ ဂျော်ဒန်နိုင်ငံနှင့် တစိတ်တဒေသအားဖြင့် မြောက်ပိုင်း အာရေဗျနိုင်ငံတို့အထိ ကျယ်ပြန့်သည်။သို့ရာတွင် ယခုလက်ရှိ ဆီးရီးယားသမတနိုင်ငံမှာ မြောက်ဖက်တွင် တူရကီနိုင်ငံ၊ အရှေ့ဖက်တွင်အီရက်နိုင်ငံ၊ တောင်ဖက်တွင်အဇ္ဇရီယယ်နှင့် ဂျော်ဒန်နိုင်ငံ၊ အနောက်ဖက်တွင်မြေထဲပင်လယ်နှင့်လက်ဗနွန်နိုင်ငံဟူ၍ နယ်နိမိတ်သတ်မှတ်ထားသောနိုင်ငံဖြစ်သည်။

နိုင်ငံသမိုင်းအရဆိုလျှင် ရှေးဟောင်း ဆီးရီးယားနိုင်ငံသည် ဘီစီ ၁၄၇၁ ခုနှစ်တွင် အီဂျစ်နိုင်ငံ၏လက်အောက်သို့ ကျရောက်ခဲ့သည်။ ဗက်ဗီလုံအင်ပိုင်ယာ၊ အဆီးရီးယား အင်ပိုင်ယာ၊ ပါရှား အင်ပိုင်ယာတို့၏ လက် အောက် ခံ ဖြစ် ခဲ့ ဘူးသည်။ ဘီစီ ၆၄ ခုနှစ်၌ ရောမဘုရင် ပွန်ပီလက်ထက်တွင် ရောမနိုင်ငံပိုင်ပြည်နယ်ဖြစ်ခဲ့ရပြန်သည်။ ထိုနောက် ပါးရှင်းလူမျိုးတို့က မကြာခဏ ဆီးရီးယားပြည်ကိုဝင်ရောက် တိုက်ခိုက်ကြသည်။ အေဒီ ၆၃၅ ခုနှစ်၌မူ အာရပ်လူမျိုးများက ဆီးရီးယားကိုသိမ်းပိုက်လိုက်သည်။ ၁၅၁၆ ခုနှစ်တွင် အော့တိုမန် တရက်လူမျိုးများ၏ လက်အောက်သို့ရောက်ခဲ့သည်။ ဤအတွင်းတွင် ၁၇၇၉-၉၉ ခုနှစ်၌ ပြင်သစ်တို့ဝင်ရောက်အုပ်စိုး၍၊ ၁၈၃၁-၃၃ ခုနှစ်တွင်တကြိမ်၊ ၁၈၃၉-၄၀ ပြည့်နှစ်တွင် တကြိမ်၊ အီဂျစ်ဘုရင်ခံကဝင်ရောက်သိမ်းပိုက်ခဲ့သေးသည်။ ၁၈၆၀-၆၁ ခုနှစ်တွင် သူပုန် ထကြပြီးလျှင်၊ ၁၉၁၇ ခုနှစ်၌ တူရကီတို့ အုပ်စိုးခြင်းသည် အဆုံးသို့ရောက်လေသည်။ သို့သော် ၁၉၂၀ ပြည့်နှစ်၌ ပြင်သစ်သြဇာလွှမ်းမိုးသောနယ်ဖြစ်လာလေသည်။ ၁၉၂၅ ခုနှစ်တွင်မူကား ဒမက်စကပ်နှင့် အ



ဆီးရီးယားနိုင်ငံ ကျေးလက်မှ အမျိုးသား

လက် ဟူသောနယ်ကြီးနှစ်နယ်ပေါင်းစပ်၍ ဆီးရီးယားပြည်နယ်ဟု ခေါ် တွင်ပြီးလျှင် ၁၉၃၀ ပြည့်နှစ်၌ ဆီးရီးယား သမတနိုင်ငံဟုတည်ထောင်လိုက်လေသည်။ လက်ဗနွန် သမတနိုင်ငံကိုကား ၁၉၂၆ ခုနှစ်တွင် တည်ထောင်သည်။ (လက်ဗနွန်—ရှု။) အချို့သောနယ်ငယ်များကိုမူ ၁၉၃၉ ခုနှစ်တွင် တူရကီနိုင်ငံသို့လွှဲပြောင်းပေးအပ်လိုက်ရသည်။ သမတနိုင်ငံဟုဆိုသော်လည်း၊ ပြင်သစ်သြဇာခံနိုင်ငံဖြစ်သောကြောင့် ပြင်သစ်အစိုးရ၏ အာဏာစက်မှ မလွတ်ကင်းချေ။ ဒုတိယကမ္ဘာစစ်ကြီးအတွင်း ၁၉၄၀-၄၁ ခုနှစ်တွင် ပြင်သစ်ဗီရှီအစိုးရ၏စစ်အုပ်ချုပ်ရေး လက်အောက်တွင် ကျရောက်ခဲ့သည်။ ၁၉၄၁ခုနှစ် ဇူလိုင်လတွင် ဗြိတိသျှနှင့် လွတ်လပ်သော ပြင်သစ် မဟာမိတ်တပ်များက သိမ်း




ဆီးရီးယားနိုင်ငံ တည်နေရာပြ မြေပုံ



ဆီးရီးယားနိုင်ငံရှိ ကရူးဆိတ်စစ်ပွဲများအတွင်းဆောက်လုပ်ခဲ့သော ရဲတိုက်ဟောင်း

ပိုက်လိုက်သည်။ ၁၉၄၁ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် ဆီးရီးယားနိုင်ငံသည် လွတ်လပ်ရေးကိုကြေညာခဲ့သည်။ သို့သော် ၁၉၄၄ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့ကျမှသာ ပြင်သစ်အစိုးရက ဆီးရီးယားအစိုးရအား အာဏာလွှဲပြောင်းပေးသည်။ ၁၉၄၆ ခုနှစ် ဧပြီလတွင် နိုင်ငံခြားစစ်တပ်များ အားလုံးဆုတ်ခွာပေးရသည်တွင်မှ လုံးဝလွတ်လပ်သောဘဝသို့ရောက်ရသည်။

ဆီးရီးယားသမတနိုင်ငံ၏အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၇၂,၂၃၄ မိုင်ရှိသည်။ ၁၉၅၃ ခုနှစ်ခန့်မှန်းခြေအရ၊ လူဦးရေမှာ ၃,၆၅၅,၉၀၄ ယောက်ရှိသည်။ အာရပ်စကားမှာ အများသုံး ဘာသာစကားဖြစ်သည်။ သို့ရာတွင် တူရကီ၊ အာမီးနီးယန်း၊ ပါးရှင်းနှင့်ဥရောပဘာသာစကားအမျိုးမျိုးကိုလည်းပြောကြသည်။ ကိုးကွယ်သောအယူဝါဒမှာ အများအားဖြင့် အစ္စလမ်ဖြစ်သည်။

ဆီးရီးယားသည် လယ်ယာစိုက်ပျိုးရေးနိုင်ငံဖြစ်သည်။ ဂျုံ၊ မုယော၊ ပြောင်း၊ ဆန်၊ ပဲ၊ စပျစ်သီး၊ သံလွင်ပင်၊ ဝါဂွမ်း စသည်တို့ကိုစိုက်ပျိုးသည်။ သိုး၊ဆိတ်၊ ကုလားအုပ်၊ မြင်း၊ မြည်း၊ လား၊ ကျွဲနွား၊ ကြက်စသည်တို့ကိုလည်း အကြီးအကျယ်မွေးမြူသည်။ ဆီးရီးယား၌ တွင်းထွက်သတ္တုများနည်းပါးလှသည်။ သို့သော် ရေနံကို ယခုအခါ လိုက်လံရှာဖွေလျက်ရှိကြသည်။

ဒမက်စကပ်မြို့မှာ ဆီးရီးယားနိုင်ငံ၏မြို့တော်ဖြစ်သည်။

**ဆူဒန်နယ်။** ။ဆူဒန်နယ်သည် ပထဝီဝင်အရဆိုသော် အာဖရိကတိုက်မြောက်ပိုင်းအလယ်၌ ဆဟာရာနှင့် လစ်ဗျန် သဲကန္တာရတို့၏ တောင်ဖက်တွင် တည်ရှိ၍၊ အာဖရိကတိုက်အနောက်ဖက်ကမ်းခြေမှ အီသီအိုးပီးယားတောင်တန်းများအထိ မိုင် ၄,၀၀၀ ခန့်ဖြတ်သန်းလျက်ရှိ၏။ အနံအားဖြင့် မိုင် ၁,၀၀၀ နီးပါးခန့်အထိရှိသည်။ အကျယ်အဝန်းမှာ စတုရန်းမိုင် ၂ သန်းခန့်ရှိ၍၊ လူဦးရေမှာ ၄ ကုဋေခန့်ရှိ၏။ ဤနယ်အတွင်း ပြင်သစ်ပိုင် အနောက်အာဖရိကနယ်ပယ်များ၊ ဗြိတိသျှပိုင် အနောက်အာဖရိကနယ်သစ်များနှင့် ယခင်ကအင်္ဂလိပ်အီဂျစ်ရှင်ဆူဒန်ဟုခေါ်ခဲ့သော ဆူဒန်သမတနိုင်ငံတို့ပါဝင်၏။ ထို့ပြင် ဆင်နီဂေါမြစ်ဝှမ်း၊ နိုင်းဂျားမြစ်အလယ်ပိုင်း၊ နိုင်းမြစ်ဝှမ်းနှင့် ချက်အိုင်ကြီးတို့တည်ရှိရာဒေသများသည် ဤနယ်အတွင်းကျရောက်လေသည်။ ကျယ်ပြန့်သောကြောင့်လည်း သဲကန္တာရ၊ စတက်လွင်ပြင်နှင့် လွင်ပြင်ကြီးများစသည်ဖြင့် ဒေသအမျိုးမျိုးရှိလေသည်။ လူမျိုးရေးအရဆိုသော် ဆူဒန်နယ်သည် မွတ်စလင်တို့ဩဇာလွှမ်းမိုးခြင်းခံရသော နီးဂရိုးလူမျိုးတို့နေထိုင်ရာ ဒေသဖြစ်၏။ ဗောနူး၊ ဆွန်းဟိုင်း၊ ဖူးလားအစရှိသောအလယ်ခေတ်က နီးဂရိုးနိုင်ငံကြီးများထွန်းကားခဲ့သည့်နေရာလည်းဖြစ်လေသည်။

ပြင်သစ်ပိုင်ဆူဒန်နယ်မှာ ဆူဒန်နယ်နှင့် ဆဟာရား သဲကန္တာရတို့၏အနောက်ဖက်ပိုင်းဒေသများပါဝင်၍၊ စတုရန်းမိုင် ၅၉၀,၉၆၆ ကျယ်ဝန်းပြီးလျှင် ၁၉၄၆ ခုနှစ်သန်ကောင်စာရင်းအရ လူဦးရေ ၃,၇၁၂,၀၀၀ ယောက်ခန့်ရှိ၏။ မြို့တော်မှာ ဗမကိုးမြို့ဖြစ်သည်။ အများအားဖြင့် သဲကန္တာရ

ဒေသများသာဖြစ်၍ အရှေ့ဖက်နှင့်တောင်ဖက်တွင် ကုန်းမြေမြင့်များရှိ၏။ ကေးမြို့ကိုဖြတ်၍ ဒါးကားမြို့နှင့် မီးရထားလမ်းအဆက်အသွယ်ရှိလေသည်။ မိုရော့ကိုနှင့်လည်း မော်တော်ကားလမ်းအဆက်အသွယ်ရှိ၏။ မြို့ကြီးများမှာ ဗမကိုး၊ ကေး၊ ဆီကားဆိုး၊ ဆေးဂူး၊ ဝါးအီဂူးယာ၊ ဂါးအိုး၊ တင်ဗတ်တူးမြို့များဖြစ်၏။ ထွက်ကုန်များမှာ မြေပဲ၊ သားရေ၊ ကြက်ပေါင်စေး၊ ဝါဂွမ်း၊ သိုးမွေး၊ ဖယောင်းစသည်တို့ဖြစ်သည်။

၁၈၉၉ ခုနှစ်တွင် ဗြိတိန်နှင့်သဘောတူချုပ်ဆိုသော စာချုပ်အရ၊ အရှေ့ဆူဒန်နယ်သည် ပြင်သစ်ပိုင် ဖြစ်လာလေသည်။ ထိုစဉ်က အင်္ဂလိုအီဂျစ်ရှင်ဆူဒန်ဟု တွင်ခဲ့သောနယ်နှင့် ၁၉၂၄ ခုနှစ်တွင် နယ်နိမိတ်ပိုင်းခြားသတ်မှတ်ခဲ့၏။ ၁၉၄၆ ခုနှစ်၌ ပြင်သစ်ပြည်ထောင်စုတွင်အပါအဝင်နယ်ပယ်အဖြစ် ပြန်လည်စည်းရုံးခဲ့သည့် အချိန်အထိ ကိုလိုနီ အဆင့်အတန်း၌ရှိနေခဲ့လေသည်။

အာဖရိကတိုက် အရှေ့မြောက်ပိုင်းဖြစ်သော အီဂျစ်ပြည်နှင့် အာဖရိကတိုက်၏အလယ်ပိုင်းတွင်ရှိသော ယူဂန်းဒါးနယ်အကြားဒေသကို အင်္ဂလိပ်နှင့် အီဂျစ်အစိုးရတို့ပူးတွဲအုပ်ချုပ်ခဲ့သဖြင့် အင်္ဂလိုအီဂျစ်ရှင် ဆူဒန်ဟု နှစ်ပေါင်းများစွာခေါ်ခဲ့လေသည်။ စတုရန်းမိုင် ၉၅၀,၉၅၀ ကျယ်ဝန်း၍၊ လူဦးရေ ၈,၉၇၁,၇၂၀ ယောက်ရှိ၏။ ခါတွမ်းမြို့မှာ မြို့တော်ဖြစ်သည်။ ယင်းနယ်မှာ မြောက်ဖက်မှ တောင်ဖက်သို့ မိုင် ၁၆၅၀ ရှိ၏။ မြောက်ဖက်တွင် အီဂျစ်နိုင်ငံ၊ အရှေ့ဖက်တွင် ပင်လယ်နီ၊ အီရစ်တရီးယားပြည်နှင့် အီသီအိုးပီးယားနိုင်ငံ၊ တောင်ဖက်တွင် ကင်းနယား၊ ယူဂန်းဒါးနှင့် ဗဲလဂျီယန်ကွန်ဂိုနယ်၊ အနောက်ဖက်တွင် ပြင်သစ်ပိုင် အီကွေတာပိုင်း အာဖရိကနှင့်လစ်ဗျားနိုင်ငံဟူ၍ အသီးသီး ရှိကြ၏။

အင်္ဂလိုအီဂျစ်ရှင် ဆူဒန်နယ်သည် ပြင်သစ် ဆူဒန်နယ်ကဲ့သို့ပင် အများအားဖြင့် သဲကန္တာရများသာ ဖြစ်၏။ သို့ရာတွင် အရှေ့မြောက်ဖက်ဒေသရှိ ပင်လယ်နီ တလျှောက်နှင့် အနောက်ဖက်ရှိ ဒါးဖူးနယ်တွင် တောင်ထူထပ်၏။ ယင်းနယ်ကြီးကို စီရင်အုပ်ချုပ်ရန်အတွက် ပြည်နယ် ၈ ခုခွဲထားခဲ့လေသည်။ ခါတွမ်းမြို့အပြင် အခြားမြို့ကြီး ၇ မြို့ရှိရာ၊ ဆူဒန်မြို့နှင့် ဆွားကင်မြို့တို့မှာ ပင်လယ်နီကမ်းခြေရှိ သင်္ဘောဆိပ်မြို့များဖြစ်ကြလေသည်။

ရှေးအခါက ယင်းနယ်ကို အီဂျစ်ဘုရင်ခံချုပ် မဟာမက်အလီ (ခရစ် ၁၈၂၀-၂၂ ခုနှစ်) ၏သားတော် ဟူစိန်က တိုက်ခိုက်သိမ်းယူခဲ့ရာ ၁၈၈၂ ခုနှစ်အထိ အမည်အားဖြင့် အီဂျစ်တို့၏ လက်အောက်ခံ ဖြစ်ခဲ့လေသည်။ ၁၈၈၃ ခုနှစ်၌ မာဒီခေါင်းဆောင်သော အယူသည်းဆူဒန်နယ်သားတို့ပုန်ကန်ထကြွခဲ့သည်တွင် အီဂျစ်တပ်များ အရေးနိမ့်ခဲ့သဖြင့် သူပုန်တို့လက်အောက်သို့ ကျရောက်ခဲ့လေသည်။ ၁၈၉၆-၉၈ ခုနှစ်တွင် အင်္ဂလိပ်ဗိုလ်ချုပ် ကစ်ချနာက အောင်မြင်စွာစစ်ဆင်နိုင်ခဲ့သဖြင့် သူပုန်အရေး အေးငြိမ်းခဲ့၍၊ နိုင်းမြစ်ဝှမ်းအထက်ပိုင်းမှာ ပြင်သစ်တို့ လွှမ်းမိုးမည့်ဘေးမှ လွတ်မြောက်ခဲ့၏။ (ကစ်ချနာ,အိပ်၊အိပ် — ရှု။) ၁၈၉၉ ခုနှစ်မှစ၍ အင်္ဂလိပ်နှင့် အီဂျစ်အစိုးရတို့ ပူးတွဲအုပ်ချုပ်ခဲ့လေသည်။

၁၈၉၉ ခုနှစ်နှင့် ၁၉၃၆ ခုနှစ်များတွင် ချုပ်ဆိုခဲ့သောစာချုပ်များအရ ယင်းအင်္ဂလိုအီဂျစ်ရှင် ဆူဒန်နယ်ကို အင်္ဂလိပ်နှင့် အီဂျစ် အစိုးရတို့ပူးတွဲ ရွေးချယ်သော ဘုရင်ခံချုပ် တဦး သည် အင်္ဂလိပ်နှင့်အီဂျစ်အစိုးရတို့ကိုယ်စား အုပ်ချုပ်ခဲ့လေသည်။ သူ့အား အတိုင်ပင်ခံကောင်စီအဖွဲ့က ကူညီခဲ့၏။ ဗြိတိသျှ၊ အီဂျစ်နှင့် ဆူဒန်လူမျိုးတို့ပါဝင်သည့် အုပ်ချုပ်ရေးဝန်ထမ်းအဖွဲ့ရှိခဲ့၏။ ၁၉၅၃ ခုနှစ် ဖေဖော်ဝါရီလ ၁၂ ရက်နေ့တွင် ဗြိတိသျှနှင့်အီဂျစ်နိုင်ငံတို့ချုပ်ဆိုခဲ့သော စာချုပ်သစ်တွင် ဆူဒန်နယ်သားတို့သည် ကိုယ်ပိုင်ဆုံးဖြတ်ခွင့် ရစိမ့်မည်ဟု ကတိပြုထားခဲ့၏။ သို့သော် လုံးဝလွတ်လပ်ရေးရသည့်အချိန်အထိ အချုပ်အချာအာဏာကို လက်ရှိအာဏာပိုင်တို့ကပင် ထိန်းသိမ်းပေးရမည်ဟု ဆိုခဲ့သည်။ ယင်းစာချုပ်အရပင်လျှင် ရွေးကောက်ပွဲ ကြီးကြပ်



တောင်ပိုင်းဆူဒန်နယ်ရှိ တိုင်းရင်းသားနီးဂရိုးလူမျိုးတို့၏ ကျေးရွာတရွာ

ရန် ကြားနေကော်မစ်ရှင်အဖွဲ့တဖွဲ့ကို ဖွဲ့စည်းခဲ့၏။ အုပ်ချုပ်ရေး၊ ကာကွယ်ရေးစသည်တို့တွင် ဆူဒန်နယ်သားအရာရှိများကို အစားထိုးခန့်ထားရေးအတွက်လည်း ကော်မတီအဖွဲ့တခုကို ဖွဲ့စည်းခဲ့လေသည်။ ၁၉၅၂ ခုနှစ် အောက်တိုဘာလတွင် ဥပဒေပြုလွှတ်တော်ဟောင်းကို ဖျက်သိမ်းခဲ့သည်။ ၁၉၅၃ ခုနှစ် ဧပြီလတွင် ရွေးကောက်ပွဲကြီးကြပ်ရေး ကော်မစ်ရှင်အဖွဲ့သည် ဥပဒေပြုအောက်လွှတ်တော်နှင့် အထက်လွှတ်တော်တို့ကိုဖွဲ့စည်းပေးရန် တာဝန်ယူခဲ့သည်။ ထိုတာဝန်ယူချက်အရ အမတ် ၉၇ ဦးပါဝင်သော အောက်လွှတ်တော်နှင့် ရွေးကောက် တင်မြှောက်သောအမတ် ၃၀၊ ဘုရင်ခံခန့်ထားသည့်အမတ် ၂၀ ပါဝင်သော အထက်လွှတ်တော်တို့ကို ဖွဲ့စည်းရန် အလို့ငှာ၊ ၁၉၅၃ ခုနှစ် ဒီဇင်ဘာလတွင် ရွေးကောက်ပွဲများ



ပင်လယ်နီကမ်းခြေရှိ ဆူဒန်မြို့ဆိပ်ကမ်း

ကျင်းပခဲ့သည်။ ထိုအခါ လွှတ်တော်နှစ်ရပ်စလုံးတွင် အမျိုးသား ယူနီယန်နစ် ပါတီသည် လူများစုအဖြစ်ဖြင့် အနိုင်ရခဲ့လေသည်။ ၁၉၅၄ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့၌ ဘုရင်ခံမင်းကြီးသည်ပါလီမန်လွှတ်တော်ကို ဖွင့်လှစ်ခဲ့၏။ အမျိုးသား ယူနီယန်နစ်ပါတီခေါင်းဆောင် ဆယက် အစ္စမေ အယ် အဇာရီကိုလည်းဝန်ကြီးချုပ်အဖြစ် ရွေးကောက်တင်မြှောက်ခဲ့၏။

၁၉၅၄ ခုနှစ် ဇူလိုင်လ ၁၂ ရက်နေ့တွင် ဗြိတိသျှအမှုထမ်းအရာထမ်းတို့အား လျော်ကြေးပေးရန် အက်ဥပဒေတရပ် ပြုလုပ်ပြီးလျှင်၊ ယင်းလျော်ကြေးပေးပြီးသား မှုထမ်းရာထမ်းတို့နေရာတွင် ဆူဒန်အမှုထမ်းအရာထမ်းတို့ကို အစားထိုးလေသည်။ ဆူဒန်တိုင်းရင်းသားတို့ကိုလည်း ကာကွယ်ရေးတပ်မတော်များတွင်ခန့်အပ်စေသော စီမံကိန်းအရ ၁၉၅၄ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် ဗြိတိသျှစစ်ဦးစီးဗိုလ်ချုပ်သည် ဆူဒန်တိုင်းရင်းသားဗိုလ်ချုပ်အား ရာထူးလွှဲပြောင်းပေးရသည်။ ၁၉၅၆ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့သို့ ရောက်သော အခါ၌မူကား၊ ၁၉၅၃ ခုနှစ် ဖေဖွာရီလ ၁၂ ရက်နေ့စွဲပါ ဗြိတိသျှတို့၏ ကတိစာချုပ်အတိုင်း၊ ဆူဒန်နယ်သည် လွတ်လပ်သော ဒီမိုကရက်တစ် သမတနိုင်ငံအဖြစ်ဖြင့် လွတ်လပ်ရေးကို ကျေညာလေသည်။ ဆူဒန်သမတနိုင်ငံ ဖွဲ့စည်းသောအခါ၊ ယခင်ကရှိရင်းစွဲ ဗြိတိသျှဘုရင်ခံချုပ် ရာထူးကို ပယ်ဖျက်၍၊ နိုင်ငံတော်ဦးစီးအနေဖြင့် အဖွဲ့ဝင်ငါးဦး ပါရှိသော နိုင်ငံကောင်စီကို ဖွဲ့စည်းလိုက်လေသည်။ အစ္စမေ အဇာရီကား ဝန်ကြီးချုပ်အဖြစ်ဖြင့် ဆက်လက်ဆောင်ရွက်ရလေသည်။

**ဆူပါဆွန်းနစ်။** ။ဆူပါဆွန်းနစ်ဆိုသည်မှာ အသံထက်မြန်သောအလျင်နှင့်စပ်လျဉ်း၍လေ့လာသောပညာကိုဆိုလိုသည်။ ထိုဝေါဟာရသည် ဒုတိယကမ္ဘာစစ်ကြီးအတွင်းက အလွန်လျင်မြန်သောလေယာဉ်များ၊ တုံးပျံများပေါ် ပေါက်လာသောအခါ အထူးခေတ်စားလာသောဝေါဟာရဖြစ်၏။

အသံ၏အလျင်သည် သာမန်အခြေ၌ ပင်လယ်ပြင်တွင် ဘာ စက္ကန့်လျှင်ပေ ၁၁၀၀ (ဝါ) တနာရီလျှင်မိုင် ၇၆၀ နီးပါးမျှရှိသည်။ ကျည်ဆန်နှင့်တုံးပျံတို့သည် ထိုအလျင်ထက်ပို၍ မြန်ကြသည်။ သို့သော် မည်သည့်လေယာဉ်မှ ထိုအလျင်ဖြင့် မပျံစွမ်းနိုင်ချေ။ တနာရီမိုင် ၇၆၀ နှုန်းသို့မရောက်မီပင် လေယာဉ်၏အရှေ့၌ လေသည် ပြင်းထန်စွာလှုပ်ရှားလာသည်။ ထိုလေ၏လှုပ်ရှားခြင်းသည် သာမန်လေယာဉ်ပျံကို ဖျက်ဆီးနိုင်လောက်အောင်ပင် ပြင်းထန်သည်။ (ဂျက်အင်ဂျင် — ရှု။)

သိပ္ပံပညာရှင်တို့သည် ထိုအခက်အခဲကို ကျော်လွှန်နိုင်အောင် သုတေသန များပြားစွာ ပြုလုပ်ခဲ့ကြသော်လည်း၊ လေလှုပ်ရှားပုံ ပြဿနာကို လုံးဝ မဖြေရှင်းနိုင်ကြသေးပေ။ သိပ္ပံပညာရှင်တို့က ထိုလေလှုပ်ရှားသောကိစ္စသည် အသံ၏အလျင်သို့ မရောက်မီကလေးနှင့် အသံ၏အလျင်ကို ကျော်ရုံကလေး၌သာလျှင် ဖြစ်ပျက်သည်ဟုယုံကြည်ကြသည်။ အဆိုရှိသည်မှာ ထိုအခိုက်အတန့်တွင် လေယာဉ်ပျံသည် လေလှုပ်ရှားသောဒဏ်ကို ခံနိုင်လျှင် တနာရီမိုင် ၇၆၀ နှုန်းကျော်လွန်သောအခါ၊ လေလှုပ်ရှားသောအနှောင့်အရှက်မှာ နည်းပါးသွား၍၊ သာမန်အတိုင်း တဖန်ပျံသန်းနိုင်သည်။ လေယာဉ်ပျံသည် ကမ္ဘာမြေသို့ ပြန်လာရန် အလျင်ကို လျှော့လိုက်သောအခါ၌ တဖန် လေလှုပ်ရှားသောအနှောင့်အရှက်ပေါ် လာပြန်သည်ဟု ဆိုလေသည်။

ထိုအဆိုကို မူတည်ကာ သိပ္ပံပညာရှင်တို့သည် အလွန့်အလွန်မြင့်သောနေရာတို့၌ အသံထက်မြန်သောအလျင်နှင့် ပျံသန်းနိုင်သည့် တုံးပျံ၊ လေယာဉ်များကို ကြံစည်၍ဆောက်လုပ်ကြသည်။ ထိုတုံးပျံ၊ လေယာဉ်တို့သည် မြေဆွဲအားထက် ၁ဂ ဆပို၍ကြီးသော ဒဏ်အားကို ခံနိုင်အောင်ပင်ခိုင်ခံ့ ကြသည်ဟုဆိုလေသည်။ (တုံးပျံ—ရှု။)




ဆူမတြာကျွန်း တည်နေရာပြ မြေပုံ

**ဆူမတြာကျွန်း။** ။ဆူမတြာ ကျွန်းသည် အရှေ့အိန္ဒိယကျွန်းစုတွင် အနောက်ဖက်အကျဆုံး ကျွန်းဖြစ်၍ ၊စတုရန်းမိုင် ၁၆၄,၇၇၉ မိုင်ခန့် ကျယ်ပြန့်ပြီးလျှင် လူဦးရေ ၇,၈၄၁,၁၇၅ ယောက် ခန့်ရှိ၏။ တကျွန်းလုံးသည် လှပစိမ်းလန်းသောအုန်း၊ ထန်း၊ ဓနိစသောအပင်မျိုးတို့ဖြင့် ဖုံးလွှမ်းလျက်ရှိ၏။ မျောက်၊ ဆင်၊ ကြံ့နှင့်တောဝက်စသော သားကောင်များလည်းရှိသည်။

မြင့်မားသောတောင်တန်းများ၌ ယခုထက်တိုင် အငွေ့တလူလူတက်နေသော မီးတောင်များရှိသည်။ တောင်များ၏ အနောက်ဖက်သည် မတ်စောက်၍ အရှေ့ဖက် ဆင်ခြေလျှောတွင် မြစ်ငယ်ချောင်းငယ်များ စီးဆင်းလျက်ရှိ၏။ မြေသြဇာ ထက်သန်ကောင်းမွန်သဖြင့် သကြား၊ ဆန်၊ စပါး၊ ကာဖီ၊ ငရုတ်ကောင်း၊ ဆေးရွက်များကို နိုင်ငံခြားသို့တင်ပို့ရန် များစွာစိုက်ပျိုးကြ၏။

ဆူမတြာကျွန်းတွင် သံ၊ ကျောက်မီးသွေး၊ သံဖြူ၊ ရေနံ၊ ကြေးဝါနှင့် ရွှေများကိုတွေ့ရှိရသည်။ ဆူမတြာကျွန်းရှိ လူမျိုးများမှာ အမျိုးမျိုးဖြစ်၍ ဘာသာစကား အမျိုးမျိုး ပြောဆိုကြ၏။ တိုင်းရင်းသားများသည် အများအားဖြင့် လယ်ယာကိုင်းကျွန်းကိုမှီခို၍ အသက်မွေးမြူကြသည်။ အချို့တိုင်းရင်းသားများမှာမူ ယနေ့တိုင် မယဉ်ကျေးသေးဘဲ၊ လူရိုင်းဘဝဖြင့်သာ တောတောင်များကို မှီတင်း နေထိုင်လျက်ရှိကြ၏။

ရှေးအခါက ဟိန္ဒူတို့၏ယဉ်ကျေးမှု လွှမ်းမိုးရာဖြစ်ခဲ့၍၊ ထိုရှေးအယူဝါဒဆိုင်ရာ အဆောက်အအုံပျက်များကို အချို့နေရာများတွင် တွေ့ရ၏။ သို့ရာတွင် ၁၃ ရာစုနှစ်များအတွင်း၌ မွတ်စလင်တို့ လွှမ်းမိုးလာရာ၊ ယနေ့တိုင် တိုင်းရင်းသား



ဆူမတြာကျွန်းရှိ အိုလီဟီဆိပ်ကမ်း

များစွာတို့သည် မှတ်စလင်များဖြစ်ကြသည်။ ထို့နောက် ပေါ်တူဂီတို့က ဝင်ရောက်သိမ်းပိုက်ခဲ့ပြန်၍၊ ၁၆ ရာစုနှစ်ကုန် ခါနီးတွင် ပေါ်တူဂီတို့အား ဒပ်ချလူမျိုးတို့က တိုက်ခိုက် မောင်းထုတ်လိုက်ပြီးလျှင် ဒပ်ချလူမျိုးပိုင်ကျွန်း ဖြစ်ခဲ့လေ သည်။ ဆူမတြားကျွန်းသည် ၁၉၄၂ ခုနှစ်မှ ၁၉၄၅ ခုနှစ် အထိ ဒုတိယကမ္ဘာစစ်ကြီးအတွင်း ဂျပန်လက်အောက်သို့ ကျရောက်ခဲ့သည်။ ပါးဒန်း၊ မေဒန်းနှင့် ပါလင်ဗန်းမြို့ကြီး များသည် မီးရထားအဆက်အသွယ်ရှိ၍ ထင်ရှားသောမြို့ ကြီးများဖြစ်၏။ ၁၉၄၆ ခုနှစ်တွင် ဆူမတြားကျွန်း အပါအ ဝင် အရှေ့အိန္ဒိယ ကျွန်းစုများကို စုပေါင်း၍၊ အင်ဒိုနီးရှား သမတနိုင်ငံအဖြစ် ကျေညာခဲ့သည်။ သို့ဖြင့် ဒပ်ချတို့နှင့်အ ချင်းများခဲ့ရာ ၁၉၄၉ ခုနှစ်တွင်မှ အင်ဒိုနီးရှားသမတနိုင်ငံ ပေါ်ပေါက်လာလေသည်။ (အင်ဒိုနီးရှားနိုင်ငံ — ရှု။)

**ဆူမာချီယန်**။ ။ဆူမာချီယန်သည် လွန်ခဲ့သောနှစ်ပေါင်း ၂၀၀၀ ကျော်ကစ၍ ယနေ့တိုင်အောင်ထင်ရှားလျက်ရှိသော တရုတ်နိုင်ငံသမိုင်း သုတေသီပုဂ္ဂိုလ်ကြီးဖြစ်သည်။ တရုတ်နိုင် ငံသမိုင်းကို မော်ကွန်းတင်ရာဖြစ်သော ဆူမာချီယန်စီရင်ရေး သားသည့် 'ရှိချီ' ခေါ် ကျမ်းမှာ ယနေ့တိုင် သမိုင်းပညာရှင် တို့ မှီငြမ်းပြုရာကျမ်းကြီး ဖြစ်လေသည်။

ဆူမာချီယန်သည် ဝူးဧကရာဇ်မင်းလက်ထက် ဘီစီ ၁၄၀ နှင့် ၁၃၅ ခုနှစ်တို့တွင် ထင်ရှားခဲ့သော နန်းတွင်းမော်ကွန်း ထိန်း သမိုင်းပညာရှင် ဆူမာတန်၏ သားဖြစ်သည်။ ဘီစီ ၁၄၅ ခုနှစ်တွင်ဖွားမြင်သည်။ ဖွားရာဒေသမှာ ယန်စီ (မြစ်ဝါ) မြစ်အနောက်ဖက်ကမ်းခြေရှိ လွန်းမင်းတောင်၏ တောင်ဖက်တွင်ရှိသော ရွာကလေးဖြစ်သည်။ ယခုခေတ်၌ ထိုရွာကလေးမှာ ချီချွန်ရွာဟု အမည်တွင်၍၊ ရှင်စီခရိုင်၊ ဟန်ချင်မြို့နယ် အပိုင်၌ တည်ရှိသည်။

ဘုရင့်အမှုတော်ကိုထမ်းရွက်စဉ်၊ ဆူမာတန်သည် ဗေဒင် နက္ခတ်တို့ကိုလေ့လာခြင်း၊ ပြက္ခဒိန်တော်ပြုစုခြင်းနှင့် ရာဇ ဝင်ရေးရာ မှတ်တမ်းများကို စုဆောင်းသိမ်းဆည်းခြင်းတို့ကို ဆောင်ရွက်ရသည်။ ထိုစဉ်တွင်သူသည် ရာဇဝင်ကျမ်းတ စောင် ရေးသားပြုစုခဲ့ရန်ကြံစည်မိ၏။ သို့သော် မအောင် မြင်ခဲ့ချေ။ ဘီစီ ၁၁၀ ခုနှစ် သေဆုံးခါနီးအချိန်တွင်မှ၊ သူ ၏သား ဆူမာချီယန်အား သူ၏ဆန္ဒဖြစ်သော ရာဇဝင်ကျမ်း ပြုစုရေးကို ကြိုးစားပြီးမြောက်စေလိုကြောင်းဖြင့် မှာကြား သွားလေသည်။ ဤတွင် ဆူမာချီယန်လည်း သူ၏ဖခင် စု ဆောင်းမှတ်သားရှာဖွေထားခဲ့သော ရာဇဝင်ရေးရာအချက် အလက်များကို အမွေအနှစ်အဖြစ်ရရှိလိုက်လေသည်။

ဆူမာချီယန်သည် ငယ်ရွယ်စဉ်အခါကပင် သူ၏ဇာတိဖြစ် သောရွာကလေးကိုစွန့်ခွာ၍၊ ချန်ဂန် (ယခုစီအန်း) မြို့တော် သို့ စာပေသင်ကြားရန်ထွက်လာခဲ့၏။ သူ၏သင်ဆရာများ ကား တုံချုံရှူးနှင့် ကွန်အန်ကူအိုတို့ဖြစ်ကြလေသည်။ အ သက် ၂၀ အရွယ်အထိ ဆူမာချီယန်သည် ကွန်ဖူးဇီး၏ဂန္ထ ဝင်စာပေကြီးများကိုလေ့လာခဲ့၏။ ထို့နောက် ရှေးဟောင်း နှင့်ခေတ်သစ် ရာဇဝင်ရေးရာ မှတ်တမ်းများကို စံနစ်တကျ လေ့လာသည်။ ထိုအခါမှစ၍ သူသည် တရုတ်နိုင်ငံကြီးကို အ နှံ့အပြားသွားလာလှည့်လည်ကာ၊ ရာဇဝင်ရေးရာဗဟုသုတ များကိုရှာမှီး၏။ သုတေသနအမှုများပြု၏။ တိမ်မြုပ်နေ သော ရှေးဟောင်းဒဏ္ဍာရီနှင့် ပုံပြင်များကိုဖော်ထုတ်မှတ် သား၏။ ထို့နောက် သူ့ဖခင်၏နန်းတွင်းမင်းမှုထမ်းရာထူး ကို ဆက်လက်ထမ်းဆောင်ရလေသည်။

ဘီစီ ၉၈ ခုနှစ် အသက် ၄၈ နှစ်အရွယ်တွင် ဆူမာချီယန် သည် မတရားပြုမူခြင်းခံရသည်ဟု သူထင်မြင်ခဲ့သည့်ပုဂ္ဂိုလ် တဦးဖက်မှ ဝင်ရောက် ပြောဆိုမိသောကြောင့် ဧကရာဇ် ဝူးက အမျက်တော်ရှကာ၊ သင်းကွပ်ဆုံးမခြင်းကိုခံခဲ့ရလေ သည်။ ထိုအချိန်တွင် သူသည် ရှိချီခေါ် ရာဇဝင်မှတ်တမ်း ကျမ်းကြီးကိုပြုစုရေးသားလာခဲ့သည်မှာ ၇ နှစ်ပင်ရှိလာခဲ့ပြီ ဖြစ်၏။ ထို့ကြောင့် ဆူမာချီယန်သည် သူ၏ရာဇဝင်မှတ် တမ်းကျမ်းကြီးကို ပြီးစီးအောင် ပြုစုချင်သော စိတ်ဆန္ဒ ကြောင့်သာ သူ့ကိုယ်သူသတ်မသေခဲ့ဘဲ၊ ဆိုးရွားခံပြင်းလှ သောမင်းပြစ်မင်းဒဏ်ကို ကြိတ်မှိတ်၍ခံယူခဲ့လေသည်။ ဘီစီ ၉၃ ခုနှစ် အသက် ၅၃ နှစ်သို့ ရောက်သောအခါတွင်ကား ဆူမာချီယန်သည် ရာဇဝင်မှတ်တမ်းကျမ်းကြီးကို အကြမ်း ပြုစုပြီးစီးသွားခဲ့လေသည်။

ဆူမာချီယန်၏ ရှိချီကျမ်းသည် အပိုင်းကြီး ၅ ပိုင်း၊ အ ခန်းငယ်ပေါင်း ၁၃၀ မျှဖြင့်ဖွဲ့ထားသောကျမ်းကြီးဖြစ်၏။ ရှေးဟောင်းဒဏ္ဍာရီလာ မင်းဝါမင်းလက်ထက်မှ ဘီစီ ၁၀၄- ၁၀၁ ခုနှစ်တိုင်ချူးခေတ် (ဧကရာဇ်ဝူးလက်ထက်) အထိ နှစ် ပေါင်း ၃၀၀၀ ကျော်မျှသောကာလအတွင်း တရုတ်နိုင်ငံ၏ ရာဇဝင်ရေးရာအဖြစ်အပျက်များကိုမှတ်တမ်းတင်ထား၏။

ရှိချီကျမ်းရေးသားပြုစုပုံကို ရှေမ၊ ခေါ်မရာဇဝင်ကျမ်း များနှင့်နှိုင်းရှည့်သော် ရှိချီကျမ်းကပိုမို၍ ကျယ်ဝန်းပြည့်စုံ ကောင်းမွန်သည်။ ဆူမာချီယန်သည် တရုတ်လူမျိုးတို့ယနေ့ တိုင် အသုံးပြုဆဲဖြစ်သောပြက္ခဒိန်ကို ပြုပြင်ပေးခဲ့သည်။

**ဆူရီယယ်လစ်ဇင်း**။ ။မံသစက္ခုဖြင့်မြင်ရသောအရာ ဝတ္ထုတို့သည် ပရမတ်သဘောအားဖြင့် အစစ် အမှန် မဟုတ် ချေ။ မျက်မြင်ထင်ရှားတွေ့ကြုံရသောလောကထက် အစစ် အမှန်ဖြစ်သောလောကဟူ၍ရှိသည်။ ထိုအစစ်အမှန်လော ကကို ဘဝင်စိတ်ဖြင့်သာသိနိုင်သည်။ ဤသို့လျှင် ပန်းချီ အ နုပညာတွင် ဆူရီယယ်လစ်ဇင်း ဂိုဏ်းသားတို့က ယူဆကြ သည်။ ယင်းယူဆချက်အရ မျက်မြင်သဏ္ဍာန်ကိုပမာဏ မ ထားဘဲ၊ စိတ်စေတသိက်၌ထင်မြင်လာသောသဏ္ဍာန်ကို ထို



ဆူရီယယ်လစ် ပန်းချီဆရာ ဆယ်လဗာဒိုဒါလီ၏လက်ရာပန်းချီကား

ဆူရီရယ်လစ်ပန်းချီသည် နေ့စဉ်မြင်တွေ့နေကျ အရာဝတ္ထုများ၏ပုံကိုဖျက်၍ရေးဆွဲခြင်းဖြင့် ကြည့်ရှုသူတွင် နေ့စဉ် တွေ့ကြုံခံစားနေရသော ကမ္ဘာလောကကြီးကား သေးနုပ်နုံ့နဲ့စွတကား ဟူသောအာရုံဖြစ်ပေါ် ခံစားစေရန် ရည်ရွယ်သည်။ အရည်ပျော်နေသောနာရီများသည် အချိန်နှင့်စပ်လျဉ်း၍ လူတို့တန်ဖိုးထားလျက်ရှိသော ယူဆချက်များကိုသိမ်ဖျင်းပေါ့ပျက်သွားစေပေသည်။

ဂိုဏ်းသားတို့ကသရုပ်ဖော်ကြသည်။ ဤသည်ကိုပင် ဆူရီယယ်လစ်ဇင်းဟုခေါ်ကြသည်။

ထိုဆူရီယယ်လစ်ဇင်းပန်းချီဂိုဏ်းကို အန်းဒရေး ဗရီတွန်းသည် ပြင်သစ်နိုင်ငံ ပါရစ်မြို့တော်တွင် ၁၉၂၃ ခုနှစ်၌စတင်တည်ထောင်ခဲ့သည်။ ဗရီတွန်းသည် ၁၉၂၄ ခုနှစ်တွင် သူ၏ပန်းချီဝါဒကိုကျေညာရာ၌၊ ဆူရီယယ်လစ်ဇင်းပန်းချီစံနစ်သည် ကျိုးကြောင်းဆက်စပ်မှုကို မလိုက်၊ ရှုပါရုံအလှကိုလည်းမပြ၊ လူတို့၏စာရိတ္တနှင့်လည်းမဆိုင်၊ စိတ်တွင် အိပ်မက်ပမာ ထင်မြင်လာသော သဏ္ဌာန်ကိုရေးခြယ်ခြင်းပင်ဖြစ်သည်ဟူ၍ကျေညာခဲ့သည်။ ပီကာဆို၏ ပန်းချီကားသည် ဆူရီယယ်လစ်ဇင်း ပန်းချီဂိုဏ်းသားတို့အား ဩဇာလွှမ်းမိုးသည်ဟုယူဆကြသည်။ ပြင်သစ်ပန်းချီဆရာများ၏လောကတွင် ပီကာဆိုကို ဆူရီယယ်လစ်ဇင်းဂိုဏ်း၏ ဂိုဏ်းအုပ် အနေနှင့်လေးစားကြသည်။ (ပီကာဆို,ပက်ဗလို — ရှု။)

စာပေအနုပညာ၌လည်း ဆူရီယယ်လစ်ဇင်းသည် ပြင်သစ်နိုင်ငံ၌ ခရစ် ၁၉၂၀ ပြည့်နှစ်မှစ၍ထွန်းကားခဲ့သည်။

**ဆူးကောက်ပင်။** ။ဆူးကောက်ပင်သည် ဆူးရှိသော ချုံပင်ကြီးမျိုးဖြစ်သည်။ ရုက္ခဗေဒအလိုအားဖြင့် 'ဆက်ဇယ်ပင်းနီးယား န်ျူးဂါး' ဟုခေါ်သည်။ မျိုးရင်းမှာ 'လီဂူမိနိုးစီး' ဖြစ်သည်။ ပင်စည်နှင့်အကိုင်းအခက်များသည် ချောမွတ်၏။ အရွယ်သည် အလျားလက်မဝက်မှ ၂၄ လက်မအထိရှိသည်။ မေလမှ အောက်တိုဘာလအတွင်း အပွင့်ပွင့်တတ်သည်။ ပွင့်ညှာမှာ ၃ လက်မမှ ၄ လက်မအထိ ရှည်သည်။ အပွင့်အရောင်ဝါသည်။ အနီရောင်အနားရှိသော အပွင့်များလည်းရှိသည်။

ဆူးကောက်သီးသည် ငှက်ပျောဖူးပုံသဏ္ဌာန်ရှိ၍ ထိပ်ဖျားချွန်သည်။ အသီးထဲ၌အစေ့များရှိသည်။ အစေ့သည် အသီး၏ပုံသဏ္ဌာန်အတိုင်းပြားသည်။ ဆူးကောက်ပင်များကို ရခိုင်ကမ်းရိုးတန်းနှင့် တနင်္သာရီ ကမ်းရိုးတန်းတလျှောက်တွင်တွေ့ရသည်။ ကပ္ပလီကျွန်း၌လည်းတွေ့ရသည်။ ဆူးကောက်အသီးနှင့် ဆူးကောက်ရိုးများကို ထုထောင်း၍ ငါးဖမ်းရာတွင် အဆိပ်အဖြစ်အသုံးပြုတတ်ကြသည်။



ဆူးကောက်ပင်၏အရွက်နှင့်အသီးအပွင့်များ

ဆူးကောက်နက်ဟုခေါ်သော အပင်တမျိုးလည်းရှိသေးသည်။ ရုက္ခဗေဒအလိုအားဖြင့် ထိုအပင်ကို 'ကက်ပါးရစ် ဆက်ပီးအားရီးယား' ဟုခေါ်သည်။ မျိုးရင်းမှာ 'ကက်ပါရီဒေးစီအီး' ဖြစ်သည်။ ချုံပင် သို့မဟုတ် အပင်ငယ်မျိုးဖြစ်၍၊ ခြောက်သွေ့သောဒေသတွင် ပေါက်ရောက်သည်။ ဆူးကောက်နက်အမြစ်ကို အဖျားဖြတ်ဆေးအဖြစ်အသုံးပြုတတ်ကြသည်။

**ဆူးတွင်းပစ် ဆရာတော်**။ ။ဆူးတွင်းပစ် ဆရာတော်အကြောင်းကား ဤသို့တည်း။ သက္ကရာဇ် ၇၁၃ ခုနှစ်တွင်နန်းတက်သော ဆင်ဖြူလေးစီးရှင် ကျော်စွာမင်း လက်ထက် ကျောင်းကြီး သာယာစွာဆောက်လုပ်၍ မည်သည့်ပုဂ္ဂိုလ်ဟု မရည်မတင်ဘဲ ကျော်စွာကျောင်းဟု ထား၏။ 'သီလဝန် ဂုဏဝန်မှစ၍ ရဲရင့်တည်ကြည်သောပုဂ္ဂိုလ် တက်နေပေစေ' ဟူသော သတင်းစကားပျံ့နှံ့စေလျက်ထားသည်။ ထိုကျောင်း၌ မြောက်ဖက်သာစည်ရွာသား ပုဂ္ဂိုလ်တဦး တက်နေလေ၏။

ထိုပုဂ္ဂိုလ်၏ ဇာစ်မြစ်ကား ဤသို့ဖြစ်၏။ သာစည်ရွာ၌ အသည်တဦးသည်သားငယ်ကိုကျောင်းမှာစာသင်အပ်ထားသည်။ ကျောင်းသို့မသွားမနေလို၍ ခြိမ်းခြောက်အံ့သောငှာ ဆူးချုံထက်၌ တွန်းလိုက်၏။ သူငယ်လည်း ထွက်ပြေးလေ၍၊ အိမ်သို့မလာ၊ ကျောင်းမှာ အမြဲနေလေ၏။ မိဖအထံ မလာရောက်ဘဲ တစတစ စာပေသင်ကြား လွင့်ပါးလေသော်၊ ရှင်ကပဥ္စင်းဖြစ်၍၊ ပုဂံပြည်ထဲသို့ ရောက်လေ၏။ ဥာဏ်ပညာရှိလှ၍ စာပေရမိသောကြောင့်၊ ရောက်ရာအရပ်တိုင်းမှာ ဆရာကြီးတို့ ခြီးမြှင့်မစသဖြင့် ကျော်စောထင်ရှားလေသတည်း။

ထိုအခါ မိဖတို့လည်း ကာလလျှားသဖြင့် သေရှင်မသိမြော်ခေါ် လျက်နေကြ၏။ ပုဂံပဥ္စင်းငယ်တပါး ကျမ်းဂန်တတ်မြောက်ကျော်စောသည်ကို ကြားလေသော်၊ ငါတို့သားပင်ဖြစ်မည်အတွေးအထင်နှင့် အဖလိုက်လေ၍၊ ပုဂံမှာတွေ့လျှင် သားပဥ္စင်းကို လုပ်ကျွေးမွေးမြူ၏။ စာပေကြိုးစားသင်ကြားစဉ် မည်သို့မျှမဆို၊ ကျွေးမွေးတိုင်းသာ ဆွမ်းပန်း သုံးဆောင်၏။ အခါတပါး၌ လုပ်ကျွေးသောအဖကို ယနေ့ဆားငန်သည်၊ ယနေ့ဆားပေါ့သည်အစရှိသဖြင့် ပြောဆိုဖန်များလျှင်၊ အလျှင်ရှေး၌ အမောင်မည်ကဲ့သို့မျှမဆို၊ ယခုမှဆိုဖန်များသည်ဟု အဖကဆို၏။ အလျှင်ရှေး၌ စာပေမကျ၊ ယခုမှစာပေကျ၍ ကိုယ်လက်ဖြည့်တင်းလိုသဖြင့်ဆိုမိပေသည်ဟု သားပဥ္စင်းကဆို၏။

ထိုစကားကိုအဖကြားလျှင် ယင်းသို့တပြီးကား၊ အမောင်အမိလည်းမျှော်တလှလေပြီ။ ရပ်ရွာသို့ပြန်၍မျက်နှာပြပါဟု အဖကဆိုသော်၊ မြောက်ဖက်ရွာသို့ ပြန်မည်လာကြသည်။ ပင်းယမြို့သို့ ဘုရားပုထိုးရှိခိုးအံ့သောငှာ ဝင်သွားသဖြင့်၊ ထိုကျောင်းအနီးသို့ရောက်၍ အထက်ကဖော်ပြခဲ့သောသတင်းစကားပျံ့နှံ့သည်ကိုကြားလျှင် ထိုကျောင်းသို့ တက်နေလေ၏။

အစောင့်အရှောက်တို့လည်း တက်နေသည်ကိုမြင်၍ မင်းအားလျှောက်ထားကြ၏။ မင်းလည်း စတုရင်္ဂဗလအမတ်ကြီးကို စုံစမ်းချေစေလွှတ်လျှင်၊ အမတ်ကြီးသွား၍၊ ထိုပုဂ္ဂိုလ်ကို ပါဠိအဋ္ဌကထာဋီကာကျမ်းဂန်ခက်ရပ်ခက်ဆစ်မေးမြန်းစုံစမ်းတိုင်းပင် ရရမိမိရှိ၍ မင်းအားအကြောင်းပြန်ကြားသဖြင့် ထိုကျောင်းကို ထိုပုဂ္ဂိုလ်အား တင်လှူလေ၏။

ငယ်စဉ်ကအကြောင်းကိုစွဲ၍ ဆူးတွင်းပစ် ဆရာတော်ဟု တွင်သည်။ ရဟန်းမည်ကား အရှင်နာဂိတမည်လေသတည်း။ ထိုဆရာ သဒ္ဒသာရတ္ထဇာလိနီသဒ္ဒါငယ်ကျမ်းကို စီရင်၍ ယခုထက်တိုင်ထင်ရှားရှိ၏။ ထို့ကြောင့် သဒ္ဒသာရတ္ထဇာလိနီကျမ်းကို အရှင်နာဂိတပြုသည်ဟု ပိဋကတ်သမိုင်း၌ဆိုလေသည်။ ထိုကျမ်းသည် သဒ္ဒါဖက်ဆိုင်ရာတွင် ကျေးဇူးများသောကျမ်းဖြစ်သည်။

ထိုဆရာလက်ထက် မူရနှစ်ပါးတွင် စာပေသင်ကြားသောဂန္ထဓူရရဟန်းလည်း အများရှိ၏။ ကမ္မဋ္ဌာန်းဘာဝနာ စီးဖြန်းသော သက်ကြီးရွယ်ရင့် ဝိပဿနာဓူရ ရဟန်းလည်း တထောင်လောက်စဉ်များသည်ဟူ၏။ အလုပ်အကျွေးအဖကိုလည်း သဒ္ဓေးအရာပေး၍ ခြီးမြှောက်သဖြင့် ယခုတိုင်သဒ္ဓေးရွာ သာစည်ဟု တွင်သတည်း။

ဦးကြီးဖေ

**ဆူးပုပ်ပင်။** ။ဆူးပုပ်ပင်ကို ရုက္ခဗေဒအလိုအားဖြင့် 'အကေးရှား အင်ရှား' ဟုခေါ်သည်။ မျိုးရင်းမှာ 'လီဂူမီနိုးစီအီး' ဖြစ်သည်။ ဆူးပုပ်ပင်သည် ချုံပင်မျိုးဖြစ်သည်။ အရွက်သေး၍ အကိုင်းအခက်များ၌ ဆူးများရှိသည်။ အရွက်အနံ့မှာပြင်း၏။ အပွင့်ဝါ၏။ ဩဂုတ်လမှ အောက်တိုဘာလအတွင်း ပွင့်သည်။ သီးတောင့်များသည် ၄ လက်မမှ ၆ လက်မခန့်ထိ ရှည်၏။ ဆူးပုပ်ရွက်နုများကို အစိမ်းလိုက်သော်၎င်း၊ ချက်ပြုတ်၍သော်၎င်း စားသုံးကြသည်။

ဆူးပုပ်ပင်၏အခက်အရွက်နှင့်အပွင့်များ



**ဆူးရစ်ပင်။** ။ဆူးရစ်ပင်ကို ရုက္ခဗေဒအလိုအားဖြင့် 'အကေးရှား ပင်နာတာ' ဟုခေါ်သည်။ မျိုးရင်းမှာ 'လီဂူမီနိုးစီအီး' ဖြစ်သည်။ ဆူးရစ်ပင်သည် ဆူများရှိသောချုံပင်ကြီးမျိုး ဖြစ်သည်။ နွယ်၍တက်တတ်သည်။ အရွက်အနံ့မှာပြင်း၍၊ ထိုအနံ့ဖြင့် ဆူးရစ်မှန်းသိသာသည်။ ဩဂုတ်လမှ အောက်တိုဘာလအတွင်း ပွင့်သည်။ သီးတောင့်များသည် ၄ လက်မမှ ၇ လက်မအထိ ရှိသည်။ အရွက်သည် ဆေးဖက်ဝင်သည်။ ဆူးရစ်ပင်ကို မြန်မာနိုင်ငံအရပ်ရပ်၌ တွေ့ရသည်။ ဆူးရစ်ကို ဆူးပုပ်ကြီးဟူ၍လည်း ခေါ်သည်။



ဆေးဖက်ဝင်သည့် ဆူးရစ်ပင်



ရွက်ချင်းဆိုင်၍ပေါက်သော ဆူးလေပင်

**ဆူးလေပင်။** ။ရုက္ခဗေဒအလိုအားဖြင့် ဆူးလေပင်ကို 'တရိုင်ဗျူလပ် တာရက်စတြစ်' ဟုခေါ်သည်။ မျိုးရင်းမှာ 'ဇိုင်ဂိုဖိုင်လေးစီအီး' ဖြစ်သည်။ ထိုအပင်သည် လမ်းဘေးနှင့် လယ်မြေယာမြေများတွင် တွေ့ရတတ်သော တနှစ်ခံသို့မဟုတ် နှစ်ကြာခံ ပေါင်းပင်မျိုး ဖြစ်သည်။ အမွေးထူသည်။ မြေပေါ်တွင်လဲ၍ ပေါက်တတ်သည်။ အရွက်များသည် ငှက်မွေးသဏ္ဌာန် ဆိုင်ပေါက်တတ်၍ တရွက်နှင့်တရွက် မတူကြပေ။ စက်တင်ဘာလမှ မတ်လအတွင်း အပွင့်ပွင့်၏။ ဝါသောပွင့်ဖတ်များရှိသည်။

**ဆူးလေဘုရား။** ။မြန်မာနိုင်ငံရှိ ထင်ရှားသောစေတီပုထိုးတို့တွင် ဆူးလေဘုရားသည် အပါအဝင်ဖြစ်၍၊ ရန်ကုန်မြို့၏အလယ်ဗဟိုတွင် တည်ရှိသည်။ ထိုစေတီတော်ကို မဏ္ဍိုင်ပြု၍ အရှေ့ဖက်မှအနောက်ဖက်သို့ မဟာဗန္ဓုလလမ်းသည်၎င်း၊ တောင်ဖက်မှမြောက်ဖက်သို့စေတီတော်၏ဘွဲ့မည်ကိုအစွဲပြု၍ ခေါ်တွင်သော ဆူးလေဘုရားလမ်းသည်၎င်း၊ အသီးအသီး ဖြတ်သန်းတည်ရှိသည်။ ဆူးလေဘုရား၏ အရှေ့မြောက်ထောင့်၌ မြို့တော်ခန်းမရှိ၍၊ အရှေ့တောင်ထောင့်တွင်မူ လွတ်လပ်ရေးကျောက်တိုင် စိုက်ထူထားရှိသော ဗန္ဓုလပန်းခြံနှင့် တရားလွှတ်တော်ချုပ်စသည်တို့ တည်ရှိသည်။ ဆူးလေဘုရားသည် ရွှေတိဂုံဘုရားမှ ၉,၂၇၅ ပေခန့် ကွာဝေး၍၊ ဗိုလ်တထောင်ဘုရားမှမူ ၅,၁၀၂ ပေခန့် ကွာဝေးသည်။

ဆူးလေဘုရားသမိုင်းနှင့် စပ်လျဉ်း၍၎င်း၊ ဘွဲ့အမည်နှင့် စပ်လျဉ်း၍၎င်း၊ အယူအဆ အမျိုးမျိုး ကွဲပြားလျက်ရှိသည်။ အများနားလည်ယူဆထားကြသော ဘုရားသမိုင်းမှာ ရွှေတိဂုံဘုရားသမိုင်းများတွင် ထည့်သွင်း ဖော်ပြထားသည့်အတိုင်းဖြစ်၏။ 'တဖုဿနှင့်ဘလ္လိကညီနောင်တို့သည် မြတ်စွာဘုရားပေးသနားတော်မူလိုက်သော ဆံတော်ရှစ်ဆူကို ဥက္ကလာပ



ဒုတိယကမ္ဘာစစ်ပြီးနောက် ဖူးမြင်ရသော ဆူးလေစေတီတော်

မင်းကြီးထံ ဆောင်ယူလာ၍ စေတီတည်ထား ကိုးကွယ်ရန် ဘူမိနက်သံမြေဖြစ်သော သိင်္ဂုတ္တရကုန်းကို ရှာဖွေကြသည်။ ရုတ်တရက် မတွေ့နိုင်သဖြင့် သိကြားမင်း မနေပိုင်သောကြောင့် ဝိသကြုံနတ်သားကို စေလွှတ်၍ တောရှင်းစေသည်တွင် သိင်္ဂုတ္တရကုန်းမြေကို တွေ့ရှိကြ၏။ သို့သော်လည်း အခြားသောဘုရားရှင်သုံးဆူတို့၏ ပရိဘောဂတော်များတည်ရှိရာတွင် ဆံတော်များကို ဌာပနာ၍ စေတီတည်ရမည်ဖြစ်ရာ ထိုနေရာကို မသိကြဖြစ်သဖြင့် ဆူးလေစေတီ တည်မည့်ကုန်းနေရာ၌ ဥက္ကလာပမင်းနှင့်တကွ လူနတ်အများ စုဝေးကြပြီးလျှင် ဆူးလေနတ်ကြီးအပါအဝင် နတ်ကြီးလေးပါးကို ပင့်ခေါ်၍မေးသည်တွင်မှ ထိုနေရာကို တွေ့ရှိသောကြောင့် ရွှေတိဂုံစေတီတော်ကို တည်ကြ၏။ ထိုနောက် နတ်လူအများ စုဝေးကြရာ ကုန်းမြေ၌ အထိမ်းအမှတ် စေတီတဆူတည်၍ စုဝေးစေတီ တွင်၏။ ဆူးလေဟူသောအမည်မှာ စုဝေးမှ တဆင့် ကာလရွေ့လျော့သဖြင့် ပြောင်းလဲလာသော အမည်ဖြစ်၏။' ဟုဆိုကြသည်။ သို့သော် ဓမ္မစေတီမင်းလက်ထက် သက္ကရာဇ် ၈၃၈ ခုနှစ်လောက်တွင် (ခရစ် ၁၄၇၅ ခုနှစ်) ရေးထိုးခဲ့သော ရွှေတိဂုံသမိုင်းကျောက်စာ၌ စုဝေးစေတီအကြောင်း စိုးစဉ်းမျှမပါရှိချေ။ အခြားသမိုင်းအဆိုတရပ်မှာ ကျိုက္ကစံဘုရားသမိုင်းနှင့် အရှင်တိလောကဉာဏ ရေးသားပြုစုသော ဆူးလေစေတီတော်သမိုင်းတွင်ပါရှိသည့် အာဘော်အရ ဤသို့ဖြစ်၏။ 'တတိယသင်္ဂါယနာတင်ပွဲကို ပါဋလိပုတ်ပြည်၌ကျင်းပပြီးနောက် ဗုဒ္ဓသာသနာသည် သီဟိုဠ်ကျွန်းသို့ ရောက်ရှိလာ၏။ သာသနာသက္ကရာဇ် ၂၃၉ ခုနှစ်ခန့်တွင် ရဟန္တာ ၈ ပါးသည် သီဟိုဠ်ကျွန်းကို ရေတိုက်စားခြင်းဘေးမှ ကာကွယ်နိုင်သော ပတ္တမြားကို ယူဆောင်ရန် သထုံမြို့သို့ ရောက်လာ၏။ သို့သော် ထိုပတ္တမြားသည် သံလျင်မြို့သို့ ရောက်ရှိနေသည့်အတွက် သံလျင်မြို့သို့ သွားယူရလေသည်။ ရဟန္တာရှစ်ပါးသည် ထိုပတ္တမြားကို ရရှိသဖြင့် တုံ့ပြန်ကျေးဇူးပြုလို၍ သီဟိုဠ်ကျွန်းမှဆောင်ယူခဲ့သော မြတ်စွာဘုရား၏ ဆံတော်နှင့် ဓာတ်တော်အချို့ကို သံလျင်မင်း ဘောဂသေနအားပေးလေ၏။ ထိုနောက် ထိုရဟန္တာရှစ်ပါး ကြည့်ကြပ်ဦးစီး၍ပင် ထိုဆံတော်ဓာတ်တော်များကို စေတီတည်ကြ၏။ ရှေးဦးစွာ သိင်္ဂုတ္တရကုန်း၏ အရှေ့မြောက်ယွန်းတွင် ဆံတော် ၆ ဆူနှင့် ဓာတ်တော်အချို့ကို ဌာပနာ၍ ကျိုက္ကစံစေတီတည်၏။ ထိုနောက် ရွှေတိဂုံဘုရား တောင်ဖက်အနီးတွင် ရဟန္တာသိမ်တော်ကြီးတခုနှင့် ယခုအခါ သိမ်ကြီးဈေးအနီးရှိ သိမ်တော်ကြီးတခုကို တည်ဆောက်ကြ၏။ ရွှေတိဂုံဘုရားအနီးရှိ သိမ်တော်ကို ဆောက်နေဆဲကာလ၌ ရဟန္တာတပါး ပျံလွန်တော်မူသဖြင့် သံလျင်မင်းသည်စိတ်ငယ်အားလျော့ပြီးလျှင် ဆူးလေစေတီကို တည်ရန်ကိစ္စတွင် အသုတ်အမည်ရှိ မိမိ၏အမတ်ကြီးကို တာဝန်လွှဲတော်မူသည်။ အသုတ်အမတ်ကြီးဦးစီး၍တည်ခြင်းကြောင့် စေတီ၏ဘွဲ့မည်မှာ ကျိုက်အသုတ်ဟု တွင်သည်။ ထိုစေတီကိုပင် ယခုအခါ ဆူးလေစေတီဟုခေါ်ကြသည်။' ကျိုက်အသုတ်ဟူသော အမည်ကို မှန်ဘုရင် ရာဇာဓိရာဇ်အရေးတော်ပုံကျမ်း၌ ဟံသာဝတီမင်း ဆင်ဖြူရှင်အမည်ခံ ဗညားဦးသည် ဒဂုံဆံတော်ရှင်သို့ ဖူးမြင်ပူဇော်ရန်လာသော် 'အသုတ်ဘုရားရှင် ပြာဋိဟာပြတော်မူ၏။' ဟူ၍၎င်း၊ ဗညားနွဲ့ သည် ခမည်းတော်ဗညားဦးကို ပုန်ကန်၍ ဒဂုံသို့ထွက်ပြေးခိုဝင်လာသော် 'ကျိုက်အသုတ်ဘုရားနှင့် ပါရမီဘုရားအကြားတွင် တိုင်ပင်ပွဲရုံးတဲဆောက်၏။' ဟူ၍၎င်း တွေ့ရ၏။ ထိုနောက်တဖန် ဟံသာဝတီဘုရင်မ ရှင်စောပုသည် ဒဂုံစေတီတော်ကို ရွှေချပြီးနောက် ကျိုက်အသုတ်စေတီကိုလည်း ထပ်မံပြုပြင်ချဲ့တွင်တော်မူခဲ့သည်ဟု တွေ့ရှိရပြန်သည်။ ကျိုက်အသုတ်စေတီ၏တည်နေရာကို သမိုင်းအထောက်အထားများနှင့် ချိန်ထိုးကြည့်သောအခါ ယခုဆူးလေစေတီပင်လျှင်၊ ရှေးက ကျိုက်အသုတ်စေတီဖြစ်ခဲ့ကြောင်းကို သိရသည်။ သို့ဖြစ်လေရာ ကျိုက်အသုတ်စေတီမှ အဘယ်ပုံအဘယ်နည်းဖြင့် ဆူးလေဟူသောအမည်သို့ ပြောင်းလဲလာသည်ကို ဆင်ခြင်ကောက်ယူရမည်ဖြစ်၏။

အချို့က ရွှေတိဂုံသမိုင်းတွင် ဆက်စပ်ဖော်ပြထားသည့်အတိုင်း စုဝေးစေတီမှ ဆူးလေစေတီဖြစ်လာသည်ဟုဆို၏။ စေတီတော်၏တည်နေရာမှာ ထိုခေတ်က မှန်တို့ဒေသ ဖြစ်သ

# ဆူးလေဘုရား



၁၉၂၀—၂၁ ခုနှစ်အတွင်းက ရန်ကုန်မြို့လယ်ရှိ ဆူးလေစေတီတော် တောင်ဘက်မှမြင်ခင်း။ ယခုခေတ်ဖူးမြင်ရသောပုံနှင့်နှိုင်းရှည်သော် ထူးခြားချက်များတွေ့မြင်နိုင်ပေမည်။

ဖြင့် မြန်မာအမည်ဖြင့် စတင်ခေါ်ဝေါ်ခဲ့မည်မဟုတ်ကြောင်း သိသာသည်။ အချို့က 'ဆူးလေ' ဟူသည်မှာ မွန်စကား 'စဲလေဟ်' (မြေးလည်းကောင်း) ဟူသောစကားမှ ဆင်းသက်လာသည်ဟူ၍၎င်း၊ 'ဇူလေ' ဟူသောမွန်စကား (နား နေရန်၎င်း) မှ ကူးပြောင်းလာသည်ဟု၎င်း အဆိုရှိပြန်သည်။ ထိုစကား ၂ မျိုးလုံးပင် လက်ခံနိုင်ဘွယ်မရှိချေ။ အချို့က လည်း ကျိုက်အသုတ်စေတီတော်သည် ရှေးအခါက မင်းပြောင်းမင်းလွဲ ခေတ်အမျိုးမျိုးနှင့် ကြုံခဲ့ရသဖြင့် ပြုပြင်ဂရုစိုက်မည့်သူမရှိဘဲ ဆူးလေပင်များ ဝန်းရံဖုံးကွယ်နေသည်ကို နောင်အခါတွင် မြန်မာတို့က ထိုဒေသကို ဆူးလေကုန်း၊ထိုစေတီကို ဆူးလေစေတီဟု ခေါ်တွင်ကြောင်းနှင့်ဟူဆကြ၏။အချို့ကလည်းပါဠိစကား စူဠ (ငယ်သော) မှ ဆင်းသက်လာသည်။ ရွှေတိဂုံဘုရားထက်ငယ်သဖြင့် စူဠစေတီဟု မူလက ခေါ်ဝေါ်ခဲ့ဟန်ရှိသည်ဟု ထင်မြင်ကြ၏။ သို့သော် စူဠဟူသောပါဠိမှာ ဆံတော်ဟူသော အနက်ကိုလည်းရ၏။ မူလဘွဲ့တော် ကျိုက်အသုတ်တွင်လည်း အသုတ်ဟူသော မွန်စကားသည် ဆံတော်ကိုပင်ဆို၏။ ထို့ကြောင့် စူဠစေတီ (ဆံတော်စေတီ) မှ ဆူးလေစေတီဖြစ်လာသည်ဟု ကောက်ယူနိုင်ပေသည်။

ဆူးလေဘုရား၏ ပုံသဏ္ဍာန်မှာ ရန်ကုန်မြို့ရှိ ဘုရားများအနက် တမူထူးခြားလှ၏။ အောက်ခြေမှစ၍ ချယားသီးပိန္နတိုင်သို့တိုင်အောင်ပင် ရှစ်မြှောင့်ထောင့်ချိုးများသာ ဖြစ်သည်။ ပန်းတင်ခုံ၏ အောက်ခြေသည် ရှေးကရှစ်မြှောင့်ပင် ဖြစ်ခဲ့ဟန်တူသော်လည်း၊ ယခုအခါ အဝိုင်းသဏ္ဍာန်ဖြစ်နေသည်။ ပန်းတင်ခုံရှစ်မြှောင့်တွင် တမြှောင့်စီ၌ အရှည် ၂၄ ပေခန့်ရှိသည်။ စေတီတော်၏ဉာဏ်တော်မှာ ပန်းတင်ခုံမှ စိန်ဖူးတော်သို့တိုင်အောင် ၁၄၄ ပေနှင့် ၉ လက်မခွဲရှိသည်။ ဆူးလေစေတီ၏ယင်ပြင်တော်သည် စေတီအောက်ခြေရင်းမှ ယင်ပြင်အစွန်းပတ်လည်နံရံသို့တိုင်အောင် ပေ ၂၀ ခန့်ကျယ်သည်။ စေတီတော်၏စိန်ဖူးတော်သစ်နှင့် ငှက်မြတ်နားတော်တင်ပွဲကို ၁၃၀၉ ခုနှစ်တွင် ကြီးကျယ်စွာ ဆင်ယင်ကျင်းပခဲ့သည်။ ထိုအသစ်မွမ်းမံထားသော စိန်ဖူးတော်နှင့် အလေးချိန် နှစ်ပိဿာ ၅၀ ခန့်ရှိသော ရွှေအစစ်ငှက်မြတ်နားတို့တွင် စီချယ်ထားသော စိန်ကျောက် နီလာ ပတ္တမြားစသည့် ရတနာကျောက်မျက်များသည်ပင် ယခုခေတ်တန်ဘိုးနှင့် ၆ သိန်းကျော်ခန့် တန်သည်။ ရွှေဆည်းလည်း အဟောင်းအသစ် ၂၅၄ လုံးမှာလည်း ခေတ်တန်ဘိုးနှင့် ၄ သောင်းကျော် တန်၏။ ၁၉၄၇ ခုနှစ်တွင် ပဌမဆုံးအကြိမ်အဖြစ် စေတီတော်၏ကြေးစလောင်းနှင့် ၁၂ ပေအကွာမှစ၍ ကိုယ်လုံးပြည့် ရွှေပြားသက်န်းကပ်လှူခဲ့သည်။ လျှပ်စစ်မီးချောင်းရောင်စုံများမှာလည်း ညဥ့်အခါတွင် ရှုမငြီးဘွယ်ထိန်ထိန်ဝင်းနေလေ့ရှိသည်။ စေတီတော်ရှိ ရှေးက သစ်သားဖြင့် ဆောက်လုပ်ခဲ့သော အဆောက်အအုံများကို ယခုအခါ အုဌ်ဖြင့်ဆောက်လုပ်ထားသည်။ မုခ်ဦးတန်ဆောင်းများလည်း လေးမျက်နှာလုံးတွင်ရှိ၏။ ယင်ပြင်ပတ်လည်တွင် ရှေးက သံတံတိုင်းများ ထားရှိခဲ့သော်လည်း၊ ယခုအခါ အုဌ်ဖြင့်ဆိုင်ခန်းများ ဆောက်လုပ်ထားရှိလေသည်။ ဆူးလေစေတီ၏ယင်ပြင်တွင် ကျောက်ပြားများ ခင်းထားသည်။ ဆူးလေဘုရားတွင် အသစ်စိုက်ထူထားရှိသော ဘုရားသမိုင်းကျောက်စာတိုင်တခုရှိ၏။ ယင်းမှာ ရွှေတိဂုံစေတီသမိုင်းနှင့်ဆက်စပ်နေသော စုဝေးစေတီမှ ဆူးလေစေတီဖြစ်လာပုံကိုသာ ရေးထိုးထား၏။

ဆူးလေဘုရားတွင် ထင်ရှားသော မဟာဗောဓိပင်နှင့် ဆူးလေနတ်ကြီးရုပ်တုတို့ရှိ၏။ ဆူးလေနတ်ကြီးမှာ စင်စစ်သော်ကား စေတီတော်စောင့်နတ်မျှသာ ဖြစ်၏။ အချို့ကမူ ရွှေတိဂုံစေတီကိုတည်ရန် မြေနေရာရှာစဉ်က ဆူးလေနတ်ကြီးအပါအဝင်နတ်ကြီးလေးပါးက ညွှန်ပြခဲ့သည်ဟူသော အကြောင်းနှင့်ဆက်စပ်၍ ထိုစဉ်က ဆူးလေနတ်ကြီးကို ယခုထုလုပ်ထားရှိသော ဆူးလေနတ်ကြီးအမှတ်နှင့် ရောနှောယုံကြည်နေကြသည်။ သမိုင်းအစောင်စောင်တွင် ထိုနတ်ကြီးလေးပါး၏အမည်ကိုဖော်ပြကြရာ၌ တခုနှင့်တခုမညီညွတ်ကြချေ။ မွန်သမိုင်းများတွင်လည်း ဆူးလေနတ်ကြီး အကြောင်းကို လုံးဝမတွေ့ရချေ။ မည်သို့ပင်ဖြစ်စေကာမူ ဆူးလေနတ်ကြီးသည် လောကီရေးများတွင် စောင်မကူညီနိုင်သည်ဟု အယူရှိကာ အထူးပူဇော်ပသနေကြသည်။ စစ်မဖြစ်မီခေတ်က 'ပဲခူးမယ်ကြော့ကိုရယင်၊ ပုဆိုးနှစ်ထည်နဲ့ကန်တော့ပါ့မယ်၊ အောင်မယ်မင်း (ဆူးလေနတ်ကြီးရဲ့) မတော်မူလိုက်ပါ' ဟူသော တေးတပုဒ်ပင်လျှင် ခေတ်စားခဲ့ဘူးသည်။ ဆူးလေနတ်ကြီး၏ရုပ်တုမှာ နှုတ်ခမ်းမွေးနှင့် အဘိုးအိုအရွယ် လူစင်စစ်ကဲ့သို့ပင် ထုလုပ်ထားသည်။ ဗြိတိသျှတို့ အောက်မြန်မာနိုင်ငံကို သိမ်းယူပြီးသည့်နောက်တွင် ဆူးလေနတ်ကြီးရုပ်တုသည် ယခုကဲ့သို့ ယင်ပြင်တော်ပေါ်၌ မရှိသေးချေ။ ဆူးလေဘုရားလမ်းနှင့်မဟာဗန္ဓုလလမ်း၏ အနောက်မြောက်ထောင့် ယခုပလီကြီးရှိရာနေရာ၌ နေရသည်ဟု မော်ဘီဆရာသိန်း၏ ရန်ကုန်မြို့ဟောင်း ဆောင်းပါးတွင် ဖော်ပြထား၏။ ၁၉၁၀ ခုနှစ်တွင်ပင် နတ်ရုပ်တုရှိနေသေးသည်ဟုလည်းသိရ၏။ ထိုနောက်ပိုင်းတွင်မှ ဆူးလေယင်ပြင်ပေါ်သို့ ရောက်ရှိလာ၍၊ ထင်ရှားလာသည်ဟု ယူဆရပေသည်။

**ဆူးအက်တူးမြောင်း။** ။ဆူးအက်တူးမြောင်းသည် မြေထဲပင်လယ်ကမ်းခြေပေါ်ရှိ ပို့ဆက်မြို့နှင့် ပင်လယ်နီကမ်းခြေပေါ်ရှိ ဆူးအက်မြို့ကို ဆက်သွယ်ထားသည်။ အာရှတိုက်နှင့် အာဖရိကတိုက်ကြီး နှစ်တိုက်ကို ဆက်စပ်လျက်ရှိ



ကမ္ဘာ့တွင်အရှည်လျားဆုံးဖြစ်သည့် ဆူးအက်တူးမြောင်း၏တစိတ်တဒေသ

နိုဝင်ဘာလ ၁ ရက်နေ့တွင် တူးမြောင်းကို အခမ်းအနားဖြင့် ဖွင့်လှစ်ပြီးနောက်၊ နိုင်ငံပေါင်းစုံမှသင်္ဘော ၆၈ စင်းတို့သည် ဆူးအက်တူးမြောင်းကို ပဌမဆုံးဖြတ်ကူးခဲ့လေသည်။ ရှေ့ဆုံးမှသင်္ဘောတွင် ပြင်သစ်နိုင်ငံဘုရင်မ ယူဇေးနီးနှင့် အင်ဂျင်နီယာ လက်ဆက်တို့ကိုယ်တိုင် စီးနင်းလိုက်ပါခဲ့၏။

ဆူးအက်တူးမြောင်းသည် အလျား ၁၀၁ မိုင်၊ အကျယ် ၁၉၇ ပေခန့်ရှိသည်။ တူးမြောင်းဖောက်လုပ်ရာ၌ ကုန်ကျစရိတ်ငွေမှာ ပေါင် ၁၇,၀၀၀,၀၀၀ ခန့်ဖြစ်သည်။ သင်္ဘောများသည် တူးမြောင်းတဖက်မှ အခြားတဖက်သို့ ရောက်အောင် အချိန် ၁၁ နာရီခွဲနီးပါးမျှ ခုတ်မောင်းရသည်။

ဆူးအက်တူးမြောင်းကို မူလ စတင်ဖောက်လုပ်စဉ်အခါက အီဂျစ်နှင့် ပြင်သစ်အစိုးရတို့က ငွေပင်ငွေရင်း စိုက်ထုတ်ခဲ့သည်။ ထိုနောက် ဗြိတိသျှနန်းရင်းဝန် ဒစ်ဇရေလီလက်ထက်က အီဂျစ်ပိုင်အစုများကို ဗြိတိသျှတို့ကဝယ်ယူခဲ့သည်။ ယခုအခါ ဆူးအက်တူးမြောင်းအုပ်ချုပ်ရေးအဖွဲ့က စီမံအုပ်ချုပ်လျက်ရှိသည်။ တူးမြောင်းအုပ်ချုပ်ရေးအဖွဲ့တွင် ပြင်သစ် ၁၆ ဦး၊ ဗြိတိသျှ ၉ ဦး၊ အီဂျစ် ၅ ဦး၊ အမေရိကန် ၁ ဦးနှင့် ဒပ်ချ ၁ ဦးတို့ပါဝင်ကြသည်။ ဗြိတိသျှတို့သည်

သော ကျွန်းဆက်ကိုဖြတ်၍ ဖေါက်လုပ်သော တူးမြောင်းဖြစ်၍ ပင်လယ်ကူးသင်္ဘောများသည် ဥရောပတိုက်မှအရှေ့ဖက်သို့ သွားလိုသည့်အခါ အာဖရိကတိုက်ကိုလှည့်ပတ်၍မသွားရတော့ဘဲ၊ မြေထဲပင်လယ်မှ ပင်လယ်နီသို့ဖြတ်သန်းကာ အိန္ဒိယသမုဒ္ဒရာသို့ တိုက်ရိုက်ရောက်ရှိနိုင်ကြလေသည်။ ပမာအားဖြင့် အာဖရိကတိုက်ကို ကွေ့၍ သွားရသည့်အခါက လန်ဒန်မြို့မှဘုံဘိုင်မြို့သို့ မိုင်ပေါင်း ၁၁,၀၀၀ ကျော်သွားရ၏။ သို့သော် ဆူးအက်တူးမြောင်းကိုဖြတ်လာရခြင်းအားဖြင့် မိုင်ပေါင်း ၆,၀၀၀ ကျော်မျှသာသွားရသည်။ ထိုကြောင့် မိုင် ၅,၀၀၀ ခန့်မျှခရီးပို၍နီးလာလေသည်။

ရှေးအခါကတည်းက ဆူးအက်ကျွန်းဆက်ကိုဖြတ်၍ တူးမြောင်းဖောက်လုပ်ရန် ကြံစည်စိတ်ကူးခဲ့ကြ၏။ သို့ရာတွင် ၁၈၅၄ ခုနှစ်သို့ရောက်မှ ဖါဒီနန် မားရီး ဒလက်ဆက် ဆိုသူပြင်သစ်လူမျိုး အင်ဂျင်နီယာတဦးသည် အီဂျစ်နိုင်ငံဘုရင်ခံချုပ် ဆာအိ ပါးရှားထံမှ တူးမြောင်းဖောက်လုပ်ရန် အခွင့်ကိုရရှိခဲ့လေသည်။ (လက်ဆက်, ဖါဒီနန် မားရီး ဒ—လည်း ရှု။) ထိုကြောင့် ၁၈၅၉ ခုနှစ် ဧပြီလ ၂၅ ရက်နေ့တွင် ဆူးအက်တူးမြောင်းကို စတင်ဖောက်လုပ်ခဲ့ရာ ၁၀ နှစ်ကြာမှပြီးစီးအောင်မြင်ခဲ့လေသည်။ ၁၈၆၉ ခုနှစ်



၁၈၆၉ ခု နိုဝင်ဘာလ ၁၇ ရက်နေ့တွင် ဆူးအက်တူးမြောင်းဖွင့်ပွဲသဘင်ကို ဆင်ယင်ကျင်းပခဲ့ပုံ




မြေထဲပင်လယ်နှင့်ပင်လယ်နီတို့ကိုဆက်သွယ်ထားသော ဆူးအက်တူးမြောင်း

ဆူးအက်တူးမြောင်းကုမ္ပဏီ၏အစုရှယ်ရာ ၀၀,၀၀၀ အနက် အစုရှယ်ယာပေါင်း ၁၅၃,၅၀၄ အထိတိုးတက်ဝယ်ယူ၍၊ တူးမြောင်းအုပ်ချုပ်ထိန်းသိမ်းမှုအခွင့်အရေးကိုလည်း တိုးတက်ရယူခဲ့လေသည်။

ဆူးအက်တူးမြောင်းမဖေါက်လုပ်မီက မြန်မာနိုင်ငံမှဆန်ကို နိုင်ငံခြားသို့ တင်ပို့ရောင်းချရေး လုပ်ငန်းမှာ ပြောပလောက်အောင် မရှိခဲ့ချေ။ သို့ရာတွင် တူးမြောင်းဖေါက်လုပ်ပြီးသည့်နောက်တွင် အရှေ့နှင့်အနောက်ဆက်သွယ်ရေးမှာ ပိုမို၍ လွယ်ကူလာသည့်အလျောက် မြန်မာနိုင်ငံမှ ဆန်တင်ပို့ရောင်းချသည့် လုပ်ငန်းသည် များစွာတိုးတက်ခဲ့လေသည်။ မြန်မာ့ဆန်သည် ကမ္ဘာ့ဈေးကွက်တွင် မျက်နှာပန်းပွင့်လာလျက် မြန်မာတောင်သူလယ်သမားတို့သည်လည်း စီးပွားဖြစ်ထွန်းလာလေသည်။

၁၈၈၈ ခုနှစ် အောက်တိုဘာလ ၂၉ ရက်နေ့တွင် တူရကီနိုင်ငံ ကွန်စတန်တီနိုပယ်မြို့၌ ချုပ်ဆိုခဲ့သောသဘောတူစာချုပ်အရ ကမ္ဘာပေါ်ရှိနိုင်ငံအားလုံးသည် တူးမြောင်းကို လွတ်လပ်စွာဖြတ်သန်းနိုင်ခွင့်ရှိသည်။

၁၉၆၈ ခုနှစ်တွင် ဆူးအက်တူးမြောင်းကုမ္ပဏီက တူးမြောင်းအုပ်ချုပ်ရေးကို အီဂျစ်အစိုးရသို့ပြန်လည်ပေးအပ်ရမည်ဖြစ်သည်။ သို့ရာတွင် အီဂျစ်အမျိုးသားနိုင်ငံရေးလှုပ်ရှားထကြွလာမှုကြောင့် ဆူးအက်ဒေသရှိ ဗြိတိသျှစစ်တပ်အားလုံးကို လပေါင်း ၂၀ အတွင်းပြန်လည်ရုပ်သိမ်းရန် သဘောတူစာချုပ်တရပ်ကို ၁၉၅၄ ခုနှစ် ဇူလိုင်လ ၂၇ ရက်နေ့တွင်ချုပ်ဆိုခဲ့ကြလေသည်။ ထိုစာချုပ်အရ ဗြိတိသျှစစ်တပ်အားလုံးကို ၁၉၅၆ ခုနှစ် ဇွန်လ ၁၃ ရက်နေ့တွင်ရုပ်သိမ်းခဲ့ပြီးဖြစ်လေသည်။

၁၉၅၂ ခုနှစ်တွင် ဖါရောဘုရင်အား နန်းချ၍ အီဂျစ်ကို သမတနိုင်ငံအဖြစ်ကြေညာခဲ့ပြီးနောက်၊ များမကြာမီ ကာနယ် နက်ဆာသည် အီဂျစ်နိုင်ငံ၏ သမတဖြစ်လာသည်။ ၁၉၅၆ ခုနှစ်တွင် ကမ္ဘာ့ဘဏ်သည်၎င်း၊ အမေရိကန်နိုင်ငံသည်၎င်း၊ ဗြိတိန်နိုင်ငံသည်၎င်း အီဂျစ်နိုင်ငံ အက်ဆွားဝန်ဆည်ရိုး တူးဖေါ်ရေးအတွက် ငွေချေးမည်ဟူသောကတိကို ပြုခဲ့သည်။ သို့ရာတွင် အီဂျစ်နိုင်ငံ၏စီးပွားရေးမှာ မခိုင်မြဲဟုအကြောင်းပြကာ ငွေချေးမည်ဟူသော ကတိကို ရုပ်သိမ်းလေသည်။ ဤအချက်ကိုတုံ့ပြန်သောအားဖြင့် သမတနက်ဆာသည် ၁၉၅၆ ခုနှစ် ဇူလိုင်လ ၂၆ ရက်နေ့ညတွင် အီဂျစ်နိုင်ငံ အယ်လက်ဇန္ဒြီးယားမြို့၌ ကျင်းပသော လူထုအစည်းအဝေးကြီးတွင် ဆူးအက်တူးမြောင်းကို အီဂျစ်အစိုးရက ပြည်သူပိုင်အဖြစ်သိမ်းယူလိုက်ပြီဖြစ်ကြောင်းကြေညာခဲ့လေသည်။ ထိုကဲ့သို့ရုတ်တရက်ကြေညာလိုက်သည်တွင် ကမ္ဘာ့အရပ်ရပ်၌လှုပ်ရှားလာလေသည်။ အထူးသဖြင့် ထိုတူးမြောင်းနှင့်တိုက်ရိုက်သက်ဆိုင်သောနိုင်ငံတို့တွင် များစွာလှုပ်ရှားလာလေတော့သည်။ အဘယ်ကြောင့်ဆိုသော်၊ ဆူးအက်တူးမြောင်းသည် အနောက်နိုင်ငံများ၊ အထူးသဖြင့် ဗြိတိန်နိုင်ငံနှင့်ပြင်သစ်နိုင်ငံများအဖို့ စစ်ရေးနှင့် စီးပွားရေးအရ အလွန်အရေးကြီးသောကြောင့်ပင်ဖြစ်လေသည်။ ကူးသန်းရောင်းဝယ်ရေးတွင်၎င်း၊ ကိုလိုနီနယ်ပယ်များ ထားရှိအုပ်စိုးခဲ့ရာတွင်၎င်း၊ ဆူးအက်တူးမြောင်းသည် များစွာတွင်ကျယ်၍ ခရီးရောက်ခဲ့ပေသည်။ ဆူးအက်တူးမြောင်းကိစ္စ၌ ဗြိတိန်နှင့်ပြင်သစ်တို့က ကန့်ကွက်ထားချက်မှာ မအောင်မြင်ခဲ့ချေ။

**ဆေးခြောက်ပင်။** ။ရုက္ခဗေဒ အလိုအားဖြင့် ဆေးခြောက်ပင်ကို 'ကန္နာဗစ် ဆာတီဗား' ဟုခေါ်သည်။ အိန္ဒိယနိုင်ငံနှင့် တရုပ်နိုင်ငံတို့တွင် ဆေးခြောက်ပင်ကို လျှော်အတွက်သာမက အရွက်နှင့်အပွင့်များအတွက်လည်း စိုက်ပျိုးကြသည်။ ဆေးခြောက်ပင်၏ အရွက်နှင့် အခက်နုကလေးများကို အခြောက်လှန်းသောအခါ၊ ဘင်း ခေါ် မူးယစ်စေတတ်သည့်ပစ္စည်းတမျိုးကိုရသည်။ ဆေးခြောက်ပင်၏ ပန်းပွင့်ရှိရာအခက်အလက်များကို လက်နှင့်ပွတ်၍ချေသော

အခါ အစေးတမျိုးထွက်လာသည်။ ထိုအစေးကို ဆေးတံသောက်ဆေးနှင့်၎င်း၊ တမာကူနှင့်၎င်းရော၍ရှူကြသည်။ ဆေးခြောက်ပင်၏အပွင့်ခြောက် သို့မဟုတ် ပန်းခြောက်ကို ဂံဇာပြုလုပ်ကြသည်။ ဂံဇာနှင့်ဘင်းသည် ရှူရှိုက်စားသုံးသူတို့၏ အာရုံကြောကို ထိခိုက်ပျက်စီးစေတတ်သည်။ ဘင်းသည် (၁) ဘိန်း (၂) ဘင်း (၃) ကဇော် (၄) လှော်ဇာ (၅) အရက်ဟူသောယစ်မျိုးငါးပါးတွင်ပါဝင်သည်။

အပင်ပေါက်ရာဒေသကိုစွဲ၍ ဆေးခြောက်ပင်အမည် အမျိုးမျိုးရှိသည်။ ထင်ရှားသောဆေးခြောက်ပင် သုံးမျိုးမှာ (၁) အိန္ဒိယ ဆေးခြောက် (၂) အမေရိကန် ဆေးခြောက် (၃) အာဖရိက ဆေးခြောက်တို့ဖြစ်သည်။ အိန္ဒိယဆေးခြောက်ကို ဗင်္ဂလားဂံဇာနှင့် ဘုံဘိုင်ဂံဇာဟူ၍ နှစ်မျိုးခွဲထားသည်။ ဗင်္ဂလားဂံဇာကို အိန္ဒိယနိုင်ငံနှင့် အနောက်အိန္ဒိယကျွန်းစုတွင် များစွာအသုံးပြုကြသည်။ယင်းကို အများအားဖြင့် ကာလကတ္တားမြို့မြောက်ပိုင်းနှင့်ဘုံဘိုင်မြို့အရှေ့ပိုင်းတွင် စိုက်ပျိုးသည်။ အမေရိကန်ဆေးခြောက်သည် အိန္ဒိယဆေးခြောက်ကဲ့သို့အစေးမများလှချေ။ ယင်းကို တောင်ပိုင်းနှင့်မြောက်ပိုင်း ကယ်ရိုလီးနား၊ အီလီနွိုင်၊ အင်ဒီယားနား၊ နယူးယော့၊ ဝစ္စကွန်းဆင်း၊ ကင်တပ်ကီး၊ တက်ဆက်နှင့် မိဇူးရီပြည်နယ်တို့မှတင်ပို့သည်။ အာဖရိကတိုက်အရှေ့ဖက်ကမ်းခြေနှင့် အနောက်ဖက်ကမ်းခြေအနီးတို့တွင်ပေါက်သော ဆေးခြောက်ပင်မှ အရွက်နှင့်အပွင့်များကို အများအားဖြင့် ဇန်ဇီဗာမြို့မှတင်ပို့သည်။ ကွန်ဂိုမြစ်နှင့်ဇမ်ဗီဇီမြစ်မှရေသွင်းယူရသော အာဖရိကတိုက်အလယ်ပိုင်းဒေသတွင်ပေါက်သည့် ဆေးခြောက်ပင်မှ အရွက်နှင့် အပွင့်များကိုလည်း ဇန်ဇီဗာမြို့မှပင် တင်ပို့သည်။



လှော်၊ ဘင်းနှင့်ဂံဇာတို့ရရှိရာ ဆေးခြောက်ပင်

ဆေးခြောက်ပင်မှ ဘင်းကို အပူပိုင်းနိုင်ငံများ၌သာ ရနိုင်သည်။ အအေးပိုင်းနိုင်ငံများရှိဆေးခြောက်ပင်မှ ဘင်းကို မရနိုင်ခြင်းမှာ ထူးခြားသည်။ အိန္ဒိယတနိုင်ငံလုံးတွင် ထိုဘင်းကိုပင် ဘိန်းအစားအသုံးပြုကြသည်။ မြန်မာနိုင်ငံတွင် ဆေးခြောက်ပင်များကိုစိုက်ပျိုးနိုင်၏။ သို့ရာတွင် အစိုးရထံမှလိုင်စင်ရမှသာ ထိုအပင်ကိုစိုက်ပျိုးနိုင်သည်။

ငဆေးစမ်း။ ။စမ်း — ရှ။

**ဆေးတံ**။ ။ဆေးတံတွင် ဆေးအိုးနှင့် ဆေးတံရိုးဟူ၍ အဓိကအစိတ်အပိုင်း ၂ ခုပါဝင်၏။ ဆေးအိုးတွင်ဆေးထည့်ရ၍၊ မီးညှိပြီးဖွာလိုက်သောအခါ မီးခိုးများသည် ဆေးတံရိုးမှတဆင့် ဆေးတံသောက်သူ၏ ပါးစပ်ထဲသို့ ရောက်ရှိရလေသည်။ ယခုအခါ လူသုံးများလျက်ရှိသော ဆေးအိုးကို ဗရိုင်ယာပင်၏အမြစ်ဖြင့်ပြုလုပ်၏။ အဆိုပါအသားသည် အလွန်မာကျစ်၍၊ အများအားဖြင့်အကွက်လည်းကောင်း၏။ ဗရိုင်ယာပင်အမြစ်ဖြင့်ပြုလုပ်သော ဆေးအိုးနှင့်တွဲဖက်၍သုံးသည့်ဆေးတံရိုးကို ကော်ဖတ်အမာစား သို့မဟုတ် ပလတ်စတစ်တမျိုးဖြင့်ပြုလုပ်လေ့ရှိသည်။ အမေရိကန်ပြည်ထောင်စုတွင် အလွန်ခေတ်စားသော ဆေးတံတမျိုးမှာကား ပြောင်းဖူးအူတိုင်ကိုထွင်း၍လုပ်ထားသောဆေးအိုး ပါသည့်ဆေးတံပင်ဖြစ်သည်။ ဆေးတံရိုးကိုကား သစ်သားဖြင့်ပြုလုပ်သည်။ အခြားဆေးတံတမျိုးမှာ ဆေးအိုးကိုမြေစေးသို့မဟုတ် ကြွေ သို့မဟုတ် မီးယားရှမ်းခေါ် ၎င်းစေးတမျိုးဖြင့်ပြုလုပ်ထားသော ဆေးတံမျိုးဖြစ်သည်။ ထိုသို့မီးယားရှမ်း၎င်းစေးတမျိုးဖြင့် ပြုလုပ်ထားသော ဆေးတံမှာ လှပ၍နှစ်သက်စဖွယ်ဖြစ်သော်လည်း၊ အလွယ်တကူနှင့် ကျိုးပဲ့တတ်သည်။ အချို့သောဆေးတံများမှာ အမေရိကန်နိုင်ငံ အပူပိုင်းဇုန်၌ ပေါက်ရောက်တတ်သော ကလဗက်ပင်မှ ပြုလုပ်သည့်ဆေးတံများဖြစ်၏။ ထိုဆေးတံများအတွင်းဖက်၌ မြေစေး သို့မဟုတ် မီးခံဒြပ်တခုခုဖြင့်ပြုလုပ်ထားသော သီးခြားဆေးအိုးတခု ပါရှိသည်။ ဂျာမနီနိုင်ငံ၌အသုံးပြုသော ဆေးတံတမျိုးမှာ ဆေးအိုးကိုကြွေဖြင့်ပြုလုပ်လျက် ဆေးတံရိုးမှာ တပေ သို့မဟုတ် တပေကျော်ကျော်ရှည်လေသည်။

ဆေးတံသောက်ရှူခြင်းအလေ့ကိုကား အမေရိကန် အင်ဒီယန်းများကစတင်ခဲ့၏။ ထိုသူများမှတဆင့် လူဖြူများဆီသို့ ဆေးတံသောက်ရှူသည့်အလေ့ ကူးစက်လာခဲ့သည်။



ကရင်အမျိုးသား ဆေးတံများ
ဝဲ ၂ ပုံမှာ ကွက်ပြောက်များဖော်ထားသောဝါးဆေးတံများဖြစ်၍ ယာမှအလယ် ၂ ပုံမှာ မျောက်ရိုးဆေးတံများဖြစ်သည်။ ယာစွန်ပုံမှာ မူ ငွေရိုးတပ်ဆေးတံဖြစ်သည်။

အင်ဒီးယန်းများ သောက်ရှုလေ့ရှိသော ဆေးတံကို 'ငြိမ်းချမ်းရေးဆေးတံ' သို့မဟုတ် 'ကာလုမက်' ဟုခေါ်သည်။ ဆေးအိုးမှာ အနီရောင်သဲကျောက်ဖြင့်ပြုလုပ်ထားသောဆေးအိုးဖြစ်သည်။ ဥရောပတိုက်၌ဆေးတံသောက်ရှုခြင်းအလေ့သည် ဆေးဝါးအဖြစ်ဆေးမြစ်များကို မီးရှို့ ရှုရှိုက်ခြင်းမှစတင်ခဲ့လေသည်။ နှစ်ပေါင်းအတော်ကြာမျှ ဆေးမြစ်များကို ဆေးတံဆေးအိုးထဲသို့ထည့်၍ မီးရှို့ ရှုရှိုက်ခဲ့ကြ၏။ ထိုနောက်မှ ဆေးပင်မှဆေးရွက်များကို ဆေးတံအိုးထဲ၌ ထည့်ကာ ဆေးတံသောက်ရှုခြင်းအလေ့ကို ပြုကျင့်ခဲ့ကြပေသည်။ ဥရောပတိုက်သို့ ဆေးတံစတင်ရောက်ရှိခဲ့သောနှစ်မှာ ၁၅၈၆ ခုနှစ်ဖြစ်၏။ ထိုနှစ်တွင် ဆာဝေါ်လတာ ရော်လေးထံသို့ အမေရိကန် ကိုလိုနီ ဗာဂျင်နီးယားပြည်နယ်မှ ကွန်မန်ဒါ ဆာ ရပ်လိန်း ဆိုသူက ဆေးတံတချောင်းပေးပို့ခဲ့လေသည်။ ထိုအခါမှစ၍ ဥရောပတိုက်တွင် ဆေးတံသောက်ရှုခြင်းအလေ့ ခေတ်စားလာခဲ့လေသည်။ ဆေးတံသောက်ရှုခြင်းအလေ့ ခေတ်စားစအခါက ဥရောပတိုက်သားတို့သည် ဆေးတံများကို ငွေဖြင့်၎င်း၊ ကျူရိုးတပ်သော သစ်ကျားသီးအခွံဖြင့်၎င်း၊ ပြုလုပ်ခဲ့ကြသည်။ ထိုနောက်ကာလမှ ဆေးတံပြုလုပ်ရန်တိုးတက်ကောင်းမွန်သော ပစ္စည်းများကိုတွေ့လာခဲ့ကြပေသည်။

ဆေးတံသောက်ရှုခြင်းအလေ့သည် ကမ္ဘာအနှံ့အပြားခေတ်စားခဲ့၏။ တရုပ်လူမျိုးတို့ သောက်ရှုလေ့ရှိသော ဆေးတံမှာ အလွန် လှပသော သတ္တုတမျိုးဖြင့် ပြုလုပ်ထား၏။ ဆေးအိုးမှာ သေးသေးငယ်ငယ်လေးဖြစ်သည်။ အက်စကီးမိုးလူမျိုးများကား ဆေးတံသောက်ရှုခြင်းအလေ့ကို ၁၀၀၀ ပြည့်နှစ် နှစ်ဦးလောက်ကတည်းက တတ်မြောက်ခဲ့ကြသည်။ ယင်းအက်စကီးမိုး လူမျိုး တို့သည် ဆေး တံ ကို ကျောက် တုံးနှင့်အရိုးများမှ လှပစွာ ထုထွင်းယူကြသည်။

မြန်မာနိုင်ငံတွင်လည်း ဆေးတံသောက်ရှုခြင်းအလေ့သည် အလွန်ခေတ်စားခဲ့၏။ သက္ကရာဇ် ၁၁၄၃ ခုနှစ်တွင် နန်းတက်သော ဘိုးတော်ဘုရားလက်ထက်တွင် နန်းတွင်းစာဆိုတော်တဦးဖြစ်သူမယ်ခွေသည်

'ဆေးတံတို တညီလောက်
ရောသောက်တော့ပေး။
မယူလိုက်က မိုက်လို့ထင်
ယူလိုက်ပြန်က ကြိုက်လို့ထင်
သောက်စေချင်၊ ကုတင်တွင်ထောင်ခဲ့ကွဲ
ညီနွဲ့ရှဲလေး' ဟုဆေးဘံနှင့်စပ်လျဉ်း၍ ဒွေးချိုး



ချင်းအမျိုးသား ဆေးတံထူးများ
ဝဲ ၂ ပုံမှာ ဟာကနှင့်လူရှေချင်းတို့၏ဘက်ကာ (သို့မဟုတ်) တွီဗာခေါ် ဆေးတံများဖြစ်၍ ကျန်ပုံတို့မှာ လွင်ပြင်ချင်းတို့၏ ဗိဗာ (သို့မဟုတ်) တိုရှင်ကွက်ခေါ် ဆေးတံများဖြစ်သည်။

တပုဒ်စပ်ဆိုရေးသားခဲ့ဘူး၏။ အဆိုပါဒွေးချိုးကိုထောက်၍ ထိုခေတ်က ဆေးတံကို အမျိုးသမီးများပါသောက်ရှုတတ်သည်ဟုလည်း တွေးတောဖွယ်ဖြစ်၏။ ယခုအခါတွင်မူ မြန်မာနိုင်ငံ၌ ဆေးတံသောက်ရှုခြင်းအလေ့သည် တောရွာမြို့ပါခေတ်စားလျက်ရှိလေသည်။ တောလက်ကျေးရွာများ၌ ယောကျ်ားမိန်းမအများအပြားပင် ဆေးတံသောက်ရှုကြသည်ကိုတွေ့ရ၏။ သူတို့သောက်ရှုကြသော ဆေးတံများမှာ တိုင်းရင်းဖြစ်ဖြစ်သည်။ အချို့ကို ပင်လယ်အုန်းအသားဖြင့်ပြုလုပ်၍၊ အချို့ကို ဝါးမြစ်ဖြင့်ပြုလုပ်ကြ၏။ ပင်လယ်အုန်းအသားဖြင့်ပြုလုပ်သောဆေးတံမှာ အရောင်တင်လိုက်သောအခါ၌ အကွက်အရစ်များပေါ်လာ၍အလွန်လှပသည်။ ဝါးမြစ်ဆုံဖြင့်ပြုလုပ်သောဆေးတံမှာလည်း အလွန်မာကျစ်ခိုင်ခံ့လျက် နဂိုသဘာဝ အဆစ်အမြစ် အဖုအထစ်များဖြင့် တမျိုးလှပပေသည်။ အဆိုပါတိုင်းရင်းဖြစ်ဆေးတံများကို အများဆုံးထုတ်လုပ်သောဒေသမှာ မော်လမြိုင်ခရိုင်၊ ဘီလူးကျွန်း ချောင်းဆုံမြို့အပိုင် ရွာလွတ်ရွာကြီးဖြစ်သည်။ ရွာလွတ်ရွာကြီးတွင် တိုင်းရင်းဖြစ်ဆေးတံလုပ်ငန်းကို အကြီးအကျယ်လုပ်ကိုင်ကြသည်။ ဆေးတံရိုးကိုလုပ်ရာ၌ သစ်သားကိုင်း၊ ကျွဲချိုကိုင်း အသုံးပြုလေ့ရှိကြသည်။ ငွေ သို့မဟုတ် အခြားသတ္တုတို့ဖြင့်လည်း ဆေးတံလုပ်ကြသေးသည်။

တိုင်းရင်းဖြစ်ဆေးတံများမှာ နိုင်ငံခြားစံချိန်ကိုမှီလျက် အဖိုးစားနားလည်းချိုသာလှသည်။ ငွေကြေး တတ်နိုင်သူများသည် နိုင်ငံခြားဖြစ်ဆေးတံများကို အဖိုးကြီးစွာပေး၍ဝယ်ယူသုံးစွဲကြသော်လည်း၊ သာမန်ပုဂ္ဂိုလ်တို့မှာ အဖိုးနှုန်းချိုသာသော တိုင်းရင်းဖြစ်ဆေးတံကိုသာ အသုံးပြုကြသည်။ တနိုင်ငံလုံးခြုံ၍ကြည့်လျှင် နိုင်ငံခြားဖြစ်ဆေးတံများထက် တိုင်းရင်းဖြစ်ဆေးတံများသည် ပိုမို၍တွင်ကျယ်လျက်ရှိပြီကို တွေ့ရလေသည်။

အရှေ့အနီးပိုင်းဒေသများ၌ ဟူးခါးခေါ် ဆေးတံတမျိုးကို သောက်ရှုလေ့ရှိကြသည်။ ထိုဆေးတံမှာ ဟိန္ဒူလူမျိုးများသောက်ရှုလေ့ရှိသော တမာကူအိုးသဏ္ဍာန်ပင်ဖြစ်၏။ လေလုံသောရေတကောင်းတခုကိုရေထည့်၍ ဆေးတံအိုးနှင့်ကျနစွာဆက်စပ်ထား၏။ ပျော့ပျောင်းသော ပြွန်ချောင်းကို ဆေးတံဆေးအိုးမှနေ၍ ရေတကောင်းအတွင်းရှိရေထဲသို့ကျဆင်းစေ၏။ ထို့နောက် ပါးစပ်ကိုက်စရာတပ်ထားသည့် အခြားပျော့ပျောင်းသောပြွန်တခုကို ရေတကောင်းရေပြင်၏အထက်နံဘေးတနေရာ၌ဖောက်၍တပ်ထားသည်။ ဤနည်းအားဖြင့် ဆေးတံကို သောက်ရှုလိုက်သောအခါ၊ ဆေးခိုးများသည် ပါးစပ်ထဲသို့မရောက်ခင် ရေကိုဖြတ်သန်း၍လာရသောကြောင့် စပ်ခြင်း၊ ပူခြင်းမရှိတော့ဘဲ၊ ချိုအေး၍နေလေသည်။

**ဆေးဒန်း။** ။ဆေးဒန်းသည် စိန်သတ္တုနှင့် ကန့်ရောစပ်သော စိန်သတ္တုရိုင်းတမျိုးဖြစ်သည်။ ဆေးဒန်းတွင် ဆေးဒန်းရွှေဝါ၊ ဆေးဒန်းနီဟူ၍ ဆေးဒန်းအမျိုးကွဲများရှိသည်။ ဓာတုဗေဒ အလိုအားဖြင့် ဆေးဒန်းသည် အာစနစ် ဆာလဖိုက် (ဒ) ဖြစ်၍၊ ယင်းကို အင်္ဂလိပ်လို 'အော်ပီမင့်'၊ တနည်း၊ အာစနစ်အဝါဟူ၍ခေါ်သည်။ ဆေးဒန်းကို သဘာဝအလျောက် မြေတွင်းမှတူးယူရနိုင်သည့်အပြင် ဓာတ်တို့ကိုရောစပ်၍လည်း စီမံယူနိုင်သည်။

ဆေးဒန်းရွှေဝါကို အာစနစ်တြိုင်ဆာလဖိုက် (ဒ) ဟူ၍၎င်း၊ အာစနစ်ယပ် ဆာလဖိုက် (ဒ) ဟူ၍၎င်း၊ ဆာလဖိုအာစနီယပ်အင်ဟိုင်ဒြိုက်ဟူ၍၎င်း အမျိုးမျိုးခေါ်ကြ၏။ ဆေးဒန်းရွှေဝါ၌ အာစနစ်ရာခိုင်နှုန်း ၆၁ ပါရှိသည်။ သဘာဝအလျောက် အတုံးအခဲများဖြစ်သည်။ အခြားဆေးဒန်းတမျိုးမှာ ဆေးဒန်းနီဖြစ်၍၊ ယင်းကို အာစနစ် ဒိုင်ဆာလဖိုက် (ဒ) ဟူ၍ခေါ်သည်။ ဆေးဒန်းနီ၌ အာစနစ်ရာခိုင်နှုန်း ၇၀.၁ ပါရှိသည်။ သဘာဝ အလျောက် ခရစ္စတယ်ကလေးများဖြစ်၏။ ဆေးဒန်းနီသတ္တုရိုင်းကို 'ရီအဲလဂါး' ဟူ၍လည်းခေါ်သည်။

ဆေးဒန်းကို ရှေးအခါကတည်းကပင် ဆိုးဆေးပြုလုပ်ရာ၌၎င်း၊ ဆေးဝါးဖော်စပ်ရာ၌၎င်း အသုံးချခဲ့ကြသည်။ ယခုအခါ သားရေနယ်လုပ်ငန်း၊ အထည်ဆေးဆိုးလုပ်ငန်း၊ ပန်းရိုက်လုပ်ငန်း၊ ရာဇာချက်လုပ်ငန်းများ၌အသုံးချကြသည်။ တရုပ်နိုင်ငံတွင် ဆေးဒန်းကို တက်ဖျား ကျဖျားကုသရာ၌သုံးခဲ့ကြ၍၊ တူရကီနိုင်ငံတွင် သားရေအမွေးချုတ်ရာ၌သုံးခဲ့ကြသည်။ မြန်မာနိုင်ငံတွင် အဂ္ဂိရတ်ထိုးရာ၌၎င်း၊ ဆေးဝါးဖော်စပ်ရာ၌၎င်း ဆေးဒန်းကိုအသုံးချကြသည်။ (အာစနစ် — ရှု။)

**ဆေးပေးပညာနှင့် ခွဲစိတ်ပညာ။** ။ဆေးပညာသည် အလွန် အရေးကြီးသော ပညာတရပ်ဖြစ်သည်။ ချမ်းသာသုခနှင့်စိတ်ပျော်ရွှင်မှုရအောင် ဆေးပညာရပ်က ထူးကဲစွာ စွမ်းဆောင်ပေးနိုင်ပေသည်။ ဆေးပညာသည် ရောဂါဝေဒနာများကို ကာကွယ်ရန်သော်၎င်း၊ ကုစားရန်သော်၎င်း၊ သက်သာစေရန်သော်၎င်း ပြုလုပ်ပေးနိုင်သောပညာရပ်ဖြစ်လေသည်။

ဆေး ကုသနည်း အမျိုးမျိုး။ ။အချို့ရောဂါတို့ကိုကုသရာတွင် လူနာကိုဆေးတိုက်၍ကုသကြရ၏။ ထိုဆေးများသည် ကိုယ်ခန္ဓာတွင်းရှိ မူလဆဲများကို မပျက်စီးစေဘဲ၊ လူနာ၏ကိုယ်ခန္ဓာမှ ရောဂါပိုးများကိုသာ သုတ်သင်ရှင်းလင်းပေးသည်။ ကျွန်ုပ်တို့သည် ငှက်ဖျားရောဂါဖြစ်သောအခါ ကွီနိုင်ကိုစားသုံးကြ၏။ ကွီနိုင်သည် ငှက်ဖျားရောဂါပိုးများကို သုတ်သင်ရှင်းလင်းပေးနိုင်သဖြင့် ငှက်ဖျားရောဂါ

အတွက်ဆေးဖြစ်သည်။ (ငှက်ဖျားရောဂါ။ ကွီနိုင် — ရှု။) ဒစ်ဖသီးရီးယား ဆုံဆို့နာကဲ့သို့ ရောဂါများတွင် ရောဂါပိုးများကြောင့်ဖြစ်သော အဆိပ်ကိုပြယ်စေရန် အန်တီတော့ဆင် အဆိပ်ဖြေဆေးကို အသုံးပြုကြသည်။ (အန်တီတော့ဆင် — ရှု။) အချို့ရောဂါများသည် ကိုယ်ခန္ဓာတွင် ဓာတ်ပစ္စည်းတခုခုချို့တဲ့သောကြောင့်ဖြစ်ကြရသဖြင့် ထိုလိုသော ဓာတ်ပစ္စည်းများကို လူနာအားစားသုံးစေ၍ ရောဂါကိုကုစားကြရသည်။ ဤနည်းဖြင့်ကုသရာ၌ အသုံးပြုသောဆေးများမှာ ယခုအခါ တဖြည်းဖြည်းတိုးတက်များပြားလာရကား နောင်အခါအလွန်ကျေးဇူးများဖွယ်ရာ အကြောင်းရှိပေသည်။ အချို့ရောဂါများသည် သင့်တော်သောအစာကို မစားရသောကြောင့်ဖြစ်တတ်၍၊ ထိုရောဂါများကို ကုသရာတွင် အစာကိုတော်သင့်အောင်ပြောင်းပေးရုံဖြင့် ရောဂါဝေဒနာပျောက်ကင်းသွားနိုင်ပေသည်။ ထိုရောဂါများကိုကုသရာတွင် ဗီတာမင်ဓာတ်တို့သည် ကောင်းသောအထောက်အပံ့များဖြစ်လေသည်။ (ဗီတာမင် — ရှု။) ဗိုလတ်တုတ်ကွေးဖျားကဲ့သို့ ရောဂါမျိုးကို ကုသရာတွင် လူနာသည် အိပ်ရာမှမထဘဲ အနားယူနေရသည်။ ဤသို့အနားယူနေခိုက် ကိုယ်ခန္ဓာသည် ချွတ်ယွင်းချက်များကို အလိုအလျောက်ပြုပြင်ပေးလေသည်။ တခါတရံ ဇာရီယာပုတ်မျှတမှုမရှိသဖြင့် အချို့ရောဂါများစွဲကပ်တတ်သည်။ ထိုရောဂါမျိုးကို ကိုယ်လက်လှုပ်ရှားမှု လေ့ကျင့်ခန်းများ ပြုလုပ်ပေးရုံဖြင့် ပျောက်ကင်းစေနိုင်သည်။

'စိတ်ထောင်းလျှင် ကိုယ်ကြေသည်' ဟူသော မြန်မာစကားပုံအရ လူ၏ကိုယ်ခန္ဓာတွင် စိတ်ကြောင့်ဖြစ်ရသောရောဂါများလည်းရှိသည်။ ထိုရောဂါများမှာ စိတ်ပူပန်ခြင်း၊ နှဗ်ကြောများ၌ထိခိုက်ခြင်း၊ ထိတ်လန့်ခြင်း၊ ရောဂါမရှိဘဲ ရောဂါရှိသည်ဟုစိတ်၌စွဲမြဲစွာယုံကြည်ခြင်းစသည်တို့ကြောင့် ဖြစ်သည်။ ထိုရောဂါများကိုကုသရာတွင် ဆိုင်ကီအက်ထရီကုထုံးကုနည်းကိုအသုံးပြုကြရ၏။ (စိတ်ရောဂါပညာ — ရှု။) အဆစ်များကိုနှိပ်နယ်ပေးခြင်း သို့မဟုတ် ကျင်လျှင်စွာကိုင်တွယ်လှုပ်ရှားပေးခြင်းစသည်တို့သည် သွေး သို့မဟုတ် လင့် (သားနံ့ရည်) ကိုမှန်မှန် လှုပ်ရှားသွားလာစေသောကြောင့် အချို့ရောဂါများကိုပျောက်ကင်းစေနိုင်သည်။ တခါတရံ အချို့ရောဂါများကိုကုသရာတွင် အိပ်စရေးရောင်ခြည်ကိုဎင်း၊ ရေဒီယမ်ကိုဎင်း အသုံးပြုကြရသည်။ (အိပ်စရေးရောင်ခြည်။ ရေဒီယမ်နှင့် ရေဒီယမ် သတ္တုကြွခြင်း — လည်းရှု။)

မေ့ဆေးအသုံးပြုနည်းကို လော့လစ္စတာအမည်ရှိသော နာမည်ကျော်ဆရာဝန်ကြီးက စတင်တွေ့ရှိခဲ့သည်။ (လစ္စတာ,ဂျိုးဇက် — ရှု။) ခွဲစိတ်ကုသရာ၌ မေ့ဆေးသည် များစွာအထောက်အပံ့ပြုသဖြင့် ယခုအခါ ခွဲစိတ်ကုသခြင်း အ



ရောဂါဖြစ် ကိုယ်အစိတ်အပိုင်းများကို ခွဲစိတ် ကုသနေပုံ

တတ်ပညာသည် အံ့မခန်းအောင်တိုးတက်လျက်ရှိပေသည်။ ခွဲစိတ်ကုသနည်းတွင် ရောဂါဖြစ်နေသည့် ကိုယ်အင်္ဂါ အစိတ်အပိုင်းများကို ဖြတ်တောက်ဖယ်ရှားပစ်ခြင်း၊ သွေးကြောလေကြောတို့ကိုခွဲ၍ဆေးကြောပစ်ခြင်း၊ နေရာလွဲနေသောအစိတ်အပိုင်းများကို နေရာတကျဖြစ်အောင်ပြုပြင်ပေးခြင်းစသည်တို့ပါဝင်လေသည်။

အနာရောဂါများစွာတို့၏ဇာစ်မြစ်အကြောင်းကို လွန်ခဲ့သည့် ၇၅ နှစ်ခန့်အတွင်းလောက်ကျမှ အသေအချာသိရှိခဲ့ကြလေသည်။ ထိုသို့သိရှိခဲ့ကြသောရောဂါများအနက် ရောဂါပိုးကြောင့်ဖြစ်သည့်အနာရောဂါများသည် အထင်ရှားဆုံးဖြစ်၏။ ထိုရောဂါများသည် ကိုယ်ခန္ဓာတွင် ဗက်တီးရီးယားခေါ် အလွန်သေးငယ်သောအပင် သို့မဟုတ် သတ္တဝါများပေါက်ပွားလာခြင်းကြောင့်ဖြစ်သည်။ ဤအချက်ကို လူဝီ ပါးစတား အမည်ရှိသော ပြင်သစ်ဓာတုဗေဒပညာရှင်ကြီးကတွေ့ရှိခဲ့လေသည်။ (ပါးစတား,လူဝီ — ရှု။) ဒစ်ဖသီးရီးယားရောဂါ၊ တိုက်ဖွိုက်အူရောင်ဖျား၊ တီဗီရောဂါနှင့် အခြားကူးစက်တတ်သည့်ရောဂါများမှာ ရောဂါပိုးတို့ကြောင့်ဖြစ်လေသည်။ (ဗက်တီးရီးယား — ရှု။)

ဆေးကုသရာတွင် အနာမသိ ဆေးမရှိဟူသော စကားအတိုင်း ဆရာဝန်တို့၏ပဌမဆုံး အရေးကြီးသော လုပ်ငန်းမှာ ရောဂါကိုသိရအောင်ရှာဖွေရန်ဖြစ်သည်။ ဤသို့သိရှိရန်အတွက် ဆရာဝန်သည် အနာရောဂါတို့၏သဘောနှင့်လက္ခဏာများကိုသိရပေမည်။ ထိုသို့သိရှိရန် အနာတမီ၊ ဖီဇီဩလိုဂျီနှင့် ရောဂါဗေဒ (ပသောလိုဂျီ) တွင် များစွာကျွမ်းကျင်ရပေမည်။ ကာယဗေဒ (အနာတမီ) မှာ ကိုယ်ခန္ဓာဖွဲ့စည်းဆောက်တည်ပုံအကြောင်းနှင့် စပ်လျဉ်းသော ပညာဖြစ်သည်။ ခန္ဓာကိစ္စဗေဒ (ဖီဇီဩလိုဂျီ) မှာ ကိုယ်ခန္ဓာမည်ကဲ့သို့ အလုပ်လုပ်ပုံအကြောင်းနှင့် စပ်လျဉ်းသော ပညာဖြစ်သည်။ ရောဂါဗေဒမှာ အနာရောဂါကြောင့် ကိုယ်ခန္ဓာတွင်

ပြောင်းလဲမှုရှိပုံ၊ ကိုယ်ခန္ဓာတွင် ရောဂါ ဖိစီးနှိပ်စက်ပုံ အကြောင်းနှင့်စပ်လျဉ်းသောပညာဖြစ်လေသည်။ ဤပညာရပ်များကိုတတ်မြောက်သူသည် လူနာ၏အကြောင်းကိုသိသောအခါ၊ မိမိနှစ်ရှည်လများဆည်းပူးခဲ့သောဗဟုသုတဖြင့် ရောဂါ၏ဇာစ်မြစ်ကိုရှာဖွေနိုင်သည်။ ထို့ကြောင့် ဆရာဝန်များသည် မိမိထံသို့ ဆေးကုသရန်ရောက်ရှိလာသောလူနာများအား ရှေးက ခံစားခဲ့ရသည့် ရောဂါဝေဒနာများအကြောင်းနှင့် လူနာ၏အလေ့အထ၊ အလုပ်အကိုင်၊ နေထိုင်စားသောက်ပုံအခြေအနေတို့ကိုမေးမြန်းလေသည်။ လူနာများကလည်း ရှေးကဖြစ်ပျက်ခဲ့သည့်ရောဂါများသည် ယခုလက်ရှိခံစားနေရသောရောဂါနှင့် မည်သို့မျှမသက်ဆိုင်ဟူ၍ ငြင်း၊ ဆရာဝန်သည် ရောဂါနှင့်မပတ်သက်သောအချက်အလက်များကို စပ်စပ်စုစုသိလိုသည်ဟူ၍၎င်း သဘောမထားဘဲ၊ မေးသမျှကို ခရေစေ့တွင်းကျဖြေကြားသင့်ပေသည်။ သို့မှသာလျှင် ဆရာဝန်သည် အနာရောဂါကိုသိရှိလာသောအခါ၊ ပျောက်ကင်းနိုင်သောရောဂါဖြစ်လျှင် ပျောက်ကင်းအောင်ဆေးဝါးတိုက်ကျွေးခြင်း၊ မပျောက်ကင်းနိုင်သောရောဂါမျိုးဖြစ်လျှင်လည်း ဝေဒနာခံစားမှုနည်းနိုင်သမျှနည်းအောင်ကုသပေးခြင်းစသည်တို့ကိုပြုလုပ်နိုင်ပေသည်။

အထက်တွင်ဖော်ပြခဲ့သော ကုထုံး ကုနည်းတို့ကို ကျွန်ုပ်တို့သည် သိပ္ပံပညာ တိုးတက်ထွန်းကားလာမှုကြောင့် တွေ့ရှိခဲ့ခြင်းဖြစ်ပေသည်။ ဤကုထုံး ကုနည်းများသည် ဆေးအတတ်ပညာတွင် တစိတ်တဒေသအားဖြင့် အကျုံးဝင်လျက်ရှိ၏။ စံနစ်တကျသင်ကြားတတ်မြောက်လာကြသည့်ဆေးသမားဟူသရွေ့တို့သည် ရောဂါသည်တဦးကို ကုသရာတွင် ကျေနပ်ဖွယ်ကောင်းသောကုနည်းရှိလျှင် ထိုနည်းဖြင့်အမြဲတမ်းကုသလေ့ရှိကြသည်။ ဥပမာအားဖြင့်၊ ဆေးသမားတိုင်းသည် ဒစ်ဖသီးရီးယားရောဂါကို အန်တီတော့ဆင် အဆိပ်ဖြေဆေးထိုးပေး၍၎င်း၊ အရိုးကျိုးသွားသည်ကို အရိုးဆက်ပေး၍၎င်း၊ မျက်လုံးအပြင်မှန် ဖောက်ပြန်ခြင်းခေါ် မျက်စိရောဂါကို ဆလင်ဒါပုံမျက်မှန်တပ်ပေး၍၎င်း၊ ကုသပေးပေလိမ့်မည်။ ရောဂါ၏ဇာစ်မြစ်နှင့်ရောဂါကုထုံးကိုမသိသည့်ရောဂါမျိုးတွင်သာ ဆေးသမားတို့သည် တဦးနှင့်တဦး အယူအဆချင်း ကွဲလွဲတတ်ကြလေသည်။

ဆေးပညာကို လူတို့လိုက်စားခဲ့ကြသည်မှာ ရှေးသမိုင်းမတင်မီ ခေတ်ကပင် ဖြစ်၏။ ရှေးအခါက လူရိုင်းတို့၏အကြီးအကဲလုပ်သူများသည် ဆေးဆရာများပင် ဖြစ်ကြသည်။ ရှေးလူရိုင်းတို့၏ အယူအဆအားဖြင့် အနာရောဂါ ဟူသည် မကောင်းသော နတ်မိစ္ဆာတို့၏ဖမ်းစားမှုကြောင့်ဖြစ်သည်ဟုယူဆကြသည်။ ထို့ကြောင့် အနာရောဂါဖြစ်သောအခါ ပျောက်ကင်းချမ်းသာအောင်ဂါထာမန္တရားများကိုရွတ်ဖတ်သရဇ္ဈာယ်ခြင်း၊ နတ်များအား အမျိုးမျိုးပူဇော်ပသခြင်း၊ နတ်ပွဲကျင်းပခြင်းစသည်တို့ကိုပြုလုပ်လေ့ရှိကြသည်။ အနာရောဂါမှပျောက်ကင်းချမ်းသာရာရကြသော ရောဂါသည်များသည် နတ်များမ၍ရောဂါပျောက်ကင်းသည်ဟုယုံကြည်ပြီးလျှင် နတ်များကိုကိုးကွယ်ပသကြလေသည်။ ရှေးအီဂျစ်လူမျိုးနှင့် ဂရိလူမျိုးတို့သည် ရောဂါ ပျောက်ကင်းအောင် နတ်များကိုပူဇော်ပသခဲ့ကြသည်။

'ဆေးပညာ၏ဖခင်' ဟုအမည်တွင်ခဲ့သော ဟစ်ပေါ့ကရာတီဆိုသူသည် ဘီစီ ၄၆၀ ကပေါ်ထွန်းခဲ့၏။ ထိုဆရာကြီးသည် အနာရောဂါနှင့်ရောဂါလက္ခဏာတို့မှာ ဆက်စပ်လျက်ရှိသည်ကိုတွေ့ရှိခဲ့သည်။ ထိုခေတ်က ရောဂါ၏ဇာစ်မြစ်ကို မည်သို့မျှ မသိခဲ့ကြချေ။ ထို့ကြောင့် ထိုခေတ်ကဆေးသမားအမည်ခံ ပုဂ္ဂိုလ်များတွင် ကုထုံးကုနည်း အမျိုးမျိုးပေါ်ပေါက်ခဲ့ကြသည်မှာ အံ့ဩစရာမဟုတ်ချေ။ ဤသို့ကုထုံးကွဲလွဲမှုကို ရှေးခေတ်မှအလယ်ခေတ်၊ အလယ်ခေတ်မှယခုခေတ်သို့တိုင်အောင်တွေ့ရှိနိုင်လေသည်။ ကုထုံးအမျိုးမျိုးတွင် အယ်လိုပက် (ပဋိကုနည်း)၊ ဟိုမီယိုပက် (အနုကုနည်း)၊ ဩစတီယိုပက်နှင့် ကိုင်ရိုပရတ်တစ်ဟူသော ကုထုံးလေးမျိုးမှာထင်ရှားလေသည်။ အယ်လိုပက်ကုနည်းမှာ ရောဂါဖြစ်သည့်အခါဖြစ်ပေါ်သောလက္ခဏာနှင့်မတူသည့်လက္ခဏာကို ဆေးများဖြင့်ဖန်တီး၍ကုယူသောနည်းဖြစ်သည်။ ဟိုမီယိုပက်ကုနည်းတွင် ရောဂါ၏လက္ခဏာနှင့်ဆင်တူသော လက္ခဏာကို ဆေးများဖြင့်ဖန်တီး၍ ကုယူသောနည်းဖြစ်သည်။ ဩစတီယိုပက်ကုထုံးကိုလိုက်နာကြသည့်ဆရာများက ရောဂါသည် အရိုးအနေအထား ပုံပျက်၍ဖြစ်သည်ဟု ယူဆကြလေသည်။ ကိုင်ရိုပရက်တစ်ဆရာတို့၏သဘောအရမူကား၊ ကျောရိုးဆစ် (ဗာတီဗရာ) များ နေရာပျက်ပြီးလျှင်၊ နှစ်ကြောများတွင် သာမန်ဖိနှိပ်အားထက် ပို၍များသွားစေသောကြောင့်ဖြစ်သည်ဟု ယူဆကြလေသည်။



ခွဲစိတ်ကုသပြီး အားပြည့်လာစေရန် အောက်ဆီဂျင်ဓာတ်ငွေ့ကိုရှူစေပုံ

ဆေးပညာမှာ အလွန်အဖိုးတန်သောပညာရပ်တခုဖြစ်ရာ၊

တစုံတယောက်သောသူသည် ဆေးဆရာဖြစ်လိုသည်ဟု ဆိုကြပါစို့။ အသက်မွေးဝမ်းကျောင်းအတွက်သက်သက် ဆေးဆရာဘဝကိုလိုလားသလော၊ သို့မဟုတ် လူသတ္တဝါတို့၏အသက်ကို ကယ်ဆယ်စောင့်ရှောက်လိုသော အာသီသကြောင့်လောဟု မိမိကိုယ်ကိုမိမိဆန်းစစ်ကြည့်ဖို့လိုပေသည်။ လုပ်ငန်း၏တန်ဖိုးကို လေးစားနှစ်ခြိုက်သောအားဖြင့်သာ ဆေးပညာကိုလိုက်စားသင့်ပေသည်။ (ဆေးဖက်ဝင်ပစ္စည်း — လည်းရှု။)

# ဆေးပင်နှင့်ဆေးလိပ်သမိုင်း

**အမေရိကတိုက်တွင် ဆေးပင်စိုက်ပျိုးသည့်လုပ်ငန်းသည် ဝင်ငွေကောင်းသောလုပ်ငန်းတရပ်အဖြစ်ဖြင့်ထင်ရှားသည်။ အမေရိကန်ပြည်ထောင်စုမှထွက်သော ဗာဂျင်းနီးယားဆေးရွက်သည် အကောင်းဆုံးဆေးရွက်ဟူ၍ ကမ္ဘာတွင်ကျော်ကြားပေသည်။ ပြည်ထောင်စုမြန်မာနိုင်ငံသည် နှစ်စဉ် နိုင်ငံခြားမှ စီးကရက်နှင့်ဆေးတံဆေးအမြောက်အမြားကို ဝယ်ယူသုံးစွဲခဲ့ရသဖြင့်၊ ငွေသိန်းပေါင်းများစွာ ပြည်ပသို့ထွက်ရသည်။ သို့ဖြစ်၍ ထိုငွေထွက်ပေါက်ကို ပိတ်သည့်အနေဖြင့် ယခုအခါမြန်မာနိုင်ငံတွင်း၌ ဆေးပင် မျိုးကောင်းမျိုးသန့်များကို တိုးချဲ့စိုက်ပျိုးလျက်ရှိပေပြီ။**

**ဆေးပင်။** ။ရုက္ခဗေဒ နည်းအားဖြင့် ဆေးပင်သည် 'ဆော်လင်နေစီအီး' မျိုးရင်းဝင် 'နစ်ကိုရှီအေးနား' မျိုးစိတ်တွင်ပါဝင်သည်။ သိပ္ပံအမည်မှာ 'နစ်ကိုရှီအေးနားတတ်ဗာကမ်' ဖြစ်သည်။ ဆေးပင်သည် မျိုးစိတ်အားဖြင့် အမျိုးပေါင်း ၅၀ မကပင်ရှိသည်။ သို့သော် ထင်ရှား၍အသုံးများသောဆေးပင်မျိုးမှာ (၁) နစ်ကိုရှီအေးနား ရတ်စတီကာ (၂) နစ်ကိုရှီအေးနား ပါစီကာ (၃) နစ်ကိုရှီအေးနား တက်ဗာကမ်တို့ဖြစ်သည်။ 'နစ်ကိုရှီအေးနားရတ်စတီကာ' သည် အမြင့် ၄ ပေထိရှိ၍၊ အဝါရောင်အပွင့်များပွင့်သည်။ မက္ကဆီကိုနိုင်ငံသည် ထိုဆေးပင်မျိုး၏ မူလပေါက်ရောက်ရာဒေသဖြစ်သည်။ 'နစ်ကိုရှီအေးနား ပါစီကာ' ကို ပါးရှားတပြည်ထဲ၌စိုက်ပျိုးသဖြင့် ကမ္ဘာ့အနောက်ပိုင်းတွင်မတွေ့ရချေ။ ထိုဆေးပင်တွင် အဖြူရောင်အပွင့်များပွင့်သည်။ 'နစ်ကိုရှီအေးနား တက်ဗာကမ်' သည် ၆ ပေ သို့မဟုတ် ၆ ပေထက်ပို၍မြင့်သည်။ ပန်းရောင်သို့မဟုတ် နှင်းဆီရောင်အပွင့်များပွင့်သည်။ အမေရိကန်အလယ်ပိုင်းနှင့် အနောက်အိန္ဒိယကျွန်းစုတို့သည် ထိုဆေးပင်မျိုး၏ မူလပေါက်ရောက်ရာဒေသများဖြစ်သည်။ 'နစ်ကိုရှီအေးနား' မျိုးစိတ်တွင်ပါဝင်သောဆေးပင်အားလုံးသည် တနှစ်ခံပင်မျိုးသာဖြစ်ကြသည်။ ဆေးပင်ကိုစိုက်ပျိုးရာ၌ ရာသီဥတုနှင့်မြေဆီသြဇာချင်းမတူညီလျှင်၊ ဆေးရွက်အမျိုးအစား အထူအပါးနှင့် အသွေးအရောင်တို့သည် များစွာကွာခြားတတ်သည်ကိုတွေ့ရသည်။ ဆေးပင်သည် အများအားဖြင့် ကြမ်းတမ်း၍ အနံ့ပြင်းသောအပင်မျိုးဖြစ်သည်။ ထို့ပြင် စေးကပ်သည့်ပစ္စည်းဖြင့်ပြီးသော အမွေးတိုကလေးများပါရှိသဖြင့် အပင်ကိုကိုင်ကြည့်လျှင် စေးထန်းထန်းရှိသည်ကိုတွေ့ရသည်။ ဆေးပင်အမျိုးကိုလိုက်၍၊ အပင်တွင်အရွက်အနည်းအများရှိသည့်အပြင် အရွက်၏ပုံသဏ္ဌာန်မှာလည်း ဥဖျားသွယ်ပုံမှ လုံ့ဖျားပုံထိ ကွဲပြားလျက်ရှိသည်။ ယင်းတို့သည် ပင်စည်ကို ဝက်အူရစ်ကဲ့သို့ လှည့်ပတ်ကာပေါက်သည့် ရွက်လွှဲများဖြစ်ကြသည့်အပြင် ပင်စည်နှင့်နီးကပ်စွာထွက်လာသဖြင့် ရွက်တံမရှိချေ။ အချို့ဆေးပင်မျိုးတွင် အရွက်သည် ၂ ပေမှ ၃ ပေထိရှည်၍၊ အနံမှာ ယင်း၏ထက်ဝက်ခန့်ရှိသည်။ အချို့ဆေးပင်မျိုးတွင် အရွက်၏အရှည်သည် ၃ လက်မပင်မရှိတတ်ပေ။

အရွက်ခူးချိန်တွင် အရွက်များသည်စိမ်း၍ ယင်းတို့ကိုမနုပ်သေးသမျှ ထူးခြားသောအရောင်နှင့် အနံ့ဟူ၍မရှိချေ။ အပွင့်များသည် ခေါင်းလောင်းပုံသဏ္ဌာန် သို့မဟုတ် ပြွန်ချောင်းပုံသဏ္ဌာန်ရှိသည်။ ပွင့်ချပ်အုံသည် ပွင့်ဖတ်အုံထက်ရှည်လျားစွာထွက်ပေါ်၍၊ ထိပ်တွင်အဝိုက် ၅ ခုရှိသည်။ အပွင့်များသည် အခိုင်လိုက်ပွင့်ကြ၍ သင်းပျံ့သောရနံ့ရှိသည်။ များသောအားဖြင့်အပွင့်များသည် ပန်းရောင်ဖြစ်သော်လည်း၊ အဖြူနှင့် ကြက်သွေးရောင်အပွင့်များလည်းရှိသေးသည်။

## ဆေးပင်စိုက်ပျိုးခြင်း

ဆေးပင်သည် အစေ့မှ စိုက်ပျိုးရသော အပင်မျိုးဖြစ်သည်။ အစေ့များသည် အလွန်သေးငယ်သဖြင့် စားပွဲဇွန်းတဇွန်းစာတွင် အစေ့ပေါင်း ၆၀,၀၀၀ ခန့်အထိပါနိုင်သည်။ အပင်စိုက်ရာတွင် အစပဌမ၌ အစေ့များကိုပျိုးခင်းရသည်။ စတုရန်းကိုက် ၁၀၀ ရှိသောပျိုးခင်းတွင် စားပွဲဇွန်းတဇွန်းစာမျှသောအစေ့အားလုံးကိုပျိုးနိုင်သည်။ အပင်ပေါက်၍ ၂ လခန့်ကြာသောအခါ၊ ဆေးခင်းသို့ပြောင်းရွှေ့ပြီးလျှင် အတန်းလိုက် ကောက်စိုက်သကဲ့သို့စိုက်ပျိုးရသည်။ မြေတကေတွင် ဆေးပင်တသောင်းမှ တသောင်းနှစ်ထောင်ထိစိုက်ပျိုးနိုင်သည်။ မျိုးကောင်းသောဆေးပင်များကို အရိပ်ကျရာတွင်ဖြစ်စေ၊ မိုးကာပတ္တူ သို့မဟုတ် အထည်ကျဲစသည်တို့ကို အထက်မှ ကာရံ၍ဖြစ်စေစိုက်ပျိုးယူကြသည်။ ဤသို့စိုက်ပျိုး၍နှစ်လကျော်မျှကြာသောအခါ၊ အပင်များကိုရိတ်သိမ်းရန် အချိန်ကျရောက်လာပြီဖြစ်၍ အပင်လိုက်



စံနစ်တကျ စီရရီစိုက်ပျိုးထားသော ဆေးခင်းကြီးတခင်း

ရိတ်ယူကြသည်။ သို့သော် ဆေးအကောင်းစားကို ရလိုလျှင် ရင့်သည့်အရွက်များကိုသာ သီးသန့်၍တရွက်ချင်းခူးယူကြရလေသည်။

## ဆေးနှပ်နည်း

မနှပ်သေးမီတွင် ဆေး၌စိမ်းစိုသောအရောင်ရှိ၍၊ အနံ့အသက်လည်းကင်းသည်။ ဆေးနှပ်ရာတွင် နည်းသုံးနည်းရှိသည်။ ပဌမနည်းမှာ ဆေးရွက်များကို တန်းတွင်ဆွဲ၍နေပူလှန်းယူသည့်နည်းဖြစ်သည်။ ဤနည်းဖြင့် ဆေးငုံရန်အတွက် ဆေးရွက်ကောင်းကိုရနိုင်သည်။ သို့သော် ယခုအခါ ထိုနည်းကိုအသုံးမများလှတော့ချေ။ ဒုတိယနည်းမှာ ဆေးနှပ်ရုံများထဲ၌ တလခွဲခန့် ဆေးရွက်ကိုတန်းတင်၍ လေကိုဘေးပေါက်များမှ ဝင်ထွက် သွားလာစေကာ လေသလပ်ခံထားရသည့်နည်းဖြစ်သည်။ စိုစွတ်သောရာသီတွင် ဆေးနှပ်ရုံအတွင်းရှိလေကို ခြောက်သွေ့စေရန် မီးဖိုပေးရသည်။ ဤသို့နှပ်ပေးသောဆေးမျိုးကို ဆေးပြင်းလိပ်အတွက် အသုံးပြုကြသည်။ တတိယနည်းမှာ လေပူဖြင့်ပေါင်းနှပ်ပေးသောနည်းဖြစ်သည်။ ဤနည်းတွင် ဆေးရွက်များကိုတန်းဆွဲထားရှိရာပေါင်းနှပ်ရုံအပြင်ဖက်၌ မီးဖိုပေးပြီးနောက်၊ လေပူသွင်းပိုက်လုံးများဖြင့် အပူတိုက်ပေးရ၏။ များသောအားဖြင့် ပေါင်းနှပ်ရုံအတွင်းရှိလေကို ဖာရင်ဟိုက်ဒီဂရီ ၁၅၀ အထိပူအောင်မြှင့်တင်ပေးထားသည်။ ဤနည်းဖြင့်နှပ်ပြီးသောဆေးတွင် အဝါရောင်ရှိ၍၊ ယင်းကို ဆေးတံနှင့်စီးကရက်ဆေးအတွက် အသုံးများသည်။ ဤနည်းဖြင့်ဆေးရွက်ကိုနှပ်သောအခါ၊ အချိန်များစွာမလိုဘဲ၊ ၃ ရက်မှ ၅ ရက်အထိသာကြာသည်။

နှပ်ပြီးသောဆေးသည် အလွန်ကြွပ်ဆတ်၍ နေသဖြင့် ကိုင်တွယ်လိုက်သည့်အခါကြေသွားတတ်သည်။ ထို့ကြောင့် ဆေးရွက်ကို မိုးရာသီတိုင်အောင် ထိုအတိုင်းပင်ဆွဲချိတ်ထား၍၊ လေတွင်ပါရှိသောရေငွေ့ကြောင့် ဆေးရွက်များပျော့ပျောင်းလာသောအခါတွင်မှ ဆေးကိုင်းမှဆေးရွက်ကိုဆုတ်ယူပြီးလျှင် အကောင်းစား၊ အလတ်စား၊ အညံ့စားဟု သုံးမျိုးခွဲခြားကာ အထုပ်ငယ်များလုပ်ယူသည်။ ထို့နောက် ဆေးထုပ်များကို တခုပေါ်တခုဆင့်၍ အချဉ်ပေါက်လာအောင် တလခန့်ထားရပြန်သည်။ အချဉ်ပေါက်ပြီးသောအခါ၊ ဆေးရွက်ကိုထပ်မံ၍အမျိုးအစားခွဲပြီးလျှင် သိုလှောင်ထားရသည်။ တခါတရံ ဆေးအမျိုးအစား တိုးတက်ကောင်းမွန်လာစေရန်အတွက် လေးငါးခြောက်နှစ်ထိပင် နှစ်ချီခံထားကြလေသည်။

## ဆေးစိုက်ရာအရပ်

ဆေးရွက်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် အနှံ့

အပြားစိုက်ပျိုးကြ၏။ အများအားဖြင့် စစ်ကိုင်း၊ မြင်းခြံ၊ ပခုက္ကူ၊ သရက်၊ တောင်ငူ၊ ပဲခူး၊ သာယာဝတီ၊ ပုသိမ်၊ မအူပင်၊ ဟင်္သာတနှင့် ကျောက်ဖြူခရိုင်များတွင် မြစ်ကမ်းပါး၌ စိုက်ကြသည်။ ရှမ်းပြည်တွင် ဆေးစိုက်ပျိုးရန်သင့်တော်သောနေရာအမြောက်အမြားရှိသော်လည်း၊ ဆေးကို အိမ်သုံးရန်လောက်ကိုသာ ကွက်ကျားစိုက်ကြသည်။ အမေရိကန် ဗာဂျင်နီးယားဆေးကို တောင်ပိုင်း ရှမ်းပြည်၊ မောက်မယ်နယ်၊ လင်းခေးအရပ်၌ စိုက်ပျိုးနိုင်လေသည်။ လင်းခေးအရပ်သည် အမေရိကတိုက်ရှိ ဆေးစိုက်သည့်မြေအမျိုးအစားနှင့်ရာသီဥတုအတိုင်းပင် ကွာခြားခြင်းမရှိသောကြောင့် လင်းခေးဆေးသည် အမေရိကန်ဆေးနှင့်ဆင်တူယိုးမှား မတိမ်းမယိမ်းလိုက်နိုင်သည်။ ဗာဂျင်နီးယားဆေးကို မန္တလေး ရှမ်းကလေးကျွန်း၊ ပျော်ဘွယ် ကြက်သည်ရွာ၊ မြင်းခြံ၊ တောင်တွင်းကြီးတို့၌လည်း စမ်းသပ်စိုက်ပျိုးရာ အောင်မြင်သည်ဟုဆိုသည်။

## ဆေးလိပ်သမိုင်း

ကျွန်ုပ်တို့သည် ဆေးလိပ်မီးခိုးကို အဝတ်ဖြူပေါ်တွင်မှုတ်ထုတ်လိုက်သောအခါ အမည်းစွန်းများထင်လာသည်ကိုတွေ့ရ၏။ ထိုအမည်းစွန်းတွင် အပင်တို့၌ရှိသောသစ်ဆီနှင့် နစ်ကိုတင်ခေါ် အလွန်ပြင်းထန်သော အဆိပ်တမျိုး အနည်းငယ်ပါရှိ၏။ ဤအဆိပ်သည် မည်မျှပြင်းထန်သနည်းဟုဆိုလျှင် အဆိပ်တစက်ကို ယုန်၏အရေပြားပေါ်တွင်တို့လိုက်ရုံမျှနှင့်ပင် ယုန်ကိုသေစေနိုင်လေသည်။

ကျွန်ုပ်တို့သည် ဆေးလိပ်ကိုဖွာရှိုက်လိုက်ကတည်းက ထိုအဆိပ်သည် ဆေးငွေ့နှင့်အတူပါသွားပြီးနောက်၊ နှာခေါင်းလည်ချောင်း စသည်တို့မှ နှလုံးနှင့် နဗ်ကြောများကို သွားရောက်ထိခိုက်လေသည်။ ထို့ကြောင့် ဆေးလိပ်သောက်ခြင်းသည် ကလေးများကိုသာမက လူကြီးများကိုပင် ကျန်းမာရေး၌ထိခိုက်စေသည်။ ဆေးလိပ်ကို စွဲမြဲစွာသောက်သူများ၌ မကြာခဏချောင်းဆိုးခြင်း၊ အလုပ်လုပ်ရာတွင် အမောမခံနိုင်ခြင်းစသော လက္ခဏာများကိုတွေ့ရသည်။ ဆေးတွင်ပါရှိသော နစ်ကိုတင်သည် ဘိန်းကဲ့သို့ လူကိုစွဲစေတတ်သောကြောင့် ဆေးလိပ်ကိုကြာရှည်သောက်ဘူးသူတို့သည် နောင်အခါတွင် ဆေးလိပ်ဖြတ်၍မရဖြစ်တတ်သည်။

ဥရောပအလယ်ခေတ်က ဥရောပတိုက်သားတို့သည် ဆေးအကြောင်းကိုလုံးဝမကြားဘူးခဲ့ကြချေ။ ကိုလံဗပ်နှင့် နယ်သစ်ရှာသူများ အမေရိကတိုက်သို့ ရောက်ခဲ့ပြီးမှ ဥရောပတိုက်သားတို့သည် ဆေးအကြောင်းကိုစတင်သိရှိလာခဲ့ကြသည်။ ထိုအချိန်တွင် အမေရိကတိုက်ရှိ အင်ဒီးယန်း ခေါ်တိုင်းရင်းသားလူမျိုးတို့၌ ဆေးလိပ်ဆေးတံသောက်ခြင်း၊ ဆေးငုံခြင်း၊ ဆေးမှုန့်ရှူခြင်းစသော အလေ့အထများရှိနေလေပြီ။ သမိုင်းစ၍မတင်မီကတည်းဆောက်ခဲ့သော ယင်းတို့၏ သင်းချိုင်းဂူများတွင် ဆေးတံများ တွေ့ရခြင်းကိုထောက်လျှင် အလွန်ရှေးကျသောကာလမှစ၍ ထိုအလေ့အထများရှိခဲ့ကြောင်းမှာ ထင်ရှားလေသည်။ အဆိုပါ အင်ဒီးယန်းတို့ကိုအတုမြင်အတတ်သင်ခဲ့ကြရာမှ ဆေးလိပ်သောက်သည့်အလေ့အထသည် အနောက်တိုင်းများနှင့်တကွ ကမ္ဘာတဝှန်းလုံးသို့တစတစပြန့်ပွားလာလေသည်။ ထိုစဉ်က မက္ကဆီကိုနိုင်ငံတွင် ဆေးပင်ကို 'တိုဗက်ကိုး' ဟုခေါ်ကြသည်ဟုဆို၏။

ဆေးပင်ကို ခရစ် ၁၅၅၈ ခုနှစ်တွင် စပိန်လူမျိုးဆရာဝန်တဦးက ဥရောပတိုက်သို့ ပဋ္ဌမဦးဆုံး ယူဆောင်လာသည်။ နောက်တနှစ်တွင် ပေါ်တူဂီနိုင်ငံရှိ ပြင်သစ်သံအမတ် ဇန်နစ်ကိုဆိုသူက ဆေးစေ့အချို့ကို ပြင်သစ်ဘုရင်မအား လက်ဆောင်အဖြစ်ဆက်သခဲ့သည်။ နောင်အခါ ထိုသူ၏အမည်ကိုအစွဲပြု၍ သိပ္ပံဝေါဟာရတွင် ဆေးပင်ကို 'နစ်ကိုရှီအေးနား' ဟုခေါ်တွင်လာခဲ့လေသည်။

အင်္ဂလန်နိုင်ငံသို့ ဆေးပင်ကိုလက်ဦးပဋ္ဌမယူဆောင်လာသူမှာ ဆာ ဝေါ်လတာ ရော်လီဖြစ်သည်ဟုဆို၏။ ဆေးလိပ်ကို စတင်သောက်ခဲ့စဉ်က ဆာဝေါ်လတာတွင် ရယ်စရာကောင်းသောအဖြစ်အပျက်တခုနှင့် တွေ့ကြုံခဲ့ရလေသည်။ ဖြစ်ပုံမှာ ဆာဝေါ်လာတာရော်လီသည် အခန်းထဲ၌ တကိုယ်တည်းထိုင်ကာဆေးလိပ်သောက်လျက်ရှိစဉ် မီးခိုးများဝေနေသည်ကိုမြင်ရသောအစေတယောက်သည် သူ့သခင်ကိုမီးစွဲလောင်နေပြီအထင်ဖြင့် 'မီး၊ မီး၊ ကယ်ကြပါ' ဟုအလန့်တကြားအော်ပြီးလျှင် ဆာဝေါ်လတာရော်လီကိုယ်ပေါ်သို့ ကမန်းကတန်းနှင့် ရေလောင်းချဘူးသည်ဟုဆိုရိုးစကားရှိသည်။

လက်ဦးအစတွင် အချို့နိုင်ငံများ၌ ဆေးလိပ်သောက်ခြင်းအလေ့အထကို မပြန့်ပွားအောင် တားဆီးရန်ကြိုးစားခဲ့ကြသေး၏။ ပဋ္ဌမဂျိမ်းဘုရင်သည် ဆေးလိပ်သောက်ခြင်းကိုအပြစ်ဆိုထားသော စာတအုပ်ကို ကိုယ်တိုင် ရေးသားထုတ်ဝေ၍၊ သာသနာဖက်ဆိုင်ရာ အာဏာပိုင်တို့ကလည်း ဆေးလိပ်သောက်သူတို့အား သာသနာမှ ကြဉ်ပစ်မည်ဟု ခြိမ်းခြောက်ခဲ့ကြဘူးသည်။ တူရကီနိုင်ငံတွင်မူ သေဒဏ်ပေး၍ပင် ပိတ်ပင်ခဲ့ဘူး၏။ သို့သော် အမိန့်အာဏာများဖြင့် ထိုသို့ပညတ်ခဲ့သည့်တိုင်အောင် ဆေးလိပ်သောက်ခြင်း၊ ဆေးငုံခြင်း၊ ဆေးရှူခြင်းစသောအလေ့အထများသည် တဖြည်းဖြည်းပြန့်ပွားလာခဲ့ရာ၊ ယခုအခါ ကမ္ဘာပေါ်၌ ဆေးလိပ်မသောက်သောလူမျိုးဟူ၍ မရှိသလောက်ပင်ရှားပေသည်။

ဆေးလိပ်သောက်သည့်အလေ့ ပြန့်ပွားလာသည်နှင့်အမျှ ဆေးပင်စိုက်ပျိုးရေးလုပ်ငန်းသည်လည်း တနေ့တခြားကြီးကျယ်လာသည်။ ဆေးပင်အမျိုးမျိုးတွင် အမေရိကန်ပြည်

ထောင်စု၊ ဗာဂျင်နီးယားပြည်နယ်မှထွက်သည့် ဆေးသည် အထင်ရှားဆုံးနှင့် အကောင်းဆုံးဖြစ်၍၊ ကျူးဗားကျွန်းထွက်ဆေးမှာ အနံ့မွှေးကြိုင်သည့်အတွက် ဆေးပြင်းလိပ်များလိပ်ရန်အကောင်းဆုံးဖြစ်၏။ တူရကီနှင့်ဗော်လကန်တိုင်းပြည်များမှထွက်သော တူရကီစီးကရက်နှင့် အီဂျစ်ရှင်းစီးကရက်တို့မှာ ကမ္ဘာကျော် စီးကရက်များပင် ဖြစ်သည်။ ဥရောပတိုက်မှထွက်သည့်ဆေးမှာ မပေါ့လွန်း မပြင်းလွန်းသဖြင့် ဆေးတံသောက်ဆေးပြုလုပ်ရာ၌အသုံးဝင်၏။ ဆူမတြား၊ ဂျားဗားနှင့် ဗော်နီယိုကျွန်းမှထွက်သောဆေးများသည် အရွက်ကြီးခြင်းကြောင့် ထင်ရှား၍၊ ဤဆေးကို ဆေးလိပ်သဘက် (အပြင်ပတ်) ပြုလုပ်ရန်သုံးကြသည်။ တရုပ်နိုင်ငံမှဆေးမှာ ဆေးသားအရောင်ကောင်းသော်လည်း၊ အနံ့အရသာမရှိချေ။ အရောင်ညံ့သောဆေးနှင့် ဤဆေးမျိုးကို စပ်ယူလေ့ရှိကြသည်။ အိန္ဒိယနိုင်ငံမှဆေးကို ဆေးပြင်းလိပ်များလိပ်ရာ၌သုံးကြသည်။ ဆေးကို ရုရှ၊ ဂျပန်၊ ရိုးဒီးဇီးယား၊ အရှေ့အိန္ဒိယကျွန်းစု၌လည်း အကြီးအကျယ်စိုက်ပျိုးကြသည်။ ဆေးကိုနိုင်ငံခြားမှအများဆုံးဝယ်သောတိုင်းပြည်များမှာ ဂျာမနီ၊ ဂရိတ် ဗြိတိန်၊ တရုပ်နှင့်ပြင်သစ်ပြည်တို့ဖြစ်ကြသည်။ ဆေးကို ဆေးလိပ်လိပ်ရာတွင်အများဆုံးအသုံးပြုကြသည်။ ဆေးလိပ်ဆိုရာ၌ ဆေးပြင်းလိပ်၊ ဆေးပေါ့လိပ်နှင့် စီးကရက်တို့ပါဝင်သည်။

ဆေးပြင်းလိပ်။ ။ဆေးပြင်းလိပ် လုပ်ငန်းကိုမြန်မာနိုင်ငံတွင် အနှံ့အပြားလုပ်ကိုင်ကြသည်။ ဆေးလိပ်ရုံ သို့မဟုတ် ဆေးလိပ်ခုံများတွင် ဆေးလိပ်လိပ်သည့်လုပ်ငန်းကို အများအားဖြင့် အမျိုးသမီးများက လုပ်ကိုင်လျက် ရှိကြသည်။ အမေရိကန်နိုင်ငံတွင်လည်း ဆေးပြင်းလိပ် အကောင်းစားကို မြန်မာနိုင်ငံကဲ့သို့ပင် လက်လိပ် လိပ်ကြသည်။ ဆေးလိပ်အတွက်ဆေးစာတွင် အချို့က ရှရကာရည်၊ ဝိုင်နှင့် ဆိုက်ဒါတို့ကိုဖျန်းပေးလေ့ရှိသော်လည်း၊ အကောင်းစားဆေးများတွင်မူ ထိုကဲ့သို့ဆွတ်ဖျန်းခြင်းမပြုကြချေ။ ဆေးညံ့လျှင်သာ အနံ့အရသာကောင်းအောင် ပြုပြင်သောအားဖြင့် ဆေးကို အရည်အမျိုးမျိုးဖျန်းပေးကြသည်။ ဆေးလိပ်ပုံမှာ မြန်မာဆေးပြင်းလိပ်များကဲ့သို့ အရင်းအဖျားညီသောပုံ၊ ဖင်ချူးခေါင်းကားပုံ၊ ဖင်ချွန်ခေါင်းချွန်ပုံဟူ၍ အမျိုးမျိုးရှိသည်။ အလျား ၄ လက်မမှ ၇ လက်မထိ အမျိုးမျိုးရှိသည်။

၁၉၂၀ ပြည့်နှစ်ခန့်မှစ၍ ဆေးပြင်းလိပ်အပေါ်စားများကို စက်ရုံကြီးများတွင် စက်ဖြင့်စတင်လိပ်ကြသည်။ စက်ဖြင့်လိပ်သောဆေးလိပ်များသည် လက်လိပ်ထက် သေသပ်ကောင်းမွန်ပေသည်။ စက်ကိုကြည့်ရှုရန် မိန်းကလေး သုံးလေးယောက်သာလိုသည်။ တနာရီလျှင် ဆေးပြင်းလိပ် ၄၀၀ ခန့်လိပ်နိုင်သည်။ မိန်းကလေးတယောက်က ဆေးစာကို မနည်းလွန်း မများလွန်းအောင် စောင့်၍ထည့်ပေးရသည်။ အခြားတယောက်က သဘက်လုပ်ရန်သင့်သော ဆေးရွက်ကို တရွက်ပြီးတရွက် ထည့်ပေးလိုက်သောအခါ၊ ညှပ်ပုံစက်က အရွယ်သင့်တော်အောင်ဖြတ်၍ ဆေးတလိပ်စာ လိပ်နိုင်သောဆေးစာကို စက်က ဆွဲယူရစ်ပတ်လိုက်လေသည်။ ထိုနောက် လိပ်ပြီးသောဆေးလိပ်များသည် တဖက်မှထွက်လာသည်ကို မိန်းကလေးတဦးက ကောက်ယူပြီးလျှင် ဆေးလိပ်ကောင်း မကောင်းကို စစ်ဆေးသော အခန်းသို့ပို့လိုက်သည်။ မကောင်းသောဆေးလိပ်ကိုပယ်၍၊ ကောင်းသောဆေးလိပ်များကိုထုပ်ရန် အခြားအခန်းသို့ တဆင့်ပို့လိုက်ပြန်သည်။

မြန်မာနိုင်ငံ၌ ဆေးလိပ်လိပ်ရာတွင် ဆိုခဲ့ပြီးသောနည်းနှင့် ဆင်တူယိုးမှားနည်းမျိုးဖြင့်လိပ်ကြသည်။ ကွာခြားချက်မှာ စက်လိပ်နှင့်လက်လိပ်မျှသာဖြစ်သည်။ ဆေးသဘက်လုပ်ရန်သင့်တော်သော ဆေးရွက်များကို ရွေးချယ်ပြီးလျှင် ယင်းသဘက်များကို တရွက်ပေါ် တရွက် ထပ်၍ လိပ်ထားရသည်။ ထိုသို့ပြုလုပ်ခြင်းမှာ သဘက်များတွန့်လိပ်ခြောက်သွေ့မသွားအောင် ပြုလုပ်ခြင်းဖြစ်၏။ သဘက်ကိုမခြောက်အောင် စိုထိုင်းသောအဝတ်ဖြင့်ဖုံးထားရသည်။ သို့သော် သဘက်လိပ်တခုလုံး ရေစိုသွားအောင် မပြုလုပ်ရချေ။ ဆေးစာများကို သဘက်ထဲသို့ထည့်၍ ကျစ်လစ်စွာလိပ်ပြီးလျှင် အလိုရှိသော အလျားအတိုင်း အစွန်း ၂ ဖက်ကို ဖြတ်ရသည်။ ဖြတ်ပစ်သည့်အစွန်းပိုင်းကို ဆေးစာအဖြစ်ဖြင့် ပြန်လည်အသုံးပြုသည်။

## ဖျန်းဆေးမွှေးဖော်စပ်နည်း

ဆေးပြင်းလိပ်များကို ကောင်းသည်ထက်ကောင်းစေရန် ဖျန်းဆေးကိုအသုံးပြုလေ့ရှိကြသည်။ သို့သော် ဆေးရွက်တပိဿာလျှင် ဖျန်းဆေးမည်မျှ အသုံးပြုရမည်ဟူ၍ကား အတိအကျ သတ်မှတ်ချက်မရှိချေ။ အလိုရှိသောအနံ့နှင့် အရသာရစေရန် အနည်းအများအသုံးပြုနိုင်သည်။

(၁) သစ်ကြံပိုးခေါက် ၂ အောင်စ၊ တွန်ကင်ပဲ ၄ အောင်စကိုအမှုန့်ထောင်း၊ ရမ်အရက် ၅၀ သားနှင့် ခုနစ်ရက်စိမ်၊ အဝတ်ပါးနှင့် အရည်ကိုစစ်ယူပြီးနောက် ဆေးစာတွင်ဖျန်းပေးနိုင်သည်။ သို့မဟုတ်၊

(၂) တင်ချာဗလီရီယန်နှင့် ဗျူတီရစ် အယ်လဒီဟိုက် အောင်စ ၁/၂ စီ၊ နိုက်ထရပ်အီသာအစက် ၆၀၊ သစ်ခွဆီအစက် ၁၂၀၊ ရမ်အရက် ၈ အောင်စနှင့် ရေ ၈ အောင်စကို ခုနစ်ရက် ရောထားပြီးနောက် ဆေးစာတွင် ဖျန်း ပေး နိုင် သည်။ သို့မဟုတ်၊

(၃) တင်ချာဗင်ဇိုင်းအစက် ၆၀၊ သစ်ခွဆီ အစက် ၁၂၀၊ လေးညှင်းဆီ ၁၀ စက်နှင့် ရမ်အရက် ၅၀ သားကို ဆေးစာတွင်ဖျန်းပေးနိုင်သည်။ သို့မဟုတ်၊

(၄) နံ့သာဆီအစက် ၂၀၊ နှင်းဆီပန်းအဆီ ၁၀ စက်၊ ကတိုးဆီ ၃ စက်နှင့် ရမ်အရက် ၅၀ သားကို ဆေးစာတွင် ဖျန်းပေးနိုင်သည်။ သို့မဟုတ်၊

(၅) ဇာတိပ္ဖိုလ်သီး၊ လေးညှင်းပွင့်နှင့် ကရဝေးသီးတပဲ သားစီကို အမှုန့်ထောင်း၊ မီးတောက်အရက် ၅၀ သားတွင် စိမ်၊ ခုနစ်ရက်ကြာလျှင် အဝတ်နှင့်စစ်၊ ထိုအရည်တွင် နှင်းရည် ၁၂၅ ကျပ်သားရောပြီးနောက် ဆေးစာတွင်ဖျန်းပေး နိုင်သည်။

ထို့ပြင် ပြင်းလွန်သောဆေးကိုလည်း ပေါ့အောင်ပြုပြင် ပေးနိုင်သည်။ အများအသုံးပြုသည့်နည်းမှာ ရှုရှကာရည် သို့မဟုတ် မန်ကျည်းမှည့်ရည်နှင့် ဖျန်းပေးတတ်ကြသည်။ ရှောက်ရည်၊ သံပုရာရည်ကို ရေနှင့်ရော၍ ဖျန်းပေးသော နည်းကိုလည်း အသုံးပြုလေ့ရှိကြသည်။ သို့သော် ချိန်ဆ ရန်မှာ မလွယ်ကူချေ။ ထို့ကြောင့် အကောင်းဆုံးနည်းမှာ ဆစ်ထရစ်အက်ဆစ် ၂ ကျပ်သားကို ရေနှင့်ဖျော်၍ ဆေး ရွက်တပိဿာတွင် ဖျန်းပေးခြင်းဖြစ်သည်။ ရေကိုထည့်ရာ တွင် ဆေးကိုမစိုလွန်းအောင် ချင့်ချိန်၍ ထည့်ပေးကာ ဖျန်း ပေးပြီးနောက် အနည်းဆုံးနှစ်ရက်ခန့်အုပ်ထားသင့်သည်။

ဆေးပြင်းလိပ် မီးစွဲမကောင်းလျှင် အောက်ပါအတိုင်းပြု ပြင်ပေးနိုင်သည်။ ရေခပ်နွေးနွေး တဂါလန်တွင် ယမ်းစိမ်း ဂ အောင်စကိုထည့်၍၊ အရည်ပျော်အောင်ဖျော်ပြီးလျှင် ဆေးရွက်ကိုဖျန်းပေးပါ။ ဆေးရွက်အစိုအခြောက်ကိုကြည့် ၍ ရေအနည်းအများကိုထည့်ပေးသင့်သည်။ ဆေးရွက်တ ပိဿာလျှင် ၂ ကျပ်သား သို့မဟုတ် ဆေးရွက်အလေးချိန်၏ ၂ ရာခိုင်နှုန်းထက်မပိုသော ယမ်းစိမ်းကိုထည့်သင့်သည်။ ထို့ ပြင် ယမ်းစိမ်းရည်ကိုဖျန်းပေးရာတွင် ဆေးရွက်များပေါ် ၌ ညီညာစွာကျသင့်သည်။ သို့မဟုတ်ပါက မီးစွဲချင်းတူ မည်မဟုတ်သဖြင့် ဆေးလိပ်သောက်သူစိတ်ပျက်စရာဖြစ်ပေ မည်။ ထို့ပြင် ယမ်းစိမ်းကို ရေရိုးရိုးတွင်မထည့်ဘဲ၊ ရမ်အ ရက်၊ ပို့တဝိုင်တို့ကို ဆယ်ပုံတွင်နှစ်ပုံသုံးပုံထည့်ပေးနိုင်လျှင် အရသာသည် ပို၍ကောင်းလာမည်ဖြစ်၍ အငွေ့လည်းအေး လာပေလိမ့်မည်။

ဆေးလိပ်များကိုဆယ်လိပ်၊ အလိပ်ငါးဆယ်၊ အလိပ်တရာ စသည်ဖြင့် စက္ကူ သို့မဟုတ် သစ်သားသေတ္တာများတွင်ထည့် ၍ ရောင်းချလေ့ရှိသည်။ မြန်မာနိုင်ငံတွင် သစ်သား သေတ္တာကိုအသုံးနည်းသည်။ အများအားဖြင့် စက္ကူဖြင့် သာထုပ်၍ရောင်းချလေ့ရှိသည်။

ဆေးပေါ့လိပ်။ ။ဆေးပေါ့လိပ်ကို မြန်မာနိုင်ငံတခု တည်း၌သာလျှင်အသုံးများသည်။ ဆေးပေါ့လိပ်တွင် သ ဘက်၊ ဆေးစာနှင့် အစီခံများပါရှိသည်။ သနပ်ဖက်၊ ပြောင်းဖူးဖက်၊ ဗန့်ဘွေးရွက်၊ ကွမ်းသီးဖက်တို့ကို သဘက် အဖြစ်အသုံးများသည်။ ယင်းတို့ကို ခြောက်အောင်စိမ်ပြီး လျှင်၊ ထန်းလျက်ရည်၊ မန်ကျည်းသီးမှည့်ရည်နှင့် ဆားအ နည်းငယ်တို့ဖြင့်နယ်၍၊ အခြောက်ခံထားသောဆေးစာဖြင့် ဆေးပေါ့လိပ် လိပ်ရသည်။ ဆေးစာကို ဆေးရိုး သို့မဟုတ် အုန်းနံ့ရိုး ကိုစဉ်း၍ လုပ်လေ့ရှိသည်။ ထိုဆေးစာထဲသို့ ဆေးရွက်ကြေများကို အလေး၊ အပေါ့အတွက် လိုသလို ထည့်ပေးရသည်။ အစီခံပြုလုပ်ရာတွင် ကောက်ရိုး၊ ကြံ ဖက်၊ သို့မဟုတ် ပြောင်းဖူးဖက် တခုခုကို စက္ကူဖြင့်လိပ်၍၊ အရှည်ကိုလိုသလိုဖြတ်ပြီးလျှင် ဆေးပေါ့လိပ်၏ဖင်ပိုင်းတွင် ထည့်၍လိပ်ကြသည်။ ဆေးပေါ့လိပ်တွင် အစီခံထားရခြင်း သည် ဆေးလိပ်သောက်သည့်အခါ၊ ဆေးငွေ့များနှင့်အတူ ဆေးမှုန့်များ မပါလာအောင် ကာကွယ်ရန်ဖြစ်သည်။

စီးကရက်။ ။စီးကရက်ကို အများအားဖြင့် စက်ကြီး များဖြင့်လိပ်ကြသည်။ အချို့လုပ်ငန်းရှင်ကလေးများက သာ လက်လှည့်စက်များဖြင့်၎င်း၊ လက်ဖြင့်၎င်း လိပ်၍ ရောင်းကြသည်။ စီးကရက်တွင် အကောင်းဆုံးဆေးကိုသာ သုံးလေ့ရှိသောကြောင့် အမွှေးအကြိုင် ဆွတ်ဖျန်းရန် မလို ချေ။ စီးကရက်လိပ်ရာတွင် ဆေးအကောင်းစားကို စက္ကူ ဖြင့်လိပ်၍၊ အလိုရှိသော အလျားကို ချန်လှပ်ပြီးနောက် ပိုသောအပိုင်းကို ဖြတ်တောက်ပစ်ရသည်။

ဆေးတမျိုးနှင့် တမျိုးကိုရောစပ်ထားသောအခါ၊ နှစ်လ သုံးလအကြာတွင် အနံ့အသက် ကူးလူးရောယှက်သွားပြီဖြစ် သဖြင့် လှီးဖြတ်ရန်စီမံရသည်။ ဆေးရွက်ကို သို့လှောင်ထား ရာမှထုတ်လာ၍၊ တရွက်ချင်းဖြစ်စေရန် စက် သို့မဟုတ် လက် ဖြင့်ခွာ၍ ရေငွေ့ဖြင့်ပျော့ပျောင်းအောင်လုပ်ရသည်။ အချို့ က ထိုဆေးရွက်များကို ရာသီဥတုခံနိုင်ရည်ရှိရန်နှင့် အေး သောအငွေ့ရှိစေရန် ဂလစ်ဆရင်း သို့မဟုတ် အချိုရည်ထည့် ပေးကြသည်။ ထိုသို့ပြုပြင်ပေးပြီးနောက် ဆေးရွက်များ ကို ၂၄ နာရီအုပ်ထားခြင်းဖြင့် ပျော့ပျောင်းလာ၍ လှီးဖြတ် ရန်အသင့်ဖြစ်တော့သည်။ ထိုအခါ ဆေးရွက်များကို လှီး စက်သို့သွင်း၍ အသေးအကြီးလိုသလောက်ရရှိအောင် လှီး ဖြတ်သည်။ ဓားသွားကိုလည်း အကောင်းဆုံး သံမဏိဖြင့် လုပ်ထားသဖြင့် တခါသွေးထားလျှင် ဆေးပိဿာသုံးရာခန့် ကို ကောင်းစွာလှီးဖြတ်နိုင်သည်။ ဓားသွားသည် ၄ လက် မမှ ၁၀ လက်မအထိရှိသည်။ တနာရီလျှင် ဆယ်ပိဿာမှ ပိဿာတရာထိ လှီးဖြတ်နိုင်သည်။ စက်မှကျလာသောဆေး သေးများကို အခြောက်ခံရန် အပူချိန်ဖာရင်ဟိုက်ဒီဂရီ ၁၅၀ ရှိသည့်သံစည်ထဲသို့ စက်ဖြင့်ပို့ဆောင်ပေးသည်။ ဆေးအေး သောအခါ အမွှေးနံ့ထည့်ရန်လိုလျှင် ထည့်၍၊ အမွှေးနံ့ထည့် ရန်မလိုလျှင် မထည့်ဘဲ၊ စီးကရက်လိပ်စက်ရှိ ဇလားထဲသို့ပို့ ရသည်။ ထိုနောက် စီးကရက်စက်သည် ဆေးကို စီးကရက် စက္ကူဖြင့်ရစ်ပတ်ပြီးနောက်၊ လိပ်ပြီးသားဆေးလိပ်ချောင်း များအသင့်ထွက်လာသည်။ ဆေးကိုစက္ကူဖြင့် မရစ်ပတ်မီ



စီးကရက်စက်ရုံအတွင်းမှ ရှုခင်းတရပ်

စက္ကူတွင် တံဆိပ်အမည် ရိုက်နှိပ်ခြင်းစသည်တို့သည် အသင့်ပြီးစီးလျက်ရှိပေသည်။ ထိုဆေးလိပ်ချောင်းကို လိုသောအတိုအရှည်အလိုက် ဖြတ်လိုသောနေရာတွင် မောင်းစက်ဖြင့် ဖြတ်တောက်ပစ်သည်။ ဖြတ်ပြီးသော စီးကရက်များအနက် ပျက်နေသော စီးကရက်ကိုပယ်၍၊ ဖော့ပတ်ရန် မလိုလျှင် ထုပ်ရန် သို့မဟုတ် ဗူးသွတ်ရန် အခန်းသို့ပို့ရသည်။ ဖော့ပတ်ရန်လိုလျှင် ဖော့ပတ်စက်သို့ပို့ရသည်။ မြန်မာနိုင်ငံတွင် ယခုအခါ စီးကရက်အလုပ်ရုံ လေးခုရှိသည်ဟုသိရသည်။

ဆေးတံဆေး။ ။ဆေးတံဆေးလုပ်ရာ၌ လိုသောဆေးရွက်ကိုရွေးချယ်ပြီးလျှင် နွယ်ချို၊ သကာရည်နှင့် ရမ်အရက်တို့ဖြင့် စိမ်ထားသော အချိုရည်ဆွတ်ဖျန်းရသည်။ သို့မဟုတ် ဆေးရွက်များကို အချိုရည် ခွက်ကြီးထဲသို့ နှစ်ပြီးလျှင်၊ အချိုရည်စစ်အောင် ဆေးရွက်ကို သံဒလိမ့်ဖြင့် ညှစ်ထုတ်ရသည်။ ထိုဆေးရွက်များကို အပူဖြင့်ခြောက်သွေ့စေ၍၊ ရေငွေ့ဖြင့်တဖန် လိုသလောက် ပျော့ပျောင်းအောင် ပြုလုပ်ရသည်။ ရေငွေ့ပေးပြီး၍ ၂၄ နာရီကြာသောအခါ ယင်းတို့ကို တွန်ကင် ပဲ၊ ဗနီလာ၊ ကရဝေးစေ့၊ လိမ်မော်ခါးခွံစသည်ဖြင့် စိမ်ထားသော အမွှေးအကြိုင်တို့ဖြင့် ဖျန်းရပြန်သည်။ ပြုပြင်ပြီးသောဆေးကို ၂၄ နာရီဖိထားပြီးနောက် လှီးစက်ဖြင့် ပါးပါးလှီးဖြတ်ရသည်။ သို့မဟုတ် အမှုန့်ဖြစ်အောင် လှီးဖြတ်ယူရသည်။

လှီးဖြတ်ပြီးသောဆေးကို ၂ အောင်စမှ ၈ အောင်စထိ ချိန်တွယ်၍၊ သံဗူး ကြီးငယ်အလိုက် ထည့်လျက် လေလုံအောင် ဂဟေဆော်ရသည်။ လေလုံမှ တာရှည်ထားနိုင်သည်။ ဆေးဗူးအတွင်း၌လေမရှိလျှင် သုံးလေးနှစ်ပင်ထားနိုင်သည်။ လေထုတ်ရန်နည်းအမျိုးမျိုးရှိသည့်အနက် အလွယ်ဆုံးနည်းမှာ ဆေးဗူးကိုရေငွေ့ဖြင့် အပူချိန်ဖာရင်ဟိုက်ဒီဂရီ ၂၀၀၀ ပူအောင် ၁၅ မိနစ် ပေါင်းတင်ခြင်းဖြစ်သည်။ ဂဟေလုံ၍ လေထွက်ပေါက်မရှိလျှင် သံဗူးဖုံးအပါးသည် ဖောင်းတက်လာမည်။ ထိုအခါ အဖုံးကို အပ်နှင့်ဖောက်လိုက်ခြင်းဖြင့် ပူနေသောလေသည် ပြင်ပသို့ထွက်ပြီးသည်နှင့်တပြိုင်နက်ချက်ခြင်း အပ်ပေါက်ကိုဂဟေနှင့် ပိတ်လိုက်ရမည်။ အပိတ်နှေးလျှင် လေပြန်ဝင်လာမည်။ ဂဟေဆော်ပြီးသောဗူးများကို ရေအေးတွင်နှစ်၍ဆေးပြီးသော် ဗူးပတ်တံဆိပ်ကို ကပ်နိုင်သည်။

**ဆေးဖက်ဝင်ပစ္စည်း။** ။အချို့သော သစ်စေ့၊ သစ်မြစ်နှင့် သစ်ခေါက်များသည် ရောဂါဘယကင်းစေသော ဆေးဖက်ဝင်ပစ္စည်းများဖြစ်ကြောင်းကို ရှေးနှစ်ပေါင်းများစွာကပင် လူတို့သိခဲ့ကြသည်။ တောင်အမေရိကတိုက်ရှိ အမွှေးနံ့မြစ်ဝှမ်းတလျှောက်၌ပေါက်သည့် စင်ကိုးနားခေါ် အပင်တမျိုးမှသစ်ခေါက်သည် ငှက်ဖျားရောဂါအတွက် အသုံးဝင်

ကြောင်းကိုသိခဲ့ကြသဖြင့်၊ ထိုသစ်ခေါက်များကို ဝေးလံစွာ သွားရောက်ရှာဖွေ၍ခုတ်ယူကြရ၏။ ယခုအခါ ကွီနိုင်ဟု လူသိများသော ငှက်ဖျားဆေးမှာ အဆိုပါ စင်ကိုးနား သစ်ခေါက်မှပြုလုပ်ယူခြင်းပင်ဖြစ်သည်။ ထုံဆေးအဖြစ် အသုံးပြုရသော ကိုကင်းခေါ် ဆေးကို တောင်အမေရိကတိုက်မှာပင် ပေါက်သည့် ကိုကာခေါ် အပင်ပုမျိုး၏ အရွက်များမှ ထုတ်ယူရရှိ၏။ ဂမ်းထရက်ဂါကန်ခေါ် ဆေးဖက်ဝင်သည့် သစ်စေးတမျိုးကို အာရေဗျနှင့်ပါးရှားနိုင်ငံရှိ တောင်ကုန်းများပေါ်၌ပေါက်သောအပင်မျိုးမှရ၏။ ဘိန်းသီးမှရသော ဘိန်းသည်လည်း ဆေးဖက်ဝင်သည့်ပစ္စည်းတမျိုးပင်ဖြစ်၏။ သို့ရာတွင် ဘိန်းရှူခြင်း၊ ဘိန်းစားခြင်း၊ ကိုကင်းပွတ်ခြင်း စသည့်အလေ့ဆိုးများရှိခြင်းကြောင့်၊ အချို့သောဆေးဖက်ပစ္စည်းများပြုလုပ်ရောင်းဝယ်ရေးကိစ္စကို နိုင်ငံတကာရှိအစိုးရအသီးသီးက အထူးကြပ်မကရစိုက်ကြရလေသည်။ လေးညှင်း၊ သစ်ကြံပိုး၊ ပရုတ်စသည်တို့မှာလည်း ဆေးဖက်ဝင်သည့်ပစ္စည်းများပင်ဖြစ်လေသည်။ အိန္ဒိယနှင့်တရုပ်နိုင်ငံများမှလည်း ဆေးဖက်ပစ္စည်းအမျိုးပေါင်းများစွာကို ရှေးကစ၍ ရှာဖွေရရှိခဲ့ကြလေသည်။

ဆေးဖက်ပစ္စည်းများကို အပင်များမှသာမက တွင်းထွက်ပစ္စည်းနှင့် တိရစ္ဆာန်လောကမှလည်း ရနိုင်ပေသည်။ ယခုခေတ်ဆေးဆရာများ အသုံးပြုလျက်ရှိသော ဆေးဖက်ပစ္စည်းပေါင်းမှာ တသိန်းမကရှိရာ၊ အကျိုးသက်ရောက်ပုံကိုလိုက်၍ ဝမ်းသွားဆေး၊ ကိုယ်ပူကျဆေး၊ အပုပ်နိုင်ဆေး၊ ပိုးမျိုးဖျက်ဆေး၊ အချုပ်သတ္တိ၊ မေ့ဆေး၊ ထုံဆေးစသည်ဖြင့် အမျိုးအစားအမျိုးမျိုးခွဲခြားထားသည်။ နာကျင်ခြင်းကို သက်သာစေ၍၊ ခေါင်းကိုက်ဆေးအဖြစ် ကျော်ကြားသည့် အက်စပီရင်ဆေးမှာ အနာသက်သာဆေးစာရင်းတွင် ပါဝင်၍၊ အဖျားတားဆေးအဖြစ်နှင့်လည်း အသုံးပြုကြ၏။ ကိုကင်းမှာ ထိုင်းဆေးမျိုးတွင်ပါဝင်၍၊ ကလိုရိုဖောင်းမှာ မေ့ဆေး ထုံဆေးမျိုးဖြစ်၏။ အရက်နှင့် စတြစ်ကနင်းခေါ် ဆေးတို့မှာ အားကြွဆေးမျိုးတွင်ပါဝင်၏။ အက်ဒရီနယ်လင်ခေါ် ဆေးမှာ အလွန်ကောင်းသော သွေးတိတ်ဆေး တမျိုးဖြစ်၍၊ ထိုဆေးကို နွား၏ကျောက်ကပ် အထက်ဖက်ရှိ အကျိတ်အိတ်မှ ထုတ်ယူရရှိလေသည်။

သိပ္ပံပညာ ထွန်းကားလာသောအခါ၊ သိပ္ပံပညာရှင်များသည် ကျောက်မီးသွေးကတ္တရာမှ ဆေးဖက်ဝင်သောပစ္စည်းအများကိုဖော်ထုတ်ယူနိုင်လာကြသည်။ (ကျောက်မီးသွေးကတ္တရာလည်း — ရှု။) ရောဂါပိုးသတ်ဆေး အဖြစ် အသုံးပြုကြသော ကာဗောလစ်အက်ဆစ်မှာ ကျောက်မီးသွေးမှ ရရှိခြင်းဖြစ်၍၊ ယခုအခါ အများသုံးလျက်ရှိသော ကာဗောလစ်ဆပ်ပြာသည် ထိုအက်ဆစ်ဖြင့်ချက်လုပ်ထားခြင်းပင်ဖြစ်သည်။ (ကာဗောလစ်အက်ဆစ် — ရှု။) ဖီနေသဲလင်း အက်ဆက်တန်နီလိုက်နှင့်တကွ အခြားဆေးဖက်ပေါင်းများစွာကိုလည်း ကျောက်မီးသွေးကတ္တရာမှရနိုင်ပေသေးသည်။

ယခုအခါ ခေတ်မီလျှင်မြန်သော လမ်းပန်းခရီးအဆက်အသွယ်များ ရှိနေပြီဖြစ်၍၊ ဆေးဖက်ပစ္စည်းများကိုရှာဖွေဝယ်ယူရသည့်အလုပ်မှာ မခက်ခဲတော့ချေ။ ရှေးကမူ သွားရေးလာရေး ခက်ခဲမှုကြောင့်တကြောင်း၊ ဆေးဖက်ပစ္စည်းများရောင်းချသောဌာနများ ရှားပါးမှုကြောင့်တကြောင်း ဆေးဆရာနှင့်တကွ ဘယဆေး လုပ်ငန်းသမားတို့သည် တောတောင်အထပ်ထပ်နှင့် ရေမြေရပ်ခြားဒေသများသို့ တပင်တပန်းသွားလာ၍ ဆေးဖက်ဝင်သည့် သစ်မြစ်သစ်ဖုသစ်ဥ သစ်ခေါက်တို့ကို ရှာဖွေကြရလေသည်။

ဓာတုဗေဒနည်းဖြင့် အရေးကြီးသောဆေးဖက်ပစ္စည်းသစ်များကို အတော်အတန်ရှာဖွေတွေ့ရှိခဲ့သည့်အနက် အထူးသဖြင့် ဆာလဖိုနမိုက်ခေါ် ဆာလဖာဆေးစုကို တွေ့ရှိရခြင်းမှာ အရေးအကြီးဆုံးဖြစ်၏။ (ဆာလဖာဆေးများ — ရှု။) ဒုတိယကမ္ဘာစစ်ကြီးအတွင်းက ကွီနိုင်ကို လိုသလောက်မရနိုင်ခဲ့သဖြင့် ဓာတုဗေဒနည်းဖြင့် ဆေးတမျိုးကိုအစားထိုးဖော်စပ်ရန်ကြိုးစားခဲ့ရာမှ မက်ပါကရင်ခေါ် ဆေးတမျိုးပေါ်ပေါက်လာခဲ့ပေသည်။ ဤဆေးကို ၁၉၄၂ ခုနှစ်တွင် ဗြိတိသျှသိပ္ပံပါရဂူများက စတင်တွေ့ရှိအသုံးချခဲ့ကြ၏။ မက်ပါကရင်သည် ငှက်ဖျားရောဂါကိုကာကွယ်ရာ၌ ကွီနိုင်ထက်ပင် သုံးဆခန့်ပို၍အာနိသင်ရှိသည်။ မက်ပါကရင်နှင့်အတူပေါ်သော အလွန်ကောင်းသည့်ပိုးသတ်ဆေးတမျိုးမှာ ဒီ၊ ဒီ၊ တီ (ဒိုင်ကလိုရို ဒိုင်ဖိနိုင် ထရိုင်ကလိုရိုအက်သိန်း) ခေါ် ဆေးဖြစ်၏။ ငှက်ဖျားရောဂါအတွက် ကွီနိုင်နှင့်မက်ပါကရင်တို့ထက် သာလွန်ကောင်းမွန်သောဆေးကို ရှာကြံပြန်ရာ၊ ဒေါက်တာကတ်၊ ဒေါက်တာဒေဗီနှင့် မစ္စတာရို့တို့သည် ၁၉၄၃ ခုနှစ်တွင် ပယ်လျူဒရင်ကိုတွေ့ရှိကြပြန်သည်။ (မက်ပါကရင်နှင့်ပယ်လျူဒရင် — ရှု။)

လူသိများသောအခြားဆေးတမျိုးမှာ အမ်၊ ဘီဆေးများဖြစ်၍၊ အမ်၊ ဘီ ဟူသောစကားမှာ မေယာနှင့်ဗေကာဟူသော အမည် ကို အတိုကောက်ခေါ် ထားခြင်းဖြစ် သည်။ ဆာလဖိုနမိုက်ဆေးမျိုးတွင် ကမ္ဘာကျော် အမ်၊ ဘီ ၆၉၃ မှာတန်ခိုးအာနိသင် အထူးကဲဆုံးနှင့် လူသုံး အများဆုံးဖြစ်၏။ ဤဆေးမှာ သာမန်အဖျားရောဂါမှစ၍ တိုက်ဖွိုက်အူရောင်ဖျား ရောဂါအထိ ရေလဲ အမျိုးမျိုးနှင့် အသုံးပြုနိုင်သည်။ အမ်၊ ဘီ ၇၆၀ မှာ အနာစိမ်းများ မယဉ်းစေရန်နှင့် အဆိပ်အတောက်မဖြစ်စေရန် ကာကွယ်ရာ၌ အသုံးဝင်သည်။ ဂိုနိုညောင်းကျခေါ် ညောင်း ကျရောဂါ၊ နျူမိုးနီးယားခေါ် အဆုတ်ရောင်နာရောဂါစသည်တို့အတွက် အခြား အမ်၊ ဘီ ဆေးစွမ်းကောင်းများလည်း ရှိသေးသည်။ သိပ္ပံပညာတိုးတက်လာသည်နှင့်အမျှ အမျိုးမျိုးသောရောဂါ

တို့အတွက် ထူးကဲသောဆေးနှင့် ဆေးဖက်ပစ္စည်းများကို တဖြည်းဖြည်း ထပ်မံရှာဖွေ တွေ့ရှိနိုင်စရာအကြောင်း ရှိပေသည်။ (ဆေးပေးပညာနှင့် ခွဲစိတ်ပညာ — လည်းရှု။)

**ဆေးရုံ။** ။လူနာတို့အား ဆေးကုသပေးရာဌာနသည် ဆေးရုံဖြစ်၏။ ရှေးခေတ်က သာမန်အားဖြင့် အိမ်တွင်း၌ နေ၍ကုသရန် မဖြစ်နိုင်လောက်အောင် ရောဂါအခြေအနေ ဆိုးရွားသောလူနာတို့ကိုသာလျှင် ဆေးရုံကလက်ခံ၍ကုသပေး၏။ ယခုခေတ်၌မူကား၊ အတွင်းလူနာအနေဖြင့်ကုသရန်သင့်သောလူနာတို့ကိုလက်ခံကုသပေးရန်အတွက် ဆေးရုံသည် အမြဲပင်အရံသင့်ရှိနေရသည်။ ထိုမျှမကသေး ယခုခေတ်ရှိခေတ်မီဆေးရုံတို့သည် ဆရာဝန်နှင့် သူနာပြုဆရာမများအတွက် သက်ဆိုင်ရာဆေးပညာတို့ကို ဆည်းပူးရာဌာနလည်းဖြစ်လာသည့်အပြင်၊ ဆေးပညာသုတေသနပြုရာဌာနလည်း ဖြစ်လာလေသည်။

ရှေးပဝေဏီခေတ်ကပင် ဆေးရုံများ ပေါ်ပေါက်ခဲ့ဘူးသည်။ အိန္ဒိယနိုင်ငံတွင် ခရစ်တော်မပေါ်မီက ဆေးရုံများရှိခဲ့သည်။ ခရစ် ၇၆၃ ခုနှစ်တွင် အီရက်နိုင်ငံ ဗဂ္ဂဒက်မြို့၌ ဆေးရုံတခုရှိခဲ့၏။ ၁၁၁၈ ခုနှစ်တွင် လန်ဒန်မြို့၌ ကုဋ္ဌနူနာဆေးရုံတရုံကိုဖွင့်လှစ်ခဲ့လေသည်။ အင်္ဂလန်ပြည်၏ရှေးအကျဆုံးဖြစ်သော စိန့်ဗာသောလိုမျူ ဆေးရုံကြီးသည် ၁၁၂၃ ခုနှစ်တွင်ပေါ်ပေါက်ခဲ့သည်။ အင်္ဂလန်ပြည်ရှိ အခြားခေတ်ဟောင်းဆေးရုံတခုမှာ ၁၂၀၀ ပြည့်နှစ်က တည်ထောင်ခဲ့သော စိန့်ထောမတ်ဆေးရုံပင်ဖြစ်၏။

ဆေးပညာများစွာ မထွန်းကားသေးသော ရှေးခေတ်ရှေးအခါက ဆေးရုံတို့၏အဓိကဝတ်တရားမှာ ရောဂါဝေဒနာပျောက်ကင်းစေမှုထက် ခရစ်ယန် အယူဝါဒတရားအတိုင်း ဝိညာဉ်ကယ်တင်မှုကိုသာ ဆောင်ရွက်ရန်ဖြစ်သည်ဟု ယူဆခဲ့ကြသည်။ သို့အားလျော်စွာ ရှေးခေတ်က ဆေးရုံအဆောက်အအုံနှင့် ကုထုံး ကုနည်းတို့ကို လေးစားသင့်သလောက်မလေးစားခဲ့ကြချေ။ ဆေးရုံဆောက်လုပ်ပုံ၊ လူနာခန်းထားရှိပုံ၊ ဆေးကုနည်းနှင့်တကွ၊ ဆေးရုံ၏ပတ်ဝန်းကျင်အခြေအနေတို့မှာ များစွာညံ့ဖျင်းကြသည်သာမက၊ ကျန်းမာရေးနှင့်ပင် ဆန့်ကျင်နေကြလေသည်။ ထိုသို့သောအခြေအနေတွင် ဆေးရုံသို့လာရောက်ကုသကြသောလူနာများအနက်၊ ရာခိုင်နှုန်း ၄၀ မျှသေဆုံးကြရသည်မှာ အံ့သြဖွယ်ရာမဟုတ်တော့ချေ။

နောက်တွင် သိပ္ပံပညာရပ်နှင့် လူမှုဝန်ထမ်းလုပ်ငန်းများ တိုးတက်ကောင်းမွန်လာခဲ့ခြင်းကြောင့်၊ ဆေးရုံများလည်း များစွာတိုးတက်လာခဲ့ကြလေသည်။ ယခုခေတ်တွင် မြို့ကြီးတိုင်းလိုလို၌၊ ခေတ်မီသောဆေးရုံကြီးများကိုတွေ့ရှိနိုင်သည်။ ကေပေါင်းများစွာကျယ်ဝန်း၍၊ လေကောင်းလေသန့်ရနိုင်သော ကွင်းပြင်ကြီးများတွင် ဆေးရုံကြီးများကို ခေတ်မီသောစံနစ်၊ ခေတ်မီသောပုံစံတို့ဖြင့် ဆောက်လုပ်ထားကြ၏။ ဆေးရုံဝင်းထဲတွင် ယောကျ်ားလူနာခန်း၊ မိန်းမလူနာခန်း၊ သီးသန့်ဆေးကုခန်း၊ အပြင်လူနာဌာန၊ ဆေးနှင့် အစားအစာသိုလှောင်ခန်း၊ ဆရာဝန်နေအိမ်များ၊ ဆရာမနေအိမ်များ၊ အစေခံတန်းလျားများ၊ မီးဖိုဆောင်များစသောအဆောက်အအုံတို့ကို စံနစ်တကျဆောက်လုပ်ထားသည့်ပြင်၊ ရေမီးအစုံအလင်လည်း တပ်ဆင်ထားရှိလေသည်။ ထိုသို့ စံနစ်တကျ ဆောက်လုပ်ထားသော ဆေးရုံတည်ရှိရာဝင်းသည် ကေ ၂၀ သို့မဟုတ် ၂၀ ကျော်ကျော်မျှ ကျယ်ဝန်းတတ်လေရာ၊ ခေတ်မီသော ရွာကလေးတရွာ သဖွယ်ဖြစ်လေသည်။

ဆေးရုံများတွင် အထွေထွေဆေးရုံနှင့် အထူးဆေးရုံဟူ၍ နှစ်မျိုးနှစ်စားရှိသည်။ ရောဂါဝေဒနာအမျိုးမျိုးကိုကုသပေးရန်အတွက် စီမံပြုလုပ်ထားသော ဆေးရုံမျိုးမှာ အထွေထွေဆေးရုံဖြစ်သည်။ အထူးဆေးရုံတို့ကား ကာလသားရောဂါ၊ ကုဋ္ဌနူနာ၊ သူငယ်နာ၊ မီးယပ်နာ၊ တျူဗာကယ်ပိုးစွဲနာ၊ ကင်ဆာစသောရောဂါများကို သီးသန့်ကုသပေးရန် ဖွင့်လှစ်ထားသောဆေးရုံများဖြစ်ကြသည်။ အထူးဆေးရုံများသည် ၁၈၆၀ ပြည့်နှစ်မှပင်စတင်ပေါ်ပေါက်လာကြသည်။ ရန်ကုန်မြို့ရှိဆေးရုံကြီးနှင့် နယ်၌ရှိသော အစိုးရဆေးရုံများမှာ အထွေထွေဆေးရုံများဖြစ်ကြသည်။ ရန်ကုန်မြို့ ဒပ်ဖရင် သားဖွား ဆေးရုံနှင့် တန်တားကလေး စိတ္တဇဆေးရုံများသည်ကား အထူးဆေးရုံမျိုးများတွင် ပါဝင်ကြလေသည်။

ငွေရေးကြေးရေးကိစ္စနှင့် စပ်လျဉ်း၍ ဆေးရုံတို့သည် အစိုးရနှင့် ဒေသန္တရအဖွဲ့များကို အားကိုးရသည်လည်း ရှိသည်။ အလှူငွေကိုအားကိုးရသည်လည်းရှိသည်။ အင်္ဂလန်ပြည်တွင် ဆေးရုံတို့သည် ယခင်အခါက အလှူငွေကိုပို၍အားထားခဲ့ကြသည်။ သို့ရာတွင် ၁၉၄၈ ခုနှစ် အမျိုးသားကျန်းမာရေးလုပ်ငန်းများအက်ဥပဒေ ပြဋ္ဌာန်းအတည်ပြုလိုက်သည်မှစ၍၊ အစိုးရသည် ဆေးရုံများကို လုံးဝတာဝန်ယူလိုက်လေတော့သည်။ အမေရိကန်ပြည်ထောင်စုနှင့် ဥရောပနိုင်ငံများ၌လည်း နိုင်ငံတော်အစိုးရ သို့မဟုတ် ဒေသန္တရမျူနီစီပယ်အဖွဲ့များကပင် ဆေးရုံများကို ငွေကြေးထောက်ပံ့၍ စီမံအုပ်ချုပ်ကြလေသည်။ မြန်မာနိုင်ငံ၌ ဆေးရုံများအတွက် ပြင်ပစေတနာရှင်များထံမှ အလှူငွေကောက်ခံခြင်း အနည်းငယ်ရှိသော်လည်း၊ အစိုးရနှင့် ဒေသန္တရမျူနီစီပယ်အဖွဲ့များကပင် ဆေးရုံများကို ငွေကြေးထောက်ပံ့၍စီမံအုပ်ချုပ်ကြရသည်။ အစိုးရနှင့်မဆိုင်သော တသီးပုဂ္ဂလ ကုသိုလ်ဖြစ်ဆေးရုံများလည်း အနည်းငယ် ရှိသေးသည်။ သို့သော် ပြောပလောက်အောင်မများကြပေ။

ဆေးရုံများထားရှိခြင်း၏ မူလစေတနာမှာ ဆင်းရဲသား ဝေဒနာရှင်များအား အခမဲ့ဆေးဝါးကုသပေးရန်ဖြစ်၏။ သို့ရာတွင် ယခုခေတ်၌ကား ငွေကြေးတတ်နိုင်သူဝေဒနာရှင်များအတွက် ပိုက်ဆံခန်းများ ထားပေးလေသည်။ ထို့ပြင် အသင့်အတင့် ချောင်လည်သော ဝေဒနာရှင်များကိုလည်း ဆေးဖိုးဝါးခ ကုန်ကျစရိတ်၏ တဝက်တစိတ်ကို တတ်အားသမျှပေးကြရန် နှိုးဆော်ထားလေ့ရှိသည်။

ဆေးရုံကောင်းတခု၌ ဆင်းရဲသားလူနာတဦးရရှိနိုင်သော အကုအသမျိုးကို ငွေကြေးတတ်နိုင်၍ ဆေးဝါးအပြည့်အစုံထားရှိသောနေအိမ်တို့၌ပင် ရရှိနိုင်မည်မဟုတ်ချေ။ ဆေးရုံကောင်းတို့တွင် အထူးကျွမ်းကျင်သော ဆရာဝန်များနှင့် ကျင့်သားကောင်းစွာရပြီးသော သူနာပြုဆရာများသည် ခေတ်သစ်သိပ္ပံပညာရပ်တို့၏ နောက်ဆုံးပေါ်ကုသနည်းနှင့် ကရိယာ တန်ဆာပလာများကို အသုံးပြုလျက် လူနာများအား နေ့ရောညပါ ဂရုတစိုက်ကုသပေးကြသည်။ ထို့မျှမကသေး၊ ဓာတ်စာဖက်ဆိုင်ရာ ဆရာဝန်တို့ကလည်း လူနာများနှင့် သင့်တော်မည့် အစားအစာတို့ကို အမြဲတစေကျွေးမွေးလျက်ရှိကြသည်။ သို့အားလျော်စွာ ရောဂါပျောက်ကင်းရေးအတွက် လူနာတို့သည် ဆေးရုံကောင်းများကို အထူးအားထားနိုင်ကြပေသည်။

ထိုသို့ လူနာများ၏ ရောဂါပျောက်ကင်းရေးအတွက်ဆေးရုံနှင့် ဆေးပေးရုံများကို အထူးအားပေးရသည့်အလျောက် မြန်မာနိုင်ငံတွင်လည်း လွတ်လပ်ရေး မရမီခေတ်ကပင်လျှင် ဆေးရုံနှင့် ဆေးပေးရုံများကိုဖွင့်လှစ်ထားရှိခဲ့လေသည်။ ထိုဆေးရုံများကို အုပ်ချုပ်ရေးအလိုက် အမျိုးအစားခွဲလျှင်၊ (က) အစိုးရတာဝန်ယူ၍ ဖွင့်လှစ်ခဲ့သော ဆေးရုံနှင့်ဆေးပေးရုံ၊ (ခ) ဒေသန္တရအဖွဲ့မှတာဝန်ယူ၍ဖွင့်လှစ်ခဲ့သောဆေးရုံနှင့်ဆေးပေးရုံ၊ (ဂ) ရဲအဖွဲ့မှတာဝန်ယူ၍ ဖွင့်လှစ်ခဲ့သော ဆေးရုံနှင့်ဆေးပေးရုံ၊ (ဃ) သစ်တောဌာနမှတာဝန်ယူ၍ ဖွင့်လှစ်ခဲ့သော ဆေးရုံနှင့်ဆေးပေးရုံ၊ (င) မီးရထားဌာနမှ တာဝန်ယူ၍ဖွင့်လှစ်ခဲ့သော ဆေးရုံနှင့်ဆေးပေးရုံ၊ (စ) အခြားဌာနမှတာဝန်ယူ၍ ဖွင့်လှစ်ခဲ့သောဆေးရုံနှင့်ဆေးပေးရုံ၊ (ဆ) အစိုးရထောက်ပံ့ကြေးဖြင့် အသင်းအဖွဲ့ပိုင်ဖွင့်လှစ်ထားခဲ့သောဆေးရုံနှင့်ဆေးပေးရုံ၊ (ဇ) အစိုးရထောက်ပံ့ကြေးမယူဘဲဖွင့်လှစ်ထားသော အသင်းအဖွဲ့ပိုင်ဆေးရုံ ဟူ၍ ရှစ်မျိုးရှိသည်။ ၁၉၄၀ ပြည့်နှစ်စာရင်းအရဆိုလျှင် မြန်မာနိုင်ငံတွင် (က) အမျိုးအစားဆေးရုံ ၄၃ ရုံ၊ (ခ) အမျိုးအစားဆေးရုံ ၁၇၅ ရုံ၊ (ဂ) အမျိုးအစားဆေးရုံ ၄၂ ရုံ၊ (ဃ) အမျိုးအစားဆေးရုံ ၁ ရုံ၊ (င) အမျိုးအစားဆေးရုံ ၂၉ ရုံ၊ (စ) အမျိုးအစားဆေးရုံ ၄ ရုံ၊ (ဆ) အမျိုးအစားဆေးရုံ ၃၂ ရုံနှင့် (ဇ) အမျိုးအစားဆေးရုံ ၁၂ ရုံ၊ စုစုပေါင်းဆေးရုံ ၃၃၈ ရုံ ရှိခဲ့လေသည်။ ထိုဆေးရုံနှင့်



ရန်ကုန်မြို့ဗိုလ်ချုပ်အောင်ဆန်းလမ်းရှိ အထွေထွေရောဂါကု ပြည်သူ့ဆေးရုံကြီး

ဆေးပေးရုံ ၃၃၈ ရုံတို့သည် ကျေးလက်များ၌ ၂၀၃ ရုံရှိ၍၊ မြို့နယ်များတွင် ၁၃၅ ရုံရှိခဲ့၏။

ပြည်ထောင်စု မြန်မာနိုင်ငံတော် လွတ်လပ်ရေးရခဲ့ပြီးနောက် ၁၉၄၉ ခုနှစ်တွင် ဆေးရုံပေါင်း ၁၀၇ ရုံသာပြန်လည်ဖွင့်လှစ်နိုင်ခဲ့၏။ ထိုဆေးရုံ ၁၀၇ ရုံအနက် ကျေးလက်များတွင်ဆေးရုံ ၇၅ ရုံသာရှိ၍၊ ဆေးရုံ ၁၁၂ ရုံမှာ မြို့နယ်များတွင်ရှိလေသည်။ ထိုသို့ပြန်လည်ဖွင့်လှစ်နိုင်ခဲ့သောဆေးရုံအမျိုးအစားများမှာ (က) အမျိုးအစားဆေးရုံ ၆ ရုံ၊ (ခ) အမျိုးအစားဆေးရုံ ၁၄၇ ရုံ၊ (င) အမျိုးအစားဆေးရုံ ၂၇ ရုံ (ဆ) အမျိုးအစားဆေးရုံ ၆ ရုံနှင့် (ဇ) အမျိုးအစားဆေးရုံ ၁ ရုံဖြစ်၏။

၁၉၅၂ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင်တကြိမ်၊ ၁၉၅၃ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင်တကြိမ်၊ ထိုနှစ်အောက်တိုဘာလ ၁ ရက်နေ့တွင်တကြိမ်၊ ပေါင်း ၃ ကြိမ်ဆက်ကာ ယခင် ဒေသန္တရအဖွဲ့များမှ တာဝန်ယူဖွင့်လှစ်ခဲ့သောဆေးရုံများကို အစိုးရက သိမ်းယူလိုက်လေသည်။ ယင်းသို့အစိုးရကသိမ်းယူလိုက်သဖြင့် ယခုအခါ ဒေသန္တရအဖွဲ့များမှတာဝန်ယူဖွင့်လှစ်သောဆေးရုံနှင့် ဆေးပေးရုံများမရှိတော့ချေ။ ပြည်တော်သာစီမံကိန်းများအရ၊ ဆေးရုံနှင့်ဆေးပေးရုံများကိုတိုးချဲ့ဖွင့်လှစ်လာခဲ့ရာ၊ ယခုအခါ (က) အမျိုးအစားဆေးရုံ ၃၄၄ ရုံ (င) အမျိုးအစားဆေးရုံ ၂၇ ရုံ (ဆ) အမျိုးအစားဆေးရုံ ၁၃ ရုံနှင့် (ဇ) အမျိုးအစားဆေးရုံ ၅ ရုံ၊ ပေါင်း ၃၈၉ ရုံရှိလာခဲ့လေသည်။

ကူးစက်နာရောဂါကုသရေးအတွက် ပြည်တော်သာစီမံကိန်းအရ ၁၉၅၂ ခုနှစ်မှ စ၍ ဆေးပေးခန်းများ၊ ကူးစက်နာရောဂါသည့်ဂေဟာများ၊ ရိပ်သာများနှင့် အပြင်လူနာကုဆေးခန်းများတွင် ရောဂါသည်များကို အခမဲ့ ခေတ်မီဆေးဝါးကုသပေးလျက်ရှိရာ၊ ၁၉၅၆ ခုနှစ်တွင် ရောဂါသည်ပေါင်း ၂၇၀၀၀ ကျော်ကိုကုသပေးခဲ့၏။ ထိုအနက် ရောဂါသည်ပေါင်း ၃၇၀၀ ကျော်တို့မှာ အတွင်းလူနာများဖြစ်သည်။ ကူးစက်နာရောဂါ ကုသရေးဌာနများကို ရန်ကုန်မြို့ ပြည်သူ့ဆေးရုံကြီး၊ ပြည်မြို့၊ ဟင်္သာတမြို့၊ မြောင်းမြမြို့၊ မအူပင်မြို့၊ တောင်ငူမြို့၊ ပဲခူးမြို့၊ ကျောက်ဆည်မြို့၊ နာဂတောင်တန်း၊ ချင်းဝိသေသတိုင်း၊ ရှမ်းပြည်နယ် လွယ်လင်မြို့နှင့် ကျိုင်းတုံမြို့၊ ကချင်ပြည်နယ်ဟူသည်တို့တွင် ဖွင့်လှစ်ထားရှိသည်။ ကြည့်မြင်တိုင်၊ ထောက်ကြံ့၊ မန္တလေးမြို့၊ စစ်ကိုင်းမြို့၊ ရွှေဘိုမြို့၊ မုံရွာမြို့၊ ပခုက္ကူမြို့၊ မြင်းခြံမြို့၊ မိတ္ထီလာမြို့၊ ရမည်းသင်းမြို့၊ မကွေးမြို့၊ မင်းဘူးမြို့၊ သရက်မြို့၊ မော်လမြိုင်မြို့၊ ပုသိမ်မြို့တို့တွင်ကား အတွင်းလူနာလက်ခံသောဌာနများကိုဖွင့်လှစ်ထားရှိလေသည်။

အဆုတ်ရောဂါကုသရေးအတွက် စစ်မဖြစ်မီကာလက ရန်ကုန်မြို့တွင် ဆေးပေးခန်းတခုတည်းသာရှိခဲ့၏။ လွတ်လပ်ရေးရပြီးနောက်၊ ၁၉၅၁ ခုနှစ် ဇူလိုင်လမှစ၍ နိုင်ငံတော်အစိုးရသည် ခေတ်မီ ကရိယာတန်ဆာပလာများဖြင့် အဆုတ်နာရောဂါ ကုသနှိမ်နင်း ကာကွယ်ရေး ဆေးပေးခန်းကို မူလဆေးပေးခန်း အဆောက်အအုံဟောင်းတွင်ပင် ဖွင့်လှစ်၍လူနာများအား ရောဂါရှိမရှိစမ်းသပ်ခြင်း၊ ဆေးဝါးကုသပေးခြင်း၊ အဆုတ်နာရောဂါလူနာများအိမ်သို့ ဆရာဝန်ဆရာမများကို စေလွှတ်ကုသပေးခြင်းတို့ကိုပြုလုပ်ခဲ့လေသည်။ ၁၉၅၅ ခုနှစ် ဒီဇင်ဘာလအထိ လူနာပေါင်း ၃၃၆,၉၂၄ ယောက်ကို စမ်းသပ်စစ်ဆေး ကုသပေးခဲ့ပြီးဖြစ်လေသည်။ ၁၉၅၄ ခုနှစ် ဇူလိုင်လမှစ၍ မန္တလေးမြို့တွင် အဆုတ်ရောဂါဆေးပေးခန်းတခုကိုဖွင့်လှစ်ခဲ့ရာ၊ ၁၉၅၅ ခုနှစ် စက်တင်ဘာလအထိ လူနာပေါင်း ၃၈,၀၁၄ ယောက်ကိုစမ်းသပ်စစ်ဆေးကုသပေးခဲ့လေသည်။ ယခုအခါ တိုးချဲ့ထားသော ရန်ကုန်ဆေးရုံကြီးဝင်းအတွင်း၌ အဆုတ်နာရောဂါသည်များအားအတွင်းလူနာအဖြစ်လက်ခံကုသပေးလျက်ရှိလေသည်။

ကာလသားရောဂါနှင့် ပတ်သက်၍မူ၊ ဒုတိယ ကမ္ဘာစစ် မဖြစ်မီအခါက နယ်ရှိဆေးရုံကြီး ၂၇ ရုံ၌သာ ထိုရောဂါသည်များကို အခြားရောဂါသည်များနည်းတူ ကုသပေးခဲ့လေသည်။ စစ်ပြီးခေတ်မှ လွတ်လပ်ရေးရပြီးသည့် ၁၉၅၁ ခုနှစ်အထိ၊ ရန်ကုန်မြို့ ပြည်သူ့ဆေးရုံကြီး၌သာ ကာလသားရောဂါကုဌာနအနေဖြင့် သီးခြားဖွင့်လှစ်ကုသခဲ့၏။ ထိုနှစ်စက်တင်ဘာလ ၁ ရက်နေ့မှစ၍ ပြည်တော်သာစီမံကိန်းအရ၊ ကာလသားရောဂါတိုက်ဖျက်ရန်အတွက် လုပ်ငန်းကို တိုးချဲ့ခဲ့ရာ၊ ယခုအခါ ရန်ကုန်မြို့ရှိဆေးကုဌာနပေါင်း ၇ ခုနှင့် မန္တလေးမြို့၊ မော်လမြိုင်မြို့၊ ပဲခူးမြို့၊ ရေနံချောင်းမြို့၊ စစ်တွေမြို့၊ ပုသိမ်မြို့၊ ဟင်္သာတမြို့၊ မြစ်ကြီးနားမြို့စသည့်မြို့များတွင် ထိုလုပ်ငန်းကို အကောင်အထည်ဖော်ကာဆောင်ရွက်လျက်ရှိလေသည်။

ဆေးလိပ်။ ။ဆေးပင် — ရှု။

ဆေးဝါးဗေဒ။ ။ဆေးဝါးဗေဒသည် သတ္တဝါများအပေါ်တွင် ဓာတ်ပစ္စည်းတို့ အကျိုးသက်ရောက်ပုံကိုလေ့လာသောပညာရပ်ဖြစ်သည်။ အနောက်နိုင်ငံများတွင် ပညာတရပ်အဖြစ်ဖြင့် ဆေးဝါးဗေဒပေါ်လာသည်မှာ မကြာသေးပေ။ မူလကဆေးဝါးဗေဒသည် ဆေးပညာ၏အစိတ်အပိုင်းတခုသာလျှင်ဖြစ်သည်။ ၂၀ ရာစုနှစ်အတွင်း ဆေးပညာထွန်းကားလာသောအခါ၊ ဆေးဝါးဗေဒသည် သိသိသာသာတိုးတက်ကြီးပွားလာခဲ့လေသည်။ (ဆေးပညာနှင့် ခွဲစိတ်ကုသခြင်းပညာ — ရှု။)

ဆေးဝါးဗေဒသည် ဓာတုဗေဒ၊ ဇီဝဗေဒနှစ်မျိုးလုံးနှင့် ယှဉ်လျက်ရှိသည်။ ဆေးဝါးဗေဒ၏တိုးတက်မှုသည် လူနှင့်

တိရစ္ဆာန်တို့ကို လက်တွေ့စမ်းသပ်ရာမှ ပေါ်ထွက်လာသည်။ ဆေးဝါးဗေဒပညာရှင်သည် တွေ့ရှိသောဆေးကို တိရစ္ဆာန်တွင် ပဌမစမ်းသပ်ကြည့်သည်။ ကျွေးလိုက်သောဆေးဖြစ်စေ၊ ထိုးပေးသောဆေးဖြစ်စေ ခန္ဓာကိုယ်၏ မည်သည့်အစိတ်အပိုင်းတွင်းသို့ ရောက်ရှိသွား၍၊ ယင်းဆေး၌ ပါသောဓာတ်များသည် မည်ကဲ့သို့ပြုမူကာ၊ ဆေး၏အာနိသင် မည်သို့ရှိသည်၊ ဆေးပိုသွားပါက မည်သို့ဓာတ်ဖေါက်ပြန်မှုရှိသည်စသည်တို့ကို လေ့လာသည်။ တိရစ္ဆာန်တွင်အောင်မြင်သောအခါမှ လူတို့ကို တဆင့်စမ်းသပ်ကြည့်သည်။ အချို့ဆေးများသည် တိရစ္ဆာန်တွင် ထူးခြားသော်လည်း လူတွင် မထူးခြားသည်ကို တွေ့ရလေသည်။

ဆေးဝါးဗေဒပညာရှင်တို့သည် ဆေးဝါးပင်များနှင့် တွင်းထွက်ဓာတ်ပစ္စည်းများကိုစူးစမ်းရှာဖွေခဲ့ကြသည်။ သူတို့၏ ကြိုးပမ်းမှုကြောင့်ပင် သက်ရှိ တစ်သျှူးများပေါ်တွင်ဆေးလိုက်သောအပင်များနှင့်တွင်းထွက်ပစ္စည်းများကို တွေ့ရှိခဲ့ကြသည်။ ထိုပညာရှင်တို့သည် အဆိပ်ဆေးများကိုလည်း လေ့လာခဲ့ကြသည်။ ဓာတ်ဆေးအားလုံးလိုပင် လိုသည်ထက်ပို၍အသုံးပြုလျှင် အဆိပ်ဖြစ်တတ်သည်ကို သိရှိကြ၏။

အနောက်နိုင်ငံများတွင် ဆေးကျမ်းများရှိလေသည်။ ထိုဆေးကျမ်းမျိုးတွင် ဆေးဝါးများ၏ဂုဏ်သတ္တိကိုင်း၊ ဆေးဝါးများကိုမည်သို့သုံးဆောင်ရမည်ကိုင်း ဖေါ်ပြသည်။ ပဌမဆုံးဆေးကျမ်းကို ၁၅၄၂ ခုနှစ်တွင် ဂျာမနီနိုင်ငံ၌ထုတ်ဝေသည်။ ထိုနောက် အချိန်ကာလအားလျော်စွာ အလားတူဆေးကျမ်းများ ပေါ်ထွက်လာကြသည်။ ထိုဆေးကျမ်းတို့သည် တိကျမှန်ကန်မှုနှင့် တန်ဖိုးရှိမှုတွင် တကျမ်းနှင့်တကျမ်းမတူကြပေ။ ထို့ကြောင့် ထိုဆေးကျမ်းများကို ညှိနှိုင်း၍ မူသတ်မှတ်ပေးရန်လိုပေသည်။ ယခုအခါ နိုင်ငံတိုင်းလို၌ အစိုးရကအသိအမှတ်ပြုသောဆေးကျမ်းများပြုစုထား၏။ ကမ္ဘာ့ဆေးပညာအစည်းအဝေးများ၌ နိုင်ငံပေါင်းချုပ်ဆေးကျမ်း ပေါ်ထွက်လာရန်ပင် ဆွေးနွေးခဲ့ကြသေးသည်။

ဆေးကျမ်းကညွှန်းသည့်ဆေးနည်းအတိုင်း ဆေးမယ်များကိုစုခြင်း၊ ရောစပ်ခြင်း၊ ဆေးပေးခြင်းသည် ပညာတရပ်ဖြစ်သည်။ ထိုပညာကို ဆေးဝါးဖော်စပ်ပညာဟုခေါ်သည်။ ဆေးဝါးဖော်စပ်သူကို ဆေးဝါးဆရာဟုခေါ်သည်။ အရပ်သုံးစကားဖြင့်မူ ဆေးစပ်ဆရာဟုခေါ်သည်။ ဆေးဝါးဆရာသည် ဆေးညွှန်းကိုကြည့်၍ ဆေးဝါးဖော်စပ်ရသည်။ ယခုအခါနိုင်ငံတိုင်းလိုပင် ဆေးဝါးဖော်စပ်ပညာကျောင်းများရှိသည်။ (ဆေးဝါးဖော်စပ်ပညာ — ရှု။)


ဆေးစပ်ဆရာသည် ဆရာဝန်၏ဆေးညွှန်းအရသာဖော်စပ်ရသည်။

အမေရိကန်နိုင်ငံတွင် ဆေးဝါးဖော်စပ်ပညာသင်ကျောင်းပေါင်း ၇၀ ခန့်ရှိသည်ဟုဆိုသည်။ ထိုကျောင်းများက စာမေးပွဲအောင်သူများကို ဆေးဖော်စပ်ပညာဒီဂရီဘွဲ့များပေးသည်။ ဒီဂရီဘွဲ့ပင်ရသော်လည်း ဆေးဝါးဆရာလုပ်ရန်အတွက်မူ နိုင်ငံတော်အစိုးရထံမှ လိုင်စင်ယူရလေသည်။

ဆေးဝါးဆရာသည် ဓာတုဗေဒနှင့် ရုက္ခဗေဒကိုကောင်းစွာတတ်မြောက်ရပေသည်။ ထို့ပြင် မိုက်ကရုပ်ပိုးအတတ်၌လည်း ကျွမ်းကျင်ရသည်။ တိုးတက်နေသောကုထုံး ကုနည်းများကိုလည်း အမြဲလေ့လာ၍နေရသည်။ ဆေးဝါးဆရာ၏အရေးကြီးဆောတာဝန်မှာ အဆိပ်ဆေးနှင့် ထိုင်းဆေးတို့ကို မှန်ကန်တိကျစွာ၊ ဥပဒေအတိုင်းရောင်းချခြင်းဖြစ်သည်။ သူသည် ထိုဆေးအချို့ကို ဆရာဝန်ပြဋ္ဌာန်းသောဆေးညွှန်းအတိုင်းရောင်းချရသည်။ အချို့ဆေးမျိုးကိုမူ ဝယ်သူ၏လက်မှတ်ပါမှ ရောင်းချနိုင်သည်။ (ဆေးဝင်ပစ္စည်းများ — ရှု။)

ဆေးဝါးဆရာများကို အစိုးရကအသိအမှတ်ပြု၍၊ လိုင်စင်ထုတ်ပေးသည်။ မှတ်ပုံတင်ပြီးသောဆေးဝါးဆရာများသာလျှင် ဆေးဆိုင်များ၊ ဆေးရုံများ၊ စက်မှုလက်မှုအလုပ်ရုံကြီးများ၊ သုတေသနဓာတ်ခန်းများတွင် ဝင်ရောက်လုပ်ကိုင်နိုင်ကြသည်။ (မြန်မာဆေးပညာ — ရှု။)

**ဆေးသုတ်ခြင်းနှင့် အရောင်တင်ခြင်း။** ။နေအိမ်တိုက်တာအဆောက်အအုံများကို ဆေးသုတ်ခြင်း၊ အရောင်ခြယ်ခြင်းမှာ လှပတင့်တယ်ရန်အတွက်သာမဟုတ်၊ ပျက်စီးယိုယွင်းလွယ်ခြင်းမှလည်း ကာကွယ်နိုင်ရန်ဖြစ်သည်။ သစ်ထည်၊ သံထည်စသည့်ပစ္စည်းတို့မှာ ဤကဲ့သို့ဆေးသုတ်၍ ကာကွယ်ထားခြင်းမရှိလျှင် ရာသီဥတုဒဏ်ကြောင့် ဆွေးမြေ့ပျက်စီးလွယ်လေသည်။ ထို့ပြင် ဆေးသုတ်ထားခြင်းဖြင့် နေအိမ် အဆောက်အအုံမှာ အလင်းရောင် ပိုမိုရရှိကာ စိတ်ကြည်နူးဖွယ်ရာဖြစ်စေသည်။

သဘော်ဆေးဟုခေါ်သောသုတ်ဆေးမှာ သံချေးမတက်စေသောဆေး၊ ရွှေရောင်ငွေရောင်စသည့် သတ္တုအရောင်ဆေး၊ မီးခံဆေးစသည်ဖြင့် အမျိုးများပြားသည်။ အချို့သဘော်ကြီးတို့ဝမ်းများနှင့်ရေမျာတွင် ရေညှိနှင့်ပိုးစသည်တို့မတွယ်ကပ် မပေါက်ရောက်နိုင်အောင် သုတ်ရသောဆေးများလည်းရှိလေသည်။ ထိုအရောင်ဆေးများတွင် ဆီဆေး၊ ရေဆေးဟူ၍နှစ်မျိုးရှိ၏။ ဆီဆေးမှာ ပိုက်ဆံဆီ၊ အရပ်ခေါ် ငါးကြီးဆီ၊ တာရပင်ဆီစသည့်ဆီများဖြင့်ဖျော်စပ်ရ၍၊ ရေဆေးမှာ ရေဖြင့်ဖျော်စပ်ပြီးသုတ်ရလေသည်။

ဆေးမှုန့်ကလေးများ၏အရောင်အလိုက် အရောင်အမျိုးမျိုးဖျော်စပ်ရရှိသည်။ ထိုအရောင်ဆေးမှုန့်ကလေးများမှာ သတ္တုအမျိုးမျိုး၊ အရိုး၊ မြေကြီး အစားစား စသည်တို့ကို နုလှစွာသောအမှုန့်ပြုလုပ်၍ ဆန်ခါနှင့်စစ်ချထားခြင်းဖြစ်၍၊ အချို့မှာ ဓာတုဗေဒနည်းအရ ဖော်စပ်ထားသော အရောင်ဆေးမှုန့်များဖြစ်လေသည်။ ဆေးအဖြူရောင်အတွက် ခဲဖြူသို့မဟုတ် သွပ်အောက်ဆိုက် ဓာတ်သတ္တုများဖြင့် ပြုလုပ်၍၊ အနက်ရောင်ကို ကျပ်ခိုး၊ ခဲပုပ်တို့ဖြင့်ပြုလုပ်ရလေသည်။ အဝါရောင်ကို လက်ကရိုမိတ်နှင့် မြေဝါဆေးမြေတမျိုးမှ ရရှိလေသည်။ အစိမ်းရောင်ကို ကရုမ်ခေါ် သတ္တုတမျိုးမှရင်း၊ အဝါနှင့်အပြာရောင်ရောစပ်၍ရင်း ရရှိလေသည်။ ကိုဗော့ခေါ် အပြာရောင်သတ္တုမှ အပြာရောင်ရရှိ၍၊ သံနှင့်ခဲသတ္တုတို့မှ အနီရောင်ရရှိလေသည်။ ပိုးမွှားတိရစ္ဆာန်နှင့် မဲနယ်ပင် စသောအပင်များမှလည်း ဆေးရောင်များရရှိနိုင်သော်လည်း၊ အဆောက်အအုံများသုတ်ရန် ဆေးပြုလုပ်ဖို့ရန်မှာကား၊ စရိတ်ကြီးလေးလှသည်။

နေအိမ်သုတ်ရန်ဆေးများတွင် ခဲ၊ သွပ်၊ တိုင်တေးနီယမ်အောက်ဆိုက် စသည့်သတ္တုများ ရောစပ်ပါရှိသည့်ဆေးများကို အသုံးပြုသင့်၍၊ သံထည်များ သံချေးမတက်စေရန် ခဲနီ သို့မဟုတ် ခဲနှင့် သွပ်ကရိုမိတ် စသည့် သတ္တုများပါသည့်ဆေးများကို အသုံးပြုရသည်။

ထိုဆေးများကို ပိုက်ဆံဆီစသည်တို့ဖြင့် ခပ်ပျစ်ပျစ် ဖျော်စပ်၍သုတ်လျှင် ဆေးအရောင် အတိုင်း စွဲကပ်၍ ကျန်ခဲ့လေသည်။ သစ်သားပြင်ရှိ အပေါက်ကလေးများ ပိတ်သွားအောင် ပဌမသုတ်ရသောဆေးမျိုးလည်းရှိလေသည်။

ယခုအခါ ပိုက်ဆံဆီဖြင့် အသင့်ရောစပ် ထားပြီး နောက်၊



**အရောင်တင်ဆေးခြယ်ခြင်းအားဖြင့် ရာသီဥတုဒဏ်မှကာကွယ်နိုင်လေသည်။**

တာရပင်ဆီအနည်းငယ်ထည့်ကာဖော်စပ်ထားသောဆီဆေးများကိုအသုံးများသည်။ သုတ်ထားသောဆေး ကြာရှည်ခံ မခံမှာ ရောစပ်သောဆီ၏အမျိုးအစားနှင့် အချိုးအစားပေါ် တွင်တည်လေသည်။ ဆေးသုတ်လိုက်လျှင် တဖြည်းဖြည်းသွေ့၍ ဆေးအိပ်သွားစေရန် အဖျော်ပစ္စည်း တမျိုးထည့်ပေးရသည်။ ဆေးသုတ်လိုက်လျှင် ထိုပစ္စည်းမှာ အခိုးအငွေ့ဖြစ်သွား၍၊ သုတ်ထားသောဆေးအနှစ်တို့သည် စိုနေရာမှ စေးကပ်ကပ်အဖြစ်သို့တဖြည်းဖြည်းရောက်ကာ ဆေးအိပ်သွားသောအခါ၌ တောက်ပချောမွတ်သောဆေးသားအဖြစ် ကျန်ခဲ့လေသည်။ အရောင်တဖိတ်ဖိတ်နှင့် အရိပ်ထင်နေသော မော်တော်ကားများကိုသုတ်သည့် ဆေးမျိုးတွင်ကား၊ လျင်မြန်စွာဆေးအိပ်သွားစေတတ်သော ဆဲလျူလို့ဆေးများကိုအသုံးပြုကြသည်။ ငွေကုန်သက်သာစေရန် ဆေးရောစပ်ရာ၌ ပိုက်ဆံဆီအစား ပဲဗိစပ်ဆီကိုလည်း အသုံးပြုကြသည်။ ရှမ်းပြည်နယ်နှင့် တရုပ်နိုင်ငံတွင်ပေါက်သော သစ်ပင် တမျိုးမှရသော ရှမ်း ဆီ ကို လည်း သုတ် ထား သည့် ဆေး လျင်မြန်စွာတင်းမာလာစေရန်အသုံးပြုကြသည်။

ဆေးများမသုတ်မီ အောက်ခံ အကြမ်း တထပ် သုတ်ရသည်။ အောက်ခံအဖြစ်သုတ်ရသောဆေးမှာ ခဲဖြူဆေးသို့မဟုတ် ခဲနီဆေးဖြစ်၍၊ ထိုဆေးကိုခပ်ပါးပါး တထပ်သုတ်ပြီးမှ အလိုရှိရာအရောင်ဆေးကိုသုတ်ရသည်။ ထိုကဲ့သို့သုတ်ရာတွင် ဆေးသား ညီညီနှင့် ကြာရှည် ခံစေလိုလျှင် ဆေးအထပ်ထပ်သုတ်ပေးရလေသည်။

နှစ်ချီဆေးများမှာ ကြာလျှင် အက်ကြောင်းလိုက်ကာ အမှုန့်များဖြစ်၍ကွာတတ်သည်။ အကောင်းဆုံးဆေးမှာ လေးငါးနှစ်ခံ၍ အရောင်မပျက်ဘဲ၊ ဆေးအနည်းငယ်မျှသာ ကွာသည်။ ဆေးမှုန့်အမျိုးအစား၊ ဖျော်စပ်ပုံအချိုးအစား အလိုက် ဆေးများသည် အဆောက်အအုံ၊ အရာဝတ္ထုများ သံချေးတက်ခြင်း၊ ဆွေးမြေ့ပျက်စီးခြင်းတို့မှကာကွယ်လေသည်။ အကောင်းစားဆေးများမှာ ပိုက်ဆံဆီ သို့မဟုတ် ရှမ်းဆီကို တာရပင်ဆီ အနည်းငယ်ဖြင့် အရည်ကျဲစေပြီးနောက်၊ သစ်ပင်စေးနှင့်ရောချထားသောဆီဖြင့်ဖျော်ထားသည့်ဆေးများဖြစ်လေသည်။

အရောင်ဖျော့လိုလျှင် ဆေးအရောင်အမျိုးမျိုးကို အဖြူရောင်ဆေးဖြင့်ရောစပ်နိုင်သည်။ မီးခိုးရောင်ကိုအလိုရှိလျှင် အနက်ရောင်ဆေးနှင့် အဖြူရောင်ဆေးကို ရောစပ်နိုင်သည်။ အဝါရောင်ဆေးနှင့် အဖြူရောင်ဆေးကို ရောစပ်လျှင် အဝါနုရောင်ရရှိနိုင်သည်။ အဖြူရောင်ဆေး၌ အဝါဆေးရည် အနည်း ငယ် မျှ ရော လိုက် လျှင် မလိုင် နှစ် အ ရောင် ရ သည်။ (အရောင် — လည်းရှု။)

ရွှေရောင်၊ ငွေရောင်၊ ဒန်ရောင်၊ ကြေးနီရောင်ဆေးများကား အပူခံနိုင်၍၊ ရေဒီယိတ်တာ ခေါ် အပူမာတ်ပေး ကရိယာ၊ ရေနွေးပိုက်လုံးများ စသည်တို့၌ အသုံးပြုလေသည်။ ထိုအရောင်ဆေးများ သုတ်ထားသည့် အတွက်ကြောင့်သာလျှင် သဘော်ကြီးများ၊ တန်တားကြီးများသည် သံချေးတက်ခြင်း၊ ဟောင်းနွမ်း ဆွေးမြေ့၊ ပျက်စီး ယိုယွင်းခြင်းမဖြစ်နိုင်ကြပေ။ ကျောက်ဂွမ်း၊ လက်ချား၊ ဆိုဒီယမ် တန်းစတိတ်တို့ပါဝင်သောဆေးများ သုတ်ထားလျှင် သစ်သားထည်တို့မှာ မီးမလောင်နိုင်ချေ။



အဝါရောင်အပွင့်များဖြင့်တင့်တယ်သော ဆဲ့နှစ်ရာသီပင်

ဆဲ့နှစ်ရာသီပင်။ ။ဆဲ့နှစ်ရာသီပင်ကို ရုက္ခဗေဒ အလိုအားဖြင့် 'သီဗက်ရှာ ပီရူးဗီအားနာ' ဟုခေါ် သည်။ မျိုးရင်းမှာ 'အဲ့ပေါ့ဆိနေစီအီး' ဖြစ်သည်။ ထိုအပင်ကို မြန်မာနိုင်ငံအောက်ပိုင်း အရပ်ဒေသများတွင် စိုက်ပျိုးကြသည်။ ဆဲ့နှစ်ရာသီပင်သည် လုပသောချုံပင်ကြီးမျိုးဖြစ်သည်။ အရွက်သည်သေးသွယ်ရှည်လျား၏။ အပွင့်သည်ဖယောင်းကဲ့သို့ချောမွတ်၍ အဝါရောင်ရှိသည်။ အနံ့သင်းသည်။ အကိုင်းအရွက်ပင်စည်တို့ကို ချိုးဖဲ့ကြည့်လျှင် အဖြူစေး ထွက်သည်။ အသီး၌အစေ့များပါရှိသည်။ ထိုအစေ့များမှ မီးလောင်သောအဆီတမျိုးကိုရသည်။ ထိုအဆီသည် ဆေးဖက်ဝင်သည်။ ဆဲ့နှစ်ရာသီပင်အခေါက်မှ 'သက်ဗီတင်' ခေါ် ခြင်းသောအဆိပ်တမျိုးကိုရသည်။ ယင်းကို အစွမ်းထက်သောအဖျားဖြတ်ဆေးဖော်ရာတွင် အသုံးပြုသည်။



ပြာသိုလမကာရရာသီတွင် ဆင်ယင်ကျင်းပမြဲဖြစ်သည့် မြင်းခင်းပွဲတော်

# မြန်မာ့အစဉ်အလာပွဲတော်များ

ဆဲ့နှစ်လ ဆဲ့နှစ်ရာသီအတွက် မြန်မာ့ပွဲတော် ဆဲ့နှစ်မျိုးရှိသည်။ ဆဲ့နှစ်ရာသီပွဲတော်ကို ရှေးခေတ်မှစ၍မင်းမိပုရားနှစ်ပါးအမှူးပြု လျက် အစဉ်တစိုက်ကျင်းပလာခဲ့ရာ၊ အချို့ပွဲတော်များသည် ယခုအခါတိုင်အောင်ခေတ်စားဆဲပင်ဖြစ်၏။ အချို့မှာမူကား တိမ်ကောပပျောက်ကြလေပြီ။

**ဆဲ့နှစ်ရာသီ ပွဲတော်များ။** ။မြန်မာနိုင်ငံတွင် ဆဲ့နှစ်လ ဆဲ့နှစ်ရာသီအတွက် အမျိုးသားပွဲတော် ဆဲ့နှစ်မျိုး ဆဲ့နှစ်စား ရှိလေသည်။ ဤကိုရည်၍၊ ဘိုးတော်ဘုရားလက်ထက် အခါက အမတ်သရေသင်္ခယာသည် သာဓိနပျို့အပိုဒ် ၃၀ တွင် ဤသို့အကျဉ်းချုပ် ဖွဲ့ဆိုခဲ့လေသည်။

သင်္ကြန်တာကူး (၁)၊ နှစ်ဦးညောင်ရေ (၂)
စာပလွှေခင်း (၃)၊ ပဥ္စင်းတော်ခံ (၄)
စာရေးတံ (၅) နှင့်၊ မြစ်ယံပွဲကြီး (၆)
ဆီမီးထွန်းချိန် (၇)၊ ကထိန် (၈) နတ်ကျင်း (၉)
မြင်းခင်း (၁၀) ထွက်ဝင်၊ သဘင်မီးဖုံး (၁၁)
ဂူလုံးသဲပုံ (၁၂)၊ စေ့စုံစီလျဉ်
ဤသို့ယှဉ်သား၊ လစဉ်စမြဲ
ဆဲ့နှစ်ပွဲ။

(၁) တန်ခူးလ မိဿရာသီတွင် သင်္ကြန်ပွဲတော်ကို ကျင်းပ သည်။ နှစ်သစ်ကူးပွဲဖြစ်သော ဤပွဲတော်အတွင်း၌မြန်မာ လူမျိုးတို့သည် နံ့သာရည်ဖြင့် တဦးနှင့်တဦးသွန်းလောင်း ပျော်မြူးလေ့ရှိပုံကို အင်းဝမြို့ဘွဲ့ ဆဲ့နှစ်ရာသီလူးတားတွင် ဤသို့ဖွဲ့ဆိုထားချက် ရှိလေသည်။

တောင်လေသုတ်ဖြူး၊ လတန်ခူးမှူ
မြူးတူးပျော်ရွှင်၊ တာသဘင်ဝယ်
ဆင်ယင်တုပ၊ လှရရှုတည့်။
ငြိမ့်မျှစောင်းငြင်း၊ အဲသီချင်းနှင့်
ထုံသင်းနံ့သာ၊ ရေသီတာဝယ်
စမ္မာကရမက်၊ ပန်းပေါင်းဖက်၍
ရွှေခွက်အပြည့်၊ မွှေးမျိုးထည့်မှ
လည်လှည့်ဆူလှယ်၊ တင့်စံပယ်လျက်
ပြုံးရယ်ရွှင်အား၊ စံပျော်ပါးသည်
ကစားထုံရည် ဖျန်းတည့်လေ။
ပွင့်လင်းစည်သည် ရွှေပြည်ရွှေဝနန်းတည့်လေ။

(၂) ကဆုန်လ ပြိဿရာသီတွင် ညောင်ရေသွန်းပွဲတော် ကိုကျင်းပသည်။ ဤပွဲတော်သည်ကား ရေပြတ်၍ခြောက် သွေ့နေသော ဘုရားပွင့်ရာ ဗောဓိညောင်ပင်ကို ရေသွန်း လောင်းပူဇော်သော ပွဲတော်ဖြစ်လေသည်။ ညောင်ရေ သွန်းပွဲတော်အကြောင်းကို ရှေးစာဆိုတို့သည် နှစ်နှစ်သက် သက် ဖွဲ့ဆိုခဲ့ကြသည်။ အနောက်ဖက်လွန်မင်းလက်ထက်က မင်းဇေယရန္တမိတ် ဖွဲ့ဆိုပုံမှာကား။

ကဆုန်တွင်လည်း
ပြာစင်ညက်ဖြူ၊ ရွှေပြည်သူတို့
သင်းမြူကြိုင်စွာ၊ ရေနံ့သာဝယ်
ရင်းမာကွမ်းဘူး၊ စကားဦးနှင့်
ထွန်းမြူးလျှံမောင်း၊ မွေတော်ပေါင်းကို
ပျံ့လှောင်းကြိုင်ရှင်း၊ အဲသီချင်းနှင့်
ပြန်တင်းရည်စောင်၊ အဆောင်ဆောင်သည်
ခါညောင် မသွန်း လှည့်လေလော။
ဟူ၍ဖြစ်လေသည်။

(၃) နယုန်လ မေထုန်ရာသီတွင် စာပေကျမ်းဂန် သင် ကြားနေကြသောပုဂ္ဂိုလ်တို့ စာပြန်ရသော စာပြန်ပွဲတော်ကို ကျင်းပသည်။ မင်းတုန်းမင်းလက်ထက်တွင်ကျင်းပသော စာပြန်ပွဲတော်တခုအကြောင်းကို ကုန်းဘောင်ဆက်မဟာရာ ဇဝင်တော်ကြီးတွင် ဤသို့တွေ့ရလေသည်။

နယုန်လဆန်းရှစ်ရက်နေ့ကစ၍ ဝါဆိုလဆန်းရှစ်ရက် နေ့တိုင် မန္တလေးတောင်၏အနီး၊ သုဓမ္မာစရပ်တော် နှင့် စန္ဒာမုနိဘုရားပြင်ယံရှိ စရပ်တော်များတွင် ဝဲယာ ခွဲ၍၊ တံဆိပ်တော်ရမရဆရာတော်သံဃာတော်တို့ကြပ် မလျက် ပဌမကျော်တစ်၊ ပဌမကြီးတကျိပ်ကိုး၊ ပဌမ လတ် ပဌမငယ်စသော အတန်းအဆင့်ရှိသည့် ပဌမစာ တော်ပြန်ပဥ္စင်းလောင်းတော် ရှင်လောင်းတော် ဦးရေ တထောင်တို့ တလတိုင်တိုင် ပဌမစာတော် ပြန်ဆိုမြဲပြန် ဆိုကြရသည်။ ပဌမစာတော်ပြန်ဆိုသူတို့မှာ ပဌမ ကျော်နှင့်ပဌမကြီးများမှာ ပတ္တမြားနားတောင်း၊ ပတ္တ မြားလက်ကောက်၊ ပုတီး၊ လက်စွပ်၊ စလွယ်ဆင်ယင် ၍၊ ရွှေထီးလေးချက် ဆောင်မိုး၍၊ လူဆွဲရွှေရထား တော်ထက် စီးရသည်။ အဆောင်အရွက်စုံကိုင် နောက် လိုက်နောက်ပါလူနှစ်ကျိပ်တို့က ဝတ်ကောင်းဝတ်သန့် နှင့် လိုက်ကြရသည်။ .... ပဌမစာတော်ပြန်မည့်သူတို့ ကို ရွှေတော်သို့သွင်း၍ ဝတ်ဆင်ရန်ရွှေကျင်ခတ်ခေါင်း ပေါင်း၊ လွန်းများပုဆိုး၊ ဖဲပုဆိုး၊ ပိုးပုဆိုး၊ အင်္ကျီ၊ ပုဝါ များကို တယောက်လျှင်ငါးလဲကျစီနှင့် မုံ့ဘိုးငွေတရာ ကျစီ အောက်ခံထား၍၊ အထက်ကို စာဝါနိမ့်မြင့် အ လျောက် တိုးတက်ချီးမြှင့်သနားတော်မြတ်ခံရသည်။ ဤစဉ်အခါ ရွှေမြို့တော်လေးပြင်ရှိ ကျောင်းတိုက်တော် ဟူသမျှက ပဌမစာတော်ပြန်အသီးအသီးထွက်ကြသော

ကြောင့် ရွှေထီးရောင် ရွှေရထားရောင် တို့သည် ထိန်ပြောင်ဝင်းလက်၍ တတိုက်နှင့်တတိုက် တရောတရှက်တည်း ရှုမငြီးအောင်ရှိသောဟူ၏။ (ပဉ္စမပြန်စာမေးပွဲ — ရှု။)

(၄) ဝါဆိုလ ကရကဋ်ရာသီတွင် ‘နရိန္ဒာလဲ၊ ညာတောင်နတ်နှင့်၊ ဖိုလ်မြတ်ကယ်နိဗ္ဗူ၊ အောင်ဆုယူလို့၊ ရှစ်ဖြူရိပ်စံ၊ ပဉ္စင်းတော်ခံသောခါ၊ ရေလျှံတဲ့ဝါဆိုမှာ၊ ပုန်းညက်ညိုမာလာမင်းက၊ သင်းလှတယ်လေး’ ဟူသောရှေးလွမ်းချင်းနှင့်အညီ ပဉ္စင်းခံပွဲများကို ကျင်းပလေ့ရှိခဲ့လေသည်။ ဘကြီးတော်မင်းတရား ပဉ္စင်းခံပွဲကျင်းပခဲ့သည်ကို ထိုရာဇဝင်တော်ကြီးတွင် ဤသို့တွေ့ရလေသည်။

ဝါဆိုလဆန်းတဆဲ့ငါးရက်နေ့ ပဉ္စမပဉ္စင်းလောင်းတဆယ်၊ သာမဏေလောင်းတဆဲ့နှစ်တို့ကို အတွင်းတော်သို့သွင်းပြီးလျှင်၊ အရှင်မိဘုရားခေါင်ကြီးနှင့် ရေစက်သွန်းတော်မူ၍၊ ပဉ္စင်းသာမဏေ ပြုတော်မူသည်။ ပရိက္ခရာရှစ်ပါးနှင့်တကွ ရဟန်းတို့အသုံးအဆောင်နှင့်စပ်သည်ကိုလည်း အစေ့အစုံလှူတော်မူသည်။ ထို့ပြင်လည်း သက်တော်စေ့ပဉ္စင်းသာမဏေ သုံးဆဲ့ခုနှစ်ပါးပြုတော်မူသည်။

(၅) ဝါခေါင်လ သိဟ်ရာသီတွင် ရဟန်းသံဃာတို့အားဆွမ်းခံဘွယ်တို့ကိုငင်း၊ ရဟန်းအသုံးအဆောင်တို့ကိုငင်း စာရေးတံမဲချ၍လှူဒါန်းရသော စာရေးတံပွဲကို ကျင်းပကြလေသည်။ ဘကြီးတော်မင်းတရားလက်ထက် စာရေးတံပွဲကျင်းပပုံကို ထိုရာဇဝင်တော်ကြီးတွင် ဤသို့တွေ့ရလေသည်။

ဝါခေါင်လပြည့်ကျော်ရှစ်ရက်နေ့ ဂါမဝါသီပုဂ္ဂိုလ်၊ အရညဝါသီပုဂ္ဂိုလ်၊ အရိယာသံဃာတော်အပေါင်းတို့အား ပရိက္ခရာ ရှစ်ပါးနှင့်တကွ ရဟန်းတို့ အသုံးအဆောင်နှင့်စပ်သည်ကို အစေ့အစုံဆွဲ၍ ပဒေသာ ပင်ရေနှစ်ရာ့ခြောက်ဆယ် (၂၆၀) ကို အတွင်းတော်သို့သွင်းပြီးလျှင်၊ အရှင်မိဘုရားခေါင်ကြီးနှင့်တကွ ရေစက်သွန်းချတော်မူ၍၊ သလာကဘတ် စာရေးတံဆွမ်းလှူတော်မူသည်။ (သလာကဘတ် = ပါဠိ၊ သလာကဘတ္တ = မြန်မာ၊ စာရေးတံဆွမ်း)

(၆) တော်သလင်းလ ကန်ရာသီတွင် မိုးလေကင်းရှင်း၍လှိုင်းလေ ငြိမ်သက်သောကြောင့် ဧရာဝတီမြစ်တွင်း၌ လှေပြိုင်ပွဲများကိုကျင်းပကြရိုးဖြစ်လေသည်။ သီပေါမင်းတရားလက်ထက် လှေပွဲသဘင်ကျင်းပပုံကို ထိုရာဇဝင်တော်ကြီးတွင် ဤသို့တွေ့ရလေသည်။

ယင်းသည့် လဆန်းတဆဲ့တရက်နေ့ နှစ်စဉ်ကျင်းပမြဲရေသဘင်ပွဲတော်ပြုလုပ်ရန် မှူးတော်မတ်တော်အရာရှိတို့ ရွှေမြို့တော်အနောက်မျက်နှာ ဧရာဝတီမြစ်ဆိပ်သို့ ထွက်လာကြပြီးလျှင်၊ လှေချလွှတ်ရန်သမ္ဗန်ကို ဝန်ထောက် ဝက်မစွတ်မြို့စား မင်းကြီးမင်းထင်မဟာစည်သူ သွားရောက်ဘက်စပ်ချထားရသည်။ ပဉ္စမလှေ ရွှေဖျားတွဲဘက်မရှိ၍စုန်သွားစေရသည်။ ပြီးလျှင် လက်ရွေးကြီး၊ လက်သစ်၊ လှော်ကားတော်ကြီးနှစ်စင်း၊ ၎င်းနောက် ပြည်လုံးအုံ့နှင့်ရွှေးကြီး တွဲဘက်ပြိုင်ဆိုင်စေရသည်။ ပြီးလျှင် လှော်ကားတော်စင်းရေတဆဲ့နှစ်၊ ပြီးလျှင် ပုလိပ်ရွှေခဲ၊ အစေခံတောင်လုံး၊ ပွဲတိုင်းကျော်၊ ထွက်တိုင်းရစသော လှော်လှေတော်စင်းရေ နှစ်ဆဲ့နှစ်၊ ပြီးလျှင် ရွှေတုံး၊ မင်းစံ၊ တောင်လုံးမှိုင်း၊ ရွှေလောင်းကြီး၊ ယင်ပုံ၊ မင်္ဂလာရန်နင်း၊ ခိုတောင်ရွှေခဲစသောခတ်လှေတော်နှစ်ဆဲ့ရှစ်စင်း၊ ပြီးလျှင် သုံးလူ့တောက်ပ၊သုံးလူ့ပူဇော်စသောလောင်းတော်စင်းရေနှစ်ဆဲ့ကိုး၊ ပြီးလျှင် သေနတ်အစုအမှုထမ်းတို့ရဲလှေ စင်းရေလေးဆဲ့ငါး၊ပြီးလျှင် မှူးတော်မတ်တော်တို့ လှော်ကားချင်းပြိုင်ဆိုင်ရသည်။ . . . ၎င်းလဆန်း တဆဲ့သုံးရက်နေ့ ပင်လယ်သွား စကြာယာဉ်ပျံသင်္ဘောတော်၊ ဧရာဝတီမြစ်သွား ရတနာယာဉ်သာ၊ ရတနာယာဉ်ပျံ၊ စကြာရန်လှင့်စသော သင်္ဘောတော်စင်းရေ နှစ်ဆဲ့နှစ်ကို တွဲဘက်ပြိုင်ဆိုင်ရသည်။ ပြီးလျှင် အထက်နေ့က ခိုတောင်ရွှေခဲ ခတ်လှေတော်နှင့် မင်္ဂလာရန်နင်း ခတ်လှေတော်ပြိုင်ဆိုင်ရာ၊ မင်္ဂလာရန်နင်း ရှုံးနိမ့်သည်ကိုစိတ်မကြေ ထပ်မံပြိုင်ဆိုင်ရန် အမိန့်တော်မြတ်ခံပြီးဖြစ်သည့်အတိုင်း၊ ၎င်းလှေတော်နှစ်စင်း ပြိုင်ဆိုင်ကြရာ၊ မင်္ဂလာရန်နင်းနိုင်၍၊ ပန်းရသည်။ ပြီးလျှင် ရေသဘင်ပွဲတော်သိမ်းသည်။

(၇) သီတင်းကျွတ်လ တူရာသီတွင် မြတ်စွာဘုရားသခင်နတ်ပြည်မှ ဆင်းသက်ခဲ့ဘူးသည်ကို အကြောင်းပြု၍ မီးစောင်းတန်း မီးမြင့်မိုမျှားထွန်းညှိကာ မီးပွဲသဘင်ကို ဆင်ယင်ကျင်းပကြရိုးဖြစ်လေသည်။ သီပေါမင်းတရား လက်ထက် မီးထွန်းပွဲသဘင် ကျင်းပပုံအကြောင်းတရပ်ကို ထိုရာဇဝင်တော်ကြီးတွင် ဤသို့တွေ့ရပေသည်။

ရှို့လွှတ်မြဲ မီးမျိုးစုံများကို မဟာလောကမာရဇိန်ဘုရား၊ မာန်အောင်ရတနာဘုရား . . . နှစ်ဆူမှာခွဲဝေရှို့လွှတ်ပူဇော်ရသည်။ . . . နှစ်စဉ်ထွန်းလင်းပူဇော်မြဲ တဆဲ့ခြောက်ဌာနပြင် အသျှင်နှစ်ပါးနံတော်သင့် . . . ဘုရားများပါ စုစုတဆဲ့ရှစ်ဌာနဘုရားများမှာ . . . မီးစောင်းတန်းထွန်းလင်းပူဇော်ရာ မှူးကြီးမတ်ကြီးတို့နှင့် မှူးတော်မတ်တော်အရာရှိတို့ ခွဲဝေသွားရောက်ကြီးကြပ် ပွဲသဘင် ခင်းကျင်းထွန်းလင်းပူဇော်ရသည်။ တဆဲ့ရှစ်ဌာနများသို့ မီးထွန်းလင်း လမ်းလျှောက် တီးမှုတ်ထမ်းရွက်စေရန် သေနတ်၊ အမြောက်၊ ဝင်း၊ ဒိုင်း၊ လှေ၊ ဘောင်၊ ရပ်ကွက်များက အသီးသီးထွက်သည့်

အိုးစည်၊ ဒိုးပတ်၊ ပုံထောင်၊ မောင်း၊ တီးမှုတ်သူတို့ကို တကိုယ်လျှင် ငွေဒင်္ဂါးငါးပြားကျ သနားတော်မူသည်။ ယင်းသည့်နေ့ ရွှေနန်းတော် မြေနန်းတော်တောင်ဘက်တွင် တဆဲ့ခြောက်ဌာနဝက်ပါ၊ ရွှေနန်းတော်အနောက်တောင်ထောင့်တွင် ခရုပတ်ဝက်ပါ၊ စိကြနန္ဒာဝက်ပါများကို လုပ်ဆောင်ရသည်။ . . . လပြည့်ကျော် ခုနှစ်ရက်နေ့ မြေနန်းတော်တောင်ဘက် သောဠသဝက်ပါကို ပြီးပြေအောင် လုပ်ဆောင်၍ မီးထွန်းလင်းစေပြီးလျှင် အသျှင်နှစ်ပါးထွက်စံတော်မူသည်။

(၇) တန်ဆောင်မုန်းလ ဗြိစ္ဆာရာသီတွင် ကထိန်သင်္ကန်း ကပ်လှူပွဲ၊ ဆီမီးတန်ဆောင် ထွန်းညှိပွဲ၊ မသိုးသင်္ကန်း ရက်လုပ်ပွဲတို့ကို ကျင်းပရိုး ဖြစ်လေသည်။ ဘကြီးတော်မင်းတရားလက်ထက်ကျင်းပသော ကထိန်နှင့် ဆီမီးတန်ဆောင်ပွဲတို့အကြောင်းကို ထိုရာဇဝင်တော်ကြီးတွင် ဤသို့တွေ့ရလေသည်။

တန်ဆောင်မုန်းလဆန်း တဆဲ့ငါးရက်နေ့ အနောက်အတွင်းတော်မှာ ကထိန်သင်္ကန်းရက်လုပ်စေ၍ ဘုရားစေတီပုထိုးများမှာ လှူတော်မူသည်။ အရညဝါသီပုဂ္ဂိုလ်၊ ဂါမဝါသီပုဂ္ဂိုလ်၊ အရိယာသံဃာတော်မြတ်တို့အားလည်း ကထိန်သင်္ကန်း ခုနှစ်ရာ့ ခုနှစ်ဆဲ့ ခုနှစ် (၇၇၇) တို့ကို အသျှင်မိဘုရားခေါင်ကြီးနှင့် ရေစက်သွန်းတော်မူ၍ကပ်လှူတော်မူသည်။ တန်ဆောင်မုန်းလ ရက်သုံးဆယ်လုံးလည်း ရွှေမြို့တော်နှင့်တကွ ပြည်တွင်းပြည်ပ၊ လက်တွင်းလက်ပ၊ လမ်းသေးလမ်းမများကို တန်ဆာဆင်စေပြီးလျှင် ရွှေနန်းတော်မှစ၍ပြည်အလုံး ကြတ္တိကာသဘင် ကောင်းကင်ဆီမီးတို့ဖြင့်ညှိထွန်းပူဇော်ကြရသည်။ တန်ဆောင်မုန်းလပြည့်ကျော်ရှစ်ရက်နေ့ ဘုရားစေတီပုထိုးများမှာ ဆီမီးတန်ဆောင်တိုင် အတောင်နှစ်ဆယ်၊ နှစ်ဆဲ့ငါးတောင်၊ သုံးဆယ်၊ တိုင်ပေါင်းရှစ်ဆယ် ညှိထွန်းပူဇော်တော်မူသည်။

သီပေါမင်းတရားလက်ထက် မသိုးသင်္ကန်းပွဲတော် ကျင်းပပြုလုပ်ပုံကို ထိုရာဇဝင်တော်ကြီးတွင် ဤသို့တွေ့ရလေသည်။

ယင်းသည့်လဆန်းတဆဲ့လေးရက်နေ့ . . . အနောက်စမုတ်တော်ဦး ပွဲကြည့်စံနန်းတော်သို့ အသျှင်နှစ်ပါးထွက်စံတော်မူ၍ ဝါကောက်ရန် ညဉ့်နှစ်ချက်တီးအချိန်မတိုင်မီအတွင်း ပွဲသဘင်စုံများကို ကျင်းပစေပြီးလျှင် ညဉ့်နှစ်ချက်တီး ပဟိုရ်တော်သံ ကြားသည်နှင့်တပြိုင်နက် မျိုးစေ့ကြဲမြောက်၊ ပင်ရောက်ပွင့်သီး၊ လုံးကြီးဝါပေါက်၊ ကောက်ယူမဆိတ်၊ အကြိတ်အဘန်၊ ပြန်လှန်တို့ပယ်၊ ရှယ်ခြင်းရက်ခြင်း၊ ဆိုးခြင်းစုံလင်၊ အစီရင်တို့ကို၊ အသံကူးပြောင်း၊ ဟောင်းခြင်းသိုးခြင်းမရှိစေရ။ ကတော်မယားတို့ တဦးထက် တဦးသာအောင်ကြိုးပမ်းအားထုတ် ပြိုင်ဆိုင်ရက်လုပ်ကြရသည်။ မသိုးသင်္ကန်းတော် ကြီးကြပ်ရက်လုပ်သည့် ကတော်မယားတို့ကိုလည်း ပုဝါအုပ်၊ ပိတ်အုပ်၊ သက္ကလတ်ခြုံထည်များ သနားတော်မူ၍ ဦးစွာပြီးသူကို ရွှေဘလားသနားတော်မူသည်။ မြင်းစုကြီးဝန်မယားမှာ ချည်ခင်ကိုနေအိမ်ကဆောင်ယူလာ၍ ထည့်သွင်းရက်လုပ်ရန်ဖွက်ထားသည်ကိုတွေ့မိသောကြောင့် ရွှေနန်းတော်ကိုလှည့်၍ ဒိုးပတ်နှင့်ကရသည်။

ထိုပွဲများအပြင် သျှင်မာလဲပွဲကိုလည်း ကျင်းပတတ်သေးကြောင်းဖြင့် ပုဂံဝန်ထောက်မင်း ဦးတင်က မြန်မာမင်းအုပ်ချုပ်ပုံစာတမ်း၊ ပဉ္စမအုပ်၊ မျက်နှာ ၂၃၇ တွင် ‘ ကာကသတ္တဝါ၊ တာရာထိန်ဆဲ၊ ကထိန်ပွဲလျှင်၊ သျှင်မာလဲပွဲ၊ တန်ဆောင်ပွဲက၊ ပွဲကြီးသုံးဖြာ၊ ကြုံကြိုက်ပါလိမ့် ’ ဟု ဖွဲ့ဆိုခဲ့သည်။ သျှင်မာလဲပွဲသည် သီဟိုဠ်ကျွန်း ကုရောဒဇနပုဒ်တွင်သိတင်းသုံးသော သျှင်မာလဲမထေရ်ကိုအကြောင်းပြု၍ဖြစ်ပေါ်လာသည်ဟု ပေါရာဏဒီပနီကျမ်း၊ ဒုတိယတွဲတွင် ပါရှိလေသည်။ တခါသော် သျှင်မာလဲမထေရ်သည် တာဝတိံသာနတ်ပြည် စူဠာမဏိ စေတီတော်ကို အဖူးအမြော် သွားရာတွင် အရိမေတ္တေယျအလောင်းတော်နတ်သားနှင့်ဆုံမိသည်။ ထိုအခါ အလောင်းတော်နတ်သားက တန်ဆောင်မုန်းလပြည့်တိုင်ရောက်သည့် အခါတိုင်း ဝေဿန္တရာ ဇာတ်တော်ကို လူအပေါင်းတို့အား ဟောကြားပါရန် လျှောက်ထားတောင်းပန်လိုက်သဖြင့် သျှင်မာလဲမထေရ်သည် တန်ဆောင်မုန်းလပြည့်နေ့တို့တွင် ဝေဿန္တရာဇာတ်တော်ကိုဟောကြားလေသည်။ ထို့ကြောင့် သျှင်မာလဲပွဲအခါ၌ ဂါထာတထောင်ဖြင့်တန်ဆာဆင်အပ်သော ဝေဿန္တရာဇာတ်တော်ကြီးကို ဟောပြောရသည်။ လှော်ကားတော်ပုံပြု၍ လှော်ကားထက်တွင် အသီးတထောင်၊ အပွင့်တထောင်၊ ထမင်းဆုပ်တထောင်၊ ဆီမီးတထောင်စသည်တို့ကို လှူဒါန်းပူဇော်ရလေသည်။

(၉) နတ်တော်လ မိနရာသီတွင် မဟာပိန္နဲနတ် ပူဇော်ပွဲကို ကျင်းပရိုးထုံးစံရှိသည်။ ထို့ကြောင့် အင်းဝမြို့ဘွဲ့ ဆဲ့နှစ်ရာသီလူးတားတွင် ‘ ဂမုန်းအင်နှင့်၊ သဇင်ပွင့်ပေါ်၊ လနတ်တော်ကား၊ ပူဇော်ကြီးစွာ၊ မင်းဆရာတို့၊ မဟာပိန္နဲ ’ ဟုစပ်ဆိုထားခြင်းဖြစ်လေသည်။ ကုန်းဘောင်ဆက်မဟာရာဇဝင်တော်ကြီးတွင်လည်း ဘကြီးတော် မင်းတရား လက်ထက်က မဟာပိန္နဲပွဲ ဆင်ယင်ကြောင်းကို ဤသို့ မှတ်တမ်းတင်ထားလျက်ရှိလေသည်။

နတ်တော်လဆန်းတဆဲ့ငါးရက်နေ့ မဟာပိန္နဲနတ်ကို ရထားတင်၍ ဗလိနတ်စာပေးတော်မူ၏။

(၁၀) ပြာသိုလ မကာရရာသီတွင် သေနင်္ဂဗျူဟာအခမ်းအနားတရပ်ဖြစ်သော မြင်းခင်းပွဲ ဆင်ခင်းပွဲတို့ကို ဆင်ယင်ကျင်းပရိုးရှိလေသည်။ သီပေါမင်းတရားလက်ထက် ဆင်

ခင်း မြင်းခင်း စက်သွင်းသဘင်တော် ကျင်းပပုံကို ထိုရာဇဝင်တော်ကြီးတွင် ဤသို့တွေ့ရလေသည်။

မြေနန်းတော် လက်ဝဲဘက်တွင် အမြင့် တဆဲ့ငါးတောင်ကစ၍ နှစ်ဆယ်၊ နှစ်ဆဲ့ငါးတောင်၊ သုံးဆယ်၊ ငါးဆယ်၊ အနောက်ကအရှေ့သို့ အတည့်အတန်း စက်တိုင်ငါး စိုက်ထူပြီးလျှင် . . . မင်းညီမင်းသား၊ ဝန်ကြီး၊ အတွင်းဝန်၊ ဝင်းတော်မှူး၊ မှူးတော်မတ်တော်၊ လက်သုံးတော်၊ လက်စွဲတော်တို့ သနားတော်မြတ်ခံရသည့် မျဉ်း၊ မောက်တို၊ စစ်ဝတ်တန်ဆာ ဆင်ယင်ပြီးလျှင် မြင်းကြိုးကစုံများကိုစီးနင်း၍ တကိုယ်လျှင်ဆယ်ခေါက်ကျ လှံလျှင်ဆယ်စင်းစီကုန်အောင် ထိုးကြရသည်။ . . . စက်စွဲသည့် မင်းညီ မင်းသား၊ မှူးတော် မတ်တော်၊ လက်သုံးတော်၊ လက်စွဲတော်တို့မှာ တလက်စွဲလျှင် ငွေပွင့်ထိုး ပန်းပုဝါ တစ်၊ သဇင်ပန်းခိုင် တစ်စီ သနားတော်မူသည်။ . . . စက်ထိုးသဘင် ပြီးလျှင် ကသည်းအက္ကပတ်မြင်းတပ်ဗိုလ်အရာရှိတို့နှင့် မြင်းအမှုထမ်းတို့ ရှောက်သီး ထားခုတ် လှံထိုး၊ ငှက်ပျောပင်စိုက် ရေအိုးတင် ထားခုတ်၊ မြင်းအစိုင်းအနှင် အရေးအရာများကို ထိုးခုတ်ပြပြီးနောက် ရွှေနန်းတော်သို့ဝင်တော်မူသည်။ . . . လပြည့်ကျော်လေးရက်နေ့ ဘဝရှင်မင်းတရားကြီး ဘုရား . . . ထွက်စံတော်မူပြီးလျှင် ဆင်တော်စီးရေသုံးဆဲ့နှစ်ကို တွဲဘက်တိုက်ဝှေ့စေပြီးနောက် စစ်မြေအရပ်တွင် ဆင်တော်များကို ရဲဝံ့တုံ့စား အကြောက်အရွံ့မရှိရအောင် သေနတ်၊ မီးပေါက်၊ ယမ်းမီး၊ ပြောက်၊ ဒိုင်း၊ ကာတို့ဖြင့် ပစ်ဘောက် ရိုက်ခတ် ခြောက်လှန့်စမ်းသပ်သည်များကို ကြည့်ရှုတော်မူ၍ ရွှေနန်းတော်သို့ ဝင်တော်မူသည်။

(၁၁) တပို့တွဲလ ကုံရာသီတွင် မီးဖုံး ယာဂ လှူသောပွဲတော်ကို ကျင်းပရိုးရှိလေသည်။ ဤပွဲတို့အကြောင်း ထိုရာဇဝင်တော်ကြီး၌ ဤသို့တွေ့ရလေသည်။

တပို့တွဲလ၊ ပဏ္ဍုရသီ၊ တိထိထွန်းစည့်၊ လပြည့်နေ့အခါဝယ်၊ . . . ဆက္ကဒန္တ၊ ပြောင်မှန်ဝပင်၊ အေးမြသော အစွယ်ရှိသည်ဖြစ်၍ သုံးလူ့ ထွတ်ထား၊ မြတ်စွာဘုရားပင်လျှင်၊ လေးပါးသောမဟာဘူတ မျှတစေရန်၊ မီးရှိန်ခံတော်မူသည်ကိုရည်ပြီးလျှင်၊ ရုပ်ရှင်တော်ပွား၊ ကိုယ်စားတော်စားဖြစ်သော . . . ဘုရားတဆဲ့ငါးဆူ၊ ရွှေဂူစေတီ၊ သရီရမြတ်၊ မွေတော်ခတ်တော်တို့အား နှစ်စဉ်ပူဇော်လှူဒါန်းမြဲ နံ့သာမျိုးဆယ်ပါးတို့တွင် သာရကန္ဒအစစ်၊ အနှစ်နံ့သာတို့ဖြင့်ပြည့်သော၊ မီးခံနှင့်တကွသော မီးဖုံးပြာသာဒ်တော် ဆူရေတဆဲ့ငါး၊ ကောက်သုံးပါးတို့တွင်၊ ဩဇာလေးနက်၊ အကျိုးတက်သော၊ ကောက်ကြီးဆန်မြတ်၊ ပေါက်လတ်လက်ဦး၊ ဆွတ်ယူခူးသော၊ ကောက်ဦးဆွမ်း အဖြစ်ဖြင့် . . . ကောင်းစွာကျိုချက်အပ်သော မွန်မြတ်သော ယာဂုဆွမ်းအလှူတော်များကို စာရင်းပါတဆဲ့ငါးဆူသောဘုရားရှင်တို့အား သဇင်ပန်း၊ ဆီမီးတန်ဆောင်စသော အလှူတော်များနှင့်တကွ . . . ကောင်းမွန်စွာအရှဏ်ဆွမ်းကပ်၍၊ မီးဖုံးတော်များကိုလှူဒါန်းပူဇော်တော်မူသည်။

(၁၂) တပေါင်းလ မိန်ရာသီတွင် သဲပုံစေတီပွဲကို ကျင်းပရိုးရှိလေသည်။ ဤလတွင် ဧရာဝတီမြစ်တွင် သဲသောင်များဖြူဖြူဖွေးဖွေး ထွန်းပေါ်၍ ရေကျေးရေငှက်များ မြူးထူးပျော်ပါးကြသဖြင့် အလွန်ကြည်နူးဘွယ်ဖြစ်လေသည်။ ထိုအခါတွင် မင်းမိဘုရားနှစ်ပါးသည် မင်းညီမင်းသား မှူးတော်မတ်တော်တို့နှင့် အတူ သောင်ပြင်သို့ ထွက်စံတော်မူကာ သဲပုံစေတီများကိုတည်၍ပူဇော်ကန်တော့ကြလျက် ပွဲလမ်းသဘင် ဆင်ယင်ကျင်းပကြလေသည်။ ဤကိုရည်၍ အင်းဝမြို့ဘွဲ့ဆဲ့နှစ်ရာသီလူးတားတွင်၊

တပေါင်းလသာ၊ လတကာထက်
နှိုင်းရာဖက်ရှောင်၊ လမျှားနောင်ကား
တောင်လည်းသာမော၊ တောလည်းသာထွေ
ရေလည်းသာလှ၊ ဖြူလွသောင်ပြင်
ငှက်ပေါင်းရှင်လျက်၊ သဘင်အပြီ
သဲစေတီဟု၊ မြှောက်ချီရှင်ပ
ပူဇော်ကြမှု၊ ပြည်ပပြည်တွင်း
ဖြောင့်စင်းရည်စောင်၊ ဆီမီးထောင်နှင့်
ထွန်းပြောင်ညီရှိုး၊ ပန်းလျှင်ကုံးသို့
နှလုံးသဒ္ဓါ၊ ရတနာသုံးဘော်
ဖူးမြော်ကုန်ကြ၊ လွန်ရှင်ပြရှင့်။ ဟူ၍ဖွဲ့ဆိုထားသည်ကို တွေ့ရလေသည်။

ဤသို့အားဖြင့် ဆဲ့နှစ်ရာသီပွဲတော်တို့ကို မင်းမိဘုရားနှစ်ပါး အမှူးပြု၍ အစဉ်တစိုက် ကျင်းပလာခဲ့ကြရာ အချို့ပွဲတော်များသည် ယခုအခါတိုင်အောင် ဆက်လက်ခေတ်စားဆဲပင်ဖြစ်ပေသည်။ အချို့မှာမူကား တိမ်ကောပပျောက်ကြလေပြီတည်း။ ဦးဝန်

**ဆဲ့လူမျိုး။** ။ကဲ့လူမျိုး — ရှု။

**ဆယ်တင်ခြင်း လုပ်ငန်း။** ။လှိုင်းလေအန္တရာယ်ကြောင့်ဖြစ်စေ၊ စစ်မက်အန္တရာယ်ကြောင့်ဖြစ်စေ ပင်လယ်သမုဒ္ဒရာထဲတွင် သင်္ဘောနစ်နေသည်ကို ဆယ်တင်ရသောလုပ်ငန်းဟူ၍ရှိရာ၊ ထိုလုပ်ငန်းသည် သက်စွန့်ကြိုးပမ်းဆောင်ရွက်ရသောလုပ်ငန်းဖြစ်ချေသည်။ အင်္ဂလိပ်ဥပဒေ၌ ထိုကဲ့သို့သက်စွန့်ကြိုးပမ်းဆောင်ရွက်သည်တို့ကို ဆုလပ်ဖြင့်ချီးမြှင့်ရသည်။ ကယ်ဆယ်၍ရသည့်လူတို့၏ အသက်ပေါင်းနှင့်

ကယ်ဆယ်ရမိသော ပစ္စည်းများ၏ တန်ဖိုးအပေါ်တွင် ချင့်တွက်ကာ၊ ရေတပ်မတော်အုပ်ချုပ်ရေးအဖွဲ့ချုပ်ရုံးတော်၏ ဆုံးဖြတ်ချက် အတိုင်း ဆယ်တင်ရန်စေခိုင်းသော သင်္ဘောကုမ္ပဏီက ထိုဆုလပ်ကို ပေးရသည်။ တခါတရံ ရုံးတော်မှ ဆုံးဖြတ်သည့် အတိုင်း သက်ဆိုင်ရာ သင်္ဘောကုမ္ပဏီ သို့မဟုတ် ပိုင်ရှင်များက အကယ်ပင် အတိအကျမပေးနိုင်လျှင်၊ ကုန်သွယ်ရေး ဘုတ်အဖွဲ့က ရေကြောင်းကုန်သွယ်ရေး ရန်ပုံငွေမှ လိုသမျှဆုငွေကို ဖြစ်စေ၊ တစိတ်တဒေသကို ဖြစ်စေ ဖြည့်စွက်၍ပေးလေသည်။ ရရှိသောဆုငွေကို ဆယ်တင်သောသင်္ဘောကုမ္ပဏီပိုင်ရှင်နှင့် အရာရှိကြီးငယ် အလုပ်သမားတို့သည် ဝေပုံကျ ခွဲယူကြရ၏။

ဤကဲ့သို့ ဆုလပ်များပေးသောကြောင့် ပင်လယ်ထဲတွင်နစ်မြုပ်ပျက်စီးခဲ့သော သင်္ဘောကြီးများကို ရေထဲမှ ပြန်လည်ဆယ်တင်နိုင်ခဲ့လေသည်။ ပမာအားဖြင့်ဆိုလျှင် ၁၉၂၂ ခုနှစ်က ပြင်သစ်နိုင်ငံ အနောက်ဖက်ကမ်းခြေ အနီးတွင် သင်္ဘောချင်းတိုက်မိသဖြင့် ပီ အင် အို ကုမ္ပဏီပိုင် 'အီဂျစ်' အမည်ရှိသောသင်္ဘောကြီးတစင်း နစ်မြုပ်သွားခဲ့လေသည်။ ၁၉၃၀ ပြည့်နှစ်တွင် ဣတလီပိုင် 'အာတီဂလီယို' အမည်ရှိသောသင်္ဘောက ထိုနစ်မြုပ်သွားသော 'အီဂျစ်' သင်္ဘောကို ရေထဲမှပြန်၍ဖော်ပေးလေသည်။ ထိုကြောင့် 'အီဂျစ်' သင်္ဘောမှ ပေါင် ၁,၀၀၀,၀၀၀ ခန့်တန်သောငွေတုံးကြီးများကို မပျက်မစီးဘဲပြန်လည်ရရှိခဲ့လေသည်။ ဤကဲ့သို့မြုပ်နေသောသင်္ဘောများကို ပြန်ဖော်ပေးရာ၌ ရေတပ်မတော်အုပ်ချုပ်ရေးအဖွဲ့ချုပ်ရုံးတော်မှ ချမှတ်ပေးသော ဆုငွေများကို ဖော်ပေးသည့် သင်္ဘောကုမ္ပဏီပိုင်ရှင်နှင့် သင်္ဘောမှ အရာရှိများ၊ အလုပ်သမားများတို့သည် အချိုးကျ ခွဲဝေယူရ၏။

နစ်မြုပ်သောသင်္ဘောများကို ဆယ်တင်သောလုပ်ငန်း အပြင်၊ မီးဘေးကြောင့် လူတို့၏အသက်နှင့် ပစ္စည်းဥစ္စာပျက်စီးဆုံးပါးခြင်း မဖြစ်စေရန် မီးဘေးကယ်ဆယ်ရေးအဖွဲ့တခုကိုလည်း အင်္ဂလန်ပြည်တွင် ၁၈၈၆ ခုနှစ်၌တည်ထောင်ခဲ့သည်။ ထိုအဖွဲ့သည်မီးဘေးသင့်လုဆဲဖြစ်သောလူများကို ကယ်မ၍၊ ပစ္စည်းများကိုသည်ပိုးရန် မီးသတ်အဖွဲ့၊ မီးအာမခံကုမ္ပဏီများနှင့် ပူးပေါင်းဆောင်ရွက်သည်။ ထိုအဖွဲ့မျိုးကိုလန်ဒန်၊ လီဗာပူးနှင့် ဂလပ်စဂိုးမြို့များတွင် တည်ထောင်ထားကြသည်။

ပဋ္ဌမကမ္ဘာစစ်ကြီးအတွင်းက အသုံးမဝင်ဟု စွန့်ပစ်ထားသော မီးဖိုအသုံးအဆောင်၊ အဝတ်စုတ်၊ အိုးတိုခွက်စ၊ စာရွက်စုတ်စသည်တို့ကို လိုက်လံစုဆောင်းခြင်းကိုလည်း ဆယ်တင်ခြင်းလုပ်ငန်းဟူ၍ပင် ခေါ်ကြ၏။ အစိုးရက ယင်းလုပ်ငန်းကို စီစဉ်ပေး၍၊ အသင်းအဖွဲ့များက ပစ္စည်းများကိုလိုက်လံစုဆောင်းကြရ၏။ သို့စုဆောင်းရရှိသောပစ္စည်းများမှာ လက်နက်လုပ်ကိုင်ရာ၌ ထည့်သွင်းအသုံးပြုရသဖြင့် စစ်ရေးအတွက် အတော်ပင်အကျိုးရှိသောလုပ်ငန်းဖြစ်ပေသည်။

**ဆယ်မန်ငါး။** ။ငါးသေတ္တာစားဘူးသူတိုင်း ဆယ်မန်ငါးကိုသိကြပေမည်။ ဆယ်မန်ငါးသည် စည်သွတ်ရသောငါးတမျိုးဖြစ်သည်။ ဆယ်မန်ငါးကို ဥရောပတိုက်အနောက်ဖက်၊ ကနေဒါနိုင်ငံအရှေ့ဖက်၊ အမေရိကန်နိုင်ငံအရှေ့ဖက်တို့၌ရှိသော မြစ်များ၊ ပင်လယ်များတွင် အများအပြားတွေ့ရသည်။ ဆယ်မန်ငါးသည် ရေချိုအရပ်တွင် တနှစ်ပတ်လုံးနေလေ့မရှိပေ။ စင်စစ်အားဖြင့် ရေချိုအရပ်တွင်မွေးသော်လည်း အသက် ၂ နှစ်ခန့်ရှိသောအခါတွင် ဆန်းကြယ်သောပင်ကိုယ်သိ၏ လှုံ့ဆော်ချက်ကြောင့် ပင်လယ်ထဲသို့ လှည့်လည်ကျက်စားတတ်သည်။ နွေအချိန်တွင် မြစ်ငယ်ချောင်းငယ်များအတွင်းသို့ ဝင်ရောက်လာ၍ ဆောင်းဥတုတွင် ပင်လယ်၌ပင်နေလေ့ရှိသည်။

နွေဦးပေါက်လျှင် ဆယ်မန်ငါးသည် အလုံးအရင်းနှင့် သမုဒ္ဒရာထဲမှ မြစ်ဝချောင်းဝများဆီသို့ သွားရောက်စုရုံးတတ်ကြသည်။ ထိုနောက် မြစ်ရေကို ခရီးရှည်လျားစွာဆန်တက်ကြသည်။ လမ်း၌တွေ့ရသောအဆီးအတားများကို ဂရုမပြုတတ်ပေ။ ရေခဲတုံးကြီးများ၊ ရေတံခွန်များကိုတွေ့ရသည့်တိုင်အောင် ကွေ့ရှောင်တိမ်းဖယ်၍ မသွားဘဲ၊ လေထဲသို့ ၆ ပေ၊ ၇ ပေခန့်မျှခုန်တက်၍ ထိုအဆီးအတားကို ဖြတ်ကျော်လေသည်။ ရေငြိမ်သောနေရာသို့ရောက်လျှင်၊ ရက်ပေါင်းများစွာ ဆက်လက်၍ခရီးသွားပြန်ရာ၊ မူလနေရာမှ မိုင်ပေါင်းများစွာဝေးသောအရပ်သို့ ရောက်ခါမှ ရပ်တန့်တော့သည်။ ဆယ်မန်ငါးများသည် သွားလိုရာအရပ်သို့ အားလုံး ချောမောစွာမရောက်ကြချေ။ ထောင်ပေါင်းများစွာတို့မှာ ပိုက်ကွန်ထဲတွင် မိကုန်ကြသည်။

ဆောင်းဦးပေါက်သောအခါ ဆယ်မန်ငါးတို့သည် အသွေးအရောင်နှင့်သဏ္ဌာန် ပြောင်းလဲကြ၏။ တပြောင်ပြောင်တောက်ပလျက်ရှိသောငွေရောင်သည် မွဲခြောက်ခြောက်ဖြစ်သွားသည်။ ထိုမျှသာမက၊ သေးသွယ်ကျော့ရှင်းသောကိုယ်လုံးကိုယ်ထည်မှာလည်း အကျည်းတန် အရုပ်ဆိုး၍လာလေသည်။ အထူးသဖြင့် ဆယ်မန်ငါးထီးသည် ပို၍အရုပ်ဆိုးလာသည်။ နံဘေးသားမှာ ချောင်ကျသွား၍ နောက်ကျောမှာလည်း ပုံကြီးသဖွယ် ကြွတက်လာပြီးလျှင်၊ နှာသီးသည် အပြင်ဖက်သို့ ရှည်ထွက်ကာ၊ အောက်မေးရိုးသည် အထက်သို့ တက်လာလေသည်။ ဤအချိန်မျိုးတွင် ဆယ်မန်ငါးသည် အလျင်းစား၍မကောင်းတော့ပေ။

ဆောင်းဦးပေါက်လာသည်နှင့် ငါးမသည် မြစ်၏အောက်မြေပြင်ပေါ်တွင် တိမ်သောမြောင်းကလေးများကို လုပ်စပြုသည်။ မြောင်းကလေးများ ဖောက်လုပ်ပုံမှာ၊ ရေအောက်ရှိ ကျောက်စရစ်ခဲများအပေါ်တွင် လူးလိုက်လိမ့်လိုက်ဖြင့် သဲခင်းကို ကိုယ်နှင့်တိုက်၍ဖောက်လုပ်သည်။ ထိုမြောင်းကလေးများထဲတွင် ဥများအုပြီးသော်၊ သဲဖြင့်သေချာစွာပြန်

ဖုံးထားလေ့ရှိ၏။ ဆယ်မန်ငါး အုနေသောအချိန်တွင် ဆယ်မန်ငါးထီးတို့သည် တကောင်ကိုတကောင် ကိုက်ဖြတ်တတ်ကြသည်။ ပစိဖိတ်ကမ်းခြေတလျှောက်ရှိ ဆယ်မန်ငါးထီးများကား ငါးမများအသိုက်လုပ်နေစဉ် စောင့်ရှောက်ပေးတတ်၏။

ဥများကို သဲထဲတွင် လုံခြုံစွာ မြှုပ်နှံ့ကွယ်ဝှက်ထားပြီးသည့်အခါ၌ ဆယ်မန်ငါးထီးနှင့်ငါးမတို့သည် အားအင်ချိနဲ့လာသည်။ ထိုအခါ၌ ငြိမ်သက်တိတ်ဆိတ်သော ရေအိုင်တအိုင်တွင် ခေတ္တခဏမျှ နားနေပြီးနောက် အနည်းငယ်မျှသော ဆယ်မန်ငါးတို့သာလျှင် ပင်လယ်ထဲသို့ ပြန်ထွက်နိုင်ကြပေသည်။ ပင်လယ်သို့ရောက်လျှင် အားအင်တဖန်ပြန်လည်ပြည့်ဝလာကြသည်။ သို့သော်လည်း များစွာသောငါးတို့သည် ပင်လယ်သို့မရောက်မီပင် သေကြေကုန်ကြသည်။



ရေတံခွန်ကိုဆန်၍ခုန်ပျံကျော်လွှားလေ့ရှိသည့် ဆယ်မန်ငါး

ဆယ်မန်ငါးဥများသည် အစပဌမ၌ အနီရင့်ရောင် ပုတီးစေ့ကလေးများကဲ့သို့ဖြစ်၍၊ ပဲစေ့ကလေးတစေ့လောက်သာရှိသည်။ ချမ်းအေးသောဆောင်းရာသီ တရာသီလုံးတွင် ငါးဥကလေးများသည် ရေအောက်၌ သဲများဖုံးလွှမ်းလျက်ရှိကြသည်။ နွေဦးအခါတွင် ငါးဥထဲမှပေါက်လာသော ဆယ်မန်ငါးကလေးများသည် ရှနေသောသဲခင်းကို ထိုးဖောက်၍ ထွက်လာကြသည်။ ပစိဖိတ်သမုဒ္ဒရာကမ်းခြေတလျှောက်ရှိ ဆယ်မန်ငါးဥများမှာ အုပြီးနောက် ရက် ၆၀ ခန့်ကြာသော အခါ သားပေါက်လာသည်။ နွေဦးပေါက်ချိန်တွင် ထိုငါးများသည် ပင်လယ်တွင်းသို့ ပြန်ရောက်လာကြသည်။

ဆယ်မန်ငါးကလေးများသည် အလွန်ထူးဆန်းအံ့သြဖွယ်ကောင်းသည်။ ကိုယ်ပေါ်တွင် အစာအိတ်တအိတ် သီးသန့်ပါရှိသဖြင့် ငါးကလေးနှင့် မတူဘဲ၊ ဖားလောင်းကလေးနှင့် တူသည်။ ဤထူးဆန်းသောအိတ်ကလေးများမှာ ဥ၏အနှစ်ပါရှိသော 'အနှစ်အိတ်' များဖြစ်သည်။ ဥအထဲတွင်ရှိသော အနှစ်ကို မှီဝဲခြင်းဖြင့် မွေးခါစငါးကလေးသည် ရက်သတ္တပတ် အနည်းငယ်ကြာအောင် မည်သည့်အစာကိုမျှ မစားဘဲ အသက်ရှင်နေနိုင်သည်။ ထိုအစာကုန်ခန်းသောအခါမှပင် အပြင်သို့ လှည့်လည်သွားလာလေတော့သည်။



ပိုက်ကွန်ဖြင့် ဆယ်မန်ငါးကို ဖမ်းယူနေပုံ

ထိုအခါ ဆယ်မန်ငါး ပေါက်စသည် ဖားလောင်း၏ ပုံသဏ္ဌာန်နှင့် မတူတော့ဘဲ သာမန်ငါး၏ ပုံသဏ္ဌာန် ဖြစ်လာသည်။ သို့သော်လည်း အရွယ်မှာ တလက်မခန့်သာရှိသေးသည်။ ဆယ်မန်ငါး ပေါက်စသည် အဆင့်ဆင့်ကြီးရင့်လာရာ၌ အတော်ပင်

လျှင်မြန်ရကား၊ မကြာမြင့်မီ အလျား ၄ လက်မမှ ၅ လက်မအထိရှိသော ငါးကြီးဖြစ်လာလေသည်။

ဆယ်မန် ငါးကလေးများသည် အရွယ် ရောက်ပြီးသော ဆယ်မန်ငါးများကဲ့သို့ ဖြူပြာရောင်သန်းမနေပေ။ ညိုဖျော့သော အရောင်ရှိ၍၊ အရေခွံပေါ်တွင် အနီစက်များ ပါရှိသည်။ ထိုငါးကလေးများသည် ကျောက်တုံးများ၏အကြိုအကြားဝယ် ဝင်ထွက်ကာ၊ ပိုးမွှားကို ဟပ်ယူစားမျိုတတ်သည်။ အမြဲပင် ဆာလောင်မွတ်သိပ်၍နေတတ်သည်။

ဆယ်မန်ငါးကလေးများသည် ၇ လက်မ၊ ၈ လက်မအရွယ်ရှိသော ငါးပေါက်စများ ဖြစ်လာသည့်အခါတွင် မြစ် ရေစီးကြောင်းအတိုင်းလိုက်၍ ပင်လယ်သို့ ဆင်းကြသည်။ ငါးကလေး၏ ကိုယ်ရောင်မှာ ငယ်စဉ်ကကဲ့သို့ မွဲခြောက်ညစ်ပေခြင်းမရှိတော့ဘဲ၊ ငွေသွေးငွေရောင် တပြောင်ပြောင်တောက်ပလျက်ရှိသည်။

အရွယ်ကြီးမား၍ ဆာလောင်မွတ်သိပ်နေသော ငါးကြီးများသည် ထိုဆယ်မန်ငါးကလေးများနောက်မှ တကောက်ကောက်လိုက်၍ ဖမ်းယူစားသောက်တတ်သည်။ စွန်ရဲများနှင့် ပင်လယ်ဇင်ယော်များကလည်း ရေကူး မကျင်လျှင်သေးသောငါးကလေးများကို အလစ်တွင်ဝင်၍ သုတ်တတ်ကြသေးသည်။ ထိုကြောင့် ပင်လယ်သို့ အနည်းငယ်မျှသော ငါးများသာလျှင် ဘေးမသီရန်မခဘဲ၊ ချောမောစွာရောက်လာနိုင်သည်။

ဆယ်မန်ငါး ပေါက်စများသည် အရွယ်ရောက်သောငါးကြီးဖြစ်ဖို့ရန် လေးနှစ်ခန့်ကြာသည်။ ဆယ်မန်ငါးအမျိုးပေါင်း မြောက်မြားစွာရှိ၍၊ ယင်းတို့ကို အမည်အသီးသီးဖြင့် ခွဲခြား၍ခေါ်ကြသည်။ ဆယ်မန်မျိုးတွင် အတ္တလန္တိတ်ဆယ်မန်ငါး၊ ပစိဖိတ်ဆယ်မန်ငါး၊ ချင်းနွတ်ဆယ်မန်ငါး စသည်ဖြင့် အမျိုးမျိုးရှိ၏။ ဆယ်မန်ငါးတို့သည် ကမ္ဘာ၏မြောက်ဖက်ပိုင်းရှိ အေးမြသောပင်လယ်တို့တွင် ကျက်စားလေ့ရှိကြသည်။

ရေချိုဆယ်မန်ငါးလည်း ရှိသေးသည်။ ထိုငါးမျိုးကို 'ကုန်းဆယ်မန်ငါး' ဟူ၍လည်းခေါ်၏။ အဘယ်ကြောင့်ဆိုသော် ထိုငါးတို့သည် အများအားဖြင့် မြောက်အမေရိကတိုက်နှင့် ဥရောပတိုက်ရှိ အိုင်ကြီးများတွင်သာ နေလေ့ရှိသောကြောင့်ဖြစ်သည်။ ထိုငါးတို့သည် အိုင်ထဲသို့စီးဝင်သောချောင်း၊ မြောင်း၊ မြစ်စသည်တို့တွင်သာ ဝင်ရောက်ကျက်စားလေ့ရှိသည်။ ထိုနေရာများသို့လာရောက်ကြခြင်းမှာလည်း ငါးကလေးများ မွေးရန်အတွက် သက်သက်ဖြစ်သည်။ ဤဆယ်မန်ငါးများသည် ပင်လယ်ဆယ်မန်ငါးများကဲ့သို့ ကိုယ်လုံးကိုယ်ထည် ကြီးမားခြင်းမရှိပေ။

ဆယ်မန်ငါး ဥအုသောအချိန်မှာ အများအားဖြင့် နိုဝင်ဘာလနှင့် ဒီဇင်ဘာလထဲတွင်ဖြစ်သည်။ ဆယ်မန်ငါးစည်သွတ်လုပ်ငန်းသည် ငါးလုပ်ငန်းကြီးတခုလုံးတွင် အရေးပါအရာရောက်ပေသည်။ အထူးသဖြင့် ကနေဒါနိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုတွင် ဆယ်မန်ငါး စည်သွတ်လုပ်ငန်းမှာ အရေးကြီးသောလုပ်ငန်းဖြစ်သည်။ ဤစည်သွတ်လုပ်ငန်းအတွက် အသင့်တော်ဆုံး ဆယ်မန်ငါးမျိုးမှာ 'ကွင်းနက်' ငါးမျိုးဖြစ်၏။ ထိုငါးမျိုးမှာ အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံတွင်သာ ရှိသည်မဟုတ်ပေ။ ယခုအခါ နယူးဇီလန်ကျွန်းတွင် စမ်းသပ်မွေးမြူရာ၌ အောင်မြင်သည်ကို တွေ့ရလေသည်။

**ဆယ်လဇာ** (ခရစ် ၁၈၈၉ ဖွား)။ ။ဆယ်လဇာသည် လက်ရှိပေါ်တူဂီနိုင်ငံ ဝန်ကြီးချုပ်ဖြစ်သည်။ ပေါ်တူဂီနိုင်ငံ ကိုအင်ဗရာနယ်၊ ဆန်တာ ကွန်ဗာ ဒါအိုမြို့တွင် ၁၈၈၉ ခုနှစ် ဧပြီလ ၂၈ ရက်နေ့၌တောင်သူလယ်သမားမိဖများမှမွေးဖွားခဲ့လေသည်။ သူ၏နာမည်အပြည့်အစုံမှာ အန်တော်နျူသီ အိုလီဗေအီရာ ဆယ်လဇာဖြစ်သည်။ ငယ်ရွယ်စဉ်က ဘုန်းကြီးလုပ်ရန် အကြံဖြင့် ကျမ်းစာသင်ကျောင်း တကျောင်းတွင် လေ့လာသင်ကြားခဲ့ဘူး၏။ ၁၉၁၆ ခုနှစ်တွင် ကိုအင်ဗရာတက္ကသိုလ်၌ ဘောဂဗေဒပါမောက္ခ ဖြစ်လာ၏။ ကိုအင်ဗရာ တက္ကသိုလ်တွင် အမှုထမ်းနေစဉ်၊ ဘဏ္ဍာရေးတွင် ပါရဂူမြောက် ကျွမ်းကျင်သူဟု နာမည်ကျော်ကြားလာခဲ့သည်။ ၁၉၂၆ ခုနှစ်တွင် စစ်တပ်က အစိုးရအာဏာကိုသိမ်းယူခဲ့ပြီးနောက် မျှားမကြာမီ သူ့အား ဘဏ္ဍာရေးဝန်ကြီးရာထူးကို သမတ ဗိုလ်ချုပ်မှူးကာမိုနာက ပေးအပ်ခဲ့လေသည်။ သို့သော် သူအလိုရှိသောအာဏာများ အပြည့်အစုံမရရှိသဖြင့် ငြင်းပယ်ခဲ့၏။ ၁၉၂၈ ခုနှစ်တွင် ပေါ်တူဂီနိုင်ငံ ဘဏ္ဍာရေးအခြေအနေမှာ အတော်ဆိုးနေခဲ့သောကြောင့်၊ အစိုးရက ဆယ်လဇာ၏တောင်းဆိုချက်များကို လိုက်လျှောခဲ့ရလေသည်။ ဘဏ္ဍာရေးဝန်ကြီးအဖြစ် ရရှိခဲ့သောအာဏာများဖြင့် သူသည်တဖြည်းဖြည်း အစိုးရအဖွဲ့တဖွဲ့လုံးကို ကြိုးကိုင်ခဲ့၏။ ထို့မှတဖန် ၁၉၃၂ ခုနှစ်တွင် ဝန်ကြီးချုပ်ဖြစ်လာ၍၊ ၁၉၃၃ ခုနှစ်တွင်ကား အခြေခံဥပဒေသစ်တရပ်ကို ထုတ်ပြန်ကြေညာလျက် ပေါ်တူဂီနိုင်ငံ၏ အချုပ်အချာအာဏာကို သိမ်းယူကာ၊ အာဏာရှင်အနေဖြင့် ဖက်ဆစ်နည်းအတိုင်း အုပ်ချုပ်ခဲ့လေသည်။ ၁၉၃၀ ပြည့်နှစ်မှစ၍ ၁၉၄၅ ခုနှစ်တိုင်အောင် သူတည်ထောင်ခဲ့သော 'အမျိုးသားအစည်းအရုံး' ခေါ် အဖွဲ့အစည်းတခုတည်းကိုသာ တရားဝင်သော အသင်း အဖွဲ့တခုအနေဖြင့် အသိအမှတ်ပြုထားခဲ့၏။ ၁၉၃၆ ခုနှစ်မှစ၍ သူသည် နိုင်ငံခြားရေးဝန်ကြီးအဖြစ် ဆောင်ရွက်လျက်၊ ထိုနှစ်မှ ၁၉၄၄ ခုနှစ်တိုင်အောင် စစ်ဝန်ကြီးရာထူးကိုလည်း ယူထားသည်။

ဒုတိယကမ္ဘာစစ်အတွင်း၌ သူသည် ကြားနေရေးဝါဒကို

လက်ကိုင်ထားလျက် မဟာမိတ်နိုင်ငံများနှင့် ဝင်ရိုးတန်းနိုင်ငံများပါ နှစ်ဖက်စလုံးကို ဝင်ထွက်ခွင့်ပြုထား၏။ သို့သော် ဗြိတိန်နိုင်ငံနှင့် အစဉ်အဆက်ပြုလုပ်ခဲ့သောဆက်သွယ်မှုများကိုလည်း မပျက်ကွက်စေဘဲ၊ ၁၉၄၃ ခုနှစ်၌ ပေါ်တူဂီပိုင် အဇိုးကျွန်းများတွင်ရှိသော ရေတပ်နှင့်လေတပ် အခြေခံစခန်းများကို အသုံးပြုခွင့်ပေးခဲ့၏။ စစ်ပြီးကာလတွင် ဆယ်လဗာသည် သူ၏အာဏာရှင်ဆန်သော အချုပ်အချယ်များကို လျှော့ပေးရန်ကြံစည်ခဲ့သော်လည်း၊ အတိုက်အခံဖက်မှ လွန်စွာအားကောင်းနေသဖြင့်၊ ယခင်အတိုင်းပင် ကျင့်သုံးလျက် နေခဲ့ရလေသည်။

**ဆယ်လဗာဒေါနိုင်ငံ။** ။ဆယ်လဗာဒေါနိုင်ငံသည် အလယ်ပိုင်းအမေရိကနိုင်ငံငယ်များတွင် အငယ်ဆုံး ဖြစ်သော်လည်း၊ လူဦးရေကား အထူထပ်ဆုံးဖြစ်၏။ ယင်းနိုင်ငံ၏အရှေ့ဖက်၌ ဟွန်ဒူးရပ်နိုင်ငံရှိ၏။ အနောက်ဖက်၌ကား ပစိဖိတ်သမုဒ္ဒရာ တည်ရှိသည်။ ဆယ်လဗာဒေါ နိုင်ငံသည် စတုရန်းမိုင်ပေါင်း ၈,၀၅၈ ကျယ်ဝန်း၍၊ လူဦးရေမှာ ၁,၉၅၄,၀၀၀ ယောက်ခန့် (၁၉၅၁) ဖြစ်လေသည်။ ရာသီဥတုမှာ အခြားသော အလယ်ပိုင်းအမေရိကနိုင်ငံငယ်များကဲ့သို့ပင် သွေ့ခြောက်သောရာသီနှင့် စိုစွတ်သောရာသီနှစ်မျိုးသာရှိသည်။ ကမ်းခြေမြေနိမ့်ပိုင်းများမှာ ပူ၍၊ တောင်စောင်းများမှာ ရာသီဥတုမျှတလေသည်။ ဆယ်လဗာဒေါနိုင်ငံကို တောင်တန်းနှစ်ခုက အနောက်မြောက်မှ အရှေ့တောင်ဖက်သို့ ဖြတ်၍ထားသည်။ တပြည်လုံးတွင် မီးတောင်များ အနှံ့အပြားရှိ၍၊ မြေငလျင် မကြာခဏလှုပ်သည်။ တောင်တန်းနှစ်ခုအကြားရှိ ပေ ၂၀၀၀ ခန့်မြင့်သောကုန်းပြင်မြင့်သည် ကာဖီစိုက်ပျိုးရာဒေသ ဖြစ်လေသည်။ ဆယ်လဗာဒေါ နိုင်ငံတွင် နေထိုင်ကြသောလူမျိုးများမှာ စပိန်လူမျိုးများနှင့် အနောက်အိန္ဒိယလူမျိုးများ ဖြစ်၏။ လူများစုမှာ တောရွာများတွင်နေထိုင်၍ လယ်ယာစိုက်ပျိုးလုပ်ကိုင်ခြင်းဖြင့် အသက်မွေးမြူကြသည်။

ဆယ်လဗာဒေါနိုင်ငံ၏မြေယာ ၈၀ ရာခိုင်နှုန်းကို လယ်ယာစိုက်ပျိုးလုပ်ကိုင်ရန်အတွက် အသုံးပြုကြသည်။ ကာဖီကို အများဆုံးစိုက်ပျိုးသည်။ ထိုတိုင်းပြည်၏ထွက်ကုန် ရာခိုင်နှုန်း ၉၀ မှာ ကာဖီဖြစ်သည်။ ဒုတိယလိုက်သော ထွက်ကုန်မှာ သကြားဖြစ်၏။ ပြောင်းဆန်မှာလည်း အရေးပါအရာရောက်သော ထွက်ကုန်တခုဖြစ်ပေသည်။ ဒန်းပန်းပင်မှအဆီကို ထိုတိုင်းပြည်၌သာလျှင် ရနိုင်သည်။ ဟင်နီကင်ခေါ် ကြိုးများလုပ်ရန်အတွက် အသုံးကျသော လျှော်ပင်တမျိုးကိုလည်း အကြီးအကျယ် စိုက်ပျိုးသည်။ ဆန်၊ ပဲပင်နှင့် မဲနည်းပင်များကိုလည်း စိုက်ပျိုးကြသည်။

ဆယ်လဗာဒေါ နိုင်ငံသည် စိုက်ပျိုးရေးကို အဓိကထားသောနိုင်ငံပင် ဖြစ်သော်လည်း၊ စက်မှုလက်မှုလုပ်ငန်းများကိုလည်း တိုးချဲ့လုပ်ကိုင်လျက်ရှိသည်။ ယခုလက်ရှိသကြားလုပ်ငန်း၊ ဖိနပ်လုပ်ငန်း၊ ဆေးလိပ်၊ စီးကရက်လုပ်ငန်းစသည်တို့အတွက် စက်ရုံများကို ရေအားဖြင့် လျှပ်စစ်ဓာတ်အားပေးလျက်ရှိသည်။ ရွှေ နှင့်ငွေကိုလည်း အသင့်အတင့် တူးဖော်ရရှိ၏။ စက်မှုလုပ်ငန်းများ တိုးတက်သင့်သလောက် မတိုးတက်ခြင်းမှာ ကုန်ကြမ်းများနည်းပါးခြင်းနှင့် စက်မှုလုပ်ငန်းပါရဂူများ နည်းပါးခြင်းတို့ကြောင့်ဖြစ်ပေသည်။

ဆယ်လဗာဒေါနိုင်ငံသည် မူလက စပိန်လက်အောက်ခံ ဖြစ်၏။ ၁၅၂၆ ခုနှစ်တွင် စပိန်လူမျိုးတို့သည် ဆယ်လဗာဒေါနိုင်ငံကို တိုင်းရင်းသားများ၏လက်မှ တိုက်ခိုက်သိမ်းယူခဲ့၏။ ထို့နောက် ဆယ်လဗာဒေါကို ဂွါတီမားလနိုင်ငံ၏လက်အောက်ခံ အဖြစ်ဖြင့် စပိန်တို့က အုပ်ချုပ်ခဲ့ကြ၏။ ၁၈၃၉ ခုနှစ်တွင် အခြားအလယ်ပိုင်း အမေရိကနိုင်ငံငယ်များနည်းတူ ဆယ်လဗာဒေါနိုင်ငံသည် စပိန်တို့၏လက်အောက်မှ လွတ်မြောက်၍ သမတနိုင်ငံဖြစ်လာသည်။ သို့ရာတွင် ဆယ်လဗာဒေါနိုင်ငံသည် ပြည်တွင်းဆူပူမှုများကြောင့် ငြိမ်းချမ်းမှု




ဆယ်လဗာဒေါနိုင်ငံ တည်နေရာပြ မြေပုံ



ဆယ်လဗာဒေါ်နိုင်ငံ ဟင်နီကွင်မြို့ကြိုးလုပ်ငန်းတွင် လျှော်များ လှန်းနေသည့် လုံမပျို

မရှိခဲ့ချေ။ လွန်ခဲ့သည့် နှစ်အနည်းငယ်အတွင်းကမှသာ ပြည်တွင်းအခြေအနေမှာ ထူးခြားစွာတိုးတက်ခဲ့လေသည်။

၁၉၅ဝ ပြည့်နှစ်တွင်အတည်ဖြစ်သော ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ အစိုးရအဖွဲ့တွင် သမတနှင့် ဝန်ကြီး ၁ဝ ဦးပါဝင်သည်။ ဥပဒေပြုလွှတ်တော်တခုတည်းရှိ၍ ပြည်သူ့ကိုယ်စားလှယ် ၅၂ ဦးကို ရွေးကောက်တင်မြှောက်ရသည်။ သမတကို ၆ နှစ်တကြိမ် ရွေးကောက်ရသည်။ ပညာရေးစံနစ်မှာ အခမဲ့ပညာသင်ကြားရေးစံနစ်မျိုးဖြစ်၍ မူလတန်းပညာကို မသင်မနေရအဖြစ် သတ်မှတ်ထားသည်။ ဆန် ဆယ်လဗာဒေါမြို့တွင် တက္ကသိုလ်ကျောင်း တကျောင်းရှိသည်။ ပြည်သူအများတို့သည် ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ကြသည်။ ရုံးသုံးဘာသာမှာ စပိန်ဘာသာဖြစ်သည်။ ဆယ်လဗာဒေါနိုင်ငံ၏ မြို့တော်မှာ ဆန် ဆယ်လဗာဒေါမြို့ဖြစ်၍၊ လူဦးရေ ၁၉၄, ၆၁ဝ ယောက် (၁၉၅၃) ရှိသည်။ မြို့တော်သည် တောင်ပေါ်တွင်တည်ရှိ၍၊ အနီးအနားမှ မီးတောင်များ ပေါက်ကွဲသဖြင့် မြို့ပျက်သည့်အခါတိုင်း မြို့ကို ပြန်လည်တည်ဆောက်ခဲ့ကြရသည်။

**ဆဲ။** ။ဆဲသည် သက်ရှိရုပ်၏ အငယ်ဆုံးသောမူလအစိတ်အပိုင်းဖြစ်သည်ဟု သိရ၏။ အပင်နှင့်တိရစ္ဆာန်တို့တွင် ဆဲများရှိ၏။ အမီးဗားကဲ့သို့သော တိရစ္ဆာန်နှင့် ဗက်တီးရီးယားကဲ့သို့သော အပင်တို့တွင် ဆဲတခုတည်းသာလျှင် ရှိသည်။ (အမီးဗားကောင်။ ဗက်တီးရီးယား — ရှု။) အခြားအပင်နှင့် တိရစ္ဆာန်များတွင် ဆဲပေါင်းမြောက်မြားစွာ ဖွဲ့စည်းလျက်ရှိကြသည်။ လူတဦး၏ခန္ဓာကိုယ်တွင် ဆဲ သန်းပေါင်း မြောက်မြားစွာရှိ၏။ ဆဲအများအပြားရှိသည့် တိရစ္ဆာန်နှင့် အပင်တို့တွင် ဆဲများသည် တစ်ရှူး (အသားမျှင်) ဖြစ်ရန် ပေါင်းစည်းလျက်ရှိကြသည်။ တဖန် တစ်ရှူးများသည် ဩဂင် (အင်္ဂါ) ဖြစ်ရန် ပေါင်းစည်းကြပြန်၏။ ဩဂင်ရှိ ဆဲများသည် တိရစ္ဆာန် သို့မဟုတ် အပင်၏ခန္ဓာကိုယ်တွင် ကိစ္စတရပ်ရပ်ကို ဆောင်ရွက်ကြ၏။ ပမာအားဖြင့် အစာအိမ်ရှိ ဆဲများသည် အစာချေဖို့ ဆောင်ရွက်ကြရ၏။

သက်ရှိတို့၏ ဆဲအားလုံးသည် အစာနှင့် အောက်ဆီဂျင်ကိုယူ၍ အညစ်အကြေးကို ထုတ်ပစ်တတ်၏။ သက်ရှိပစ္စည်း၏ ဆဲတခုတွင် ဒြပ်စင်အများအပြားနှင့် ဒြပ်ပေါင်း အများအပြားပါရှိသည်ကို သိကြ၏။ သို့ရာတွင် သန်းပေါင်းများစွာသော ထိုဒြပ်ပေါင်းတို့၏ မော်လီကျူးများသည် မည်ကဲ့သို့ ဖွဲ့စည်းတည်ရှိကြပြီးလျှင် သက်ရှိပစ္စည်းများဖြစ်ကြသည်ကိုကား မသိကြရပေ။

ဆဲသည် အများအားဖြင့် ငယ်လွန်းသဖြင့် ရိုးရိုးမျက်စိဖြင့် မမြင်နိုင်ချေ။ ယင်းတို့ကို မိုက္ကရိုစကုပ်ဖြင့် ကြည့်ရပေသည်။ ပျမ်းမျှခြင်းအရ ဆဲကလေးပေါင်း ၄ဝဝဝ မျှကို ဘေးချင်းထိ၍ထားလျှင် တလက်မမျှသာ ရှိပေလိမ့်မည်။ အချို့ဆဲများသည် ထိုထက်ပင် ငယ်ကြသေး၏။ ပုံအမျိုးမျိုးလည်း ရှိကြသည်။ အခြားဆဲများနှင့်ကင်းနေသည့် ဆဲများသည် အလုံးပုံသဏ္ဌာန် ရှိကြသည်။ အခြားဆဲများနှင့် သိပ်သည်းစွာရောနေသော ဆဲများသည် ပြားလျက်ရှိကြသည်။



၁ အပင်များတွင်ရှိသောဆဲကို မိုက္ကရိုစကုပ်မှန်ဘီလူးဖြင့် ကြည့်လျှင် ဤသို့တွေ့မြင်ရသည်။



၂ (က) မိုက္ကရိုစကုပ်မှန်ဘီလူးဖြင့်တွေ့ရသော ယူဂလီနာ



၂ (ခ) မိုက္ကရိုစကုပ်မှန်ဘီလူးဖြင့်တွေ့မြင်ရသော ဩစီလေတိုးရီယား

အပင်နှင့်တိရစ္ဆာန်တို့တွင် ဆဲမျိုး အမြောက်အမြားရှိ၏။ ဆဲအများတွင်လည်း နျူးကလီးယပ်တခုရှိသည်။ ထိုနျူးကလီးယပ်ကပင် ဆဲကိုအမှုဆောင်ရွက်ရန်ညွှန်ကြားပေး၏။ နျူးကလီးယပ်ထဲ၌ ခရိုမိုဆုမ်းခေါ် တုတ်ချောင်းပုံသဏ္ဌာန် ပစ္စည်းများရှိသည်။ ခရိုမိုဆုမ်းတို့သည် မျိုးကူးရာ၌ မျိုးဟောင်း ဆဲမှ ဝိသေသဂုဏ်များကို မျိုးသစ် ဆဲသို့ ဆောင်ကြဉ်းပေး၏။ ဝိသေသဂုဏ်များဟူသည်မှာ မျိုးဟောင်း၌ဖြစ်သောအရောင်၊ အရွယ်၊ အဖြစ်သနစ်တို့ကိုဆိုသည်။

ဆဲတခုတည်းသာရှိသည့် သက်ရှိများပြန့်ပွါးရာတွင် ရိုးရိုး နှစ်ခုကွဲသွားခြင်းမျှသာ ဖြစ်၏။ အထက်တန်းကျသည့် အပင်နှင့်တိရစ္ဆာန်တို့ မျိုးပွါးရာတွင်မူကား၊ ဆဲတခုဖြစ်သောအိုဗမ် သို့မဟုတ် ဥနှင့် ဖိုဗီဇ သို့မဟုတ် စပမ်းတို့စပ်ယှက်ခြင်းဖြင့် ပွါးသွားသည်။ စပ်ယှက်ပြီး ဆဲသည် နျူးကလီးယပ်နှင့်ခရိုမိုဆုမ်းတို့နှင့်တကွ ဆဲနှစ်ခုအဖြစ်သို့ ကွဲသွားသည်။ ထိုနောက် ဆဲ ၄ ခု၊ ထိုနောက် ၁၆ ခုစသည်ဖြင့် ကွဲသွားသည်။ ယင်းသို့ အဆင့်ဆင့်ကွဲရာ၌ ဆဲတို့သည် မူလအရေအတွက်၏နှစ်ဆတိုးလာခြင်းမဟုတ်၊ မူလအရေအတွက်၏နှစ်ထပ်ကိန်းတိုးလာခြင်းဖြစ်သည်။

အထက်တန်းကျသည့်သက်ရှိတို့၏ဆဲများသည်အမျိုးမျိုးသောတာဝန်များကို ဆောင်ရွက်ကြ၏။ အပင်တွင် အချို့ဆဲများသည် အရွက်ကိုဖြစ်စေ၏။ အချို့သည် ပင်စည်ကိုဖြစ်စေ၏။ အချို့သည် ပန်းပွင့်ကိုဖြစ်စေ၏။ သားလောင်းတို့တွင်မူ၊ ဆဲများသည် ဆောင်ရွက်ရမည့်လုပ်ငန်းအလိုက် ပုံသဏ္ဌာန်အားဖြင့်၎င်း၊ ဓာတ်သဘောအားဖြင့်၎င်း၊ ကွဲလွဲကြပြီးလျှင် ဆိုင်ရာနေရာ၌ နေကြသည်။ ပမာအားဖြင့် အချို့ဆဲများသည် နာဗ်ကြောအဖြစ် ဖွဲ့စည်းလျက်ရှိကြ၏။ (နာဗ်ကြောများ — ရှု။) အချို့ဆဲများသည် အရိုးအဖြစ်







### အပင်မြစ်ရှိဆဲများတိုးပွားပုံ

သစ်ပင်၏အမြစ်ကို အလျား လိုက် ပါးလျပ်စွာ လှီးဖြတ် လိုက်ပြီးနောက်၊ မိုက္ကရိုစကုပ်မှန်ဘီလူးဖြင့်ကြည့်သော်၊ (က) အမြစ်အုပ်လောင်းမှ (ခ) အမြစ်အုပ်နယ်တဝိုက်တွင် ဆဲများ ဤသို့ပွားများလာသည်ကိုတွေ့ရမည်။ အမြစ်အုပ်လောင်းမှဆဲများပွားခြင်းကြောင့်၊ (ဂ) သည် ဆဲပွားရာနယ်ဖြစ်၍၊ (ဃ) မှာဆဲရှည်လျားရာနယ် ဖြစ်လာသည်။ (င) မှာမူကား ဆဲကြီးရင့်ရာနယ်ဖြစ်သည်။ ဤကဲ့သို့ အပင်၏အမြစ် တစတစ ကြီးထွားရင့်သန်လာပုံကို ဇီဝဗေဒပညာရှင်များ လေ့လာတွေ့ရှိကြသည်။

ဖွဲ့စည်းလျက်ရှိကြ၏။ အချို့ဆဲများသည် သေးဖွဲ့ဥကလေးများအဖြစ် ဖွဲ့စည်းလျက်ရှိကြ၏။ ခန္ဓာကိုယ်တွင် ဆဲတို့သည် ဖြစ်လိုက်ပျက်လိုက်နေကြ၏။ ဆဲဟောင်းတို့နေရာတွင်ဆဲသစ်များသည်ဝင်ရောက်အစားထိုးလျက်ရှိကြသည်။ ဆဲများကို ဆိုင်ရာတာဝန် ဆောင်ရွက်စေရန် မည်သည့်စွမ်းအားက စေ့ဆော်နေသည်ကို လူတို့မသိနိုင်စွမ်းပေ။

**ဆဲလဒင်** (ခရစ် ၁၁၃၈–၁၁၉၃)။ ။အလယ်ခေတ်က ပါလက်စတိုင်းပြည်၌ ဖြစ်ပွါးကြသော ကရူးဆိတ်စစ်ပွဲများအနက်၊ တတိယစစ်ပွဲ၌ အလွန်ထင်ရှား ကျော်ကြားသော မွတ်စလင် ခေါင်းဆောင်ဘုရင်တဦးကား ဆဲလဒင်ဖြစ်၏။ တရားနှင့်အညီမင်းပြုသဖြင့် မွတ်စလင်တို့က အထူးချစ်ခင်လေးစားကြည်ညိုကြသည်။ ရန်သူများအပေါ်တွင်လည်း ကြင်နာစွာ ပြုမူဆက်ဆံတတ်သဖြင့် ခရစ်ယန်တို့ကပင် ဆဲလဒင်မှာ သဘောထားမြင့်မြတ်သူဖြစ်ကြောင်း ဝန်ခံကြသည်။

ဆဲလဒင်၏အမည်ရင်းမှာ ယူစွပ် အစ်ဗင် အိုင်ယွတ် ဖြစ်သည်။ စစ်မက်ရေးတွင် ဝါသနာထုံ၍၊ စွမ်းရည်သတ္တိထူးချွန်သော အာရှမိုင်းနားပြည်နယ်ဖက်မှ ကုဒလူမျိုးတဦးဖြစ်သည်။ သူ၏ခမည်းတော်မှာ ဆဲလဂျွတ်တရက်လူမျိုးတို့၏ လက်အောက်ခံ၊ အာမီးနီးယားပြည်ရှိ နယ်တနယ်၏ဘုရင်ခံ ဖြစ်လေသည်။ ငယ်ရွယ်စဉ်အခါက ဆီးရီးယားပြည်ဘုရင် ဖြစ်သော နူးရက်ဒင်း၏လက်အောက်တွင် ဝင်ရောက်အမှုထမ်းခဲ့၏။

၁၁၆၇–၆၈ ခုနှစ်များတွင် နူးရက်ဒင်း၏အမိန့်အရ အီဂျစ်ပြည်သို့ချီတက်တိုက်ခိုက်သည့်စစ်တပ်ကို ဦးစီးခဲ့ရသည်။ အီဂျစ်အရေးကို အောင်မြင်သောအခါ၊ နူးရက်ဒင်းက ဆဲလဒင်အား အီဂျစ်ပြည်အမတ်ချုပ်ကြီးအဖြစ် ခန့်အပ်လေသည်။ အီဂျစ်ပြည်မှ ကေးလစ်ဘုရင် ကွယ်လွန်သောအခါ ဆဲလဒင်မှာ အချုပ်အချာအာဏာပိုင် ဖြစ်လာလေ၏။ ထိုနောက် ဆီးရီးယားဘုရင် နူးရက်ဒင်း ကွယ်လွန်သောအခါ သူ၏နေရာကိုဆက်ခံသူ နန်းလျာကို ငယ်ရွယ်၍ မလေးမစားပုန်ကန်ကြသဖြင့်၊ ဆဲလဒင်ကဝင်၍ ကိုယ်တိုင်ကွပ်ကဲကာ ဆီးရီးယားပြည်ကို သိမ်းပိုက်လိုက်လေသည်။ ယင်းသို့ဖြင့် ဆဲလဒင်သည် အီဂျစ်နှင့်ဆီးရီးယားပြည် နှစ်ပြည်တို့၏ စူလတန်ဘုရင်အဖြစ် ခံယူလေရာ၊ ဗဂ္ဂဒက်မြို့တော်မှ ကေးလစ်ဘုရင်က အသိအမှတ်ပြုလေသည်။

ထိုခေတ်အခါတွင် မွတ်စလင်တို့သည် လူမျိုးရေးအရ တဦးနှင့်တဦး မညီညွတ်နိုင်ကြသဖြင့် အင်အားဆုတ်ယုတ်နည်းပါးနေလေသည်။ ဆဲလဒင်သည် စူလတန်ဘုရင်အဖြစ်ကို ရရှိသောအခါ၊ မွတ်စလင်တို့၏စည်းရုံးညီညွှာမှုကို ပြန်လည်တောင့်တင်းတိုးတက်အောင် ဆောင်ရွက်လေ၏။ ကရူးဆိတ်စစ်ပွဲများကြောင့် ခရစ်ယန်များလက်ထဲသို့ ကျရောက်သွားသော ပါလက်စတိုင်းပြည်ရှိ မြို့နယ်များကို သူ့လက်ထက်တွင် ပြန်လည်သိမ်းပိုက်လေသည်။ (ကရူးဆိတ်စစ်ပွဲများ — ရှု။)

ယင်းသို့ဖြင့် စူလတန်အဖြစ်ကို ခံယူပြီးနောက်တွင် ဆဲလဒင်သည် ခရစ်ယန်တို့နှင့်စစ်ခင်း၍သာနေရလေ၏။ ၁၁၈၇ ခုနှစ်တွင် ဆိုက်ဗီးရီးယပ်အနီးတွင် ခရစ်ယန်တို့အား အပြီးအပိုင်နှိမ်နင်းလိုက်၍၊ ထိုနှစ် အောက်တိုဘာလတွင် ခရစ်ယန်တို့ အထွတ်အမြတ်ပြုရာ သာသနာမြေဖြစ်သည့် ဂျေရုဆလမ်မြို့ကို သိမ်းပိုက်လိုက်လေသည်။

ထိုကြောင့် အင်္ဂလန်ပြည်ဘုရင် ပဌမရစ်ချတ်နှင့် ပြင်သစ်



မွတ်စလင်သူရဲကောင်း ဆဲလဒင်း

ပြည်ဘုရင် ဖိလစ်တို့က ခေါင်းဆောင်ကာ၊ တတိယ ကရူးဆိတ်စစ်တပ်ကြီးချီလာ၍ ဆဲလဒင်နှင့်တိုက်ခိုက်လေသည်။ (ရစ်ချတ်ဘုရင်များ — ရှု။) ရစ်ချတ်ဘုရင်နှင့် ဖိလစ်ဘုရင်တို့သည် ၁၁၉၁ ခုနှစ်တွင် ကေမြို့ကို သိမ်းပိုက်ခဲ့၏။ ထိုနောက်တွင် ရစ်ချတ်နှင့်ဖိလစ်အစရှိသော အခြားခရစ်ယန်ခေါင်းဆောင်တို့ သဘောကွဲလွဲကြ၍၊ ပြည်တော်သို့ပြန်သွားကြသဖြင့်၊ ရစ်ချတ်တဦးတည်း ခေါင်းဆောင်ကာ၊ ဆဲလဒင်နှင့် တိုက်ခိုက်နေလေ၏။ ထိုအတောအတွင်း အင်္ဂလန်ပြည်တွင်းရေး မငြိမ်မသက်ဖြစ်လာ၍၊ ရစ်ချတ်သည် အင်္ဂလန်သို့ ပြန်ရန်ကိစ္စပေါ်ပေါက်လာသောအခါ ဆဲလဒင်နှင့် သုံးနှစ်

စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုရန် စေ့စပ်ရလေသည်။ ဆဲလဒင်ကလည်း ရစ်ချတ်၏စွမ်းရည်ကို သိထားသဖြင့် စေ့စပ်ချက်ကို လက်ခံကာ ၁၁၉၂ ခုနှစ်တွင် စစ်ပြေငြိမ်းလိုက်လေ၏။ ယင်းသို့ဖြင့် သုံးနှစ်အတွင်း ဂျရုးဆလမ်းသို့ ဘုရားဖူးလာသူခရစ်ယာန်များအား နှောင့်ရှက်ခြင်းမပြုရန်သဘောတူခွင့် ပြုလိုက်လေသည်။ ဆဲလဒင်ကား မိမိ၏အယူဝါဒကို လွန်စွာကြည်ညိုလေးစားကာ၊ အယူဝါဒတရား၏ကျင့်စဉ်အတိုင်း ရိုသေစွာလိုက်နာကျင့်သုံးသူ ပုဂ္ဂိုလ်ထူးတဦး ဖြစ်ပေသည်။ ထို့ကြောင့်ပင် အယူဝါဒရေး၏ကျက်သရေဆောင်အဖြစ် 'ဆဲလဒင်' ဟူသောဘွဲ့ကို ခံယူရရှိခြင်းဖြစ်လေသည်။ ဆဲလဒင်၏စိတ်ထားမြင့်မြတ်ပုံမှာ ရန်သူဖြစ်သော ရစ်ချတ်ဘုရင် စစ်တိုက်နေခိုက်တွင် ဖျားနာစဉ်က၊ စားဖွယ်လက်ဆောင်များ ပေးပို့ခဲ့ခြင်းဖြင့် သိသာနိုင်၍၊ ရစ်ချတ်၏စွမ်းရည်ကို သူရဲကောင်းပီပီ များစွာချီးကျူးခဲ့သူလည်း ဖြစ်ပေသည်။

၁၁၉၃ ခုနှစ်တွင် ဆဲလဒင်သည် ဒမက်စကပ်မြို့၌ ဖျားနာ၍ကွယ်လွန်လေသည်။

**ဆဲလျူလို့။** ။ဆဲလျူလိုသည် အပင်ဆဲများ၏နံရံတွင် ပါရှိသောဓာတ်ပစ္စည်းဖြစ်သည်။ ထိုပစ္စည်းသည် ကာဗိုဟိုက်ဒရိတ်ဖြစ်၍ ယင်း၌ ကာဗွန်၊ ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်တို့ပါဝင်သည်။ ဆဲလျူလိုသည် ကစီ၊ သကြားတို့နှင့်နီးစပ်၏။ အပင်အားလုံးတွင် ဆဲလျူလိုရာခိုင်နှုန်း ၃၀ ကျော်ပါရှိသည်။ အပင်စိမ်းမှန်သမျှသည် ဆဲလျူလိုကို လုပ်ယူနိုင်၏။ အပင်သည် 'ဖိုတိုဆင်းသဆစ်' နည်းဖြင့် သကြားကိုလုပ်ယူပြီးလျှင် သကြားအချို့အဝက်ကို ဆဲလျူလိုအဖြစ်ပြောင်းပစ်သည်။ (ဖိုတိုဆင်းသဆစ် — ရှု။) ဆဲနံရံများ၌ရှိသော ဆဲလျူလိုသည် အပင်၏အမြစ်နှင့် ပင်စည်တို့ကို တောင့်တင်းခိုင်မာစေသည်။

ဆဲလျူလိုနှင့် ကစီသည် ဓာတ်သဘောအရ ဖွဲ့စည်းပုံချင်းဆင်တူသည်။ သို့ရာတွင် ကစီသည် ဆဲလျူလိုထက် ကြေလွယ်သည်။ (ကစီ — လည်းရှု။) သစ်သီးနှင့် ဟင်းသီးဟင်းရွက်တို့တွင် ဆဲလျူလိုပါရှိသည်။ အစာချေရာ၌ ဆဲလျူလိုသည် များစွာအရေးပါအရာရောက်သည်။ အစာ၌ ဆဲလျူလို များများပါလျှင် အစာမြန်မြန်ကြေ၍ ဝမ်းမချုပ်နိုင်ပေ။

ဆဲလျူလိုသည် ရေစိုသောအခါ ပွထသည်။ ရေထဲတွင် မပျော်ဝင်နိုင်ပေ။ ပစ္စည်း အနည်းငယ်လောက်နှင့်သာ ဓာတ်ဖက်ခြင်းရှိ၍ ဓာတ်ခန်းများတွင် ဆဲလျူလိုကို အရည်စစ်စက္ကူလုပ်ရန် အသုံးပြုသည်။ စက္ကူ၌ ဆဲလျူလိုအပြည့်နီးပါးမျှပါရှိ၏။ သစ်သား၌လည်း ဆဲလျူလို အပြည့်နီးပါးမျှပါရှိသည်။ ဝါဂွမ်းထဲကဆဲလျူလိုကို နိုက်ထရစ်အက်ဆစ်၊ ဆာလဖျူရစ်အက်ဆစ်တို့နှင့် ရောစပ်ယူလျှင် နိုက်ထရိုဆဲလျူလိုခေါ် သော ပစ္စည်းကို ရရှိသည်။ ထိုပစ္စည်းဖြင့် ပေါက်ကွဲစေတတ်သော ခဲယမ်းမီးကျောက်များကို ပြုလုပ်ယူနိုင်သည်။ ဆဲလျူလို၊ နိုက်ထရစ်အက်ဆစ်၊ ဆာလဖျူရစ်အက်ဆစ်တို့ကိုပင် အချိုးတမျိုးဖြင့်ရောစပ်၍ အရောင်တင်ဆေး၊ ချိပ်ဆေး၊ ဆဲလျူလိုက်စသည်တို့ကိုဖော်စပ်ယူနိုင်သေးသည်။ ထိုဆဲလျူလိုနိုက်ထရိတ်ကို ပိုင်ရော့ဆလင်ဟု ခေါ် သည်။



ဝါး၊ သစ်၊ ဘီသွာလှော်တို့မှရသော ဆဲလျူလိုဖြင့် ဆဲလိုဖိန်းစက္ကူပါး၊ ကတ်ထူစက္ကူနှင့်ရိုးရိုးစက္ကူတို့ကိုပြုလုပ်ကြသည်။

**ဆဲလျူလွိုက်**။ ။ရှေးအခါက ဘီး၊ ကြယ်သီး၊ ဓားရိုး၊ ထီးရိုး၊ ပေါင်ဒါဗူး၊ ဆံပင်ညှပ်ကလစ်၊ ဆေးလိပ်စွပ်တံ၊ ဗိလိယက်ဘောလုံး၊ ကစားစရာအရုပ်စသော လူတို့၏အလှအပ အသုံးအဆောင်ပစ္စည်းများကို ဆင်စွယ်၊ ပယင်း၊ လိပ်ခွံစသည်တို့ဖြင့် ပြုလုပ်ခဲ့ကြ၏။ ထိုပစ္စည်းများမှာ သဘာဝပစ္စည်းများဖြင့် ပြုလုပ်ရသည်ဖြစ်၍ ဈေးကြီးသည်။ သို့ရာတွင် ဆဲလျူလွိုက်ဟုခေါ်သော ပစ္စည်းတမျိုးကို လူတို့ပြုလုပ်လာနိုင်သည့်အချိန်မှစ၍ ထိုပစ္စည်းမျိုးတို့ကို ဈေးနှုန်းချိုသာစွာနှင့် အမြောက်အမြား ပြုလုပ်ရောင်းချနိုင်ခဲ့လေသည်။ ဆဲလျူလွိုက်ဖြင့် ဆင်စွယ်၊ ပယင်းနှင့် လိပ်ခွံများကိုသာ တုနိုင်သည်မဟုတ်၊ မဟူရာ၊ အက်ဗနီသစ်နက်သားအပြင် အခြားသဘာဝပစ္စည်းအများကိုလည်း တုနိုင်သဖြင့် ယခုအခါ ဆဲလျူလွိုက်ကို ကမ္ဘာအနှံ့မှာပင် တွင်ကျယ်စွာ အသုံးပြုလျက်ရှိနေပြီ။ အထက်တွင်ဖော်ပြခဲ့သော အလှအပ အသုံးအဆောင်ပစ္စည်းများကိုသာမက ဆဲလျူလွိုက်ဖြင့် စန္ဒရားခလုတ်၊ စကားပြောကြေးနန်းနားထောင်ခွက်၊ မော်တော်ကား တံခါးဘောင်၊ ဗက်ထရီဓာတ်အိုးခွံ၊ အလင်းပေါက်သည့်ကားချပ်မှစ၍ အခြားအသုံးအဆောင် ကရိယာအများအပြားကိုလည်း ပြုလုပ်နိုင်လေသည်။

ဆဲလျူလွိုက်သည် ပလပ်စတစ်အမျိုးအစားတွင် ပါဝင်သည်။ (ပလပ်စတစ် — ရှု။) အင်္ဂလန်နိုင်ငံတွင် ပတ် နှင့် စပီးဆိုသူ ပုဂ္ဂိုလ်နှစ်ဦးက ခရစ် ၁၈၅၅ ခုနှစ်နှင့် ၁၈၆၈ ခုနှစ်များတွင် ဆဲလျူလွိုက်နှင့်ဆင်တူယိုးမှားပစ္စည်းများကို အသီးသီး စမ်းသပ်တွေ့ရှိခဲ့ကြသည်။ သို့သော် ယခုအခါဆဲလျူလွိုက်ဟု ခေါ် တွင်လျက်ရှိသောပစ္စည်းကိုမူ အမေရိကန်ပြည်ထောင်စုနိုင်ငံ နယူးဂျာစီပြည်နယ်၊ နျူးအတ်မြို့မှ ဂျွန်ဝက်စလီ ဟိုင်းယက်ဆိုသူ ပုံနှိပ်ဆရာတဦးက ၁၈၆၉ ခုနှစ်တွင် အောင်မြင်စွာစမ်းသပ်တွေ့ရှိခဲ့လေသည်။

နိုက်ထရိတ်ဖြစ်အောင်ပြုလုပ်ထားသော ဆဲလျူလိုသည် ပရုတ်ထဲ၌ပျော်ဝင်နိုင်သည့်သတ္တိရှိသည်။ ဆဲလျူလွိုက်ပြုလုပ်သည့်နည်းမှာ ထိုသတ္တိကိုအခြေခံသောနည်းဖြစ်၏။ ရှေးဦးစွာ စက္ကူ၊ ဝါဂွမ်း၊ သစ်သားစသော ဆဲလျူလိုပါဝင်သည့် ပစ္စည်းများကို နိုက်ထရစ်နှင့် ဆာလဖျူရစ်အက်ဆစ် အပြင်းရည်နှစ်မျိုး ရောစပ်ထားသော အက်ဆစ်ရည်တွင် နှစ်ပေးသောအခါ နိုက်ထရိတ် ဖြစ်လာသည်။ ထိုနိုက်ထရိတ်ကို ဆေးကြော အခြောက်လှန်းပြီးနောက် ပရုတ်နှင့် အယ်လကိုဟောတို့ဖြင့် ရောပေးသောအခါ ကော်ရည်ကဲ့သို့သော ဆဲလျူလွိုက်ဖြစ်လာသည်။ ထိုအဆင့်တွင် ပျော့ပျောင်းစေရန်အတွက် သင့်တော်သော ဆီများနှင့် အလိုရှိသော အရောင်ဆေးများကို ရောစပ်ပေးပြီးနောက် အပူတိုက်ထား၍ ပြုပြင်ပေးနိုင်သည့် ဒလိမ့်တုံးများနှင့် ကြိတ်ပေးသောအခါ ဆဲလျူလွိုက်ကော်ပြားများကိုရသည်။ ထိုကော်ပြားများကို ဖိစက်ဖြင့်ဖိပေးပြီးနောက် အငွေ့ပျံနိုင်သည့်ပစ္စည်းများ ထွက်သွားရအောင် အခြောက်ခံပေးရပြန်သည်။ ဤနည်းမှာ အခြေခံမူလနည်းပင် ဖြစ်သည်။

ဆဲလျူလွိုက်၌ အရောင်မရှိချေ။ အကယ်၍ရှိပြန်လျှင်လည်း အဝါရောင်အနည်းငယ်မျှသာ ရှိသည်။ ပါးလွှာစွာပြုလုပ်ထားလျှင် ထုတ်ချင်းပေါက် မြင်နိုင်သည်။ အရောင်ဆေး ထည့်ပေးသောအခါ တညီတညာ ပျံ့နှံ့၍သွားနိုင်သည်။ ပရုတ်နံ့ အနည်းငယ်ရှိသည်။ ရေ၌ဖြစ်စေ၊ အက်ဆစ် အပျော့ရည်များ၌ဖြစ်စေ ပျော်ဝင်နိုင်ခြင်းမရှိပေ။ တခုသတိပြုရန်မှာ ဆဲလျူလွိုက်သည် အလွန်မီးလောင်လွယ်သည်။ ထို့ကြောင့် သိပ္ပံဆရာ အသီးသီးတို့သည် မီးမလောင်နိုင်သော သို့မဟုတ် မီးအလောင်နည်းသောဆဲလျူလွိုက်ပြုလုပ်နည်းကို အမျိုးမျိုး ရှာကြံရပြန်သည်။

ရေဆူဆူတွင် သို့မဟုတ်ဆူချိန်နီးနေသောရေထဲတွင် ဆဲလျူလွိုက်ကို နှစ်ပေးသောအခါ ပုံအမျိုးမျိုး ပြုလုပ်နိုင်အောင် ပျော့ပျောင်းလာသည်။ ထိုအချိန်မျိုးတွင် ဆဲလျူလွိုက်တို့ကို လူ၏အသုံးအဆောင်နှင့် အလှအပပစ္စည်း အမျိုးမျိုးအတွက် ပုံသွန်းပြုလုပ်နိုင်သည်။ သာမန်အချိန်တွင်လည်း ဆဲလျူလွိုက်ကို လိုသလို လှီးဖြတ်ဖောက်တွင်းနိုင်ပေသည်။ ဆဲလျူလွိုက်သည် အခိုင်မာဆုံးသော လက်လုပ်ပစ္စည်းတခု ဖြစ်သည်။ ရော်ဘာစေးကဲ့သို့ ကျုံ့နိုင် ကန်နိုင်သောသတ္တိရှိ၍ အလွန်ပါးလွှာသည့် ဖလင်ကော်ပြားများ ဖြစ်အောင် ပြုလုပ်နိုင်သည်။

မီးမလောင်နိုင်သည့်ဆဲလျူလွိုက် ပြုလုပ်နည်းကို ရှာကြံခဲ့ကြရာတွင် အချို့ကဆဲလျူလွိုက်ထဲ၌ ကလိုရိုက်တမျိုးကိုဖြစ်စေ၊ ဗရိုမိုက်တမျိုးကိုဖြစ်စေ သို့မဟုတ်မီးကိုငြိမ်းသတ်နိုင်သော ဓာတ်ငွေ့များကို ထုတ်ပေးနိုင်သည့် အခြားပစ္စည်းတမျိုးမျိုးကိုဖြစ်စေ ထည့်ပေးလေသည်။

**ဆော်ဗန်း**။ ။ဆော်ဗန်းသည် ပြင်သစ်နိုင်ငံ၊ ပါရစ်မြို့တော်ရှိ ကျော်ကြားထင်ရှားလှသော ပညာဗိမာန် ကောလိပ်ကျောင်းတော်ကြီးတခုဖြစ်သည်။ အလယ်ခေတ်ကမူ ခရစ်ယန်အယူဝါဒ၏ အရေးပါသော အစိတ်အပိုင်းဖြစ်သည့် ဗြဟာဒေဝဗေဒ ဘာသာရပ်ဆိုင်ရာ ကောလိပ်ကျောင်းကလေးတခုမျှသာဖြစ်ခဲ့သည်။ ၁၂၅၃ ခုနှစ်၌ နဝမလူဝီဘုရင်၏သင်းအုပ်ဆရာဖြစ်သော ရောဗတ် ဒီ ဆော်ဗန်းဆိုသူက စတင်တည်ဆောက်ခဲ့ခြင်းဖြစ်၏။ မူလက စာပေပို့ချသော ကျောင်းအဆောက်အအုံအဖြစ်ဖြင့် အသုံးပြုရန် ရည်ရွယ်ခဲ့ခြင်းမဟုတ်ချေ။ ဗြဟာဒေဝဗေဒ ဘာသာရပ်ကို သင်ယူသော ဆင်းရဲသည့်ကျောင်းသားများ နေထိုင်ရန်အတွက် ကျောင်းဆောင်အဖြစ်ဖြင့်ဆောက်လုပ်ပေးခဲ့ခြင်းသာဖြစ်လေသည်။ သို့သော်တဖြည်းဖြည်းနှင့် ဥရောပတွင် ခရစ်ယန်ဗြဟာဒေဝ



ပါရစ်မြို့တော်ရှိ ထင်ရှားကျော်ကြားလှသော ဆော်ဗန်းကောလိပ်

ဗေဒနှင့်စပ်လျဉ်း၍ အထင်ရှားဆုံး ကျောင်းတကျောင်းဖြစ်လာလေသည်။ ၁၆၂၆ ခုနှစ်တွင် ကာဒင်နယ် ရစ်ရှလျူးသည် ထိုကျောင်းအဆောက်အအုံကို ပြန်လည်ပြင်ဆင် တည်ဆောက်ပေးခဲ့သည့် အပြင်၊ ကျောင်းသားများ အတွက်လည်း ခန့်ညား ထည်ဝါလှသော ဘုရားရှိခိုးကျောင်းကိုပါ ထည့်သွင်း ဆောက်လုပ်ပေးလေသည်။ ၁၇၉၂ ခုနှစ်တွင် ထိုကျောင်းကို အမိန့်အရ ဖျက်သိမ်းလိုက်ရ၏။ ၁၈၂၁ ခုနှစ်တွင်မှ ဆော်ဗန်းကောလိပ်ကို ပြန်လည်ဖွင့်လှစ်ခဲ့ရာ၊ ဗြဟဒေဝဗေဒ၊ သိပ္ပံပညာနှင့် စာပေအတွက် မဟာဌာန ၃ ခုကို ထားရှိခဲ့၏။ ၁၈၅၂ ခုနှစ်၌ ဆော်ဗန်းကောလိပ်ကို ပါရစ်မြို့တော်သို့ လွှဲအပ်ပေးခဲ့သည်တွင်၊ ပါရစ်တက္ကသိုလ်၌ ဆော်ဗန်းကောလိပ်ကို ပူးတွဲထားရှိခဲ့လေသည်။ အနှစ် ၂၀ ခန့်ကြာလတ်သော်၊ ဗြဟဒေဝဗေဒ မဟာဌာနကို လုံးဝဖျက်သိမ်းလိုက်သည်။ ဤတွင် နှစ်ပေါင်းများစွာကပင် ပြင်သစ်နိုင်ငံသူနိုင်ငံသားများအား အယူဝါဒနှင့်ပတ်သက်သော အတွေးအခေါ် အသိဉာဏ်ရင့်သန်စေရန်ဦးဆောင်လာခဲ့သည့်ဆော်ဗန်းကောလိပ်သည် သာသနာရေး လောင်းရိပ် အောက်မှ လွတ်မြောက်ခဲ့၍၊ လောကီရေးရာနှင့် သိပ္ပံရေးရာဘာသာရပ်များကိုသာ သင်ကြား ပို့ချပေးသောကျောင်း ဖြစ်လာလေတော့သည်။

၁၈၈၉ ခုနှစ်တွင် အဆောက်အအုံများကို အသစ်ထပ်မံဆောက်လုပ်ကာ 'ဆော်ဗန်းကောလိပ်သစ်' ဟုခေါ်ဝေါ်ခဲ့လေသည်။ ၁၇ ရာစုနှစ်မှအဆာက်အအုံဆိုလျှင် ဘုရားရှိခိုးကျောင်းကြီးသာ ရှိတော့၏။

ဆော်ဗန်းကောလိပ် အဆောက်အအုံများမှာ ကမ္ဘာပေါ်ရှိအလှပဆုံးတက္ကသိုလ်အဆောက်အအုံများတွင် အပါအဝင်ဖြစ်ပေသည်။ ဆော်ဗန်းကောလိပ်တွင် အနုစာပေမဟာဌာနနှင့်သိပ္ပံမဟာဌာနတို့ကို ထားရှိလျက်၊ ခေတ်မီဓာတ်ခွဲခန်းများ၊ဟောပြောခန်းများနှင့် စာကြည့်တိုက်ကြီးများလည်း ရှိလေသည်။

ကမ္ဘာအနှံ့အပြားမှ ထိုကောလိပ်သို့ တက်ရောက်သင်ကြားကြသော ကျောင်းသူကျောင်းသားပေါင်းမှာ ဒုတိယကမ္ဘာစစ်မတိုင်မီက တနှစ်တနှစ်လျှင် ၁၃,၀၀၀ နီးပါးမျှရှိခဲ့လေသည်။ တခါတရံတွင် ပါရစ်တက္ကသိုလ်ကိုပင် ဆော်ဗန်းဟု ခေါ်ဝေါ်ပြောဆိုတတ်ကြ၏။

**ဆောဖကလီ** (ဘီစီ ၄၉၆–၄၀၆)။ ။ဆောဖကလီသည် ဂရိလူမျိုး နာမည်ကျော် ပြဇာတ်ရေးဆရာဖြစ်သည်။ အက်သင်းမြို့ဆင်ခြေဖုံးဒေသတွင် မွေးဖွားခဲ့၍၊ မိဖများမှာ ကုံလုံကြွယ်ဝသူများဖြစ်၏။ ပဲရီကလီး ခေါင်းဆောင်မှုအောက်တွင် ဂရိနိုင်ငံငယ်များ တန်ခိုးထွန်းတောက်စဉ်အခါက သူ၏



ဂရိအလွမ်းပြဇာတ်ရေးဆရာကြီး ဆောဖကလီ



ဆောဖကလီ၏အိလက်တြာပြဇာတ်မှ အခန်းတခန်း

ပြဇာတ်များ ခေတ်စားခဲ့သည်။ ဆောဖကလီသည် အသက် ၂၈ နှစ်အရွယ်တွင် မိမိထက်အသက် ၃၀ မျှကြီးသော နာမည်ကျော် ပြဇာတ်ဆရာ အက်စကိလပ်နှင့် ယှဉ်ပြိုင်ရာ၌ ပဌမဆုကိုရရှိခဲ့လေသည်။ (အက်စကိလပ် — ရှု။) ဘီစီ ၄၄၁ ခုနှစ်တွင် ယူရစ်ပီးဒီးအမည်ရှိ ပြဇာတ်ဆရာ ပေါ် ပေါက်လာပြန်သောအခါ သူ၏နာမည်သည် မှိန်သွားသည်။ (ယူရစ်ပီးဒီး — ရှု။) သို့ရာတွင် နောက်တနှစ်၌ အန်တစ်ဂိုနီ အမည်ရှိ ပြဇာတ်ကြောင့် တဖန်ကျော်ကြားလာပြန်သည်။ ထို နောက်တွင် ပြဇာတ်၌ ပဌမဆုများကို အကြိမ် ၂၀ မျှ ဆက်လက်ရရှိခဲ့လေသည်။

မူလက ပြဇာတ်ပေါင်း ၁၂၀ ကျော်ရေးသားခဲ့ရာ ယခုအခါ သူ၏ပြဇာတ် ၇ ခုမျှသာ ကျန်တော့သည်။ ဆောဖကလီကား ပြဇာတ်တွင် ဇာတ်ကောင် သုံးယောက်မျှပါဝင်၍ ဟန်ပြပြောဆိုရန် ထွင်ခဲ့သူဖြစ်သည်။ သူ၏ ပြဇာတ်များ ထင်ရှားကျော်ကြား လူကြိုက်များရခြင်းမှာ ဆောဖကလီသည် လူ့သဘောကို နားလည်ကာ လူ့သဘာဝကျအောင် ရေးသားထားခြင်းကြောင့်ပင် ဖြစ်သည်။

ထိုကဗျာဆရာ၊ ပြဇာတ်ဆရာ၊ အနုပညာဆရာကြီးသည် အသက် ၅၅ နှစ်အရွယ်တွင် ဂရိခေါင်းဆောင် ပဲရီးကလီးနှင့် အတူ ဆေးမီးယန်စစ်ပွဲ (ဘီစီ ၄၄၀) တွင် စစ်ဗိုလ်ချုပ်ကြီး တဦးအဖြစ် တိုက်ပွဲဝင်ခဲ့ဘူးလေ၏။ (ပဲရီးကလီး — ရှု။)

**ဆောဖလိုင်းယင်ကောင်။** ။ဆောဖလိုင်းယင်ကောင်သည် ပရွက်ဆိတ်၊ ပျား၊ နကျယ်ကောင်တို့နှင့်အတူ 'ဟိုင်မင်နော့တာရာ' မျိုးစုကြီးတခုတည်းတွင် ပါဝင်သည်။ ခူဘဝမှ တဆင့်ကြီးရသောအကောင်မျိုးဖြစ်သည်။ ပရွက်ဆိတ်၊ ပျား၊ နကျယ်ကောင်တို့ကဲ့သို့ ခါးမသေးပေ။ ယင်း၌ အလင်းပေါက်သောအတောင်ပံ ၄ ခုရှိသည်။ အတောင်ပံများတွင် ထူးခြားသောအမှတ်အသားများ မပါချေ။ ဥ အုသောအင်္ဂါတွင် လွှသွားကဲ့သို့ထက်သော အစိတ်အပိုင်းများ



ဆောဖလိုင်းယင်ကောင်

ရှိသည်။ ထိုအစိတ်အပိုင်းဖြင့် သစ်ရွက်၊ ပင်စည်တို့တွင် ရှရာပေး၍ ဥများကို ထည့်ထားတတ်သည်။

ဆောဖလိုင်းယင်ကောင်သည် သစ်ပင်၊ ချုံပင်တို့ကို အကြီးအကျယ်ဖျက်ဆီးသည်။ ယင်းတို့ကို အနောက်နိုင်ငံများတွင် တွေ့ရသည်။

**ဆောမြို့**။ ။ပခုက္ကူခရိုင် ဆောမြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ မြို့နယ်၏ ကျယ်ဝန်းသောအပိုင်းမှာ ယောချောင်းမြစ်ဝှမ်းတွင်တည်ရှိ၏။ ဆောမြို့နယ်အတွင်း နေထိုင်ကြသောလူမျိုးများမှာ အများအားဖြင့် မြန်မာလူမျိုးများဖြစ်ကြသော်လည်း၊ ချင်းလူမျိုးနှင့် တောင်သာလူမျိုးများကိုလည်း တွေ့ရှိနိုင်သည်။

မူလက မြို့ပိုင်ရုံးစိုက်ရာဌာန မဟုတ်ဘဲ၊ လောင်းရှည်မြို့နယ်၏ ရွာကလေးတရွာမျှသာ ဖြစ်၏။ လောင်းရှည်မြို့သည် ဆောမြို့၏တောင်ဖက် ၁၂ မိုင်ခန့်အကွာတွင် ရှိ၏။

ဆောမြို့မှ ဧရာဝတီမြစ်ဆိပ်ကမ်းဖြစ်သော ဆိပ်ဖြူမြို့သို့ နွေရာသီတွင် ကားလမ်းဖြင့် ဆက်သွယ်နိုင်သည်။ မိုင် ၇၀ ခန့်ကွာဝေးသည့် ချင်းဝိသေသတိုင်းရှိ ကန်ပက်လက်မြို့သို့လည်း လားဝန်တင်လမ်း ရှိသည်။

ဆောမြို့နယ်၏ အကျယ်အဝန်းမှာ စတုရန်း မိုင်ပေါင်း ၁၂၀၀ မျှရှိ၍၊ မြို့၏လူဦးရေမှာ ၁၉၅၃ ခုနှစ်သန်းကောင်စာရင်းအရ ၁,၂၇၇ ယောက်မျှရှိလေသည်။

**ဆောလမွန်ဘုရင်**။ ။(ဘီစီ ၉၈၆ — ဘီစီ ၉၃၃) မြန်မာလူမျိုးတို့သည် ပညာရှိသောသူကို မဟောသဓါနှင့်နှိုင်းခိုင်းသကဲ့သို့ ဥရောပနိုင်ငံသားတို့သည်လည်း ပညာဥာဏ်ကြီးကျယ်သူကို ဆောလမွန်ဘုရင်နှင့် နှိုင်းခိုင်းကြ၏။ ဆောလမွန် (ရှောလမုန်) ဘုရင်ကား ရှေးဟောင်းအဇ္ဇရီယယ် (ဣသရေလ) ပြည်ကို အုပ်စိုးသောဘုရင်ဖြစ်၏။ ဆောလမွန်မှာ ခမည်းတော်ဒေဗစ် (ဒါဝိဒ်) နတ်ရွာစံ၍ နန်းတက်သောအခါ အရွယ်ရောက်ခါစမျှသာ ရှိသည်။ သို့ရာတွင် သူ၏ပညာဥာဏ်ကား ကြီးကျယ်လှ၏။ အမှုအခင်းများကို စီရင်ရာတွင် မဟောသဓါကဲ့သို့ပင် တရားနည်းလမ်းကျ၍ အမှန်ရောက်အောင် စီရင်ဆုံးဖြတ်တတ်သဖြင့် ထင်ရှားကျော်စောလေသည်။

ဆောလမွန်ဘုရင်ကြီး အကြောင်းကို ခရစ်ယန် သမ္မာကျမ်းစာတွင်ပါဝင်သော ဓမ္မဟောင်းကျမ်းတွင် ဖေါ်ပြထားသည့်အပြင်၊ သူစီကုံးရေးသားခဲ့သော သုတ္တံ (နယပုံပြင်) ကျမ်း၊ ဒေသနာ (အာစရိယောဝါဒ) ကျမ်းနှင့် ရှောလမုန်သီချင်း (ဂီတမေဒဏီကျမ်း) များကိုပါ ဓမ္မဟောင်းကျမ်းတွင် တွေ့ရှိနိုင်သည်။ (သမ္မာကျမ်းစာ — ရှု။)

ဆောလမွန် ဘုရင်၏ တိုင်းသူပြည်သားများကသာ မက၊



ဆောလမွန်ဘုရင်၏ မိခင်ရင်း ရွေးနည်း

အထက်ပါပုံမှာ သမ္မာကျမ်းလာ ဆောလမွန်ဘုရင်၏ မိခင်ရင်း ကို ခွဲခြားဝေဘန် တရားစီရင်ဟန်ဖြစ်သည်။ ကလေးအသေနှင့်ကလေးအရှင် ၂ ဦးအနက် အသက်ရှိသောကလေးမှာမိမိရင်သွေးဖြစ်ကြောင်း မိန်းမနှစ်ဦး တရားဆိုလာသော အမှုဖြစ်သည်။ ကလေးအားခွဲဖြင့်ပိုင်းဝေယူစေဟု အမိန့်ချမှတ်လိုက်သောအခါ ကလေးအသက်စိုးရိမ်၍ တရားအရှုံးပေးလိုက်သောမိန်းမအား မိခင်ရင်းအဖြစ် ဆောလမွန်ဘုရင်ကစီရင်ဆုံးဖြတ်ကာ တရားနိုင်ပေးလိုက်လေသည်။

နိုင်ငံခြားမှ ဘုရင်များပင် သူ၏ပညာဥာဏ် ကြီးကျယ်ကြောင်းကို သိကြသဖြင့် သူ၏အကြံဥာဏ်နှင့် အဆုံးအဖြတ်ကိုယူရန် လာကြရ၏။ အာရေဗျပြည်မှ ရှီးဗါးဘုရင်မသည် ဆောလမွန်ဘုရင်အား ပြဿနာများမေးရန် လက်ဆောင်ပဏ္ဏာများ ယူဆောင်၍ အခြွေအရံ များစွာနှင့် မိုင်ပေါင်း ၁,၅၀၀ ရှိသော ခရီးဖြင့် သူ့ထံ လာလေသည်။ ဆောလမွန်ဘုရင်က ဘုရင်မ၏ ပြဿနာအားလုံးကို ကျေနပ်လောက်အောင် ဖြေနိုင်သောအခါ ဘုရင်မမှာ များစွာအံ့သြလေ၏။

ဆောလမွန်ဘုရင်ကား လုပခမ်းနားမှုနှင့် စည်းစိမ်ခံစားမှုတို့ကို နှစ်သက်မြတ်နိုးသူဖြစ်သည်။ သူ၏ ကြီးကျယ်သော ဥာဏ်ပညာကြောင့် အပြည်ပြည်မှမင်းညီမင်းသားတို့က မိတ်ဖွဲ့ကာ၊ လက်ဆောင်ပဏ္ဏာများ ပို့ကြရာ၊ ထူးထွေဆန်းပြားသောပစ္စည်းအမျိုးမျိုးနှင့် သမီးကညာများကို လက်ခံရရှိ

လေသည်။ ထိုပြင် ထိုဘုရင်ကြီးသည် ဖိနီရှန်များနှင့် ပူးပေါင်း၍ ကုန်သွယ်ခြင်းကိုပြုလုပ်ရာ လွန်စွာကြွယ်ဝချမ်းသာခြင်းသို့ ရောက်လေ၏။ ဆောလမွန်ဘုရင်သည် အဇ္ဇရီယယ်ပြည်မှ အလွန်ခရီးကွာဝေးသော ဒေသများနှင့် ပဌမဆုံးရောင်းဝယ်ဆက်ဆံမှုကို ပြုသူဖြစ်လေသည်။ ထိုမင်း၏လက်ထက်တွင် အဇ္ဇရီယယ်ပြည်မှာ လွန်စွာချမ်းသာကြွယ်ဝ၍ စည်းစိမ်ဥစ္စာ ခံစားစံစားမှုအမျိုးမျိုးနှင့်လည်း ပြည့်စုံ၏။

ဆောလမွန်ဘုရင် လက်ထက်တွင် စစ်မက်များ နည်းပါးလေရာ၊ သုသည် ဂျရူးဆလင်မ်မြို့တော်ကြီး၌ ဘုရားတန်ဆောင်းကြီးတခုကိုဆောက်လုပ်လေသည်။ ထိုတန်ဆောင်းတော်ကြီး (ဝါ) ဗိမာန်တော်ကား လွန်စွာခမ်းနားလှ၍၊ လက်ဗနွန်မှ သစ်ကောင်းများဖြင့် ဆောက်လုပ်ထား၏။ ရွှေ၊ ငွေ၊ ဆင်စွယ်တို့ဖြင့် မွမ်းမံခြယ်လယ်ထားသဖြင့် တဖိတ်ဖိတ်တောက်ပနေ၏။ ဆောလမွန်သည် မိမိ၏နန်းတော်ကြီးကိုလည်း ဤသို့ပင် ခမ်းနားလှပအောင် ဆောက်လုပ်၍နေထိုင်လေသည်။

ဆောလမွန်ဘုရင်သည် ဉာဏ်ပညာကြီးမားမှုနှင့် ချမ်းသာကြွယ်ဝမှုကြောင့် ထင်ရှားကျော်ကြားခဲ့သော်လည်း၊ အနှစ် ၄၀ ခန့်မျှ ရှည်လျားသောနန်းသက်တွင် တစတစ အာဏာကို ပြင်းထန်စွာ သုံးစွဲလာခြင်း၊ ဘာသာအယူဝါဒ ကိုးကွယ်ရေးတွင် ပေါ့ဆလာခြင်းတို့ကြောင့် ပြည်သူလူထုမှာ မကျေနပ် ဖြစ်လာလေသည်။ ထို့ပြင် ဆောလမွန်ဘုရင်ကြီးသည် ဤသို့ စည်းစိမ်ချမ်းသာကြီးစွာဖြင့်နေခြင်းကို အခြားပြည်မှ မင်းများကလည်း မလိုလား မရှုစိမ့်ဖြစ်လာကြလေ၏။ ထို့ကြောင့် ဆောလမွန် နတ်ရွာမစံမီနှစ်များတွင် အဇ္ဇရီယယ်ပြည်အခြေအနေမှာ လှုပ်ရှားလာ၍၊ သူ၏သားတော်လက်ထက်တွင်ကား၊ ထိုပြည်မှာ နှစ်ပိုင်းကွဲသွားလေတော့သည်။ ဆောလမွန်ဘုရင်ကြီးသည် ဘီစီ ၉၇၆ ခုနှစ်တွင် ဖွါးမြင်ခဲ့၍၊ ဘီစီ ၉၃၃ ခုနှစ်တွင် နတ်ရွာစံသည်ဟု ခန့်မှန်းကြသည်။

**ဆိုကရေးတီး။** ။ဘီစီ ၅၀၀ ပြည့်နှစ်ခန့်က ဂရိနိုင်ငံ အက်သင်းမြို့တော်၌ ဆိုကရေးတီးအမည်ရှိသော ပညာရှင်တဦးပေါ် ပေါက်ခဲ့သည်။ ထိုခေတ်က အက်သင်းမြို့သားများသည် ပညာကို အထူးလိုလားကြသဖြင့် အကြောင်းသင့်ရာသင့်ရာ စုဝေးတိုင်ပင်ဆွေးနွေးလေ့ရှိကြသည်။ ထိုသို့စုဝေးကြသောလူတစုကို 'ဆိုးဖစ်' ဟုခေါ်၏။ ဆိုးဖစ်တို့သည် စကား၏ပရိယာယ်၌ လိမ္မာ၍၊ ဆွေးနွေးရာတွင် အကျိုးသင့်အကြောင်းသင့်ငြင်းခုံသည်ထက် စကားနိုင်လု၍ငြင်းခုံလေ့ရှိကြသည်။ (စကားပြောအတတ် — ရှု။) သို့သော် လူတို့၏စကားများမှာ ပရိယာယ်ကြွယ်ဝသလောက် အနှစ်သာရကင်းမဲ့လေသည်။ ဆိုကရေးတီးက ဤသို့ အပေါ်ယံရွှေမှုန်ကြဲသည့်ပညာမျိုးသည် လူတို့အားပညာအလင်းရောင်မပေးသည်သာမက၊ ယုံမှားသံသယ ဖြစ်စေပြီးလျှင်၊ ပို၍ရှုပ်ထွေးစေသည်ဟု ယူဆသဖြင့် ယင်းကိုရှောင်ကြဉ်လေသည်။ ဆိုကရေးတီး၏ဝါဒသည်ကား၊ မိမိ၏ကိုယ်ကျင့်တရားကို လေ့လာစိစစ်ခြင်းဖြင့် အမှန်တရားကို ရှာဖွေခြင်းပင် ဖြစ်ပေသည်။ ဆိုကရေးတီး၏ဩဝါဒမှာ မိမိကိုယ်ကို မိမိသိအောင်ဆန်းစစ်ကြည့်ခြင်းပင်ဖြစ်၏။ ဆိုကရေးတီး၏အလို၌ ပညာရှိလျှင်သီလရှိသည်ဟူ၏။ ပညာရှိသူသည် အစစအရာရာ၌ဖြိုးခြံ၍၊ မဇ္ဈိမပဋိပဒါတည်းဟူသော အလယ်အလတ်လမ်းကို လိုက်သည်။ မယုတ်မလွန် ကျင့်ခြင်းပင်လျှင် စိတ်၏တည်ငြိမ်ချမ်းသာမှုကို ရနိုင်သည်ဟု ဆိုကရေးတီးသည် ယူဆခဲ့၏။ ထိုခေတ်အခါက လူတို့၏ပြုမူကျင့်ကြံပုံတို့သည် မည်မျှ လမ်းလွဲနေသည်ကို ထုတ်ဖေါ်ပြသခဲ့သည်။ သူကိုယ်တိုင်လည်း မတရားမှုကို စိုးစဉ်းမျှမပြု၊ တရားသောအမှုအတွက်ကား အသက်ကိုပင် စွန့်လွှတ်ရန် ဝန်လေးသူမဟုတ်ချေ။ စင်စစ် လူတို့သည် ပင်ကိုယ်က ဆိုးသွမ်းသောမျိုးစေ့ ရှိကြသည်မဟုတ်၊ မသိနားမလည်မှုပေါ်တွင် အခြေခံ၍ ဆိုးသွမ်းမှုဖြစ်ကြ၏။ ပညာဗဟုသုတပေါ်တွင် အခြေတည်သောအခါ ကိုယ်ကျင့်တရား ကောင်းမွန်လာကြသည်ဟု ဆိုကရေးတီးသည် ယုံကြည်၏။ ဆိုကရေးတီးသည် သူ၏အယူအဆများကို စာဖြင့် တလုံးတပါဒမျှ မရေးသားခဲ့ချေ။ သူ၏တပည့်များဖြစ်ကြသော သမိုင်းဆရာကြီး ဇင်းနိုဖန်နှင့် ပညာရှိကြီး ပလေးတိုတို့က မိမိတို့ဆရာ၏ ဩဝါဒကထာကို နောင်လာနောင်သားတို့ လေ့လာနိုင်စေရန် မှတ်တမ်းတင်ခဲ့ခြင်းသာ ရှိလေသည်။ ထိုသူနှစ်ဦးကြောင့် ဆိုကရေးတီး၏ အယူအဆ အတွေးအခေါ် နှင့် ဩဝါဒတို့သည် ဂရိတို့၏ယဉ်ကျေးမှုကို ထင်ရှားကျော်စောစေခဲ့သည်။ (ဇင်းနိုဖန်။ ပလေးတိုရှု။)

ဆိုကရေးတီးသည် အက်သင်း မြို့တော်၏ ဆင်ခြေဖုံးရပ်ကွက်၌မွေးဖွား၍၊ သူ၏ဖခင်မှာ ပန်းပုဆရာဖြစ်သည်။ ပန်းပုပညာကိုထင်ကြားလေ့လာစဉ်က ပညာကိုကောင်းစွာမသင်ခဲ့ရချေ။ ဖခင်၏ပန်းပုပညာကို သင်ယူလျက်၊ ပန်းပုဆရာအဖြစ် လုပ်ကိုင်ပြီးနောက် ထိုအလုပ်ကိုစွန့်လွှတ်၍ အမှန်တရားကို စဉ်းစားကြံဆခြင်းဖြင့် ပျော်ပိုက်နေလေသည်။ သူသည် နေရေးစားရေးအတွက် မပူပင်ချေ။ ရောင့်ရဲလွယ်သောစိတ်ဓာတ်ရှိ၏။ ကြံ့ခိုင်သောကိုယ်ခန္ဓာကြောင့် ခံနိုင်ရည်ရှိလေသည်။ အတန်ငယ်စားရုံအိပ်ရုံနှင့် နေနိုင်သောသတ္တိ ရှိရကား စီးပွါးရှာဖွေခြင်းကို မပြုဘဲ 'အမှန်တရား' ကိုသာ ရှာဖွေခြင်းဖြင့် အချိန်ကုန်လွန်စေခဲ့သည်။

ဆိုကရေးတီးသည် အက်သင်းမြို့တော်ရှိ လမ်းမကြီးများပေါ်တွင် ကြမ်းတမ်းသောအဝတ်ကို ဝတ်ဆင်လျက် ဖိနပ်ကိုအလျှင်းမစီးဘဲ သွားလာတတ်သည်။ အရပ်မှာပု၍၊ လမ်းလျှောက်ပုံမှာ ဘဲသွားသကဲ့သို့ဖြစ်ရကား အကြည့်ရဆိုးလေ

သည်။ ဝတ်မှုစားမှုကို ဂရုမစိုက်ခြင်းကြောင့် အမြဲညစ်ပတ်ပေရေနေလေသည်။ သွားလာယင်း သူသိလိုသမျှကို တွေးတောကြံဆ၍ နေတတ်၏။ လမ်း၌တွေ့ရသော မည်သူကိုမဆို လှမ်း၍မေးမြန်းတတ်သည်။ ထိုခေတ်အခါက အက်သင်းမြို့သားတို့သည် အလွန်အလှကြိုက်၍ ဂုဏ်မက်သူများဖြစ်ရကား၊ အရုပ်ဆိုး၍ အဝတ် အစုတ်အပြတ်ကို ဝတ်သော ဆိုကရေးတီးအား ရှောင်လွှဲသွားတတ်ကြသည်။ သို့ရာတွင် အချို့ကမူ သူ၏ကိုယ်ကျင့်တရားနှင့်ဆိုင်သော ဟောပြောချက်များကို နားထောင်ကောင်းလှသဖြင့် ဝိုင်း၍နားထောင်ကြလေသည်။

လူတို့သည် ဆိုကရေးတီး၏စကားများကို နာယူမှတ်သားကြသည်။ အနှစ်သာရကင်းမဲ့သော အယူအဆများသည် ဆိုကရေးတီး၏ တိကျပြတ်သားသောအရိုးခံတရားနှင့် မယှဉ်နိုင်သဖြင့် ပျောက်ကွယ်ကြရသည်။ ရှေးကလူတို့၏ တွေးတောယူဆချက်များကို ဆိုကရေးတီးသည် အမှန်သို့ရောက်အောင် ဟောပြောခဲ့သည်။

ဆိုကရေးတီး၏ဩဝါဒကို မင်းမျိုးမင်းနွယ်တို့၏ သားသမီးများပင် ဆည်းကပ်နည်းယူကြရသည်။ ထိုအခါက စစ်သေနာပတိတဦးဖြစ်သူ အယ်လစီဗိုင်းအားဒီးသည် ဆိုကရေးတီးကို ကြည်ညိုသူဖြစ်ရာ သူ့ဆရာအကြောင်းကို ‘ဆိုကရေးတီး၏ စိတ်မှာ အံ့ဩဖွယ်ကောင်းအောင် မှန်မြတ်လှ၍၊ သူ၏ဟောပြောချက်တို့သည် အာဏာစက်ကဲ့သို့ မနာခံဘဲ မနေနိုင်အောင်ဖြစ်တော့သည်’ ဟူ၍ မှတ်တမ်းတင်ခဲ့သည်။

ဆိုကရေးတီးသည် ပင်ပန်းညောင်းညာမှုကို ဂရုထားသူမဟုတ်ချေ။ နံနက်စောစောကစ၍ တနေရာတွင်ရပ်ကာ တစုံတခုကို စဉ်းစားနေလျှင် သူမည်မျှကြာမည်ကို စောင့်ကြည့်ကြသော လူများသာ ညောင်းညာ နွမ်းရိပေသည်။ အိပ်လျက် စောင့်ကြရပေမည်။ သို့ရာတွင် ဆိုကရေးတီးကား ထိုနေရာမှ ရွေ့ရှားလိမ့်မည် မဟုတ်ချေ။ ဆိုကရေးတီး၌ ဤကဲ့သို့ အမူအကျင့်ရှိသော်လည်း သူသည် အပေါင်းအသင်းဝင်ဆံ့၍ မိတ်ဆွေများအိမ်၌ကျင်းပသော ထမင်းစားပွဲများတွင် ရယ်စရာပျက်လုံးများနှင့်လည်း သောတတ်သည်။ ပညာရှိပီပီ နက်နဲသော အယူအဆ ပြဿနာများကိုလည်း ဆွေးနွေးတတ်သည်။ ဆိုကရေးတီးသည် ချီးမွမ်းခြင်း၊ ကဲ့ရဲ့ခြင်း၊ အနှောင့်အရှက်ပေးခြင်းတို့ကို လုံးဝ မှုသူမဟုတ်ချေ။ ယင်းသို့ စိတ်အနှောင့်အရှက်ကို ခံနိုင်ရည်ရှိခြင်းမှာ သူ၏နှုတ်သီးကောင်း သဘောဆိုးသောဇနီးသည် ဇန်တစ်ပီး၏ အနှောင့်အရှက်ပေးမှုကို ကျင့်သားရပြီးဖြစ်သောကြောင့်ဟုဆိုရပေမည်။

ဆိုကရေးတီးသည် ကိုယ်ကျင့်တရားကိုသာ ဂရုစိုက်၍ကြံဆသော ပညာရှိပုဂ္ဂိုလ်ကြီးမဟုတ်၊ လက်ရုံးရည်နှင့် ပြည့်စုံသော စစ်သည်တော်လည်း ဖြစ်ခဲ့ဘူး၏။ စစ်ပွဲပေါင်းများစွာ အောင်ပန်းဆွတ်ခူးခဲ့ဘူးသူလည်း ဖြစ်၏။ သို့ရာတွင် စစ်



ဆိုကရေးတီးသည် သေမည်သိလျက် အဆိပ်ခွက်ကိုလှမ်းယူယင်း တပည့်များအားဥပဒေကိုရိုသေရန် နောက်ဆုံးဆုံးမဩဝါဒပေးခဲ့သည်။

တိုက်ခြင်းသည် သူ၏ကိုယ်ကျင့်တရားကောင်းမွန်ရေးဝါဒနှင့် ဖီလာ ဖြစ်နေသည်ဟု ယူဆလာသောအခါ၊ အက်သင်းမြို့သားများက မည်မျှပင် တိုက်တွန်းသော်လည်း စစ်ကိုကြဉ်လိုက်လေသည်။

သူ၏ကိုယ်ကျင့်တရား အယူအဆများသည် မတရားမှုများကို လက်သင့်မခံယူသဖြင့် ဆိုကရေးတီးသည် အက်သင်း အစိုးရ၏ မုန်းထားငြိုငြင်ခြင်းကို ခံရလေသည်။ ဤသို့ဖြင့် ဆိုကရေးတီးသည် အက်သင်း အစိုးရနှင့်တကွ မာနခက်ထန်၍ ကိုယ်ကျင့်တရားမရှိသော လူထုနှင့် အရာရာတွင် ဆန့်ကျင်ဘက်ဖြစ်နေရကား၊ နောက်ဆုံး၌ သူ့အား အလွန်မုန်းထားသည့် ရန်သူသုံးဦးခေါင်းဆောင်သော လူတစုသည် ဆိုကရေးတီး၏အယူအဆသည် လူငယ်တို့၏ကိုယ်ကျင့်တရားကို ပျက်ပြားစေသည်သာမက၊ လူတို့၏ လက်ရှိယုံကြည်ကိုးကွယ်မှုကို စော်ကားသည်ဟု တရားစွဲဆိုခဲ့သည်။ ဆိုကရေးတီး၏ တပည့်များက ရွှေနေ ငှားရမ်း၍ တရားဆိုင်ရန် ပြောသော်လည်း၊ ရွှေနေမငှားဘဲ သူကိုယ်တိုင် သူ၏အယူအဆများကို ရှင်းလင်းဖြေဆိုခဲ့သည်။ ထိုသို့ရှင်းပြချက်ကို 'ဆိုကရေးတီး၏ လျှောက်လဲချက်များ' ဟု ယခုတိုင်အောင် ထင်ရှားလျက်ရှိသည်။ ရုံးတော်က သူ့အားအပြစ်ရှိသည်ဟု တဖက်သတ်ဆုံးဖြတ်ပြီးလျှင် သေဒဏ်အပြစ် ပေးခဲ့သည်။ သို့ရာတွင် ဆိုကရေးတီးကား အနည်းငယ်မျှ မတုန်လှုပ်ချေ။ စီရင်ချက်အတိုင်း လာ၍ပေးသော အဆိပ်ခွက်ကို သတ္တိရှိရှိနှင့်မော့ချလိုက်လေသည်။ (ဂရိဘာသာနှင့်စာပေ — ရှု။)

**ဆိုဒါ။** ။ဆိုဒီယမ်ပါသော ဒြပ်ပေါင်းများကို ဆိုဒါဟူ၍ ခေါ်ဝေါ်လေ့ရှိသည်။ ဆိုဒီယမ်ဒြပ်ပေါင်းများကို ဆိုဒီယမ် ကလိုရိုက်ဟုခေါ်သော ရိုးရိုးအိမ်သုံးဆားမှ ထုတ်ယူကြသည်။ လူသိများသော ဆိုဒီယမ်ဒြပ်ပေါင်းတခုမှာ ဆိုဒီယမ် ကာဗွန်နိတ်ဖြစ်သည်။ ဆိုဒီယမ် ကာဗွန်နိတ်ကို ဝါရှင်ဆိုဒါ (အဝတ်လျှော်ဆော်ဒါ) ဟူ၍လည်း ခေါ်သည်။ ဆိုဒီယမ် ကာဗွန်နိတ်သည် ပုံဆောင်ခဲကဲ့သို့၎င်း၊ အဖြူရောင် အမှုန့်ကဲ့သို့၎င်း ရှိသည်။ အယ်လကာလီသတ္တိ ထက်မျက်သည်။ အက်ဆစ်တန်ခိုး ပြယ်စေနိုင်သည်ဟုဆိုလိုသည်။ ဆိုဒီယမ် ကာဗွန်နိတ်ကို ဖန်ထည်လုပ်ငန်း၊ ဆပ်ပြာလုပ်ငန်း၊ စက္ကူလုပ်ငန်းတို့တွင် အမြောက်အမြား အသုံးပြုကြသည်။ ထိုပြင် ပိုးသတ်ဆေးအဖြစ်၎င်း၊ ချေးချွတ်ဆေးအဖြစ်၎င်း အသုံးပြုကြသေးသည်။

လူသုံးများသော အခြားဆိုဒါတမျိုးမှာ ဆိုဒီယမ် ဗိုင်ကာဗွန်နိတ်ဖြစ်သည်။ ဆိုဒီယမ် ဗိုင်ကာဗွန်နိတ်ကို အစားအသောက်စီမံရာ၌၎င်း၊ ဆေးဝါးဖော်စပ်ရာ၌၎င်း အသုံးပြုကြသည်။ ယင်းကို ဗိတ်ကင်းဆိုဒါဟူ၍လည်း ခေါ်ကြသည်။ အထူးအားဖြင့် ပေါင်မုန့်၊ ဗီစကွတ်စသော မုန့်များ ဖုတ်ရာ၌ အသုံးပြုရသော ဗိတ်ကင်းပေါင်ဒါထဲ၌ ဆိုဒီယမ် ဗိုင်ကာဗွန်နိတ် ပါသည်။ ဆိုဒီယမ် ဗိုင်ကာဗွန်နိတ် ပါသောကြောင့် ပေါင်မုန့်၊ ဗီစကွတ်ဖုတ်ရာ၌ မုန့်သည် ကျစ်မသွားဘဲ၊ ပွတက်လာခြင်းဖြစ်သည်။ ဆိုဒီယမ် ဗိုင်ကာဗွန်နိတ်ကို ဝမ်းသက်ဆေး ဖော်စပ်ရာ၌လည်း အသုံးပြုကြသည်။ ထိုဆေးသည် အစာအိမ် အတွင်း၌ အက်ဆစ် လွန်ကဲခြင်းကို သက်သာစေနိုင်သည်။

ဆိုဒီယမ်ဟိုက်ဒရောက်ဆိုက်ခေါ် ဆိုဒါတမျိုးလည်း ရှိသေးရာ၊ ထိုဆိုဒါကို ကော့စတစ်ဆိုဒါဟု အများအားဖြင့် ခေါ်သည်။ ကော့စတစ်ဆိုဒါကို ဆပ်ပြာလုပ်ငန်း၊ ဒန်လုပ်ငန်း၊ စက္ကူလုပ်ငန်း၊ ပိုးတုလုပ်ငန်း၊ ဆိုးဆေးလုပ်ငန်း၊ အရောင်ချွတ်ဆေး လုပ်ငန်း၊ ရေနံချက် လုပ်ငန်းတို့တွင် အမြောက်အမြား အသုံးချကြသည်။

ထိုဆိုဒါများအပြင် အရပ်အခေါ်အားဖြင့် ဆိုဒါရေဟူ၍လည်း ရှိသေးသည်။ ထိုဆိုဒါရေထဲ၌ ဆိုဒါပါ၍ ဆိုဒါဟု ခေါ်ဝေါ်ခြင်းမဟုတ်ပေ။ ထိုဆိုဒါရေကို စတင်စီမံစဉ်က ဆိုဒီယမ် ကာဗွန်နိတ်နှင့် အက်ဆစ်တို့မှထုတ်ယူသော ဓာတ်ငွေ့ဖြင့် စီမံရသောကြောင့် ဆိုဒါရေဟု ခေါ်ဝေါ်ခြင်းဖြစ်သည်။ ဆိုဒါရေသည် ဖိအားဖြင့် ကာဗွန် ဒိုင်အောက်ဆိုက် ဓာတ်ငွေ့ထည့်သွင်းထားသောရေပင် ဖြစ်သည်။ ကာဗွန် ဒိုင်အောက်ဆိုက် ပါရှိသောကြောင့် ဆိုဒါရေသည် ဆူတက်တတ်ခြင်းဖြစ်သည်။ (ဆိုဒီယမ် — ရှု။)

**ဆိုဒီယမ်။** ။ဆိုဒီယမ်သည် ငွေကဲ့သို့ ဖြူသောအဆင်းရှိသည့် သတ္တုဖြစ်သည်။ ပျော့သဖြင့် ဓားနှင့်လှီးဖြတ်ယူနိုင်သည့်ပြင် လက်ဖြင့်လည်း ဖျစ်၍ရနိုင်၏။ သတ္တုဟု ဆိုရငြားသော်လည်း၊ ရေတွင်ပေါလော ပေါ်နေနိုင်၏။ ခြောက်သွေ့သောလေနှင့် အောက်ဆီဂျင်တို့တွင် ဆိုဒီယမ်သည် မည်သို့မျှ ဓာတ်ဖောက်ပြန်မှု မရှိသော်လည်း၊ စွတ်စိုထိုင်းမှိုင်းသော လေထဲတွင်မူ အပေါ်ယံအရောင် မှိန်သွား၍၊ နောက်ဆုံးတွင် ဆိုဒီယမ် ကာဗွန်နိတ်အဖြစ်သို့ ဓာတ် ပြောင်းလဲ သွားတတ်သည်။ ထို့ကြောင့် ဆိုဒီယမ်စစ်စစ်ကို ရေနံဆီတွင်စိမ်၍ ထည့်ထားရသည်။ ရေတွင် ထည့်လိုက်သောအခါ ဆိုဒီယမ်သည် လစ်သီယမ်နှင့် ပိုတက်ဆီယမ်တို့ကဲ့သို့ ပြင်းပြင်းထန်ထန် ဓာတ်ဖောက်ပြန်၏။ ထိုနောက် ဟိုက်ဒရိုဂျင် ဓာတ်ငွေ့ထွက်လာပြီးလျှင် ကော့စတစ်ဆိုဒါခေါ် ဆိုဒီယမ် ဟိုက်ဒရောက်ဆိုက် (NaOH) ကိုရ၏။



$$2Na + 2H_2O = 2NaOH + H_2$$

ဆိုဒီယမ် + ရေ = ဆိုဒီယမ်ဟိုက်ဒရောက်ဆိုက် + ဟိုက်ဒရိုဂျင်

ဆိုဒီယမ်ကို သဘာဝဓာတ်အဖြစ်ဖြင့် မတွေ့ရချေ။ သို့သော် ဆိုဒီယမ်ပါသော ဒြပ်ပေါင်းများဖြစ်ကြသည့် (၁) ဆိုဒီယမ်




ဆိုဒီယမ်သည် အလွန်ပင်အသုံးဝင်သောသတ္တုမျိုးဖြစ်သည်။ (၁) ဖန်ထည်ပစ္စည်းများ ပြုလုပ်ရာ၌၎င်း၊ (၂) ဓာတ်မြေဩဇာများ ဖော်စပ်ရာတွင်၎င်း (၃) အစာကြာရှည်ခံအောင် စိမ်ရာတွင်၎င်း (၄) ဆေးဝါး ဖော်စပ်ရာ၌၎င်း (၅) သားရေနယ်လုပ်ငန်းတွင်၎င်း (၆) ဓာတ်ပုံ ဆေးကူးရာတွင်၎င်း အသုံးပြုရသည်။

ကလိုရိုက် (NaCl) (၂) ဆိုဒီယမ် နိုက်ထရိတ် ($NaNO_3$) (၃) ဆိုဒီယမ် ကာဗွန်နိတ် ($NaCo_3$) တို့မှ ဆိုဒီယမ်ကို အမြောက်အမြား ရရှိနိုင်သည်။ ဆိုဒီယမ်သည် လစ်သီယမ်နှင့် ပိုတက်ဆီယမ်တို့ကဲ့သို့ အယ်လကာလီသတ္တုဖြစ်၍၊ ခရစ် ၁၈၀၇ ခုနှစ်တွင်မှ ဆာ ဟမ်ဖရီ ဒေဗီက ဆိုဒီယမ်ဖြစ်ပေါင်းများမှ ဆိုဒီယမ်ကို တသီးတခြားထုတ်ယူနိုင်ခဲ့သည်။

ဆိုဒီယမ်ကို ဆိုဒီယမ် ကာဗွန်နိတ်မှ ထုတ်ယူရာတွင် ဆိုဒီယမ် ကာဗွန်နိတ်နှင့် ထင်းမီးသွေးတို့ကို ကောင်းစွာရောပြီးလျှင် သံရီတော့ ပေါင်းအိုးထဲတွင် ထည့်၍ မီးပြင်းတိုက်ပေးသည်။ ယင်းသို့မီးပြင်းတိုက်ပေးသောအခါ၊ ဆိုဒီယမ်နှင့် ကာဗွန်မွန်အောက်ဆိုက်တို့ကို ရ၏။ ရရှိပုံမှာ၊



$$Na_2CO_3 + 2C = 2Na + 3CO$$

ဆိုဒီယမ် ကာဗွန်နိတ် + မီးသွေး = ဆိုဒီယမ် + ကာဗွန်မွန်အောက်ဆိုက်

ယခု ခေတ်တွင် ဆိုဒီယမ်ကို ကော့စတစ်ဆိုဒါ (NaOH) မှ လျှပ်စစ်ဖြင့် ဓာတ်ခွဲ၍ထုတ်ယူသည်။ ကော့စတစ်ဆိုဒါကို လျှပ်စစ်ဖြင့် ဓာတ်ခွဲလိုက်သောအခါ ဆိုဒီယမ်သည် ကက်သုတ် ဓာတ်မတိုင်မှ ဟိုက်ဒရိုဂျင်နှင့်အတူ ထွက်လာပြီးလျှင် အောက်ဆီဂျင်ဓာတ်မှာမူကား အန်နုတ် ဓာတ်ဖိုတိုင်မှ ထွက်လာ၏။

ဆိုဒီယမ်ဖြစ်ပေါင်းများသည် ကျွန်ုပ်တို့၏ ခန္ဓာကိုယ်တွင်းရှိ သွေးထဲ၌ အရည်ပျော်ဝင်လျက် ရှိကြ၏။ ထိုဖြစ်ပေါင်းများသည် အစားအစာများကို ကြာရှည်ခံအောင် ပြုလုပ်နိုင်သည့်ပြင် ကိတ်မုံ့စသော မုံ့များကိုလည်း ပွလာစေအောင် ပြုပြင်ပေးနိုင်၏။ သားရေနယ်လုပ်ငန်းတွင် အသုံးဝင်သည့်ပြင် ကလိုရင်းဖြင့် အရောင်မချွတ်နိုင်သော ပိုး၊ ဖဲ၊ သိုးမွေးနှင့် အခြား ပျော့ပျောင်းသောပစ္စည်းများကို ဖြူအောင် ချွတ်နိုင်၏။ ပြတင်းပေါက်မှန်များ၊ အိမ်အသုံးအဆောင် ဖန်ဗူးဖန်ခွက်များ လုပ်ကိုင်ရာတွင်၎င်း၊ စက္ကူလုပ်ငန်းတွင်၎င်း၊ ဓာတ်ပုံရိုက်ကူးရာတွင်၎င်း၊ ဆိုဒီယမ်ဖြစ်ပေါင်းများသည် အလွန်ပင် အသုံးဝင်လေသည်။

ဆိုဒီယမ် ကာဗွန်နိတ်ကို 'ဆိုဒါ' ဟုလည်းခေါ်၏။ ဆိုဒါကို အိမ်အသုံးအဆောင် အိုးခွက်များ ဆေးကြောရာတွင်၎င်း၊ အဝတ် လျှော်ဖွပ်ရာတွင်၎င်း၊ ဆပ်ပြာ၊ ဖန်၊ ဆိုးဆေးနှင့် ပေါက်ကွဲတတ်သည့် ခဲယမ်းမီးကျောက်များအပြင် အခြား သိပ္ပံလုပ်ငန်းများတွင်၎င်း များစွာအသုံးပြုသည်။ ဓာတ်ပုံရိုက်ကူးရာတွင် ချုပ်ဆေးအဖြစ်ဖြင့် အသုံးပြုသော ဆိုဒီယမ် သိုင်အိုဆာလဖိတ်ခေါ် ဟိုက်ပိုသည်လည်း ဆိုဒီယမ် ဖြစ်ပေါင်းပင်ဖြစ်သည်။ ဆိုဒီယမ် ကာဗွန်နိတ် အရိုင်းကို ဆိုဒါမှုန့်ဟု ခေါ်ကြ၏။

ခရစ် ၁၇၉၁ ခုနှစ်တွင် လာ ဗလန်းအမည်ရှိ ဓာတုပညာကျော်တဦးသည် ဓာတုသဘောအားဖြင့် ဆိုဒီယမ် ကလိုရိုက် ဟုခေါ်သော အိမ်သုံးဆားရိုးရိုးမှ ဆိုဒါ ထုတ်ယူသောနည်း

ကို ပဌမ စတင်တွေ့ရှိသည်။ ထို လာ ဗလန်းနည်းအရ ဦးစွာပဌမ ဆိုဒီယမ် ကလိုရိုက် (ဆားရိုးရိုး) ကို ဆာလဖျူရစ် အက်ဆစ် အပြင်းရည်နှင့်ရောရှ် မီးပြင်းပြင်းတိုက်ပေးသည်။ ထိုအခါ ဆားရိုးရိုးတွင်ရှိသော ဆိုဒီယမ်နှင့် အက်ဆစ်တွင်ရှိသော ဟိုက်ဒရိုဂျင်ဓာတ်တို့သည် ကွဲထွက်လာကြပြီးလျှင် ဟိုက်ဒရို ကလောရစ် အက်ဆစ်နှင့် ဆိုဒီယမ် ဆာလဖိတ်တို့ ဖြစ်လာကြ၏။ ဖြစ်ပေါ်လာပုံမှာ၊


$2NaCl + H_2SO_4 = Na_2SO_4 + 2HCl$

ဆားရိုးရိုး + ဆာလဖျူရစ် အက်ဆစ်အပြင်း = ဆိုဒီယမ် ဆာလဖိတ် + ဟိုက်ဒရို ကလောရစ် အက်ဆစ်။

ဆိုဒီယမ် ကာဗွန်နိတ် (ဆိုဒါ) ထုတ်ယူသောနည်းတွင် အဆင့် သုံးဆင့်ရှိ၏။ အထက်ပါ ပဌမအဆင့်တွင် ဘေးထွက်ပစ္စည်းအဖြစ်ဖြင့် အပြင်သို့ထွက်လာသော ဟိုက်ဒရိုကလောရစ် အက်ဆစ် ဓာတ်ငွေ့ကို အလဟဿ မဖြစ်စေဘဲ၊ ရေဖြင့် ရောစပ်ပေးသောအခါ ဟိုက်ဒရိုကလောရစ် အက်ဆစ်ရည်ကို ရသည်။ ထိုအက်ဆစ်သည် စက်မှုလုပ်ငန်းများတွင် များစွာပင် အသုံးဝင်သည်။

ဒုတိယအဆင့်တွင် ပဌမအဆင့်မှရရှိခဲ့သော ဆိုဒီယမ် ဆာလဖိတ်ခေါ် ဓာတ်ဆားတုံးများကို အစိတ်စိတ် ထုချေပြီးလျှင် ထုံးကျောက်မှုန့်၊ ထင်းမီးသွေးမှုန့်တို့နှင့်ရောရှ် သံဖိုကြီးထဲတွင်ထည့်ကာ မီးပြင်းပြင်း တိုက်ပေးရ၏။ ယင်းသို့မီးတိုက်ပေးသောအခါ ဓာတ်ဆားတုံးသည် ကာဗွန်ကြောင့် ဆိုဒီယမ် ဆာလဖိတ် ဖြစ်သွားပြီးလျှင် ထုံးဓာတ်နှင့် တွေ့ပြန်သဖြင့် ဓာတ်ကူး၍ ကယ်လဆီယမ် ဆာလဖိုက် (ဒ) နှင့် ဆိုဒီယမ် ကာဗွန်နိတ်တို့ အသီးသီး ဖြစ်လာကြ၏။ ရရှိသောဆိုဒီယမ် ကာဗွန်နိတ်သည် အရောင်မည်း၍နေသောကြောင့် ထိုဆိုဒီယမ် ကာဗွန်နိတ်ကို ပြာအမည်းဟု ခေါ်လေသည်။


$Na_2SO_4 + 2C = Na_2S + 2CO_2$

ဆိုဒီယမ်ဆာလဖိတ် + ထင်းမီးသွေး = ဆိုဒီယမ်ဆာလဖိုက် (ဒ) + ကာဗွန် ဒိုင်အောက်ဆိုက်


တဖန် $Na_2S + CaCO_3 = Na_2CO_3 + CaS$

ဆိုဒီယမ်ဆာလဖိုက် (ဒ) + ထုံး = ဆိုဒါ + ကယ်လဆီယမ် ဆာလဖိုက် (ဒ)

ဤဒုတိယအဆင့်မှရသော ဆိုဒါသည် ချေးအမြောက်အမြားပါဝင်သောကြောင့် အရောင်မှာမည်း၍ ဆိုဒါရာခိုင်နှုန်း ၄၀မှ ၅၀ သာ ပါရှိ၏။

တတိယအဆင့်တွင် ဒုတိယအဆင့်မှရသော ဆိုဒါပြာ အမည်းကို ရေစည်ကြီးများတွင် အတန်တန် ဆေးကြောပေးရ၏။ ထိုသို့ဆေးကြောလိုက်သောအခါတွင် အရည်မပျော်ဝင်သောချေးတို့သည် ရေအောက်သို့ ထိုင်သွား၍၊ အရည်ကြည်ကို အသာယူပြီးလျှင် ပက်သောဒယ်များတွင်ထည့်၍ လေသလပ်ခံထားရ၏။ ယင်းသို့ရရှိသော ဆိုဒါသည် မစင်ကြယ်သေးသဖြင့် မီးပြင်းပြင်းဖြင့် တိုက်ပေးရပြန်၏။ ထိုမှရသော ဆိုဒါပြာကို ရေတွင်ဆေးပြီးနောက် လေသလပ်ခံထားလိုက်မှသာ ဆိုဒါမှုန့်ကို ရရှိလေသည်။

ယခုခေတ်တွင်မူ ဆိုဒီယမ် ကာဗွန်နိတ် (ဆိုဒါ) ကို အထက်ပါနည်းအရ ထုတ်မယူတော့ဘဲ၊ ဆားရေ (NaCl) ကို လျှပ်စစ်ဓာတ်ဖြင့် ဓာတ်ခွဲ၍ ထုတ်ယူကြလေသည်။ ထုတ်ယူပုံမှာ ဆားရေကို လေးထောင့်သံဒယ်တွင်ထည့်၍ လျှပ်စစ်ဓာတ်ဖြင့် ဓာတ်ခွဲလိုက်သည်တွင် ဆိုဒီယမ်နှင့် ကလိုရင်းတို့သည် ဆားရေမှ ဓာတ်ကွဲထွက်လာကြ၏။ ဆိုဒီယမ်သည် လျှပ်စစ်ဓာတ်မတိုင်မှ ထွက်လာ၍၊ ရေတွင်ရှိသော ဟိုက်ဒရိုဂျင်အချို့နှင့် ပေါင်းစပ်သွားပြီးလျှင် ကော့စတစ်ဆိုဒါ (NaOH) ဖြစ်လာ၏။ ပို၍နေသော ဟိုက်ဒရိုဂျင်ဓာတ်ငွေ့က အပြင်သို့ထွက်သွား၏။


$2Na + 2H_2O = 2NaOH + H_2$

ဆိုဒီယမ် + ရေ = ကော့စတစ် ဆိုဒါ + ဟိုက်ဒရိုဂျင် ဓာတ်ငွေ့

ယင်းကဲ့သို့ရရှိသော ကော့စတစ် ဆိုဒါထဲသို့ ကာဗွန်ဒိုင်အောက်ဆိုက် ($CO_2$) ကို မပြတ်သွင်းပေးထားခြင်းဖြင့် ကော့စတစ်ဆိုဒါသည် ဆိုဒီယမ် ကာဗွန်နိတ်ဖြစ်သွား၏။ ကလိုရင်း ဓာတ်ငွေ့မှာ ဘေးထွက်ပစ္စည်းအဖြစ်ဖြင့်ထွက်လာပြီးလျှင် အခြားစက်မှုလုပ်ငန်းများ၌ အသုံးချရ၏။


$2NaOH + CO_2 = Na_2CO_3 + H_2O$

ကော့စတစ်ဆိုဒါ + ကာဗွန် ဒိုင်အောက်ဆိုက် = ဆိုဒါ + ရေ

ဤလျှပ်စစ်ဓာတ်ခွဲနည်းဖြင့်ရသော ဆိုဒါမှာ အလွန်ကောင်း၍ ဆိုဒါရာခိုင်နှုန်း ၉၇ မှ ၉၈ အထိပါဝင်သည်။

**ဆိုဖီးယားမြို့**။ ။ခရစ် ၁၈၇၈ ခုနှစ်မှစ၍ ဆိုဖီးယားမြို့သည် ဗူလဂေးရီးယားနိုင်ငံ၏ မြို့တော်ဖြစ်၏။ ထိုမြို့ကို ၉ ရာစုနှစ်များအတွင်းတွင် ဗူလဂေးရီးယန်းလူမျိုးတို့က သိမ်းပိုက်ထားသည်။ ၁၁ ရာစုနှစ်၌မူ ဗိုင်ဇင်းတိုင်း အင်ပိုင်ယာပိုင် ဖြစ်သည်။ ၁၃၈၂ ခုနှစ်တွင် တူရကီတို့၏ သိမ်းယူစိုးမိုးခြင်း ခံရပြန်လေသည်။ ထိုနောက် ၁၈၂၉ ခုနှင့် ၁၈၇၈ ခုနှစ်များတွင် ရုရှားလူမျိုးတို့ လက်အောက်သို့ ကျရောက်ခဲ့လေသည်။ ၁၈၇၈ ခုနှစ်၌ ထိုမြို့သည် စစ်ဘေးစစ်ဒဏ်ကြောင့် အပျက်အစီး များလှသဖြင့် မြို့တမြို့လုံးလိုလိုပင် အသစ်ပြန်လည် ဆောက်လုပ်ခဲ့ရလေသည်။ တူရကီလူမျိုးများလက်ထက်က တည်ဆောက်ခဲ့၍၊ ယခုတိုင် ကျန်ရစ်ခဲ့သော ပလီကြီးများကို အမျိုးသားပြတိုက်နှင့် စာကြည့်တိုက်အဖြစ်ဖြင့် အသုံးပြုကြသည်။

ဆိုဖီးယားမြို့သည် ဗော်လကန်ကျွန်းဆွယ်၏ အလယ်ဗဟိုလောက်တွင် တည်ရှိသည်ဖြစ်၍ ပတ်ဝန်းကျင် အရပ်ဒေသများမှာ ကုန်းမြင့်ဒေသများ ဖြစ်လေသည်။ ဗူလဂေးရီး



ဗူလဂေးရီးယားနိုင်ငံ ဆိုဖီးယားမြို့တော်ရှိ ဘုရားရှိခိုးကျောင်း

ယားနိုင်ငံနှင့် အစ္စတန်ဘူ၊ ဗဲလဂရိတ်၊ သက်ဆလိုနိုင်ကီ စသည့်မြို့များကို ဆက်သွယ်ဖေါက်လုပ်ထားသော မီးရထားလမ်းတို့ဆုံရာလည်း ဖြစ်သောကြောင့် အရောင်းအဝယ်ဖက်တွင် စည်ကား၏။ ဂျုံ၊ သားရေနှင့် ဆီမွှေးစသော ကုန်ပစ္စည်းအများအပြား ထွက်ရုံမျှမက၊ ပိုးမွေးမြူခြင်း၊ အဝတ်အထည် ရက်လုပ်ခြင်းတို့အပြင်၊ အိုးခွက်လုပ်ငန်းနှင့် ဆေးရွက်ကြီးလုပ်ငန်းများလည်း ရှိ၏။

တက္ကသိုလ်ကျောင်း၊ စစ်အတတ်သင်ကျောင်းနှင့် အခြားကျောင်းများလည်း ရှိ၏။

**ဆိုမာလီလန်နယ်။** ။ဆိုမာလီလန်နယ်သည် အာဖရိကတိုက် အရှေ့မြောက်ပိုင်းတွင် တည်ရှိသည်။ ဗြိတိသျှ ဆိုမာလီလန်၊ ပြင်သစ် ဆိုမာလီလန်နှင့် ဣတာလျံ ဆိုမာလီလန်ဟူ၍ နယ်သုံးခုရှိသည်။ ဗြိတိသျှ ဆိုမာလီလန်နယ်မှာ အေဒင်ပင်လယ်ကွေ့၏ တောင်ဖက်၊ ပြင်သစ် ဆိုမာလီလန်နယ်နှင့် ဣတာလျံ ဆိုမာလီလန်နယ်တို့၏ စပ်ကြားတွင် တည်ရှိသည်။ အကျယ်အဝန်းမှာ စတုရန်းမိုင် ၆၈,၀၀၀ ဖြစ်၍၊ လူဦးရေ ၇၀၀,၀၀၀ ခန့်ရှိသည်။ နယ်၏ ပကတိအသွင်အပြင်မှာ အတွင်းဖက်၌ အလွန်ခေါင်သော ကုန်းပြင်မြင့်တခုရှိသည်။ အချို့နေရာများတွင် ပေ ၆,၀၀၀ အထိ မြင့်သည်။ သို့ဖြစ်၍ ကမ်းခြေတလျှောက်၌သာ လူနေများလျက် စည်ကားတိုးတက်သည်။ ပူအိုက်သော ရာသီဥတုရှိသည်။ လယ်ယာစိုက်ပျိုးရေး လုပ်ငန်းကို အနည်းငယ်သာ လုပ်ကိုင်ကြ၍၊ သိုးဆိတ်မွေးမြူရေး လုပ်ငန်းကို အများအပြား လုပ်ကိုင်ကြသည်။ သိုး၊ ဆိတ်၊ ကုလားအုပ်၊ သစ်စေး၊ သစ်ဆီနှင့် သားရေများ ထွက်၍၊ ဆန်၊ အထည်အလိပ်နှင့် သကြားတို့ကို အိန္ဒိယနိုင်ငံမှ တင်သွင်းရသည်။ ဗာဗီရာမြို့မှာ ထိုနယ်တွင် အကြီးဆုံးမြို့ ဖြစ်သည့်ပြင် ထိုနယ်၏ မြို့တော်လည်း ဖြစ်သည်။

ဗြိတိသျှတို့သည် ဆိုမာလီလန်နယ်ကို ၁၈၈၇ ခုနှစ်တွင် ဗြိတိသျှ စောင့်ရှောက်ခံနယ်အဖြစ် ကျေညာခဲ့သည်။ ၁၉၀၁ ခုနှစ်တွင် ဆိုမာလီလန်တိုင်းရင်းသား မျိုးချစ်ခေါင်းဆောင် တဦးက ဗြိတိသျှအစိုးရကို တော်လှန်ပုန်ကန်ခဲ့သည်။ သို့သော် အရေးရှုံးနိမ့်ကာ ထိုနယ်မှ ထွက်ပြေးရလေသည်။ ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၀ ပြည့်နှစ် ဩဂုတ်လတွင် ဗြိတိသျှ ဆိုမာလီလန်နယ်ကို ဣတာလျံတပ်များက သိမ်းပိုက်ခဲ့ရာ၊ ၁၉၄၁ ခုနှစ်တွင် ဗြိတိသျှတပ်များက ပြန်လည် သိမ်းပိုက်နိုင်ခဲ့သည်။

ပြင်သစ် ဆိုမာလီလန်နယ်သည် အီရစ်ထရီးယားပြည်နယ်နှင့် ဗြိတိသျှ ဆိုမာလီလန်နယ် စပ်ကြားတွင်တည်ရှိသည်။ အကျယ်အဝန်း စတုရန်းမိုင် ၉၀၇၁ မိုင်ရှိ၍၊ ပူပြင်းခြောက်သွေ့သည်။ လူဦးရေမှာ ၄၅,၀၀၀ မျှသာ ရှိသည်။ ပင်လယ်ကမ်းခြေတလျှောက်တွင် လယ်ယာလုပ်ငန်းကို လုပ်ကိုင်ကြသည်။ အဓိကလုပ်ငန်းမှာ ဆားချက်လုပ်ခြင်းဖြစ်သည်။ နိုင်ငံခြားသို့ တင်ပို့သောကုန်စည်များ အနက် အရေးကြီးသောကုန်စည်များမှာ ကာဖီ၊ သားရေစိမ်းနှင့် ဆားဖြစ်သည်။ ဂျီဗူတီမြို့သည် ပြင်သစ် ဆိုမာလီလန်နယ်၏ မြို့တော်ဖြစ်သည်။

ပြင်သစ်တို့သည် ၁၈၈၄ ခုနှစ်တွင် စူလတန်ဘုရင်များနှင့် စာချုပ်ပြီးနောက်၊ ဆိုမာလီလန်နယ်ကို ပြင်သစ် စောင့်

ရှောက်ခံနယ်အဖြစ် ကျေညာခဲ့ကြသည်။ ထိုစာချုပ်အရ ၁၈၉၇ ခုနှစ်တွင် ဂျီဗူတီမြို့မှ အက်ဒစ်အက်ဗာဗာမြို့သို့ မီးရထားလမ်း ဖောက်လုပ်ခဲ့ကြရာ၊ ၁၉၁၇ ခုနှစ်တွင် ပြီးစီးသည်။ ဒုတိယကမ္ဘာစစ်အတွင်းက ပြင်သစ် ဆိုမာလီလန်နယ်သည် ဂျာမန်အလိုတော်ရိ ဗီရှီအစိုးရ လက်ထဲတွင် တည်ရှိခဲ့ရာ၊ ၁၉၄၂ ခုနှစ်မှာမှ ပြင်သစ် မဟာမိတ်အစိုးရက ပြန်လည်သိမ်းပိုက်နိုင်ခဲ့သည်။

ဣတာလျံ ဆိုမာလီလန်နယ်သည် အရှေ့အာဖရိကရှိ ကင်းနယာနယ်နှင့် ဗြိတိသျှ ဆိုမာလီလန်နယ်တို့၏ စပ်ကြားတွင် တည်ရှိသည်။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင် ၂၂၀,၀၀၀ ရှိ၍၊ လူဦးရေ ၁,၂၅၄,၀၀၀ ယောက်ရှိသည်။ လူအများလုပ်ကိုင်သော လုပ်ငန်းမှာ သိုး၊ ဆိတ်၊ ကျွဲနွား မွေးမြူခြင်းနှင့် လယ်ယာစိုက်ပျိုးခြင်းဖြစ်သည်။ ထွက်ကုန်များမှာ သားရေကြမ်း၊ ဝါဂွမ်း၊ နှမ်းဆီ၊ ပဲဆီ၊ ထောပတ်၊ ဆင်စွယ်တို့ဖြစ်သည်။

ဣတာလျံ ဆိုမာလီလန်နယ်သည် ဣတာလျံ အရှေ့အာဖရိက အစိုးရလက်အောက်သို့ ၁၉၃၆ ခုနှစ်က ရောက်ရှိလာခဲ့သည်။ ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၁ ခုနှစ်တွင် ထိုနယ်ကို ဗြိတိသျှတို့က သိမ်းယူလိုက်သည်။

ထိုနောက် ၁၉၄၉ ခုနှစ် ဧပြီလအထိ ဗြိတိသျှ စစ်အုပ်ချုပ်



ဆိုမာလီလန်တိုင်းရင်းသား စစ်မှုထမ်းနှစ်ဦး

ရေးက ထိုနယ်ကို အုပ်ချုပ်သည်။ ၁၉၅၀ ပြည့်နှစ် ဧပြီလ ၁ ရက်နေ့ရောက်မှပင် ထိုနယ်ကို ကုလသမဂ္ဂ၏ ဆုံးဖြတ်ချက်အရ ဣတလီ ထိန်းသိမ်းသော နယ်အဖြစ် ကျေညာသည်။ ၁၉၅၀ ပြည့်နှစ် ဒီဇင်ဘာလ ၂ ရက်နေ့၌မူ၊ ကုလသမဂ္ဂ အထွေထွေလွှတ်တော်က ထိုနယ်ကို ၁၀ နှစ်အတွင်း ကုလသမဂ္ဂက ထိန်းသိမ်းအုပ်ချုပ်ရန်ဟု ဆုံးဖြတ်လိုက်သည်နှင့် ကုလသမဂ္ဂ အထိန်းသိမ်းခံနယ် ဖြစ်လာလေသည်။

**ဆိုရှယ်လစ်ဝါဒ။** ။ဤလူ့ဘောင်အဖွဲ့အစည်း၌ လူတို့အချင်းချင်း ပေါင်းသင်းဆက် ဆံနေထိုင် ရေးတို့တွင် မကောင်းမှုများ ဖြစ်ပေါ် လျက်ရှိကြသည်။ ဥဒါဟရဏ်မှာ၊ တဦးက ပစ္စည်းဥစ္စာကြွယ်ဝ၍၊ တဦးက ပစ္စည်းဥစ္စာမရှိချေ။ ပစ္စည်းဥစ္စာရှိသူသည် ရှိခြင်းကြောင့်ပင် တောင့်တခြင်း ပြင်းပြသည်။ ထိုအခါ ထိုတောင့်တမှုအလိုဆန္ဒ ပြည့်ရေးအတွက် မကောင်းမှုတို့သည် ပွားများလေသည်။ တဖန် ပစ္စည်းဥစ္စာမရှိသူသည် မရှိခြင်းကြောင့်ပင် ကြောင့်ကြခြင်း ပြင်းပြသည်။ ထိုအခါ ထိုကြောင့်ကြမှုကြောင့် ပင်လျှင် မကောင်းမှုတို့သည် ပွားများပြန်လေသည်။ ဤကဲ့သို့ လူမှုရေးဆိုင်ရာ မကောင်းမှုတို့ ပွားများရခြင်းမှာ နိုင်ငံတနိုင်ငံ၏ ထွက်ကုန်ပစ္စည်းများကို နိုင်ငံသားတို့အား ညီမျှစွာ ဖြန့်ဖြူးနိုင်ခြင်း မရှိသောကြောင့်ဖြစ်သည်။ ထိုကြောင့် ထိုထွက်ကုန်ပစ္စည်းများကို လူတဦးတည်းက ချုပ်ကိုင်ပိုင်ဆိုင်သောစံနစ်မှသည် ကုန်ထုတ်ကရိယာနှင့် ကုန်စည်ဖြန့်ဖြူးရေးကရိယာတို့ကို အများပြည်သူ ပိုင်ဆိုင်သောစံနစ်သို့ တဖြည်းဖြည်းသော်၎င်း၊ ချက်ခြင်းသော်၎င်း ကူးပြောင်းပေးနိုင်ခဲ့ပါလျှင်၊ အထက်ပါလူမှုရေးဆိုင်ရာ မကောင်းမှုတို့ ပပျောက်ချေမည်။ ဤကဲ့သို့သောအတွေးအခေါ် အပေါ် တွင် အခြေခံ၍၊ ဆိုရှယ်လစ်ဝါဒ ဖြစ်ပေါ် လာလေသည်။ အချုပ်အားဖြင့်၊ ဆိုရှယ်လစ်ဝါဒဟူသည်မှာ အများနှင့်ဆိုင်သော အကျိုးတရားအတွက် အများနှင့်အတူ သင်းဖွဲ့ပေါင်းစု လုပ်ဆောင်ခြင်းစံနစ်ဖြစ်သည်။

၁၉ ရာစုနှစ်တွင် ဆိုရှယ်လစ်ဝါဒနှင့် ကွန်မြူနစ်ဝါဒတို့ကို အဓိပ္ပါယ်အားဖြင့် ထပ်တူကဲ့သို့ ယူဆခဲ့ကြသည်။ အမှန်မှာ ၁၈၄၇ ခုနှစ်မှသည် ၁၉၁၈ ခုနှစ်အထိ ကွန်မြူနစ်ဟူသော စကားကို အသုံးနည်းသည်။ အလုပ်သမားသမဂ္ဂတို့က သူတို့ကိုယ်ကိုသူတို့ ဆိုရှယ်လစ်ဟူ၍ ခေါ် ဝေါ် ကြသည်က များသည်။ သို့သော် ၁၈၄၇ ခုနှစ်ကပင်လျှင်၊ ကားလ မတ်နှင့် အန်းဂဲတို့က ကွန်မြူနစ်ကျေညာစာတမ်းကို ထုတ်ဝေခဲ့ပြီးဖြစ်ရာ၊ ၁၉၁၇ ခုနှစ် ရုရှ အောက်တိုဘာတော်လှန်ရေးပြီးမြောက်သည့်ခေတ်တွင် လီနင်ကြောင့် ကွန်မြူနစ်ဟူသော ဝေါဟာရသည် ဆိုရှယ်လစ်ဟူသော ဝေါဟာရနှင့် ကွဲပြားခြား၍လာခဲ့သည်။ ဆိုရှယ်လစ်ဝါဒနှင့်ကွန်မြူနစ်

ဝါဒကို ပညာရှင်အသီးသီးတို့က အဓိပ္ပါယ်ပိုင်းခြား၍ ပြခဲ့ကြသော်လည်း၊ ယနေ့တိုင် တိကျသော ကွဲပြားခြားနားချက်ကို အသေအချာ မဖော်ပြနိုင်ကြသေးချေ။ သို့ရာတွင် ကားလမတ်နှင့် လီနင်တို့ချမှတ်ခဲ့သော နည်းဥပဒေများအရမှာမူ ဆိုရှယ်လစ်ဝါဒ ဟူသည်ကား ကုန်ထုတ်ကရိယာတို့ကို ပြည်သူလူထုက ပိုင်ဆိုင်၍၊ ထိုကုန်ထုတ် ကရိယာတို့ကို အမြတ်အတွက်ငှာ မဟုတ်ဘဲ၊ ပြည်သူလူထုတို့ တူမျှသော အကျိုးကျေးဇူးကို ခံစားစေရန်အလို့ငှာ စီမံကိန်းဖြင့် စီစဉ်အသုံးပြုသောစနစ်ဖြစ်သည်။ ဤစနစ်အရ အလုပ်သမားသည် လ၏အလုပ်အတွက် လုပ်ခငွေကိုရရှိ၍၊ လုပ်ခငွေဖြင့် ထုတ်လုပ်ကုန်တို့ကို ဝယ်ယူရရှိနိုင်သည်။ ကွန်မျူနစ်ဝါဒမှာကား၊ ဘုံပစ္စည်းဟူသော သဘောတရားကို အခြေတည်သည်ဖြစ်သောကြောင့်၊ ထုတ်လုပ်ကုန်ဟူသမျှကို အလုပ်သမားတို့က ထုတ်လုပ်ပြီးလျှင်၊ ယင်းတို့၏လိုအင်ဆန္ဒ ပြည့်ဝမှုအတွက် ထုတ်လုပ်ပြီးသောကုန်ပစ္စည်းတို့ကို အခမဲ့ ရယူပိုင်ခွင့်ရှိသည်။ ဤစံနစ်အရ အလုပ်သမားတို့ကို အခကြေးငွေ ပေးရန်မလိုချေ။ အတိုချုပ်မှာ၊ ဆိုရှယ်လစ်ဝါဒ၌ တဦး၏စွမ်းအားကို တဦး၏လုပ်အားနှင့်တိုင်းဆ၍ပေးရသည်။ ကွန်မျူနစ်ဝါဒ၌ တဦး၏စွမ်းအားကို တဦး၏လိုအင်ဆန္ဒနှင့် တိုင်းဆ၍ပေးရသည်။

ဆိုရှယ်လစ်ဝါဒကိုပြန့်ပွားအောင်ကြံဆောင်ခဲ့သူတို့အနက် ပြင်သစ် တော်လှန်ရေးခေတ်တွင် ထွန်းကားခဲ့သော ဗဗတ်သည် ရှေးဦးကျသော ပုဂ္ဂိုလ်ဖြစ်သည်။ ဗဗတ်သည် ဆိုရှယ်လစ်ဝါဒီတို့၏ ပုန်ကန်ထကြွမှုကို အားထုတ်ခဲ့သူဖြစ်၍၊ ခရစ် ၁၇၉၆ ခုနှစ်တွင် ကွပ်မျက်ခြင်း ခံရလေသည်။ သူ၏ အရေးအသားတို့သည် နှောင်းခေတ်တွင်ပေါ် လာသော ဆိုရှယ်လစ် အတွေးအခေါ် တို့ကို ဩဇာလွှမ်းမိုးခဲ့သည်။နှောင်းခေတ်၌ ဆိုရှယ်လစ်စံနစ်သို့ တော်လှန်ရေးနည်းဖြင့် တက်လှမ်းရန်မလို၊ လူတို့၏ ကျိုးကြောင်း ဆင်ခြင်တုံတရားနှင့် ကျင့်ဝတ်တို့ကို ဆိုရှယ်လစ်ဝါဒနှင့် ညီအောင်ပြုပြင်၍၊ လူတို့ကို သိမ်းသွင်းနိုင်လျှင် ဖြစ်နိုင်သည်ဟု ယူဆလာခဲ့ကြသည်။ ဤအယူအဆကို ဆာ ထောမတ် မိုးက သူ၏ ယူတိုးပီးယားကျမ်းတွင် ဖော်ပြခဲ့သည်။ (မိုး,ဆာထောမတ် — ရှု။) ထိုအယူအဆများကိုထုတ်ဖော်ခဲ့သူတို့သည် ပြင်သစ်၊ အင်္ဂလန်၊ ဂျာမနီနိုင်ငံတို့၌ ရှိခဲ့ကြသည်။ ယင်းတို့အနက် အင်္ဂလန်ပြည်တွင် ရောဗတ် အိုဝင်ဆိုသူမှာ သူ၏ခြည်စက်တွင် သူယုံကြည်သော ဆိုရှယ်လစ်ဝါဒအတိုင်း စံနစ်သစ်ကို တီထွင်ကာ၊ လက်တွေ့လိုက်နာကျင့်သုံးလေရာ၊ ထိုစဉ်က ကမ္ဘာပေါ် တွင် များစွာ ထင်ရှားကျော်စောခဲ့လေသည်။

၁၈၄၈ ခုနှစ်တွင် ပြင်သစ် ဆိုရှယ်လစ်ဝါဒီတဦးဖြစ်သော လူဝီဗလန့်က ပြည်သူပိုင် စက်မှုလက်မှုလုပ်ငန်းတရပ် အနေဖြင့် အမျိုးသားပိုင်အလုပ်ရုံများ တည်ထောင်ရန် လှုံ့ဆော်ခဲ့သည်။ ထိုအခါ ပရုဒုန်သည် ထိုစံနစ်ကို ဆန့်ကျင်၍၊ သမဝါယမစံနစ်ကို လှုံ့ဆော်လေသည်။ ဤသည်တွင် ကားလမတ်နှင့် အန်းဂဲတို့သည် ထိုပုဂ္ဂိုလ်နှစ်ဦးစလုံး၏ အယူအဆကို ကန့်ကွက်ပြီးလျှင်၊ ကွန်မျူနစ် ကျေညာစာတမ်းကို ရေးသားထုတ်ဝေခဲ့လေသည်။ (ကွန်မျူနစ်ဝါဒ။ မတ်,ကားလ — လည်းရှု။)

**ဆိုလွန်** (ဘီစီ ၆၃၈–၅၅၈)။ ။ဆိုလွန်သည် အက်သင်းမြို့သား တိုင်းပြည်ပြုပုဂ္ဂိုလ်ကြီးတဦး ဖြစ်ခဲ့လေသည်။ အက်သင်းတို့ပိုင်သည့် ဆလမစ်ကျွန်းမှာ မက်ဂရာတို့လက်အောက်ကျရောက်နေသဖြင့်၊ ထိုကျွန်းကို အက်သင်းမြို့သားတို့ ပြန်၍တိုက်ခိုက်သိမ်းပိုက်ရန်၊ ထိုပုဂ္ဂိုလ်သည် အရူးဟန်ဆောင်၍ တေးသီချင်းများ ရေးစပ်ကာ လှုံ့ဆော်တိုက်တွန်းခဲ့သည်။

ဤသို့ဟန်ဆောင်ရခြင်း အကြောင်းမှာ အက်သင်းမြို့သားတို့သည် ထိုကျွန်းကို အကြိမ်ကြိမ်တိုက်ခိုက်ခဲ့ဘူးရာ အရှုံးသာ အဖတ်တင်သဖြင့် နောက်နောင် ထိုကျွန်းကိုတိုက်ရန် အားပေးလှုံ့ဆော်သူရှိက သေဒဏ်ပေးမည်ဟု ကျေညာထားသောကြောင့်ဖြစ်သည်။ ဆိုလွန်၏ လှုံ့ဆော်မှုကြောင့် လူထုမှာ စိတ်အားထက်သန်လာပြီးလျှင် အားသစ်လောင်း၍ ဆလမစ်ကျွန်းကို တဖန်ပြန်၍ တိုက်ခိုက်ကြသည်တွင် အောင်မြင်သဖြင့်၊ ဆလမစ်ကျွန်းကို ပြန်ရလေသည်။ ထိုအခါမှစ၍ ဆိုလွန်အား သူရဲကောင်းတဦးဟု အက်သင်းမြို့သားတို့က အမှတ်ထားကာ အားကိုးယုံကြည်ကြလေသည်။ (အက်သင်းမြို့ — လည်းရှု။)

မကြာမီ အက်သင်းမြို့တွင် ကူးသန်းရောင်းဝယ်ရေး ဖွံ့ဖြိုး၍ စီးပွါးတိုးတက်လာ၏။ သို့သော်လည်း ဆင်းရဲသားလူထုမှာ အကျိုးမခံစားရသဖြင့် မကျေနပ်မှုများ ပေါ် ပေါက်၍ ဆူပူလှုပ်ရှားလာရာ၊ ဘီစီ ၅၉၄ ခုနှစ်ခန့်တွင်၊ လူတန်းစားအားလုံးတို့က ဆိုလွန်အား အာကွန်ခေါ် အာဏာပိုင်တဦးအဖြစ် တင်မြှောက်ကြလေသည်။ ဤသို့ဖြင့် ဆိုလွန်မှာ ဥပဒေများကိုပြုလုပ်နိုင်ခွင့်ရရှိလေရာ၊ ဆင်းရဲသားတို့ သက်သာချောင်ချိ၍၊ အထက်တန်းစား သဌေးသူကြွယ်တို့၏ ဩဇာအာဏာလွှမ်းမိုးမှုကို ပယ်ဖျောက်စေသည့် ဥပဒေများကို ပြုလုပ်လေသည်။ ထိုဥပဒေများမှာ အက်သင်းဒီမိုကရေစီ၏ အခြေခံ ဥပဒေများဖြစ်၏။

ထိုဥပဒေများမှာ အမှုတစုံတခုဖြစ်ပွါး၍ ရုံးတရုံး၏ စီရင်ချက်ကို မကျေနပ်က၊ ဂျူရီလူကြီးများအဖွဲ့သို့ လူတိုင်းတက်ရောက်၍အယူခံနိုင်ခြင်း၊ မည်သူမဆို အလှည့်ကျဂျူရီလူကြီးဖြစ်နိုင်၍၊ တရားသူကြီးများကို ရွေးချယ်ရာ၌ ပါဝင်အကြံပေးနိုင်ခွင့်ရှိခြင်း၊ လူတဦးတယောက်သည် မြေကမည်မျှသာ ပိုင်ဆိုင်ရမည်ဟု ကန့်သတ်ထားခြင်း။ ဆင်းရဲသားများတွင်ရှိသော ကြွေးများကို လျှော်ပစ်စေခြင်း၊ ကြွေးကြောင့် ကျွန်ခံနေရရာမှ လွတ်စေခြင်း စသည့်ဥပဒေများဖြစ်သည်။



ဒီမိုကရေစီအုပ်ချုပ်ရေးမျိုးစေ့ချခဲ့သူ ဂရိပညာရှိ ဆိုလွန်

ထိုဥပဒေများကို မင်းဆွေစိုးမျိုးနှင့် သဌေးများထဲတွင် သဘောမတူ၍ မနှစ်သက်သူများ ရှိကြသဖြင့် အတိုက်အခံပြုမှုများ ဖြစ်ပွါးတော့မည်ကို သိမြင်သော ဆိုလွန်သည် အက်သင်းမြို့မှ တိမ်းရှောင်သွားလေသည်။ ၁၀ နှစ်မျှ အီဂျစ်နှင့် စိုက်ပရပ်ကျွန်းသို့ သွားရောက်လှည့်ပတ်နေပြီးမှ အက်သင်းမြို့သို့ ပြန်လာခဲ့၏။ ဆိုလွန်ပြန်ရောက်လာလျှင်၊ လွန်ခဲ့သည့် ရန်စဟောင်းများ ပြန်ကြွကာ၊ ဆင်းရဲသားနှင့် အထက်တန်းစားတို့၏ လူတန်းစားတိုက်ပွဲများ ပြန်၍ဖြစ်ပွါးလေသည်။ နောက်ဆုံးတွင် ဆိုလွန်နှင့်ရင်းနှီးသော မိတ်ဆွေသူကောင်းမျိုး ပိုင်ဆစ်ထရက်တပ်သည် အာဏာပိုင်တဦးအဖြစ် တက်ရောက်အုပ်ချုပ်လေ၏။ သို့လင့်ကစား ဆိုလွန်၏ အခြေခံ ဒီမိုကရေစီဝါဒမှာ အက်သင်းသမိုင်းတွင်အကျိုးသက်ရောက်၍ နောက် ပေါ် ပေါက်ကြသည့် ဒီမိုကရေစီ ဝါဒများတွင်လည်း အကျုံးဝင်လေသည်။ (ဒီမိုကရေစီ — ရှု။)

ဆိုလွန်သည် ဘီစီ ၅၅၈ ခုနှစ်ခန့်တွင် ကွယ်လွန်လေသည်။ ဆိုလွန်မှာ ရှေး ဂရိပညာရှိကြီး ခုနှစ်ဦးတွင် တဦးဟူ၍ မော်ကွန်း တွင်လေသည်

**ဆိုးဆေး။** ။ကျွန်ုပ်တို့မှီတင်းနေထိုင်ရာ ကမ္ဘာမြေပေါ်တွင် တောတောင်ရေမြေ စသည်တို့သည် အရောင်အမျိုးမျိုးတို့ဖြင့် လှပတင့်တယ် ရွှန်းချင့်စဖွယ်ရှိနေပေသည်။ ပြာလဲ့သော မိုးကောင်းကင်နှင့် သမုဒ္ဒရာရေပြင်၊ စိမ်းစိုညိုမှိုင်းသော တောတောင်၊ အရောင်အမျိုးမျိုးရှိသော ပန်းမာလ်စသည်တို့ကို နေ့စဉ်တွေ့မြင်ရသော လူအပေါင်းသည် မိမိတို့ပတ်ဝန်းကျင်နှင့် လိုက်အောင် မိမိတို့၏အဝတ်တန်ဆာနှင့် နေအိမ်များကိုလည်း အရောင်အမျိုးမျိုး ခြယ်လယ်၍ လှသည်ထက်လှအောင် ကြံဆောင်ပြုလုပ်လိုကြပေသည်။ ယင်းသို့ သဘာဝ၏အရောင်များကို အတုခိုး၍၊ မိမိတို့၏အဝတ်တန်ဆာများနှင့် နေအိမ်များကို ရောင်စုံခြယ်သနိုင်ရန် အရောင်ဆိုးဆေးများကို တီထွင်ပြုလုပ်လာခဲ့ကြလေသည်။

ပဌမဦးဆုံး အရောင်ဆိုးဆေးများကို စတင်အသုံးပြုကြသူများမှာ အိမ်ထောင်မှုကိစ္စ အဝဝကို ဆောင်ရွက်ရသည့် အမျိုးသမီးများပင် ဖြစ်ကြ၏။ သူတို့သည် ကိုယ့်အိမ်တွင် ရက်လုပ်သောတောင်း၊ ပလုံးနှင့် အဝတ်အထည်များကို ဆန်းကြယ်လှပစေရန် အသီးအနှံ၊ အရွက်အပင်တို့မှ ရရှိသည့် အရည်များဖြင့် ဆိုးဆေးများပေါ် စပ်၍ ရောင်စုံခြယ်သကြလေသည်။ ထိုစဉ်ကအသုံးပြုခဲ့ကြသော သဘာဝအလျောက် ရရှိသည့်ဆိုးဆေးများသည် အသွေးအရောင်ကောင်း၍ ကြာရှည်ခိုင်မြဲလေသည်။ ရှေးနှစ်ပေါင်း ၆,၀၀၀ ခန့်က အီဂျစ်နိုင်ငံတွင် အသီးအရွက်တို့၏ အရည်များနှင့် ပြုလုပ်ထားသော ဆိုးဆေးများဖြင့် အရောင်ခြယ်ထားခဲ့သော ပစ္စည်းများသည် ယခုတိုင် အရောင်မပျက်ဘဲ ရှိကြောင်းကို တူးဖော်ရရှိသောပစ္စည်းများကို ကြည့်ခြင်းဖြင့် သိရလေသည်။

အမေရိကတိုက်တွင် နေထိုင်သော တိုင်းရင်းသားလူမျိုးများသည် ရှေးအခါကပင် ဆေးဆိုးသောအတတ်၌ ကောင်းစွာ ကျွမ်းကျင်ကြလေသည်။ အမေဇုန် မြစ်ကမ်း တလျှောက်တွင် နေထိုင်သော တိုင်းရင်းသားများသည် သူတို့၏မျက်နှာများကို 'အူရူကူး' ခေါ် ဆေးတမျိုးဖြင့် နီတွေးအောင် ခြယ်သကြလေသည်။ ထိုဆေးကို 'အနတ်တို' ခေါ် အပင်မှအစေ့၏ အသားများသောအကာဖြင့် ပြုလုပ်ယူကြသည်။ ယင်းသည် အလွန်တောက်ပသော အနီရောင်ဆိုးဆေးမျိုး ဖြစ်သည့်ပြင် တာရှည်လည်းခံသည်။ သို့ရာတွင် 'အနတ်တို' ဆိုးဆေးသည် အနီရောင်ချည်း မဟုတ်ချေ။ ထိုဆိုးဆေးကို အခြားအရာများနှင့် ရောစပ်လိုက်သောအခါ အဝါဖျော့ရောင် ဖြစ်လာလေသည်။ ထိုအဝါဖျော့ရောင်ဆိုးဆေးကို ထောပတ်နှင့် ဒိန်ခဲတွင် အဝါရောင်ရရှိရန်အတွက် အသုံးပြုကြသည်။ ထိုဆိုးဆေးတွင် အနံ့နှင့်အရသာ လုံးဝမရှိသဖြင့် ယင်းနှင့်အရောင်တင်ထားသော ထောပတ်၊ ဒိန်ခဲတို့သည်လည်း အနံ့အရသာမပျက်ဘဲ တည်နိုင်လေသည်။ 'အနတ်တို' အပင်များကို ပူအိုက်၍စိုစွတ်သောဒေသ၌ အများအပြားစိုက်ပျိုး၍၊ ထောပတ် ဒိန်ခဲပြုလုပ်သော သမပိုင်းနိုင်ငံများသို့ တင်ပို့ရလေသည်။

အမေရိကတိုက်ရှိ ပူအိုက်သောဒေသများမှရရှိသော ဆိုးဆေးတမျိုးမှာ 'ကိုချင်းနီး' ခေါ် ချိပ်နီဆေး ဖြစ်သည်။ ထိုဆေးမျိုးကို အမေရိကတိုက်တွင်ပေါက်သည့် 'နိုပယ်'



အမရပူရမြို့ပိုးထည်လုပ်ငန်း၌ ပိုးခြည်များကို မြှုတ်အိုး၌ထည့်၍ဆေးဆိုးယူပုံ

သည်။ ကျန်တမျိုးကသာ လိုအပ်သည့် အပြာရောင် မဲနည်ဖြစ်လာသည်။ ထိုမဲနည်သည် ပဌမတွင် ကော် နှင့်တူသောပစ္စည်းမျှသာ ဖြစ်ပြီးလျှင် အခြောက်ခံ ၍ဖိလိုက်သောအခါတွင်မှ အလွန်အဖိုးတန်လှသည့် ဆိုးဆေးဖြစ်လာသည်။

ဥရောပတိုက်တွင်လည်း 'ဝုဒ်' ခေါ် မဲနည်ပင်တမျိုး မှအပြာရောင်ဆိုးဆေးများပြုလုပ်နိုင်သည်။ သို့ရာတွင် အာဖရိကတိုက်ရှိ ဂွတ်ဒဟုပ် အငူဖက်မှ လှည့်ပတ်၍ အိန္ဒိယနိုင်ငံသို့ ပင်လယ်လမ်းခရီးပေါက်သောအခါ၊ အိန္ဒိယနိုင်ငံမှ မဲနည် ဆိုးဆေးကို ဥရောပတိုက်သို့ အ မြောက်အမြား တင်ပို့ရောင်းချရလေသည်။ ယခုခေတ် တွင် ဓာတုဗေဒနည်းဖြင့် မဲနည်ရောင် ဓာတုဗေဒ ဆိုး ဆေးများ စီမံဖော်စပ်နိုင်ကြသော်လည်း၊ သဘာဝမဲ နည်ရောင်ကိုကား မမှီသေးပေ။

အမည်းရောင်ကို ရှေးအခါက ကျပ်ခိုးဖြင့်ပြုလုပ် ကြ၏။ ယခုအခါ ဓာတုဗေဒပါရဂူများက စီမံဖော်စပ် သည့် အမည်းရောင်ဆိုးဆေးများမှာလည်း ကာဗွန် ခေါ် မီးသွေးမှထုတ်ယူရရှိသည့် ဓာတ်တမျိုးဖြင့် စီမံ ဖော်စပ်ခြင်းဖြစ်ရာ၊ ရှေးခေတ်စီမံဖော်စပ်နည်းနှင့် ယခုခေတ်စီမံဖော်စပ်နည်းတို့သည် တသဘောတည်းပင်ဖြစ် လေသည်။ အမည်းရောင်မှာ တမျိုးတည်းဖြစ်စေ၊ အခြား အရောင်များနှင့်ရောစပ်၍ဖြစ်စေ အသုံးပြုရသဖြင့် များစွာ အသုံးဝင်သောအရောင် ဖြစ်သည်။

သို့ရာတွင် ထိုသို့မီးသွေး၊ ကျပ်ခိုးတို့မှ ထုတ်ယူရရှိသော အမည်းရောင်ဆိုးဆေးကို ခြည်ထည်နှင့်သိုးမွေးထည်များက ကောင်းစွာစုတ်ယူခြင်းမရှိသဖြင့် အသွေးလည်းမကျ၊ ဆေး ရောင်လည်း မခိုင်ချေ။ ထို့ကြောင့် အသွေးကျ၍ ဆေးခိုင် မည့် အမည်းရောင်ဆိုးဆေးမျိုးကိုလုပ်ယူရန် ရှာဖွေစူးစမ်းခဲ့ ကြရာ၊ အမေရိကတိုက်အလယ်ပိုင်းဒေသများ၌ပေါက်သော 'လော့ဂဝု' ခေါ် အပင်တမျိုးကို တွေ့ရှိကြလေသည်။ လော့ဂဝုအပင်သည် အရွယ် အလတ်စား အပင်မျိုးဖြစ် သည်။ သစ်သားမှာ နီကြန့်ကြန့်ဖြစ်သည်။ သစ်သားမှ အရည်သည် အရောင်မရှိချေ။ သို့သော် ထိုအရည်မှ 'ဟီမ တိန်' ခေါ် ခရမ်းရောင် ပစ္စည်းတမျိုးကို ဖြစ်စေသည်။ ယင်းပစ္စည်းမှတဖန် အမည်းရောင်ဆိုးဆေးကို ထုတ်ယူနိုင် သည်။ ဆိုးဆေးချည်းသက်သက်ဖြင့် အရောင်မစွဲနိုင်ချေ။ ထို့ကြောင့် အရောင်စွဲစေရန် ချပ်ဆေးတမျိုးကိုထည့်၍ အ သုံးပြုရသည်။ ထိုအမည်းရောင်အတွက် ချပ်ဆေးကို သံမှ ထုတ်ယူသောဆားဖြင့် ပြုလုပ်ယူသည်။ ချပ်ဆေးကိုထည့် ပြီးသောအခါတွင် သိုးမွေးနှင့် ခြည်ထည်များ၌ အမည်း ရောင် စွဲမြဲလာလေသည်။ အသီးအရွက်များမှ ပြုလုပ်ယူ သော အခြားဆိုးဆေးများတွင်လည်း ချပ်ဆေးများကို

(ရှားစောင်းတမျိုး) ခေါ် အပင်တွင်ကျက်စားသော ပါရာ ဆိုက် ပိုးကောင်ငယ်များ၏ ခန္ဓာကိုယ်မှ ရရှိသည်။ 'ကိုချင် နီး' အကောင်များမှရရှိသည့် ချိပ်နီဆေးသည် အလွန် တောက်ပ၍၊ ဆေးဆိုးရာတွင် စွဲမြဲသည်။ အာဖရိကတိုက်၊ စပိန်နှင့် ပီးရူးနိုင်ငံများတွင်လည်း နိုပယ်အပင်များကို စိုက် ပျိုး၍ ကိုချင်နီးပိုးကောင်များကို မွေးမြူကြလေသည်။ ယ ခုအခါ ဓာတုဗေဒနည်းဖြင့် ပေါင်းစပ်ယူသော ချိပ်နီဆိုးဆေး များကို စျေးပေါပေါဖြင့် ရနိုင်ပြီဖြစ်၍၊ ကိုချင်နီးဆေးကို အ သုံးနည်းသွားကြလေပြီ။ (ကိုချင်နီးဆိုးဆေး — ရှု။)

ယင်းသို့အသီး၊ အရွက်၊ ပိုးမွှားကောင်များမှ ထုတ်ယူရ သောဆိုးဆေးများမှာ အမျိုးအစား မများလှပေ။ ထိုအ ထဲတွင် အထင်ရှားဆုံးမှာ မဲနည်ဆိုးဆေးဖြစ်သည်။ မဲနည် ဆိုးဆေးကို အိန္ဒိယနိုင်ငံတွင်ပေါက်သော 'အင်ဒီဂို' ခေါ် အပင်ငယ်တမျိုးမှ ရရှိ၏။ မဲနည်ရောင်မှာ အသွေးအလှဆုံး အပြာရောင်ဖြစ်၍၊ အရောင်မလွင့်ဘဲ ကြာရှည်ခိုင်သည်။ (မဲနည် — ရှု။)

ထိုလှပခိုင်မြဲသည့် အပြာရောင်ဆိုးဆေးကို ဖြစ်စေသော ပစ္စည်းသည် သဘာဝအခြေအနေ၌ အရောင်မရှိချေ။ မဲ နည်ပင်၏အရွက်မှ ဆိုးဆေးရဖို့အတွက် အရည်စစ်ထွက်လာ စေရန် ပဌမတွင် အရွက်များကို ရေစိမ်ပေးရသည်။ တဖန် ထိုအရည်ကို ပစ္စည်းနှစ်မျိုးအဖြစ်သို့ ခွဲထုတ်ပေးသော အင် ဇိုင်းကို ထည့်ပေးရသည်။ ဖြစ်ပေါ်လာသည့်ပစ္စည်းနှစ်မျိုး အနက် တမျိုးသည် သကြားရည်ကဲ့သို့ အရည်ချိုသာဖြစ်

ထည့်ပေးရသည်။ အသုံးများသောချုပ်ဆေးများမှာ သံ၊ ခဲ မဖြူ၊ ကြေးနီနှင့် အခြားသတ္တုများမှထုတ်ယူရရှိသော ဆား များဖြစ်သည်။

အခြားအသီးအရွက်များမှ ထုတ်ယူရရှိသော ဆိုးဆေး များလည်းရှိပေသေးသည်။ တောင်အမေရိကတိုက်နှင့် အနောက် အိန္ဒိယကျွန်းစုများတွင် ပေါက်လေ့ရှိသော 'ဖတ် စတစ်' ခေါ် သစ်ပင်တမျိုးမှ အဝါရောင်ဆိုးဆေးကို ပြုလုပ် ရရှိလေသည်။

ရှေးအခါက သဘာဝဆိုးဆေးများကို အီဂျစ်၊ ပါးရှားနှင့် အိန္ဒိယနိုင်ငံများတွင် အများဆုံးပြုလုပ်ကြလေသည်။ တိုင် ယာမြို့သည် ရှေးအခါက ခရမ်းရောင်နု ဆိုးဆေးကြောင့် ထင် ရှားခဲ့သည်။ ထိုဆိုးဆေးအရောင်သည် စင်စစ်အားဖြင့် ကြက်သွေးရောင်ဖြစ်သည်။ ယင်းကို မြေထဲပင်လယ်တွင် တွေ့ရသော အခွံမာ ရေသတ္တဝါအချို့၏ ဂလင်းများမှ ပြု လုပ်ယူသည်။ ယခုအခါ အနောက်နိုင်ငံများ၌ 'ဆင်သက် တစ်' ခေါ် ဓာတုဗေဒဆိုးဆေးများကို အကြီးအကျယ်ပြု လုပ်လာကြလေပြီ။ ဤကဲ့သို့ သဘာဝဆိုးဆေးကို ပြုလုပ်ရာ ၌ လိုအပ်သော အသီးအနှံ၊ အရွက်၊ အမြစ်များကို ရရှိမည့် နိုင်ငံများမှ စောင့်စားမှာယူရသည်မှာ အချိန်ဖင့်၍၊ စရိတ် ကြီးလှသည်။ ဓာတုဗေဒဆိုးဆေးများကိုမူ ဓာတုဗေဒ နည်းဖြင့် စီမံပေါင်းစပ်ပေးနိုင်သဖြင့် အချိန်ကုန်နည်း၍ စ ရိတ်ကျဉ်းလေသည်။ သို့ဖြစ်၍ ယခုအခါ ဓာတုဗေဒနည်း ဖြင့်ပြုလုပ်ယူသော ဆိုးဆေးများကိုတနေ့တခြားအသုံးများ ကြသည်။

၁၈၅၆ ခုနှစ်တွင် အင်္ဂလိပ်လူမျိုး ဝီလျံ ဟင်နရီ ပါကင်ဆို သူသည် ကျောက်မီးသွေးကတ္တရာမှ ကွီနိုင်ကိုထုတ်လုပ်ယူရန် ကြံစည်ရာတွင် ကျောက်မီးသွေး ကတ္တရာတွင် ပါဝင်သည့် 'အန်နလင်း' ခေါ် ပစ္စည်းတမျိုးမှ ခရမ်းနုအရောင်ကို ရ ရှိခဲ့လေသည်။ (ကျောက်မီးသွေးကတ္တရာ — ရှု။) ပါကင်၏ ခရမ်းရောင်နုအရောင်ဆေးသည် ပဌမဆုံးအန်နလင်း ဆိုး ဆေးပင်ဖြစ်သည်။ ထိုသို့တွေ့ရှိရာမှ ဓာတုဗေဒနည်းဖြင့် လုပ်ယူသောဆိုးဆေးများသည် လျင်မြန်စွာတိုးတက် များ ပြားလာလေသည်။ ပဌမကမ္ဘာစစ်မဖြစ်မီက ဂျာမနီနိုင်ငံ သည် ဆိုးဆေးလုပ်ငန်း၌ ထိပ်ဆုံးတန်းသို့ရောက်ခဲ့၏။ ထိုစစ် အတွင်း၌ ဂျာမနီမှဆိုးဆေးများမရနိုင်သဖြင့် အမေရိကန်၊ ဗြိတိန်နှင့် အခြားတိုင်းပြည်များရှိ အထည်လုပ်ငန်းကို များ စွာထိခိုက်ခဲ့၏။ သို့သော် ထိုအခက်အခဲကိုကျော်လွှားနိုင်ရန် အတွက် နည်းလမ်းများကို ရှာဖွေကြံဆခဲ့ကြလေသည်။

ယခုအခါ ဆိုးဆေးများကို (၁) သဘာဝဆိုးဆေး (၂) တွင်းထွက်ဆိုးဆေး (၃) ဓာတုဗေဒနည်းဖြင့်လုပ်ယူသော ဆိုးဆေးဟူ၍ သုံးမျိုးခွဲခြားနိုင်သည်။ သဘာဝဆိုးဆေး များကို အပင်နှင့် တိရစ္ဆာန်များမှ လုပ်ယူသည်။ သဘာဝ ဆိုးဆေးအမြောက်အမြားကို 'ကိုချင်နီး' နှင့် 'လော့ဂဝု' မှ လုပ်ယူကြသေးသည်။ တွင်းထွက်ဆိုးဆေးသည် တွင်း ထွက်ပစ္စည်းနှင့် ကျောက်မီးသွေး ကတ္တရာမှ ရသည့်ပစ္စည်း များမှလုပ်ယူသောဆိုးဆေးဖြစ်သည်။ ဓာတုဗေဒနည်းဖြင့် လုပ်ယူသောဆိုးဆေးသည် ဓာတ်ပစ္စည်းအမျိုးမျိုးမှလုပ်ယူ သော ဆိုးဆေးဖြစ်သည်။ ထိုဆိုးဆေးများနှင့် ခြည်၊ သိုး မွေး၊ ပိုး၊ ရေယွန်အမျိုးမျိုး၊ နိုင်လွန်၊ ငှက်မွေး၊ သားမွေး၊ သားရေ၊ စက္ကူ၊ အင်္ကျီကြယ်သီးများကို ဆိုးနိုင်လေသည်။




ဝီလျံပါကင်သည် ဆိုးဆေးထုတ်ယူရာသဘာဝပစ္စည်းများနှင့်ပေါင်းစပ်နည်းကို ၁၈၅၆ ခုနှစ်တွင် ရှာဖွေတွေ့ရှိခဲ့သည်။



ဆက္ကဆန်ဂျူရီအဖွဲ့တဖွဲ့ အမှုစစ်ဆေးကြားနာနေပုံ

**ဆက္ကဆန်။** ။ဆက္ကဆန်သည် တျူတန်အနွယ်ဝင်လူမျိုးတမျိုး၏အမည်ဖြစ်သည်။ ၂ ရာစုနှစ်အလယ်ခန့်က ပထဝီဝင်ပညာရှင် တော်လမီရေးသားခဲ့သော စာအုပ်တအုပ်တွင် ဆက္ကဆန်လူမျိုးများအကြောင်း ပဌမဆုံးဖော်ပြထားသည်ကိုတွေ့ရ၏။ ထိုစဉ်က ဆက္ကဆန်များသည် ဒိန်းမတ်နိုင်ငံတောင်ပိုင်း (ယခု ရှလဲဇွစ်) ဒေသတွင် နေထိုင်ခဲ့ကြသည်ဟု ဆိုလေသည်။ ထိုနောက်တဖန် ခရစ် ၂၈၆ ခုနှစ်ခန့်တွင် မြောက်ပင်လယ်ထဲ၌ တိုက်ခိုက် လုယက်နေခဲ့ကြသော ပင်လယ်ဓားပြများမှာ ဆက္ကဆန်လူမျိုးများပင်ဖြစ်သည်ဟု သိရှိရလေသည်။ ယင်းတို့သည် အရပ်ရပ်သို့လှည့်လည်တိုက်ခိုက်နေရာမှ ၅ ရာစုနှစ်များအတွင်း ဗြိတိန်ကျွန်း အရှေ့တောင်ဖက်ကမ်းခြေနှင့် ဂေါလတိုင်းပြည် အရှေ့ဖက်ကမ်းခြေတို့သို့ ဝင်ရောက်အခြေစိုက်နေထိုင်ခဲ့ကြလေသည်။ ဗြိတိန်၌ရှိနှင့်ပြီးသောလူမျိုးများကို ဆက္ကဆန်တို့သည် တိုက်ခိုက်နှိမ်နင်းပြီးနောက်၊ အင်းဂယ်လူမျိုး၊ ဂျူလူမျိုးတို့နှင့်ပူးပေါင်းကာ ဗြိတိန်အတွင်းဖက်သို့ တဖြည်းဖြည်း ချင်းနင်းဝင်ရောက်လာခဲ့လေသည်။

ထိုအချိန်တွင်းမှာပင် ဆက္ကဆန်အချို့သည် ဥရောပတိုက် ဂျာမနီအနောက်မြောက်ပိုင်းကိုလည်း တိုက်ခိုက်သိမ်းယူ၍ အခြေစိုက်နေထိုင်ခဲ့ကြ၏။ ယင်းတို့အား နောင်အခါ၌ ရှေးဟောင်းဆက္ကဆန်များဟုခေါ်၏။ ထိုရှေးဟောင်းဆက္ကဆန်တို့သည် ဖရန့်လူမျိုးတို့နှင့် မကြာမကြာ စစ်ဖြစ်ခဲ့ကြလေသည်။ ၉ ရာစုနှစ်ခန့်တွင် ရှားလမိန်းဘုရင်ကြီးသည် ထိုဆက္ကဆန်လူမျိုးများအား တိုက်ခိုက်အောင်မြင်ပြီးနောက်၊ ခရစ်ယန်အယူဝါဒကို အတင်းအဓမ္မယူစေ၏။ (ရှားလမိန်းဘုရင် — လည်းရှု။) ဆက္ကဆန်တို့၏တိုင်းပြည်ကိုလည်း နိုင်ငံတော်အတွင်းသို့ သွတ်သွင်းခဲ့လေသည်။

ဥရောပတိုက်ရှိ ဆက္ကဆန် လူမျိုးတို့ နေထိုင်ရာဒေသကို ဆက္ကဆိုနီဟုခေါ်ဝေါ်သည်။ ထိုဒေသသည် နောင်အခါ၌ ဂျာမနီနိုင်ငံတော်တွင် အပါအဝင်တိုင်းပြည်တခု ဖြစ်လာ၏။ ထိုနောက် ဂျာမနီသမတနိုင်ငံ၏ ပြည်နယ်တခု ဖြစ်လာလေသည်။

ဗြိတိန်နိုင်ငံသို့ဝင်ရောက်အခြေစိုက်နေထိုင်ခဲ့သော ဆက္ကဆန်လူမျိုးများသည် ဗြိတိန်နိုင်ငံ၌ မူလရှိနှင့်ပြီးဖြစ်သော အင်းဂယ်လူမျိုးများနှင့် မည်မျှခြားနားသည်ကို အတိအကျ မသိရှိနိုင်ချေ။ သို့သော် ဗြိတိန်နိုင်ငံရှိ ဆက္ကဆန်လူမျိုးတို့၏ဘာသာစကားနှင့် ဓလေ့ထုံးစံများသည် ဥရောပတိုက်ရှိ ဆက္ကဆန်လူမျိုးတို့၏ ဓလေ့ထုံးစံနှင့်မနီးစပ်ဘဲ၊ အင်းဂယ်လူမျိုးတို့၏ ဓလေ့ထုံးစံနှင့်သာ ပို၍နီးစပ်သည်။

**ဆက်စကက်ချီဝမ်နယ်။** ။ဆက်စကက်ချီဝမ်သည် ကနေဒါ ဒိုမီနီယန်နိုင်ငံတွင်ပါဝင်သော နယ်တနယ်ဖြစ်၍၊ အကျယ်အဝန်း စတုရန်းမိုင်ပေါင်း ၂၅၁,၇၀၀ ရှိလေသည်။ နယ်နိမိတ်မှာ အရှေ့ဖက်တွင် မနီတိုးဗားနယ်၊ အနောက်ဖက်

တွင် အယ်လဗားတားနယ်၊ မြောက်ဖက်တွင် မက္ကင်ဇီနယ်နှင့် တောင်ဖက်တွင် အမေရိကန် ပြည်ထောင်စုတို့ဖြစ်သည်။ ပင်လယ်ရေပြင်မှ ပေပေါင်း ၁,၅၀၀ ကျော်ခန့်မြင့်၍၊ သမပိုင်း ပရေရီလွင်ပြင်များဖြင့် ပြည့်နှက်နေလေသည်။ ရာသီဥတုမှာ နွေရာသီ၌ နွေအချိန်တွင်ပူသော်လည်း၊ ညဖက်တွင် အနည်းငယ်အေး၏။ ဆောင်းရာသီတွင်ကား၊ အလွန်အကျူးချမ်းအေးလှ၏။ ရာသီဥတုမှာ ကုန်းခေါင်ဒေသရာသီဥတုမျိုးဖြစ်ရာ၊ နွေရာသီ၌ မိုးအနည်းငယ်ရွာပြီးလျှင် ဆောင်းရာသီ၌ ဆီးနှင်းအသင့်အတင့်ကျသည်။ ဤရာသီဥတုမျိုးမှာ လယ်ယာလုပ်ကိုင်ရန်နှင့် ဂျုံစသောကောက်ပင်သီးနှံတို့ကို စုဆောင်းသိုမှီးထားရန် အကောင်းဆုံးဖြစ်၏။ ၁၉၅၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၈၃၁,၇၂၈ ယောက်ရှိသည်။

ဆက်စကက်ချီဝမ်မြစ်ကိုအစွဲပြု၍ ဆက်စကက်ချီဝမ်နယ်ဟုအမည်ပေးထားခြင်းဖြစ်၏။ ထိုနာမည်၏အဓိပ္ပါယ်မှာ ရေစီးသန်သောမြစ်ဖြစ်သည်။ ထိုမြစ်ကို မြောက် ဆက်စကက်ချီဝမ်နှင့် တောင် ဆက်စကက်ချီဝမ်ဟူ၍ ခွဲခြားထား၏။ မြစ်၏အရှည်မှာ မိုင်ပေါင်း ၁,၁၀၀ ခန့်ရှိသည်။

ဆက်စကက်ချီဝမ်မြစ်နှင့် ချာချီမြစ်တို့ အကြား၌ မြင်းစားဂျုံ၊ မုယောစပါး၊ ပိုက်ဆံပင်၊ အာလူး၊ ဂျုံအမျိုးမျိုးနှင့် ကောက်ပဲသီးနှံအမျိုးမျိုးတို့ကို ရောနှော၍စိုက်ပျိုးလုပ်ကိုင်ကြသည်။ အချို့နေရာများ၌ ဂျုံတမျိုးတည်းကိုသာ စိုက်ပျိုးသည်။ ကမ္ဘာပေါ်တွင် ဂျုံအများဆုံးထွက်သောဒေသမှာ ဤပရေရီလွင်ပြင်များပင်ဖြစ်လေသည်။ အနောက်တောင်ဖက်ဒေသများ၌ လယ်ယာလုပ်ငန်းကို တူးမြောင်းနှင့် ဆည်များဖောက်လုပ်ကာ အကြီးအကျယ်လုပ်ကိုင်ကြပြီးလျှင်၊ ကောက်ပင်သီးနှံများကို ကျီများဆောက်လုပ်၍ စုဆောင်းသိုလှောင်ထားကြ၏။ ခြံကြီးများ ခတ်ကာ ကောက်ပင်သီးနှံတို့ကိုကျီသွင်းထားကြရာ၌၊ အချို့ခြံကြီးများသည် ဧက ၁,၀၀၀ မှ ၂,၀၀၀ အထိပင်ကျယ်ဝန်း၏။ ဆက်စကက်ချီဝမ်နယ်ရှိ လယ်သမားတို့သည် စည်းလုံး ညီညွတ်စွာလယ်ယာလုပ်ကိုင်ကြသည်။ ဂျုံအရောင်းအဝယ်၊ ဂျုံသိုမှီးရေး၊ အာလူးစိုက်ပျိုးရေး၊ နွားမွေးမြူရေးနှင့် အရောင်းအဝယ်ပြုလုပ်ရေးစသော လယ်သမားတို့နှင့်ဆိုင်သည့် လုပ်ငန်းဟူသမျှတို့ကိုဆောင်ရွက်ရန် လယ်သမားသမဝါယမအသင်းများကို တည်ထောင်ထားကြ၏။ ဆက်စကက်ချီဝမ်အလယ်ပိုင်း၌ နွားမွေးမြူရေးနှင့် နွားနို့၊ ထောပတ်၊ ဒိန်ခဲစသောလုပ်ငန်းများကို အကြီးအကျယ် လုပ်ကိုင်ကြလေသည်။

ဆက်စကက်ချီဝမ်နယ်တောင်ပိုင်း၌ ကျောက်မီးသွေးတူးဖော်သည့်လုပ်ငန်းကို လုပ်ကိုင်ကြ၏။ ထို့အပြင် ဂျုံမှုန့်ကြိတ်ခြင်း၊ ထောပတ်၊ ဒိန်ခဲလုပ်ခြင်း၊ စာပုံနှိပ်ခြင်းနှင့် စာအုပ်ထုတ်ဝေခြင်း အစရှိသော စက်မှု လက်မှုလုပ်ငန်းများလည်းအသင့်အတင့်ရှိလေသည်။ နယ်၏အဓိက ထွက်ကုန်များမှာ ဂျုံ၊ မြင်းစားဂျုံ၊ မုယောစပါး၊ ပိုက်ဆံပင်၊ ကောက်ရိုး၊ အာလူး၊ သိုး၊ နွား၊ မြင်း၊ သားမွေး၊ ကျောက်မီးသွေး၊ သစ်နှင့် စက်ကရိယာများဖြစ်သည်။

၁၉၄၂ ခုနှစ်၌ ဆက်စကက်ချီဝမ်နယ်ရှိ မူလတန်းကျောင်းများ၌ ကျောင်းသားဦးရေ ၁၉၇,၀၃၁ ခန့်ရှိ၍၊ တက္ကသိုလ်တခုတည်းသာရှိ၏။ မြို့ကြီးများ၌သာမက၊ တောနယ်များ၌ပင် ကျောင်းများရှိသဖြင့် တောမှကလေးသူငယ်များလည်း ပညာကိုကောင်းစွာဆည်းပူးနိုင်ကြလေသည်။ တောနယ်တွင် လယ်တဲကလေးများဆောက်ပြီးသည်နှင့်တပြိုင်နက် စာသင်ကျောင်းကိုလည်း တဆက်တည်းဆောက်ပြီးဖြစ်တော့၏။ ထိုတောနယ်ရှိ စာသင်ကျောင်းများမှာ မြို့ရှိကျောင်းများကဲ့သို့ မကြီးကျယ်သော်လည်း၊ စာသင်ကြားပုံ၊ သင်ကြားနည်းမှာ မခြားနားပေ။ သို့ဖြစ်၍ တောနေကလေးသူငယ်များသည် မြို့နေကလေးသူငယ်များနည်းတူ ဗဟုသုတကို ပြည့်ပြည့်စုံစုံ ရရှိနိုင်ကြသည်။

ထိုနယ်၌ နေထိုင်သူများအနက် လူဦးရေတဝက်ခန့်သည် ဗြိတိသျှမျိုးရိုးဖြစ်၍၊ ကျန်လူများမှာ အမေရိကန်ပြည်ထောင်စုနှင့် ဥရောပနိုင်ငံအသီးသီးတို့မှလာရောက်နေထိုင်ကြသူများဖြစ်လေသည်။ ဆက်စကက်ချီဝမ်မြို့တော်မှာ လူဦးရေ ၇၁,၀၀၀ ကျော်ရှိသည့် ရီဂျိုင်းနားမြို့ဖြစ်သည်။

**ဆက်စတန့်အသံ့ာတိုင်း။** ။ဆက်စတန့်အသံ့ာတိုင်းသည် မိုးကုပ်စက်ဝိုင်း၏အထက်ရှိ နေလနက္ခတ်တာရာတို့၏ အန်ဂူလာအကွာကို တိုင်းတာသောကရိယာဖြစ်သည်။ ထို



ဆက်စတန့်အင်သာတိုင်း

ကရိယာကို ခရစ် ၁၇၃၀ ပြည့်နှစ်လောက်တွင် ဖိလဒဲလဖီး ယားမြို့သား ထော့မတ် ဂေါဖရီဆိုသူသည်၎င်း၊ ဗြိတိသျှ ရေ တပ်မတော်သား ကက်ပတိန် ဟက်ဒလေဆိုသူသည်၎င်း၊ အ သီးသီး မိမိတို့ဘာသာ တခြားစီတီထွင်ခဲ့ကြလေသည်။

ပုံ ၁ ကိုလေ့လာလျှင် ဆက်စတန့်ကရိယာဖြင့် အန်ဂူလာ အကွာကိုမည်သို့တိုင်းရသည်ဟူသောမူကိုသိမြင်နိုင်သည်။ (စ) သည် ရိုးရိုးကြည့်မှန်တချပ်ဖြစ်သည်။




ပုံ ၁

ထိုကြည့်မှန်၏မျက်နှာကို အောက်ဖက်သို့စောင်းထားပြီး လျှင်၊ လက်ဝဲဖက်သို့လည်းလှည့်ထားသည်။ (ဆ) သည် ကား ဟင်းသပြဒါးသုတ်မထားသော ရိုးရိုးမှန်တချပ်ဖြစ်၏။ (မ) အမှတ်အသားတွင် မျက်စိကိုထားလျက် ထိုမှန်ကို ကြည့်သော်၊ အဝေးမှအရာဝတ္ထုကို (ည) အမှတ်ဆီသို့ မျဉ်း စက်များအတိုင်းမြင်ရသည်။ အခြားအရာဝတ္ထု (အ) သို့မ ဟုတ် (ပ) မှလာသည့်အလင်းရောင်သည် ချိန်ထားသော ကြည့်မှန် (စ) ကိုရိုက်ပြီးနောက်၊ (စဆ) မျဉ်းအတိုင်း ရောင်ပြန်လျက် မှန်ပြား (ဆ) ပေါ်သို့ကျရောက်သည်။ ထိုအလင်းရောင်တဝက်တပျက်သည် (ဆမ) လမ်းကြောင်း အတိုင်း မှန်ပြား (ဆ) မှရောင်ပြန်ရိုက်လာ၏။ ထို့ကြောင့် (မ) အမှတ်မှကြည့်သူသည် (ည) နှင့် (အ) ဝတ္ထုနှစ် ခုကိုသော်၎င်း၊ (ည) နှင့် (ပ) ဝတ္ထုနှစ်ခုကိုသော်၎င်း၊တ ထပ်တည်းမြင်ရသည်။ ပုံတွင်ပါသကဲ့သို့ ကြည့်မှန် (စ) ကို မှန်ပြား (ဆ) နှင့်မျဉ်းပြိုင်ထားလျှင် (ညမ) နှင့် (အစ) လင်းတန်းများသည် ပြိုင်နေကြသောကြောင့် ယင်းတို့ကို အဝေးရှိ ဝတ္ထုတခုတည်းမှလာသော လင်းတန်းများကဲ့သို့ ယူဆနိုင်ပေသည်။

ကြည့်မှန်ထဲတွင် ပုံရိပ်နှစ်ခုကို တခုတည်းကဲ့သို့မြင်ရ သည်။ သို့ရာတွင် (ကခ) မျဉ်းစက်အတိုင်း၊ အဆိုပါကြည့် မှန် (စ) ကို အနည်းငယ်စောင်းလိုက်ပါမူ၊ (ပ) မှလာသော လင်းတန်းသည်၎င်း၊ မှန်ပြား (ဆ) ပေါ်သို့ရောင်ပြန်သော လင်းတန်းသည်၎င်း၊ ကြည့်မှန်စောင်းသွားသောထောင့်၏ နှစ်ဆဖြင့် (အစ) လမ်းကြောင်းမှစောင်းသွားသည်။ ဤ သို့နှစ်ဆတိုးစောင်းခြင်းအကြောင်းမှာ ကြည့်မှန် (စ) ရွှေ့ရှားသဖြင့် လင်းရိုက်ထောင့်၊ လင်းပြန်ထောင့်များ ပြောင်းလဲခြင်းကြောင့်ဖြစ်သည်။ ကြည့်မှန် (စ) နှင့် မှန် ပြား (ဆ) တို့ကြားရှိထောင့်ကို တိုင်းယူနိုင်လျှင်၊ ထို ထောင့်ကိုနှစ်ဆတိုးလိုက်ခြင်းအားဖြင့်၊ (ည) နှင့် (ပ) တို့ မှလာသောလင်းတန်းတို့၏ကြားရှိထောင့်ကိုသိနိုင်ပေသည်။

ဆက်စတန့်အသံ၁တိုင်းသည် အဆိုပါမှန်နှစ်ချပ်ကြားရှိ ထောင့်ကိုတိုင်းသည်။ ထိုကရိယာ၏ အရေးကြီးသောအ စိတ်အပိုင်းများကို ပုံ ၂ တွင်ပြထားသည်။




ပုံ ၂

(ကခဂ) အစိတ်အပိုင်းတွင် (ဂ) ကိုဗဟိုပြုသည့် (ကခ) စက်ဝန်းပိုင်းတခုရှိ၍ (ဂခ)၊ (ဂက) အချင်းဝက်ပေါင်တန်း များကို အခြေခံပေါင်၌ အသေတပ်ထားသည်။ အခြေခံ ပေါင်ကို ပုံတွင် မဖော်ပြပေ။ ထိုအခြေခံပေါင်တွင် (ဆ) မှန်ချပ်ကိုလည်း အသေတပ်ထားသည်။ ထိုမှန်၏အထက် ကို ပြဒါးသုတ်ထား၏။ အောက်တခြမ်းမှာမူ အလင်းရောင် ပေါက်သောမှန်ရိုးရိုးဖြစ်သည်။ ယင်းမှန်ကို လင်းပေါက်မှန် ဟု သိပ္ပံပညာအရခေါ် ဆိုကြသည်။ (တ) သည် ပေါင် ပေါ်၌အသေတပ်ထားသော တယ်လီစကုပ် (အဝေးကြည့် မှန်ပြောင်း) ဖြစ်၏။ (မ) အမှတ်၌မျက်စိထား၍ကြည့် လျှင်၊ ကြည့်မှန်၏လင်းပေါက်အခြမ်းကိုဖြတ်လျက် အဝေးမှ အရာဝတ္ထုကိုမြင်နိုင်သည်။ တချိန်တည်း၌ပင် ပြဒါးသုတ် မှန်တခြမ်းမှ ပြန်ဟပ်သည့်အလင်းရောင်ဖြင့် အခြားအရာ ဝတ္ထုကိုလည်းမြင်နိုင်သေးသည်။ စက်ဝန်းပိုင်း (ကခ)

ပေါ်တွင် ပုံ၌ပြထားသည့်အစိတ်အပိုင်းများပြုလုပ်ထား၏။ ထောင့်ကိုနှစ်ဆတိုးရသဖြင့် စက်ဝန်းပိုင်း (စက) တွင်ရှိ အတိုင်းအတာတို့ကိုလည်း နှစ်ဆတိုးထားသည်။ ဆိုလိုရင်းမှာ ဤစက်ဝန်းပိုင်းသည် အလျားဒီဂရီ ၆၀ မျှသာရှိသော်လည်း၊ ကြည့်ရှုသည့်အရာဝတ္ထု၏ အန်ဂူလာအကွာအမှန်ကို သိမြင်နိုင်ရန် ဒီဂရီ ၁၂၀ အထိစိတ်ထားသည်။

(ပဘ) သည် လက်တံရှင်ဖြစ်သည်။ ယင်း၏အထက်စွန်းတွင် အညွှန်းပြမှန်ခေါ် ကြေးမုံ (ဂ) ကို ထောင့်မတ်ကျတပ်ထားသည်။ ထိုလက်တံသည် (ဂ) ကိုဗဟိုပြု၍လှည့်နေ၏။ လက်တံအောက်စွန်းတွင် အညွှန်းပြကွက်နှင့် ဗာနီယာတခုပါရှိရာ၊ လက်တံ၏နေရာကို စက်ဝန်းပိုင်းရှိ အမှတ်အသားများအရ သိနိုင်ပေသည်။

(ဂ) ဦဖြစ်သောတာရာတလုံး၏ အန်ဂူလာ အကွာကို တိုင်းလိုသောအခါ၊ ဆက်စတန့်ကို လက်တွင်ထောင်လိုက်ကိုင်၍၊ တယ်လီစကုပ် (တမ) ကို ရေပြင်ညီ ရှိစေရသည်။ ကြည့်သူသည် ထိုတာရာနှင့်မျက်နှာချင်း တည့်တည့်ဆိုင်ပြီးလျှင်၊ တာရာကို တယ်လီစကုပ်မှ မြင်ရသည့်တိုင်အောင် လက်တံ (ပဘ) ကိုရွှေ့ပေးရသည်။ တာရာသည် ရေပြင်နှင့် တထပ်တည်းကျသောအခါ လက်တံ (ပဘ) ရွှေ့ပေးရသောထောင့်ကို သိနိုင်ပြီ။ ထိုထောင့်တွင် ဒီဂရီမည်မျှရှိသည်ကို လက်တံစွန်းရှိ အညွှန်းပြကွက်၌ပေါ်သောအမှတ်အသားကို ဗာနီယာဖြင့်ကြည့်၍သိရသည်။

**ဆက်ဆိုဖုန်း**။ ။ခရာတံပိုးကဒိုး — ရှု။

**ဆက်တာန်**။ ။စနေဂြိုဟ် — ရှု။

**ဆက်ဖို**။ ။ဆက်ဖိုသည် ဂရိစာပေသမိုင်းတွင် ရှေးကျသော လစ်ရစ်ကဗျာစာဆိုရှင် ဂရိအမျိုးသမီးဖြစ်သည်။ ဘီစီ ၆၀၀ ခန့်တွင် အီးဂျီးယန်းပင်လယ်ရှိ လက်စဗော့ကျွန်းတွင် မွေးဖွားသည်ဟု အမှတ်အသားပြုကြသည်။ ဂရိပညာရှိ အယ်ရစ္စတိုတယ်သည် ဆက်ဖိုအား ဂရိစာဆိုပညာရှိ ဟိုးမားနှင့် တန်းတူထားခဲ့သည်။ (ဟိုးမား — လည်းရှု။) သူစီကုံးရေးသားခဲ့သော လစ်ရစ်ကဗျာကိုးစောင်တွင် အက်ဖရိုဒိုက်တီခေါ် အလှနတ်သမီးအား ခြီးကျူးသည့်ကဗျာမှာ ယနေ့တိုင် ထင်ပေါ်ကျော်ကြားလျက်ရှိလေသည်။ သူ၏ကဗျာစီကုံးပုံနည်းနိဿယမှာ ထူးခြားလှသဖြင့် သူ၏နည်းကို ဆက်ဖို၏နည်းဟု နှောင်းလူတို့ကမှည့်ခေါ်ကြသည်။ သူ၏အဖွဲ့အနွဲ့မှာ ရိုးသားသော်လည်း၊ ချစ်ခြင်းရသကို ပေါ်အောင်သီကုံးရာ၌ များစွာထိရောက်လေးနက်သည်။ ဆက်ဖိုနှင့်စပ်လျဉ်းသောဒဏ္ဍာရီတခုမှာ သူသည် ချစ်သူ ဖေယွန်နှင့် မပေါင်းရသောကြောင့် လျူကေးဒီးယန်းကျောက်



ဂရိစာပေသမိုင်းဝင်အမျိုးသမီးစာဆို ဆက်ဖို

ဆောင်ထိပ်မှ ခုန်ချကာ သူ့ကိုယ်သူ အဆုံးစီရင်သည်ဟူ၏။ သို့သော် ဤဒဏ္ဍာရီကို စာပေသမိုင်းဆရာတို့ပယ်လေသည်။ (ဂရိဘာသာနှင့် စာပေ — ရှု။)

**ဆက်ရက်**။ ။ဆက်ရက်အမျိုးမျိုးကို မြန်မာနိုင်ငံအရပ်ရပ်၌ တွေ့ရသည်။ အသွေးအရောင်နှင့် အလေ့အကျင့်ကိုလိုက်၍၊ ဆက်ရက်ငှက်အမျိုးမျိုးရှိကြသည်။ ထိုသို့အမျိုးကွဲပြားသည့်အလျောက်လည်း၊ ဇီဝဗေဒအခေါ်အားဖြင့် အမျိုးမျိုးကွဲပြားသည်။ သို့သော် ပုံသဏ္ဌာန်အရဆိုလျှင်၊ တမျိုးနှင့်တမျိုးမှာ ခပ်ဆင်ဆင်ဖြစ်သည်။ မြန်မာနိုင်ငံ၌ အများဆုံးတွေ့ရသောဆက်ရက်မျိုးမှာ ဇီဝဗေဒအလိုအားဖြင့် 'အက်ကရီဒိုသီးရီး တြိုက်တစ်' ဟုခေါ်သည်။ မျိုးရင်း 'စတာနီဒီး' ဖြစ်သည်။ ထိုမျိုးရင်းတွင် သာလိကာနှင့် စတားလင်းခေါ် ငှက်တို့ပါဝင်ကြသည်။

ဆက်ရက်သည် အများအားဖြင့် အလျား ၉ လက်မရှိသည်။ ပျံသန်းနေစဉ် အမြီးပိုင်းအဖျားရှိ အဖြူကွက်ကိုရင်း၊ တောင်ပံရှိ အဖြူကွက်ကိုရင်း ထင်ရှားစွာမြင်ရသည်။ ဆူညံစွာအော်မြည်နေတတ်သောငှက်မျိုးဖြစ်သည်။ ဆက်ရက်ဖိုသည် ဆက်ရက်မအရှေ့တွင် ဦးခေါင်းကိုတဆတ်ဆတ်ညိတ်၍အော်တတ်သည်။ အစာစားနေကြစဉ် သွားရောက်နှောင့်ယှက်လျှင် အလန့်တကြားအော်၍ ထပျံတတ်ကြသည်။ ဆက်ရက်တို့သည် ကျီးကဲ့သို့ ထိတ်လန့်ကြောက်ရွံ့တတ်သောအမူအရာမရှိ၊ ရဲရင့်၏။ ရှင်ပျ၍ဖျတ်လတ်၏။

မြေပေါ်၌လျှောက်ကာ အော်မြည်နေစဉ် အစာကိုရှာဖွေစားတတ်သည်။



ဆက်ရက်ငှက်

အများအားဖြင့် ဆက်ရက်တို့ကို မြို့ရွာနှင့် မြို့ရွာအနီး အနားတို့တွင်တွေ့ရသည်။ အမြဲတမ်းလိုပင် စုံတွဲနေတတ်ကြ၍၊ တဦးကိုတဦး အထူးပင်ခင်မင်တွယ်တာပုံရသည်။ အတူတူ အစာရှာဖွေစားနေကြစဉ် တကောင်ကိုတကောင် အမွေးအတောင်ပြုပြင်ပေးတတ်ကြသည်။ သို့သော်တခါတရံ တကောင်နှင့်တကောင် ရန်လုပ်တတ်သည်လည်းရှိ၏။ ညအခါတွင် သစ်ပင်အုပ်များ၌၎င်း၊ ကြံခင်းများ၌၎င်း စုရုံး၍အိပ်တန်းတက်လေ့ရှိသည်။ အိပ်တန်းမတက်မီ ဆူညံစွာအော်မြည်တတ်ကြသည်။ ညအခါ၌လည်း ရံဖန်ရံခါ ထ၍အော်မြည်တတ်သည်။

သားပေါက်ချိန်မှာ ဧပြီလမှ အောက်တိုဘာလခန့်အတွင်းဖြစ်သည်။ အသိုက်ကို အိမ်ခေါင်မိုး၊ ရေတွင်းနံရံပေါက်၊ သစ်ခေါင်းတို့တွင် ကောက်ရိုး၊ သစ်ကိုင်း၊ အမွေးအတောင်များဖြင့် ဖရိုဖရဲလုပ်တတ်ကြသည်။ စွန်၊ ကျီးကန်း၊ ရှဉ့်တို့၏အသိုက်ဟောင်းများကိုလည်း ထပ်မံပြုပြင်၍ အသိုက်လုပ်တတ်ကြသည်။ တမြုံလျှင် ဥပေါင်း ၃ လုံးမှ ၆ လုံးအထိရှိသည်။ ဥမှာ အပြာရောင်ဖြစ်၍ အစက်ပြောက်များမပါရှိပေ။ ထိုဆက်ရက်မျိုးကို အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံနှင့် သီဟိုဠ်ကျွန်းတို့တွင် အနှံ့အပြားတွေ့ရသည်။

ဇီဝဗေဒအမည်ဖြင့် 'မိုင်နို ကိုရိုနေတပ်' ဟုခေါ်သော ဆက်ရက်တမျိုးလည်းရှိသည်။ ထိုဆက်ရက်၏အလျားသည် ၈ လက်မ အထိရှိသည်။ အမွေးအတောင်၌ ပြောင်လက်သော အမည်းရောင်နှင့် အဝါရောင်ရောလျက်ရှိသည်။ ဤဆက်ရက်မျိုးတွင် ရှည်လျားသောအမောက်၊ မျက်လုံးဘေးရှိ အဝါရောင် အရေပြားနှင့် လိမ်မော်ရောင် နှုတ်သီးတို့မှာထင်ရှားသည်။ ထို့အပြင် 'အက်ကရီဒိုသီးရီး အဲလဗိုစင့်တပ်'၊ 'အက်ကရီဒိုသီးရီး ကရစ်တိတ်တဲလပ်' စသောဆက်ရက်မျိုးများလည်းရှိသေးသည်။ ယင်းတို့ကို မြန်မာနိုင်ငံအရပ်ရပ်၌တွေ့ကြရသည်။

**ဆောက်သီ, ရောဗတ် (ခရစ် ၁၇၇၄–၁၈၄၃)။** ။အင်္ဂလိပ်စာဆိုပညာရှိ ရောဗတ် ဆောက်သီသည် ၁၇၇၄ ခုနှစ် ဩဂုတ်လ ၁၂ ရက်နေ့တွင် ဗရစ္စတိုမြို့၌ဖွားမြင်သည်။ မိဘများကား ဥစ္စာပစ္စည်း ကုံလုံကြွယ်ဝသူများ မဟုတ်ကြချေ။



ရောဗတ် ဆောက်သီ

ဆောက်သီ ၃ နှစ်သားအရွယ်၌ မိဖများကွယ်လွန်သွားသဖြင့် ဗသမြို့ရှိ သူ၏အဒေါ် ထံတွင်နေရလေသည်။ ၁၇၈၈ ခုနှစ်မှစ၍ ဝက်စမင်စတာအက်ဗေး၌ လေးနှစ်ခန့်ပညာသင်ခဲ့ရ၏။ ၁၇၉၂ ခုနှစ်တွင် ကျောင်းများ၌ ရိုက်နှက်ဆုံးမခြင်းကို ငေါ့လုံးထေ့လုံးဖြင့်၊ သရော်၍ ကျောင်းသားစာစောင်တွင် ရေးလိုက်သော ဆောင်းပါးတခုအတွက် ဆောက်သီသည် ကျောင်းထုတ်ခံခဲ့ရ၏။ တော်လှန်ရေးစိတ်ဓာတ်ရှိသူဟူသောအစွဲဖြင့် အခြားကျောင်းများကလည်း သူ့အားလက်မခံလိုကြပေ။ သို့သော် နောက်ဆုံးတွင် အောက်စဖို့တက္ကသိုလ် ဗေလီယိုကောလိပ်ကျောင်းက လက်ခံသဖြင့် စာသင်ရလေသည်။ ဆောက်သီသည် ၁၇၉၃ ခုနှစ်မှစ၍ စာ

အုပ်စာတမ်းများနှင့် အလွန်ခမ်းနားကောင်းမွန်သော ပျို့ကဗျာလင်္ကာများကိုရေးသားလေသည်။

ဆောက်သီသည် စကားပြေကိုရင်း၊ ကဗျာကိုရင်း ရေးသားသူဖြစ်သော်လည်း၊ ကဗျာအရေးအသားထက် စကားပြေအရေးအသား၌ ပို၍ထင်ရှားသူဖြစ်၏။ သူရေးခဲ့သော စကားပြေများအနက် 'နယ်လဆင်' နှင့် 'ဝက်ဆလီ' တို့၏ အတ္ထုပ္ပတ္တိသည် အတ္ထုပ္ပတ္တိအရေးအသားတွင် စံပြုလောက်အောင်ကောင်းမွန်လေသည်။ ၁၈၀၇ ခုနှစ်မှစ၍ အစိုးရထံမှ တနှစ်လျှင်ရွှေဒင်္ဂါးပေါင် ၁၆၀ မှ ၃၀၀ အထိရိက္ခာတော် ရခဲ့သည်။ ၁၈၁၃ ခုနှစ်တွင် ဘုရင့်စာဆိုတော်အဖြစ်ဖြင့် အစိုးရကခန့်ထားလေသည်။ ထင်ရှားသောစာဆိုကြီးများဖြစ်သည့် ဝပ်ဇဝပ်၊ ကိုးလရစ်တို့နှင့် အထူးရင်းနှီးသူဖြစ်၏။ ၁၈၄၃ ခု မတ်လ ၂ ရက်နေ့တွင်ကွယ်လွန်လေသည်။

**ဆောက်သမ္ပတန်မြို့။** ။ဆောက်သမ္ပတန်မြို့သည် အင်္ဂလန်ပြည်၏ တတိယဆိပ်ကမ်းမြို့ကြီးဖြစ်၍၊ လန်ဒန်မြို့၏ အနောက်တောင်ဖက် ၇၉ မိုင်ကွာတွင်ရှိသည်။ ယင်းသည် ဟမ္ပရှိုင်ယာနယ်၊ အစ်ချင်မြစ်နှင့် တက်မြစ် အကြားတွင် တည်ရှိသည်။ ခေတ်မီ၍ကြီးကျယ်သော သင်္ဘောကျင်းများရှိပြီးလျှင်၊ အမေရိကတိုက်၊ ကနေဒါနိုင်ငံ၊ အနောက်အိန္ဒိယကျွန်းစု၊ ဗရာဇီးနိုင်ငံနှင့် တောင်အာဖရိကတိုက်များသို့သွားသော ပင်လယ်ကူးသင်္ဘောကြီးများနှင့် ကုန်သင်္ဘောများဝင်ရာ ဆိပ်ကမ်းဖြစ်သည်။ ယင်းဆိပ်ကမ်းမှာ လူတို့မပြုပြင်ဘဲ၊ သဘာဝအတိုင်းဖြစ်နေသည့်ဆိပ်ကမ်းဖြစ်၍၊ လေမိုးလုံခြုံပြီးလျှင်၊ အလွန်ကျယ်ဝန်းသောသင်္ဘောကျင်းကြီးများတည်ရှိသည်။ ၁၉၃၃ ခုနှစ်တွင် ကမ္ဘာပေါ်၌အကြီးဆုံးဖြစ်သော သင်္ဘောကျင်းကြီးတခုကို ပဥ္စမဂျော့ဘုရင်ကိုယ်တိုင် ဖွင့်လှစ်ခဲ့သည်။

လူဦးရေ ၁၇၀,၀၀၀ ကျော်ရှိ၍၊ တိုးတက်ဖွံ့ဖြိုးလျက်ရှိသောအလုပ်အကိုင်များမှာ သင်္ဘောတည်ဆောက်ခြင်း၊ လေယာဉ်ပျံတည်ဆောက်ခြင်း၊ ရွက်သင်္ဘောကလေးများ၊ အင်ဂျင်စက်များပြုလုပ်ခြင်းစသည်တို့ဖြစ်လေသည်။

**ဆိုက်ဒါနှင့်ပယ်ရီ ဖျော်ရည်များ။** ။အလေ့တော်မှည့်သော သစ်သော့သီးနှင့်ပဲယားသီးတို့၏အရည်ကို ညှစ်၍ အချဉ်ဖောက်ယူသော ဆိုက်ဒါရည်နှင့် ပယ်ရီရည်ခေါ် အဖျော်ရည်များကို အနောက်နိုင်ငံများတွင် အများအပြားသုံးဆောင်ကြသည်။

သစ်သော့သီးရည်နှင့်လုပ်သောအဖျော်ရည်ကို ဆိုက်ဒါဟုခေါ်သည်။ ပဲယားသီးရည်မှရသောအဖျော်ရည်ကို ပယ်ရီ



ဆောက်သမ္ပတန်မြို့ဆိပ်ကမ်း ရှုခင်းတရပ်







သစ်သော့သီးစိတ်များကိုထောင်းခြင်းဖြင့် (အထက်ဝဲ) ရရှိသောအရည်ကို သစ်စည်အတွင်း စစ်၍ထည့်ကာထားသောခါ၌ (အောက်) အချဉ်ပေါက် အမြှုပ်ဝေလျက် (အထက်ယာ) ချိုချဉ်ရသာထက်သော ဆိုက်ဒါဖျော်ရည်ကို ရလေသည်။

ဟုခေါ်သည်။ နှစ်မျိုးလုံးမှာ စီရင်နည်းအတူတူပင်ဖြစ်၍ အရသာတွင်လည်း များစွာမထူးခြားချေ။

သို့ရာတွင် ပဲယားသီးမှရသော ပယ်ရီထက် သစ်သော့သီးမှရသော ဆိုက်ဒါကို ပိုမိုပြုလုပ်၍ရောင်းချကြသည်။ ရိုးရိုးဆိုက်ဒါနှင့် ဆူတက်သောဆိုက်ဒါဟူ၍ နှစ်မျိုးရှိရာ၊ ဆူသောဆိုက်ဒါမှာ ကာဗွန်နစ်အက်စစ်ဓာတ် ထည့်ထားသည်။

အမှည့်လွန်သောသစ်သော့သီးနှင့် ပဲယားသီးအရည်များသည် ကဇော်ပေါက်နိုင်စေသော အချိုဓာတ်များစွာပါရှိ၏။ ထိုအရည်များကိုညှစ်ယူပြီးနောက်၊ အယ်လကိုဟော ၂ ရာခိုင်နှုန်းမှ ၈ ရာခိုင်နှုန်းအထိ အရည်ထဲတွင်ရှိလာသဖြင့် အရည်မပျက်သွားဘဲ ကြာမြင့်စွာခံသည်။ သို့သော် ထိုသို့ပါရှိသောအရက် (ဝါ) အယ်လကိုဟောဓာတ်မှာ သောက်သူမူးစေနိုင်လောက်အောင် အချိုးအစားမများပေ။ သစ်သီးအမှည့်လိုနေသေးလျှင် သကြားအနည်းငယ်ထည့်ပေးရ၏။

ဤသို့စီရင်ပြီးသစ်သီးရည်များကို လုံခြုံသောပုလင်း၊ စည်စသည်တို့တွင်ထည့်၍ အလုံပိတ်ကာသိုမှီးထားရသည်။ အလွန်ကောင်းသောအဖျော်ရည်ဖြစ်လာစေရန် အချို့က တနှစ်ခန့် မြေအောက်၌ မြှုပ်ထားပြီးမှသုံးဆောင်လေ့ရှိကြသည်။

# ရုရှနိုင်ငံ၏အရှေ့ပိုင်းဒေသ

**ရှေးအခါက ဆိုက်ဗီးရီးယားသည် မဲဇာရပ်ပမာ ရာဇဝတ်သားများပို့ထားရာဒေသ အဖြစ်ဖြင့် လူသိများခဲ့သည်။ ရာသီဥတု အလွန်အေးသည်ကတကြောင်း၊ ခရီးလမ်းပန်းမသာယာသည်ကတကြောင်းတို့ကြောင့် တိုးတက်ဖွံ့ဖြိုးခြင်းမရှိခဲ့ချေ။ ယခုအခါ၌မူကား ဆိုက်ဗီးရီးယားဒေသသည် ရုရှနိုင်ငံ၏စက်မှုလက်မှုလုပ်ငန်း ချဲ့ထွင်လုပ်ကိုင်ရာဒေသဖြစ်လာချေပြီ။**

**ဆိုက်ဗီးရီးယား။** ။ယေဘုယျအားဖြင့် ဆိုက်ဗီးရီးယားဟူသည် အာရှတိုက် မြောက်ပိုင်းတခုလုံးကို ခေါ်ဝေါ်သော အမည်ဖြစ်သည်။ ဆိုက်ဗီးရီးယားဟူသော ဒေသမှာ ရေခဲများဖုံးလွှမ်း၍ အလွန်အမင်း အေးလှသောကြောင့် တကြောင်း၊ ဝေးခေါင်ကွာလှမ်းလှသောကြောင့် တကြောင်း၊ မဲဇာရပ်ပမာ ကြောက်မက်ဖွယ်ရာဒေသ၊ လူသူသွားလာနေထိုင်ရန် မဖြစ်နိုင်သောဒေသ၊ နယ်နှင်ဒဏ်အခတ်ခံရသော ရုရှရာဇဝတ်ကောင်များ မဲဇာပို့ရာဒေသဟူ၍သာ လူအများတို့သည် တွေးထင်မှတ်ယူလေ့ရှိကြသည်။ ထိုသို့တွေးထင်ကြသည့်အတိုင်း တခါကမှန်ခဲ့သော်လည်း၊ ယခုအခါမှာမူ ဆိုက်ဗီးရီးယားဒေသသည် မြို့ရွာများဖြင့် စည်ကားလာရုံသာမက သဘာဝပစ္စည်း ပေါများပြည့်စုံသည့်အလျောက်၊ ဒုတိယကမ္ဘာစစ်ကြီး ပြီးသည့်နောက်တွင် ဤဒေသရှိ စက်မှုလက်မှုလုပ်ငန်းများ တရှိန်ထိုးတိုးတက်လာ၍၊ ရုရှဆိုဗီယက်နိုင်ငံကြီး၏စီးပွားရေးစံနစ်တွင် အရေးပါသောဒေသကြီးဖြစ်နေပေပြီ။

ဆိုက်ဗီးရီးယားကို ပထဝီဝင်သဘောအားဖြင့်ရင်း၊ ယေဘုယျအားဖြင့်ရင်း အာရှတိုက်၏မြောက်ပိုင်းဟု ရေးသားပြောဆိုလေ့ရှိသော်လည်း၊ တိကျစွာဆိုရသော်၊ ဆိုက်ဗီးရီးယားဟူသော အမည်မှာ ဆိုဗီယက်ယူနီယံခေါ် ရုရှပြည်ထောင်စုနိုင်ငံကြီး၏ ကျယ်ဝန်းလှသော အရှေ့ပိုင်းဒေသ၏ အမည်ဖြစ်သည်။ ဆိုက်ဗီးရီးယားသည် တိုင်းပြည်တပြည် သတ်သတ်မဟုတ်ပေ။ ရုရှပြည်ထောင်စုနိုင်ငံကြီးတွင်အပါအဝင်ဖြစ်သော အကြီးမားအကျယ်ပြန့်ဆုံး သမတနိုင်ငံမှာ 'ရုရှဆိုဗီယက် ဆိုရှယ်လစ်ပြည်ထောင်စုသမတနိုင်ငံ' ခေါ် ပင်ရင်း (ဝါ) ပြည်မရုရှပြည်ဖြစ်၏။ ထိုပြည်ကို အတိုချုပ်အားဖြင့် ဆိုဗီယက်ရုရှဟူ၍လည်းခေါ်ဝေါ်ကြ၏။ ထိုပြည်၏ ၃ ပုံ ၂ ပုံမှာ ယူရယ်တောင်တန်း၏ အရှေ့ဖက်တွင်ရှိ၍၊ ဆိုက်ဗီးရီးယားဟုခေါ်တွင်ခဲ့သည်မှာ ကြာမြင့်လေပြီ။

ဆိုဗီယက်ရုရှနိုင်ငံခေါ် ပြည်မရုရှနိုင်ငံတွင် အုပ်ချုပ်ရေးနယ်ပယ်အများအပြားရှိသည့်အနက်၊ ၁၇ ခုသော အုပ်ချုပ်ရေးနယ်ပယ်တို့မှာ ဆိုက်ဗီးရီးယားဒေသတွင်ရှိသည်။ ဤ ၁၇ ခုမှာ၊

က။ (၁) ဆွာဒလော့စခါ၊ (၂) ချီလျာဗျင့်စခါ၊ (၃) အွမ့်စခါ၊ (၄) နိုဗော်စီဗီယတ်စခါ၊ (၅) အီယာကွတ်စခါ၊ (၆) ချီတာ၊ (၇) တွမ့်စခါ၊ (၈) ကူရဂန်၊ (၉) ကျူမင်၊ နှင့် (၁၀) ကယ်မရိုဗိုခေါ် နယ်ခွဲဆယ်ခု၊

ခ။ (၁) ပင်လယ်ကမ်းခြေဒေသခွဲ၊ (၂) (ယဟူဒီကိုယ်ပိုင်အုပ်ချုပ်ခွင့်ရနယ်ခွဲ အပါအဝင်ဖြစ်သော) ခဗာရပ်စခဒေသခွဲ၊ (၃) (ခကတ်စ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရနယ်ခွဲအပါအဝင်ဖြစ်သော) ကရက်စနိုယားစခ၊ (၄) (အွိုင်ရတ် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရနယ် အပါအဝင်ဖြစ်သော) အယ်လတိုင်ဒေသခွဲဟူသော ဒေသခွဲလေးခု၊

ဂ။ (၁) တူးဗာကိုယ်ပိုင်အုပ်ချုပ်ခွင့်ရနယ်ခွဲ၊ (၂) ယာကွတ်စခနှင့် (၃) ဗူးရယတ်မွန်ဂိုကိုယ်ပိုင်အုပ်ချုပ်ခွင့်ရ ဆိုဗီယက်ဆိုရှယ်လစ်သမတနိုင်ငံဟူသော နယ်ခွဲသုံးခုဟူ၍ ဖြစ်လေသည်။

ဆိုက်ဗီးရီးယားဒေသ၏အကျယ်အဝန်းသည် စတုရန်းမိုင်ပေါင်း ၄,၈၈၇,၂၂၃ မိုင်ရှိသည်။ ၁၉၃၉ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာကား ၂၁,၉၈၁,၄၆၇ ယောက်ဖြစ်သည်။ အာတိတ်သမုဒ္ဒရာ ကမ်းခြေတလျှောက်၌ တည်ရှိသော ဆိုက်ဗီးရီးယားမြောက်ပိုင်းသည် ရေအစဉ်မပြတ်ခဲသော တန်ဒြာရေခဲပြင်ဖြစ်လေရာ၊ ထိုရေခဲပြင်၌ကျက်စားသောသားကောင်တို့မှ သားမွေးများကိုထုတ်လုပ်သောလုပ်ငန်းသည် အတော်ပင်ကြီးကျယ်သည်။ မြောက်ပိုင်းသည် ရေခဲပြင်ဟု ဆိုရလင့်ကစား ယခုခေတ်၌ တစတစဖြင့် ကောက်ပဲသီးနှံစိုက်ပျိုး၍ရသောဒေသဖြစ်လာလေပြီ။ နှစ်ပေါင်း ၃၀ အတွင်း တိုးတက်လာခဲ့သည်မှာ ၁၉၄၄ ခုနှစ်စာရင်းအရဆိုလျှင် မြေဧကပေါင်း ၇၉၀,၀၀၀ တို့သည် စိုက်ပျိုးလုပ်ကိုင်နိုင်သောမြေ ဖြစ်လာလေသည်။ အနောက်ပိုင်းဆိုက်ဗီးရီးယားကား မြေနိမ့်ပိုင်းဖြစ်သည်။ ထိုမြေနိမ့်ပိုင်းမှ ကျောက်မီးသွေး၊ ဓာတ်သတ္တု၊ သစ်၊ ကောက်ပဲသီးနှံနှင့် သားကောင်များထွက်သည်။ အရှေ့ပိုင်း ဆိုက်ဗီရီးယားကား တောတောင်ထူထပ်သောဒေသဖြစ်၏။ ဓာတ်သတ္တုပေါများ၍၊ ကျောက်မီးသွေးနှင့် သံ၊ သံမဏိတို့သည် စက်မှုလက်မှုလုပ်ငန်းကြီးများ တည်ထောင်နိုင်လောက်အောင် ကြွယ်ဝသည်။ ကမ်ချတ္တကာနယ်ရှိ အရှေ့တောင်တန်းတွင် ၁၅,၆၆၆ ပေရှိသော ကလျူချက်ဗစကာယာတောင်သည် ဆိုက်ဗီးရီးယားဒေသတွင် အမြင့်ဆုံးသောတောင်ဖြစ်သည်။

အော့ဗ၊ ယိနိုဆယေယိ၊ လိနာမြစ်တို့သည် မြောက်ဖက်ရှိ အာတိတ်သမုဒ္ဒရာထဲသို့ စီးဝင်ကြသည်။ အာမူးဝါးမြစ်သည်ကား အရှေ့ဖက် တာတာရေလက်ကြားသို့ စီးဝင်သည်။ တောင်ဖက်ဆိုက်ဗီးရီးယားတွင် ဗိုက်ကာအိုင်ကြီးရှိရာ ထိုအိုင်ကြီးသည် အကျယ်အဝန်းအားဖြင့် စတုရန်း



ဗိုက်ကာအိုင်ကြီး ကမ်းခြေ

မိုင် ပေါင်း ၁၂,၇၄၁ မိုင် ရှိ သည်။ အာရှမြောက်ပိုင်းတွင် အကြီးဆုံးသောရေချိုအိုင်ဖြစ်လေသည်။

ဆိုက်ဗီးရီးယားဒေသသည် ဆောင်းတာအကြာရှည်ဆုံးသော ဒေသဖြစ်သည်။ အအေးဓာတ်မှာ မြောက်ဝင်ရိုးစွန်း၏ အအေးဓာတ်ထက်ပင်လွန်ကဲ၏။ ဆိုက်ဗီးရီးယားအရှေ့ပိုင်း၏ သုံးပုံတပုံသော နယ်မြေတွင် ရေခဲပြင်တို့သည် တခါမျှ အ ရည် ပျော် သည် ဟု မ ရှိ ချေ။ အ အေး ဆုံး ဒီဂရီမှာ -၉၇.၆ ဒီဂရီဖာရင်ဟိုက်ထိ ရှိခဲ့ဘူးသည်။ သို့ရာတွင် သွေ့ခြောက်သောဒေသဖြစ်၍၊ အအေးဓာတ်မှာ ခံသာသည်ဟု ဆိုရသည်။ နွေဥတုတွင် အပူချိန် ၅၀° မှ ၆၅° ဖာရင်ဟိုက် ရှိသည်။

ဆိုက်ဗီးရီးယားတွင် မူလက ဂျုံစက်၊ သကြားစက်၊ အရက်ဖို၊ သားရေလုပ်ငန်း စသည်တို့ရှိသည်။ နှောင်းအခါ၌ ဆိုဗီယက်အစိုးရသည် စက်မှုလက်မှုလုပ်ငန်းတို့ကို တိုးချဲ့လိုက်လေရာ၊ ယခုအခါ ဆိုက်ဗီးရီးယားသည် စက်မှုလက်မှုလုပ်ငန်းကြီးများ လုပ်ရာဌာန ဖြစ်လာသည့်ပြင်၊ ကုန်ကြမ်းပစ္စည်းထုတ်လုပ်ရာဌာနလည်း ဖြစ်လာလေသည်။ ဆိုက်ဗီးရီးယားဒေသ၌ သံ၊ သံမဏိ အများဆုံးထွက်၍၊ ကျောက်မီးသွေးတွင်းတို့မှာလည်း ကမ္ဘာပေါ်တွင် အကြီးဆုံးသောတွင်းများ အပါအဝင် ဖြစ်လေရကား၊ စက်မှုလက်မှုလုပ်ငန်းကြီးများသည် တနှစ်ထက် တနှစ် ဖွံ့ဖြိုး တိုးတက်လာလေသည်။ ဆိုဗီယက် ပြည်ထောင်စုသည် ကမ္ဘာပေါ်တွင် ရွှေထွက်ရာ၌ ဒုတိယလိုက်သည်။ ဆိုဗီယက် ပြည်ထောင်စုမှ ထွက်သောရွှေတွင်ဆိုက်ဗီးရီးယား၌တူးဖော်သောရွှေ အများဆုံးပါဝင်လေ

သည်။ ၁၉၅၆–၆၀ ခုနှစ်အတွင်း ငါးနှစ်စီမံကိန်းအရ များမကြာမီ အန်ကာရာမြစ်အနီးတွင် ရေဖြင့်လျှပ်စစ်ဓာတ်အားပေးသော စက်ရုံကို တည်ဆောက်ရန် လျာထားချက် ရှိသည်။ အထက်ကပြဆိုခဲ့သော သားရေလုပ်ငန်းအပြင်၊ အကြီးအကျယ်လုပ်ကိုင်သော လုပ်ငန်းမှာ ပင်လယ်ငါးဖမ်းခြင်းလုပ်ငန်းဖြစ်လေသည်။

လမ်းပန်းဆက်သွယ်ရေးနှင့် ကုန်စည် ကူးသန်းရောင်းဝယ်ရေးအတွက် ထရန် ဆိုက်ဗီးရီးယန်း မီးရထားလမ်းသည် အရှေ့ဖက်အစွန်ဆုံး ဗလာဒီဗော့စတော့မြို့မှသည် မော်စကိုမြို့နှင့် လီနင်ဂရက်မြို့များအထိ ပေါက်ရောက်သည်။ တရုတ်ပြည်သူ့ သမတနိုင်ငံနှင့် မွန်ဂိုးလီးယား သမတနိုင်ငံတို့ကို ဆိုက်ဗီးရီးယားနှင့် ဆက်သွယ်ထားသော မီးရထားလမ်းမှာ ၁၉၅၆ ခုနှစ် ဇန္နဝါရီလတွင် ပြီးစီးခဲ့၍၊ ယခုအခါ ပီကင်မြို့တော်နှင့် မော်စကိုမြို့တော်တို့သည် လေယာဉ်ပျံလမ်းသာ မက ရထားလမ်းဖြင့်လည်း အဆက်အသွယ်ပြုနိုင်ပြီဖြစ်သည်။ ထိုပြင် ဆိုက်ဗီးရီးယားနှင့် တာကီစတန်နယ်ကို ဆက်သွယ်ထားသော မီးရထားလမ်းသည် မိုင်ပေါင်း ၉၀၆ မိုင်ရှည်လျားသည်။

ဆိုက်ဗီးရီးယား၏ ရှေးဟောင်းသမိုင်းအရ ဆိုလျှင်၊ မွန်ဂိုလူမျိုးတို့၏ ဒေသရွှေ့ပြောင်းနေထိုင်ခြင်းတို့ကြောင့် မူလရှိနှင့်သော တိုင်းရင်းသားတို့သည် မြောက်ပိုင်းသို့ တစတစရောက်သွားကြသည်တွင် ယခုကာလ သိပြီးဖြစ်ကြသော ဆိုက်ဗီးရီးယား ဒေသကြီး၌ အိုးအိမ် ထူထောင်ကြရသည်ဟုဆိုလေသည်။ ၁၅၈၁ ခုနှစ်တွင် ရုရှနှင့် ကော့ဆက်လူမျိုးတို့သည် တာတာလူမျိုးတို့ကို အောင်မြင်၍၊ ဆယ်ဗျားရိဟုခေါ်သောမြို့ကို သိမ်းပိုက်ကြလေသည်။ ဤသည်တွင် ရုရှအင်ပိုင်ယာသည် အရှေ့ဖက်၌ နယ်ကျယ်လာလေသည်။ ၁၆ ရာစုနှစ်အတွင်း၌ပင် ရုရှ၏သြဇာအာဏာသည် အာမူးဝါးမြစ်ဝှမ်းဒေသသို့ ပျံ့နှံ့လာခဲ့သည်။ သို့သော် တရုပ်နိုင်ငံ မန်ချူးဘုရင်တို့က ရုရှဘုရင်တို့၏ သြဇာအာဏာကို ခုခံတွန်းလှန်ကြသည်။ ၁၆၈၉ ခုနှစ်၌မူ အာမူးဝါးမြစ်မြောက်ပိုင်းနယ်ကိုရုရှတို့ကမသိမ်းပိုက်တော့ဘဲ၊ မန်ချူးနိုင်ငံနှင့်စာချုပ်ချုပ်ကြသည်။ ၁၈၅၈ ခုနှစ်တွင် ထိုအာမူးဝါးမြစ်ကို ရုရှနှင့် တရုပ်နိုင်ငံတို့၏နယ်ခြားအဖြစ် သတ်မှတ်၍၊ နှစ်နိုင်ငံတို့က စာချုပ်ချုပ်ကြပြန်သည်။ သို့ရာတွင် ၁၈၆၀ ပြည့်နှစ်သို့ရောက်သော်၊ ပင်လယ်ကမ်းရိုးတန်းဒေသကို တရုပ်တို့က ရုရှတို့သို့ ပေးအပ်ခဲ့ရလေရာ၊ ဗလာဒီဗော့စတော့အထိ ရုရှပိုင်ဖြစ်လာလေသည်။ ၁၇၁၀ ပြည့်နှစ်မှစ၍ ဆိုက်ဗီးရီးယားနယ်ကို ပီတာ – သ – ဂရိတ် ဘုရင်မင်းမြတ်က အကျဉ်းသမားတို့၏ အတွက် တကျွန်းအဖြစ်ဖြင့် အသုံးပြုခဲ့သည်။ သို့ရာတွင် အကျဉ်းသမားတို့သည် နယ်သစ်၌ အိုးအိမ်သစ် တည်ထောင်ရန်အလို့ငှာ မတတ်နိုင်ကြချေ။ ထိုနောက်၌ ရွှေတွင်းစသော သတ္တုတွင်းတို့ကို အကြောင်းပြု၍၊ ရုရှ တောင်သူလယ်သမားများ ကိုယ်တိုင် ထိုဒေသသို့ သွားရောက်ကာ နယ်သစ်တည်ထောင်ကြသဖြင့်၊ ဆိုက်ဗီးရီးယားသည် လူနေများ၍လာလေသည်။

အန်ကာရာမြစ်၌ ရေဖြင့်လျှပ်စစ်ဓာတ်အားပေးစက်ရုံကြီး တည်ဆောက်နေပုံ



မြန်မာ့သစ်လုပ်ငန်းတွင် အရေးပါလှသည့်ဆင်

ဆင်။ ။ရှေးပဝေဏီအခါက၊ ကမ္ဘာမြောက်ဖက်ခြမ်း၌ ဆင်ကြီးများ ကျက်စားခဲ့ကြသည်။ ယခုအခါ ထိုဆင်ကြီးမျိုးမှ ဆင်းသက်သော ဆင်အမျိုး နှစ်မျိုးကိုသာလျှင် တွေ့ရှိနိုင်တော့သည်။ ယင်းတို့မှာ 'အဲလီဖတ် အာဖရိကန်နပ်ခေါ် အာဖရိကတိုက် ဆင်မျိုးနှင့် 'အဲလီဖတ် အာရှတိကပ်' ခေါ် အာရှတိုက် ဆင်မျိုးတို့ ဖြစ်သည်။ အဆိုပါဆင်မျိုးနှစ်မျိုးတွင် အနွယ်အမျိုးအပြားပါဝင်သည်။

ဆင်သည် ကုန်းသတ္တဝါအပေါင်းတို့တွင် ကိုယ်ထည်အကြီးဆုံးဖြစ်သည်။ ခွန်အားလည်း အကြီးဆုံး ဖြစ်၏။ လူတို့ကဖမ်းဆီးချုပ်နှောင်၍ စေခိုင်းသည်ကို ခံရသောအခါ အုံ့သြဖွယ်ကောင်းလောက်အောင် စိတ်ရှည်၏။ သင်ရလွယ်၏။ စေခိုင်းသည်ကို လွယ်ကူစွာပင် နာခံတတ်သည်။

အာဖရိကဆင်သည် အာရှဆင်ထက် ပို၍ကြီးမားသည်။ တခါတရံ ၁၁ ပေမျှအထိပင် မြင့်သည်။ အာရှဆင်မျိုးသည် အရပ် ၁၀ ပေထက် မကျော်ပေ။ အာဖရိကဆင်မျိုးသည် ဦးထိပ် လုံး၍ နားရွက် ကြီးသည်။ အာရှဆင်မျိုးသည် ဦးထိပ်ခွက်၍ နားရွက်သေးသည်။ အာဖရိကဆင်မျိုး၏ နှာမောင်း၌ ညီညာသောအရစ်များ ပါရှိသည်။ ထိုနှာမောင်းများတွင် လက်ညှိုးလုံးလောက်ရှိသော နှုတ်ခမ်းနှစ်ခုလည်း ရှိ၏။ အာရှဆင်မျိုး၏နှာမောင်းသည် ပြောင်ချော၍ အဖျားသို့ တဖြည်းဖြည်း သွယ်သွားသည်။ အဖျား၌ နှုတ်ခမ်းတခုတည်းသာ ရှိသည်။ အာရှဆင်နှင့် အာဖရိကဆင်တို့တွင် အခြားကွာခြားချက် များစွာရှိသေး၏။ ထိုကွာခြားချက်များကြောင့် ဇီဝဗေဒ ပညာကျော်များသည် ထိုဆင်များကို မျိုးစိတ်ခွဲ၍ သီးခြားနာမည်ပေးထားကြသည်။

အာဖရိကဆင်မျိုးသည် အာဖရိကတိုက် အတွင်းဖက်ကျသောတောနက်ကြီးများထဲတွင်သာ ကျက်စားလေ့ ရှိသည်။ အာရှတိုက် ဆင်မျိုးကို အိန္ဒိယ ဆင်မျိုးဟူ၍လည်း ခေါ်ကြသေး၏။ သို့သော်လည်း ထိုဆင်မျိုးကို အိန္ဒိယနိုင်ငံ၌သာ မဟုတ်၊ မြန်မာနိုင်ငံ၊ ယိုးဒယားနိုင်ငံ၊ သီဟိုဠ်ကျွန်း၊ ဆူမတြားကျွန်း၊ မလ္လာယုကျွန်းဆွယ်စသော အရပ်တို့တွင်လည်း အနှံ့အပြား တွေ့ရပေသည်။ ထိုဆင်နှစ်မျိုးသည် အကျင့်စာရိတ္တအားဖြင့် အလွန်တူညီသည်။ ဆင်ဟူသရွေ့သည် အပေါင်းအသင်းကို ကြိုက်သည်။ အချုပ်အနှောင် မခံရဘဲ၊ လွတ်လွတ်လပ်လပ်နေရလျှင် အစုအအုပ်နှင့်သာ သွားလာကျက်စားတတ်သည်။ ဆင်အုပ်တအုပ်တွင် ၁၀ ကောင်

မှ အကောင်ရေ ၁၀၀ အထိရှိတတ်သည်။ အများအားဖြင့် ဆင်မကြီးက ဦးစီးခေါင်းဆောင်ပြုလေ့ရှိ၏။ ဆင်များကို တောထဲတွင် စမ်းချောင်းများအနီးအပါး၌ တစုတရုံးကြီး တွေ့ရတတ်၏။ မိုးရာသီတွင် လွင်တီးခေါင်သို့၎င်း၊ တခါတရံ တောင်ပေါ်သို့၎င်း ပြောင်းရွှေ့သွားလေ့ရှိသည်။ ဆင်ထီးများသည် မုန်ယိုတတ်သည်။ မုန်ယိုနေသောအခိုက်တွင် ဆင်အုပ်ထဲမှ ခွဲ၍နေတတ်သည်။ မုန်ယိုသောဆင်သည် လူကို ရန်မူတတ်၏။

ဆင်သည် အများအားဖြင့် ရာသီအပြောင်းအလဲကိုလိုက်၍၊ အစာရှာရန် ကောင်းမည့်နေရာသို့ ပြောင်းရွှေ့နေထိုင်လေ့ရှိသည်။ ဆင်သည် မြင်းကဲ့သို့ မတ်တတ်သော်၎င်း၊ ဝပ်လျက်သော်၎င်း အိပ်နေနိုင်သည်။ ညသန်းကောင်အချိန်နှင့် အပူပြင်းသည့် နေ့ဖက်အချိန်တို့တွင်သာ အများအားဖြင့် အိပ်လေ့ရှိသည်။ လူတို့၏အချုပ်အနှောင်ကို ခံနေရသည့်အချိန်တွင် ဆင်သည် ရက်သတ္တပတ်ပေါင်းများစွာ မလဲလျောင်းဘဲ နေတတ်သည်။ ငါးနှစ်မျှ မလဲလျောင်းဘဲ နေနိုင်သော ဆင်များရှိသည်ဟု သိရသည်။

ဆင်သည် ရေကူးကျင်လျင်သည်။ ပေ ၃၀ ကျော်မျှ နက်သောရေထဲတွင် ၆ နာရီမျှ နေနိုင်ကြောင်း အမှတ်အသားများရှိသည်။ ဆင်သည် ခြေ ၄ ချောင်းစလုံး မြေကြီးမှ ကြွအောင် မခုန်နိုင်ချေ။ သို့သော်လည်း ပြေးလွှားရာတွင် အံ့သြဖွယ်ကောင်းလောက်အောင် မြန်ဆန်ပေသည်။

အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံတို့တွင် ဆင်ကို လေးလံသောဝန်ကို သယ်ဆောင်ရသည့် အလုပ်များ လုပ်ကိုင်စေရန် ရွေးချယ်၍ ခိုင်းစေသည်။ ခိုင်းစေသောအလုပ်တွင် ဆင်သည် တာဝန်ကျေပြွန်အောင် ဆောင်ရွက်နိုင်သည်။ ဆင်ကို သစ်တုံးများ ဆွဲစေရန်၎င်း၊ လေးလံသော ဝန်တို့ကို မတင် သယ်ဆောင်စေရန်၎င်း အသုံးပြုသည်။ မျက်နှာပြင် ညီညာသော အရပ်ဒေသများတွင် ဆင်သည် အလေးချိန် တတန်ခွဲမျှကို သက်သာလွယ်ကူစွာ သယ်ဆောင်သွားနိုင်ပေသည်။ အလွန် လေးလံသောဝန်ကို ဆွဲရန်အတွက် ဆင်လည်ပင်းတွင် သားရေကြိုးပြားကြီး ရစ်ပတ်ပေးရသည်။ ထိုသားရေကြိုးပြား၌ ဝန်ကိုဆွဲယူရန် လွန်ကြိုးတချောင်း တပ်ထားရသည်။ အချို့ဒေသတို့၌ ဆင်ကို သစ်ဆွဲရန်သာ မဟုတ်ဘဲ၊ တခါတရံ လယ်ထွန်ရန်၊ တခါတရံ ကုန်တွဲကြီးများ ဆွဲဆောင်ရန် စေခိုင်းကြသည်။ မြန်မာနိုင်ငံ သစ်လုပ်ငန်းတွင် ဆင်မပါလျှင် မပြီးနိုင်သလောက်ပင် ဖြစ်သည်။

ဆင်ကို ယာဉ်အဖြစ်ဖြင့်လည်း အသုံးချ နိုင်သေးသည်။ ဆင်၏ ကျောက်ကုန်းပေါ်တွင် ကုန်းနှီးတဲ့ကို တပ်ဆင်ရ၏။ ထိုကုန်းနှီးတဲ့ပေါ်တွင် လူစီးနင်းလိုက်ပါနိုင်ရန် လေးဖက်



စိန်ပီတာစဗတ်ပြတိုက်ရှိ ဆိုက်ဗီးရီးယားပြည်နယ်မှ ရှေးဟောင်း ဆင်ကြီး



လေးတန် အကာအရံပါသော ထိုင်စရာကို လုပ်ပေးရသည်။ ဆင်ဦးစီးသည် ဆင်၏လည်ပင်းပေါ်တွင် ထိုင်လျက် လိုက်တတ်သည်။ အိန္ဒိယနိုင်ငံ၌ မဟာရာဇာများသည် ကျားပစ်ထွက်သော အခါ ဆင်စီး၍ တောကစားကြသည်။ ရှေးအခါက စစ်တိုက်ရာတွင် ဆင်ကိုများစွာအသုံးပြုသည်။ မြန်မာသမိုင်းတွင် ကျော်ကြားသော စီးချင်းတိုက်ပွဲများ ရှိခဲ့သည်။ ဆင်ကို အိန္ဒိယ၊ မြန်မာ၊ ယိုးဒယားစသည့်နိုင်ငံများ၌ မင်းခမ်းမင်းနားများတွင် ရှေးကသုံးခဲ့သည်။

အများအားဖြင့် ဆင်မှာ မည်းညိုသော အရောင်ရှိသော်လည်း၊ ဆင်ဖြူများ ရှိသေး၏။ ယိုးဒယားနိုင်ငံနှင့် သီဟိုဠ်ကျွန်းတို့တွင် ဆင်ဖြူကို အတွေ့ရများသည်။ ဆင်ဖြူကို ဆင်မည်းနှင့် တန်းတူမထားဘဲ၊ မြင့်မြတ်သည်ဟူ၍ ယူဆယုံကြည်ကြသည်။ မြန်မာနိုင်ငံနှင့် ယိုးဒယားနိုင်ငံတို့တွင် ဆင်ဖြူကို အထွတ်အမြတ်ထားကြသည်။ မြန်မာဘုရင်တို့သည် ဆင်ဖြူရှင်ဟူသော ဘွဲ့ကို အလွန်နှစ်သက် လိုလားကြသည်။ (ဆင်ဖြူရှင် — ရှု။) ထို့ကြောင့် မြန်မာမင်းတို့၏ ရာဇဝင်၌ ဆင်ဖြူတော်ကို အကြောင်းပြု၍ စစ်မက်ဖြစ်ပွားကြသည်များရှိ၏။

ဆင်သည် သူ့နဂိုသဘာဝအတိုင်း နေရလျှင် ရုတ်တရက် မသေဘဲ၊ အတော်ပင် အသက် ရှည်သည်။ နှစ်တရာကျော်လောက်အထိ နေနိုင်သည်။ ဆင်မသည် သားမွေးလျှင် အရေအတွက် ခပ်နည်းနည်း မွေးသည်။ ထို့ကြောင့် ဖမ်းဆီးခံရသောဆင်တို့ အသေအဆုံးများလာလျှင် အစားထိုးရန် ၁၀ နှစ်တကြိမ်၊ သို့မဟုတ် ၁၂ နှစ်တကြိမ်ခန့် ထပ်မံ၍ ဖမ်းဆီးရန် စီစဉ်ရသည်။ ဆင်ဖမ်းမည့်လူစုသည် ဆင်များကို မဖမ်းဆီးမီ ရက်သတ္တပတ်ပေါင်း များစွာကပင် ကြိုတင်၍၊ တောနက်ထဲတွင် လှည့်လည်ကာ ဆင်များကို လိုအပ်သည့်နေရာသို့ရောက်အောင် ကြံဆောင်၍ မောင်းယူကြရသည်။

နောက်ဆုံး၌ ကျုံးသွင်းရန် အဆင်သင့်ဖြစ်သောအခါ၊ ဆင်များကို ရုတ်တရက် လန့်ဖျပ်သွားအောင် ကျယ်လောင်စွာ ညာသံပေး၍၊ လိုသောနေရာသို့ စုရုံးရောက်ရှိစေရသည်။ မကြာမီပင် ဆင်ရိုင်းကြီးများသည် ချောင်ထဲ၌ ပိတ်မိနေ၍၊ ကြိုးကြီးများဖြင့် အချည်အနှောင်ခံကြရသည်။ ဤနည်းဖြင့် ဆင်ရိုင်းကြီးများကို ဖမ်းဆီးပြီးနောက်၊ ဆင်ယဉ်များဖြင့် ရောပြွမ်းထားကာ တဖြည်းဖြည်း ယဉ်ပါးလာအောင် လုပ်ယူကြသည်။

ရှေးအခါကတည်းကပင် ဆင်များကို ဆင်စွယ်အလို့ငှာ အများအားဖြင့် သတ်ဖြတ်ခဲ့ကြသည်။ (ဆင်စွယ် — ရှု။) မကြာသေးမီအချိန်လောက် အထိ၊ အာဖရိကဆင်များကို တနှစ်လျှင် ၄၀,၀၀၀ ကျော်မျှ သတ်ဖြတ်ခဲ့ကြသည်။ ယခုအခါ၌မူ ဆိုင်ရာနိုင်ငံအစိုးရတို့သည် ဆင်များအား စည်းကမ်းမဲ့ သတ်ဖြတ်ခြင်းကို တားမြစ်ထားကြသည်။

မြန်မာကျမ်းဂန်တို့တွင် ဆင်များကို အစွယ်ပေါက်ပုံသို့လိုက်၍၊ (၁) အစွယ် လုံးဝမရှိသော ဟိုင်းမျိုး၊ (၂) သေးသွယ်သောအစွယ်၊ တိုသောအစွယ်ရှိသည့် ဟံမျိုး၊ (၃) အစွယ် တချောင်းသာရှိသော တည်မျိုး၊ (၄) အစွယ် နှစ်ချောင်းစုံရှိသော တံမျိုးဟူ၍ အမည်လေးပါးဖြင့် ခွဲခြားထားသည်။ ထိုပြင် ဗလအား ခြားနားပုံသို့လိုက်၍လည်း ဆယ်မျိုး ခွဲခြားခေါ်ဝေါ်ပြန်လေသည်။ ယင်းတို့မှာ အစဉ်အတိုင်း တမျိုးထက် တမျိုးက ဆယ်ဆ အားရှိလေရာ၊ (၁) လူဆယ်ယောက်အားရှိ၍၊ ညင်းညင်း အော်မြည်တတ်သော ဆင်မည်းတမျိုး ဖြစ်သည့် ကာဠာဝကဆင်၊ (၂) ဂင်္ဂါမြစ်ပတ်ဝန်းကျင်တဝိုက်၌ ရှိကြသည့် ဂင်္ဂေယျဆင်၊ (၃) ဝါဖျော့ဖျော့ အရောင် ရှိသော ပဏ္ဍရဆင်၊ (၄) ကြေးနီရောင် အဆင်းရှိသော တမ္ဗဆင်၊ (၅) ကြောင်သောအဆင်းရှိသည့် ပိင်္ဂလဆင်၊ (၆) အနံ့မွှေးသော ဂန္ဓဆင်၊ (၇) တင့်တယ်စွာ သွားတတ်သော မင်္ဂလဆင်၊ (၈) ရွှေရောင်အဆင်းရှိသော ဟေမဆင်၊ (၉) ဖြူသောအဆင်းရှိ၍၊ နှာမောင်းအမြီး လှပရှည်သွယ်ပြီးလျှင် ကောင်းကင်၌ ကျက်စားတတ်သော ဥပေါသထဆင်၊ (၁၀) ဘော်ငွေအဆင်းရှိပြီးလျှင် ညီညွတ်သောအစွယ်နှစ်ချောင်းမှ ရောင်ခြည်ခြောက်မျိုးထွက်ကာ အမြီး ဦးခေါင်း ရှည်သွယ်၊ အလုံးစုံသောကြန်အင်လက္ခဏာနှင့်ပြည့်စုံလျက် ကောင်းကင်၌လည်း ပျံသွားနိုင်သည့် ဆဒ္ဒန်ဆင်ဟူ၍ဖြစ်လေသည်။

ဆဒ္ဒန်ဆင်သည် ဆင်တကာတို့၏ အထွတ်အမြတ် ဖြစ်သည်။ မြန်မာစာပေတွင် ဆဒ္ဒန်ဆင်ကို စာဖွဲ့လေ့ရှိသည်။



ဆင်စွယ်ဖြတ်ယူနည်းကိုလက်တွေ့ပြနေသော ဆင်လိုက်မုဆိုးတဦး

အထူးသဖြင့် ငါးရာငါးဆယ် နိပါတ်တော်လာ အလောင်းတော် ဆဒ္ဒန်ဆင်မင်း၏ အကြောင်းမှာ ကြည်ကွဲဖွယ်ရာ ဖြစ်သောကြောင့် မြန်မာတို့ နှစ်ခြိုက်ကြသည်။ ယင်းဇာတ်ဝတ္ထုကို စလေဦးပုညက စာပေဂုဏ်မြောက်စွာ ဖွဲ့နွဲ့ရေးသားလိုက်သောအခါ၊ ပိုမိုကြည်နူးလွမ်းဆွတ်ဖွယ်ရာဖြစ်လာပြီးလျှင်၊ မြန်မာစာပေ လိုက်စားသူတိုင်းသည် ယင်းဝတ္ထုကို အထူးကြိုက်နှစ်သက်ကြလေသည်။ ဆဒ္ဒန်ဆင်မင်း အကြောင်းကား ဤသို့ဖြစ်၏။

ရှေးလွန်လေပြီးသော အခါ မြတ်စွာဘုရား အလောင်းသည် ဟိမဝန္တာ တောကြီးအလယ်၌ တောတဆယ့်ခြောက်ထပ်၊ တောင်စဉ် ခုနစ်ထပ် ရံထားသော ဆဒ္ဒန်အိုင်ကြီး၏ အနောက်မျက်နှာတွင် တဆယ့်နှစ်ယူဇနာရှိသော ရွှေဂူ၌ ဆဒ္ဒန်ဆင်အမျိုးပေါင်း ရှစ်သောင်းခြံရံလျက် ဆဒ္ဒန်ဆင်မင်း ဖြစ်တော်မူ၏။ ထိုဆဒ္ဒန်ဆင်မင်း၏ အရပ်ကား တဆယ့်ရှစ်တောင်၊ အလျားကား အတောင်တရာ့နှစ်ဆယ်၊ နှာမောင်းကား အလျား ငါးဆယ့်ရှစ်တောင်၊ အစွယ်ကား လုံးပတ်အားဖြင့် တဆယ့်ငါးတောင်၊ အလျားအားဖြင့် အတောင်သုံးဆယ်ဟူ၍ အသီးသီးရှိ၏။ ခြေဖျား၊ လက်ဖျား၊ နှုတ်ဖျားတို့သည် ချိပ်ရည်သွေးကဲ့သို့ နီမြန်း၏။ ကိုယ်အလုံးသည် ငွေလမင်းကဲ့သို့ ဆွတ်ဆွတ်ဖြူ၏။ အစွယ်သည် ညို ရွှေ နီစက်၊ ပြိုးပြက် ဖြူမောင်းသောအရောင်ခြောက်ပါးနှင့်ပြည့်စုံ၏။ ဆဒ္ဒန်ဆင်မင်းသည် မိုးအခါ၌ ရွှေဂူတွင် စံလျက် နွေအခါတွင်မူ ညောင်နန်းတွင် စံနေတော်မူတတ်၏။ ဆဒ္ဒန်ဆင်မင်း၌ မဟာသုဘဒ္ဒါ၊ စူဠသုဘဒ္ဒါဟူ၍ မိဖုရားနှစ်ပါးရှိ၏။ တရံရောအခါ ဆဒ္ဒန်ဆင်မင်းသည် ပင်လုံးကျွတ်ပွင့်သော အင်ကြင်းပင်ပျို အောက်၌ ခိုလှုံ ရပ်နားနေခိုက်၊ လက်ျာတော်လေအောက်က မဟာသုဘဒ္ဒါ၊ လက်ဝဲတော်လေညာက စူဠသုဘဒ္ဒါတို့ ခစားနေစေလျက်၊ အင်ကြင်းပင်ကို ဦးကင်းဖြင့်ဝှေ့၍ ပန်းမိုးရွာစေ၏။ ထိုအခါ သစ်ခြောက်ကိုင်းတို့နှင့် တကွ ပရွက်ခါချဉ်တို့သည် စူဠသုဘဒ္ဒါအပေါ်သို့ လှုပ်တိုင်းကျလာ၏။ မဟာသုဘဒ္ဒါအပေါ်၌ကား ပန်းပွင့်ပန်းမှုန်တို့မှာ လေညာမှလွင့်၍ စုပုံကျလာကုန်၏။ ထိုအခြင်းအရာကြောင့် စူဠသုဘဒ္ဒါလည်း ဆင်မင်းသည် ချစ်ခြင်းမညီဟု သဘောထားကာ အငြိုးကြီးစွာ ထားလေ၏။ တဖန် အိုင်အတွင်းသို့ သက်ဆင်း၍ ရေကစားသည်တွင် ပဒုမ္မာကြာမှုန်တို့၏ ဝတ်ဆံတို့ကို ကြဲဖြန့်ကစားတော်မူ၍၊ ကြွင်းသောကြာပန်းတို့ကို မဟာသုဘဒ္ဒါ တဦးတည်းကိုသာ ပေးမိပြန်သဖြင့် ဒုတိယအကြိမ် ရန်ငြိုးဖွဲ့ပြန်၏။ ထိုနောက် စူဠသုဘဒ္ဒါလည်း ရှင်ပစ္စေကဗုဒ္ဓါ ငါးရာတို့အား ကြာစွယ်ကြာရင်းတို့ကို ဆက်ကပ်လှူဒါန်း၍ 'အကျွန်ုပ်သည် ယခုဘဝမှ စုတေခဲ့သော်၊ ဧကရာဇ်မင်း၏ ရူပငြိမ်းသော မိဖုရားကြီး ဖြစ်လျက် ဇာတိဿရဉာဏ်ကိုလည်း ရပါစေသော။ ထို

အခါ ဤဆဒ္ဒန်ဆင်မင်းစွယ်တော်အစုံကို ဖြတ်ပိုင်း၍ယူနိုင်ပါစေသော ' ဟုဆုတောင်း၏။ ထိုနောက် အစာရေစာ မစားဘဲ၊ အားပြတ် စုတေလေသော်၊ ဆုယူသည့်အတိုင်း မဒ္ဒရာဇ်မင်း၏ သမီးတော်ဖြစ်လာ၏။ ထိုသမီးတော် အရွယ်ရောက်လတ်သော်၊ ဗာရာဏသီမင်း၏မိဖုရား ဖြစ်လာ၏။ မိဖုရားလည်း မိမိ၏အတိတ်ဘဝကို အောက်မေ့၍၊ မိမိဆုတောင်းခဲ့သည့်အတိုင်း ဖြစ်မြောက်စေရန် ညှိုးငယ်သော အသွင်ကို ဆောင်၍နေလေ၏။ ထိုအခြင်းအရာကို မြင်လတ်သော်၊ မင်းကြီးကမေးမြန်းလေ၏။ မိဖုရားလည်း မင်းကြီးအား ဆဒ္ဒန်ဆင်မင်း၏စွယ်တော်ကို နားတောင်းအဖြစ် ပန်ဆင်လိုသည်ဟု တင်လျှောက်လတ်သော်၊ မင်းကြီးသည် ဆဒ္ဒန်ဆင်မင်းကို ရှာဖွေစေရန် သောနုတ္တရမုဆိုးကို ဆင့်ဆိုတော်မူ၏။ မိဖုရားလည်း ထိုမုဆိုးအား မိမိကိုယ်တိုင်လမ်းညွှန်၍၊ ဆင်မင်းကို အဆိပ်လူးသောမြားဖြင့်ပစ်သတ်လျက် အစွယ်တော်ကို ဖြတ်ယူခဲ့ရန် စေလွှတ်လေ၏။ မုဆိုးလည်း ခုနစ်နှစ်၊ ခုနစ်လ၊ ခုနစ်ရက်ကြာမှ ဆဒ္ဒန်အိုင်သို့ ရောက်လေ၏။ ထိုနောက် ဆင်မင်း၏နေရာ အသွားအလာလမ်းများကို မှတ်သား၍ ဆင်မင်းရပ်တည်မည့်နေရာ တည့်တည့်၌ ဥမင်တူးကာ၊ ဆင်မင်း၏ချက်နှင့်ချိန်လျက် မြားပစ်ရန် အပေါက်ဖောက်ထား၏။ မိမိကိုယ်ကိုလည်း သင်္ကန်းဝတ်ရုံထားလေသည်။ နောက်တနေ့ ဆင်မင်းနှင့် ဆင်မိဖုရားတို့ ယင်းအရပ်၌ ရေစစ်ရန် ရပ်တန့်ခိုက်တွင်ပင် မုဆိုးက ဆိပ်လူးမြားဖြင့်ပစ်လေသော်၊ ဆင်မင်းသည် တောတောင်အလုံး ပဲ့တင်ဟီးမျှ သုံးကြိမ် ဟစ်အော်ညည်းညူတော်မူရာ၌ ဆင်အပေါင်းကလည်း ရန်သူကို ချေမှုန်းပစ်အံ့ဟု တောတောင်ပတ်လည် လှည့်လည်ရှာဖွေကြ၏။ ဘုရားလောင်းလည်း မြားလာရာ လမ်းကိုကြည့်သဖြင့် သိတော်မူရကား၊ မဟာသုဘဒ္ဒါအား ထပ်မံထိခိုက်မည်စိုး၍ အခြားသို့ ဖယ်ရှားစိမ့်သောငှါ၊ အမျက်ထွက်လေဟန်ဖြင့် ရန်သူကိုရှာစေလေ၏။ ဆင်မင်းသည် မြားလာရာ အောက်အရပ်သို့ နှာတော်နှင့် ရှပ်သဖြင့် ဥမင်ထဲရှိမုဆိုးကို မြင်သောအခါ၊ နှာမောင်းဖြင့် ဆွဲယူတော်မူ၏။ မုဆိုးလည်း မိမိကိုယ်မှ သင်္ကန်းကိုခွာလျက် နှာမောင်းပေါ်သို့ တင်လိုက်၏။ ဆဒ္ဒန်ဆင်မင်းသည် သင်္ကန်းကိုမြင်ရုံမျှနှင့်ပင် အမျက်ပွားမိသည်ကို ချုပ်တည်း၍၊ မုဆိုးအား အကြောင်းရင်းကို မေးမြန်းလေ၏။ ထိုအခါ မုဆိုးသည် သုဘဒ္ဒါမိဖုရားက ဆဒ္ဒန်ဆင်မင်း၏စွယ်တော်ကိုအလိုရှိ၍ စေခိုင်းကြောင်းကို လျှောက်ထားလေရာ၊ ဘုရားလောင်းဆင်မင်းသည် မိမိ၏အစွယ်ကို မိမိဖြတ်၍၊ သဗ္ဗညုတဉာဏ်၏ ရရာရကြောင်း အထောက်အပံ့ဖြစ်စေသတည်းဟု ဆုတောင်းလျက်၊ မုဆိုးအား ပေးလှူပြီးသော်၊ ' အဆွေတော် သောနုတ္တိုရ်၊ မောင်မင်းသခင်၊ ပလ္လင်ညာရံ၊ စံပေသည့်နတ်၊ မယ်သုဘဒ်ကို၊ ဆတ်ဆတ်သဘော၊ ငါမှာတိုင်းပြောပါလေ။ တောဟေဝန်ချောင်၊ မြိုင်သာခေါင်တွင်၊ ငွေတောင်ကြီးသွင်၊ ခင်မလင်ကို၊ အရှင်လတ်လတ်၊ သင်စေ၍သတ်ခဲ့ပြီ။ စွယ်တော်ဓာတ်နှစ်ချောင်း၊ ခြောက်ရောင်မောင်းကိုလည်း၊ ၎င်းဆင်ကြီး၊ မသေခင်ဖြတ်လှီး၍၊ သွေးစီးသံထွက်၊ နာကျင်စွာနှိပ်စက်ပြီးမှ၊ အသက်ဆုံးစေခဲ့ပါပြီ။ ဤစွယ်တော်စုံကို ရွှေဘုံသူ မှန်ကူ၊ သုံးရက်တော်မူသေးလျှင်၊ ရန်သူကြီးအစွယ်ကို၊ ရွှေလက်ဝယ် သပါမည်။ အားရစိတ်ရွှင်၊ ကျေနပ်အောင်စီရင်၍၊ ပြုချင်တိုင်းပြုတော်မူပါတော့ဘုရားဟူ၍၊ မောင်မင်းသခင်၊ မုန်းပင်စိုက်ပျိုး၊ ပြေချိန်တိုင်၍မှ မပြေနိုင်ငြိုးတတ်သည့်၊ မုဆိုးတပိုင်း၊ မိန်းမရိုင်းကြီးကို၊ ငါမှာတိုင်းပြောပါလေ ' ဟုမှာကြားလေ၏။ ထိုနောက် ဆဒ္ဒန်ဆင်ကောင်း၊ ဘုရားလောင်းလည်း၊ မယားဟောင်း လက်ချက်နှင့် အသက်ဆုံးတော်မူလေသတည်း။



ရွှေဖိုသံသရာမှာ လောင်စာရန်ငြိုး မီးဆက်မပျိုးရအောင် မုဆိုးအား စွယ်တော်ကို ထင်တိုင်းပြုခွင့် ပေးတော်မူလျက် ကြီးစွာသော ဒုက္ခဝေဒနာကို ပညာဖြင့်သိမ်းဆည်းနေရှာသော အလောင်းတော်ဆဒ္ဒန်ဆင်မင်း

မုဆိုးကား ဗာရာဏသီသို့ ပြန်၍၊ စွယ်တော်ကို သုဘဒ္ဒါ

မိဖုရားအားဆက်သပြီးလျှင်၊ ဆဒ္ဒန်ဆင်မင်း၏မှာစကားကို ပြန်ကြားလေ၏။ ထိုအခါ သုဘဒ္ဒါမိဖုရားသည် 'စကားရွှေ နောက်၊ ပြန်လှန်ကာထောက်လတ်သော်၊ နောက်နောက် ကျိုကျို၊ နှလုံးတော်ရှိလှ၍၊ မဏီခြယ်စီ၊ သိင်္ဂီရီးညှော်၊ အုံ့ လောက်ဆန်းပြား၊ ရွှေယပ်မားဖြင့်၊ သနားစိတ်ဝင်၊ ခံယူ တင်ပြီးလျှင်၊ ရင်ခွင်တော်၌၊ စွယ်တော်ကိုပိုက်ပြန်၍၊ တ စိုက်စိုက်ရှုယင်းပင်၊ ပြုမိသည့်ဖြစ်ထွေ၊ လင်သေသည့်အ ကြောင်း၊ ဘဝဟောင်းက၊ ငယ်ပေါင်းပြီပြီ၊ လည်ချင်းမှီ၍၊ နာရနီခိုင်၊ မြဆိုင်ပညောင်၊ ရွှေဂူချောင်မှာ၊ ဆွေမောင်နှင့် မယ်။ ကျီစယ်သမှု၊ ပန်းခိုင်လုလျက်၊ ကယုကယင်၊ ချစ်တုံ့ တင်သဖြင့်၊ ကြင်ကြင်လည်လည်၊ ပျော်ဘူးသည်များကို ကြံစည်စေ့စေ့၊ တစိမ့်စိမ့်အောက်မေ့၍၊ တငွေ့ငွေ့ဆင်ခြင်၊ ပူစကိုင်မိလျှင်၊ ပူပင်လယ်ဝေ၊ လှိုင်းဘောင်ဘင်မွှေသော ကြောင့်၊ မဖြေနိုင်မဆည်နိုင်၊ သည်းဆိုင်မှာလောင်ခြစ်၍၊ ကျမျက်ရည်ချောင်းဖြစ်အောင်၊ အော်ဟစ်၍ငိုဆဲတွင်၊ နဂိုရ် တော်ဖေါက်လဲ၍၊ ဗာရာမင့်လည်ဆွဲသည် ရင်ကွဲနာနှင့်နတ် ရွာစံတော်မူလေ၏။'

**ဆင်ကလဲယား, အပ္ပတန် ဗီးလ** (ခရစ် ၁၈၇၈ ဖွား)။ နိုင်ငံကျော် အမေရိကန် စာရေးဆရာ အပ္ပတန် ဗီးလ ဆင်ကလဲယားကို ၁၈၇၈ ခုနှစ် စက်တင်ဘာလ ၂၀ ရက်နေ့ တွင် ဗောလတီမိုးမြို့၌မွေးဖွား၏။ နယူးယော့မြို့ကောလိပ် ကျောင်း၌ ပညာသင်ကြားပြီးလျှင်၊ ၁၈၀၁ ခုနှစ်တွင် ဝိဇ္ဇာ ဘွဲ့ကို ကိုလမ္ဗီးယားတက္ကသိုလ်မှ ရယူခဲ့လေသည်။

အပ္ပတန် ဆင်ကလဲယားသည် စာရေး ဆရာအဖြစ်ဖြင့် သာ ထင်ရှား သည် မဟုတ်။ ဆိုရှယ်လစ်ဝါဒကို သက်ဝင်ယုံကြည်သူအ နေဖြင့်၊ အမေရိကန်နိုင်ငံတွင် ထိုဝါဒကို ပြန့် ပွားအောင်ပြုစုံသော နိုင်ငံရေးသမားအဖြစ် ဖြင့်လည်း ကျော်စောထင်ရှားသည်။ ၁၉၀၂ ခုနှစ်၌ ဆင်ကလဲယားသည် အမေရိကန်ရှိ ဆိုရှယ်လစ်ပါတီနှင့် ဆက်သွယ်ပြီးလျှင်၊ ထို ပါတီ၏ကူညီအားပေးချက်အရ ၁၉၀၄ ခုနှစ် ၌ ရှီကားဂိုးမြို့ရှိ အမဲသားထုတ်လုပ်ရေးလုပ် ငန်း အခြေအနေများကို လေ့လာခဲ့သည်။ သူမြင်ခဲ့သိခဲ့ နားလည်ခဲ့သောအခြင်းအရာ များကို ၁၉၀၆ ခုနှစ်တွင် 'တော' ဝတ္ထုကြီး၌ ဇာတ်ကွက်ဇာတ်လမ်း ဆင်ကာ ရေးသား ဖော်ထုတ်ခဲ့သည်။ ထိုဝတ္ထုသည် ကမ္ဘာ ကျော်ဝတ္ထုဖြစ်လာသည်။ ထိုဝတ္ထု၌ စက် ရုံအလုပ်သမားများ၏ဘဝအခြေအနေ နိမ့် ကျပုံများနှင့်တကွ ယင်းတို့၏ လူတန်းစေ့ နေထိုင်ရေးနှင့် ဆိုရှယ်လစ်ဝါဒဆိုင်ရာ ပြုပြင်ပြောင်းလဲရေး ထင်မြင်ချက်များကိုပါ ထည့်သွင်းဖော်ပြထားသည်။ ထို ဝတ္ထု ထွက်ပေါ်လာသောအခါ ဝတ္ထုပါ အချက်အ လက်တို့သည် တကယ့်အဖြစ်အပျက်နှင့် လွန်စွာနီးစပ်သော ကြောင့်၊ သားသတ်ရုံလုပ်ငန်းအခြေအနေနှင့် စည်သွတ်စား စရာအကြောင်းများကို သက်ဆိုင်ရာအစိုးရတို့က မစုံစမ်းဘဲ မနေနိုင်ဖြစ်ခဲ့ရသည်။ အပ္ပတန် ဆင်ကလဲယားကိုယ်တိုင် ကလည်း နိုင်ငံရေးတွင် ကိုယ်ထိလက်ရောက် ပါဝင်ဆောင် ရွက်နေခိုက်ဖြစ်ရာ၊ အစိုးရတို့သည် စုံစမ်းခြင်းများအပြီး တွင်၊ ၁၉၀၆ ခုနှစ် သန့်ရှင်းသော အစားအစာအက်ဥပဒေ ကို လွှတ်တော်၌ တင်သွင်းရလေသည်။ ထိုဥပဒေလည်း အ တည်ဖြစ်ခဲ့သည်။

၁၉၂၇ ခုနှစ်တွင် အပ္ပတန် ဆင်ကလဲယားသည် 'ရေနံ' ဝတ္ထုကြီးကို ရေးသား ထုတ်ဝေသည်။ ယင်းဝတ္ထုသည် 'တော' ဝတ္ထုကြီးကဲ့သို့ပင် ကမ္ဘာကျော်ကြားသည်။ ထို ဝတ္ထု၌ အရင်းရှင်တို့၏သဘာဝကို ထုတ်ဖော်ပြသသည်။ ထို နောက်၌ကား အပ္ပတန် ဆင်ကလဲယားသည် အရင်းရှင်စံနစ် အောက်၌ရှိသော သာသနာရေးဆိုင်ရာ အဖွဲ့အစည်းများ၊ သ တင်းစာလောက၊ ပညာသင်ကြားရေးစံနစ်၊ အနုပညာရမ် များနှင့်တကွ လူထုတရပ်လုံးသည် မည်ကဲ့သို့သောအခြေ၌ တည်နေသည်ကို ဆိုရှယ်လစ်ဝါဒဖြင့် ဆင်ခြင်သုံးသပ်၍၊ ဝတ္ထု ပေါင်းမြောက်မြားစွာကို ရေးလေသည်။

၁၉၄၀ ပြည့်နှစ်တွင် အပ္ပတန် ဆင်ကလဲယားသည် လနီ ဗတ်ဟူသော ဇာတ်ဆောင်သူကို မဏ္ဍိုင်ပြု၍၊ ၁၉၁၃ ခုနှစ်မှ



အမေရိကန်စာရေးဆရာကြီး အပ္ပတန် ဆင်ကလဲယား

သည် ဒုတိယကမ္ဘာစစ်ကြီး ပြီးသည့်ခေတ်အထိ ဖြစ်ပျက်သမျှသောသမိုင်းခြင်းရာတို့ကို ဝတ္ထုစာအုပ် ၁၀ အုပ်ဖြင့် မှတ်တမ်းတင်ခဲ့သည်။ ထိုသမိုင်းဝတ္ထု အနက် ဟသ်ာ ကိုးသောင်း ဇာတ်ခင်း၍၊ အချင်းချင်း သတ်ဖြတ်ဖျက်ဆီးနေသော လူတို့၏ခြင်းရာကို ဖော်ပြသည့် 'နဂါးစွယ်' ခေါ် ဝတ္ထု (၁၉၄၂) မှာ 'ပူလစ်ဇာဆု' ကိုဆွတ်ခူးခဲ့လေသည်။

နိုင်ငံရေးကိုဆောင်ရွက်သူအနေဖြင့် အပွတန် ဆင်ကလဲယားသည် ၁၉၀၅ ခုနှစ်၌ 'စက်မှုလက်မှုလုပ်ငန်း ဒီမိုကရေစီအခွင့်အရေးဆိုင်ရာ အစည်းအရုံး' ၏ရှေ့ပြေး အဖွဲ့အစည်းကို စတင်တည်ထောင်ခဲ့သည်။ ၁၉၁၄ ခုနှစ်၌လည်း ကော်လိုရားဒိုး ကျောက်မီးသွေးသပိတ် ကိစ္စတွင် ကိုယ်ထိလက်ရောက် ပါဝင်ဆင်နွှဲခဲ့သည်။ ထိုအကြောင်းကို အခြေခံ၍ 'ကျောက်မီးသွေးဘုရင်' ခေါ် ဝတ္ထုကြီးကို ၁၉၁၇ ခုနှစ်၌ ရေးသားခဲ့သေးသည်။ ဆင်ကလဲယားသည် ပြည်သူတို့၏လွတ်လပ်ခွင့်အတွက်လည်း အရေးဆိုခဲ့၍၊ ၁၉၂၃ ခုနှစ်တွင် တောင်ပိုင်းကာလီဖိုးနီးယားပြည်နယ်၌ အမေရိကန်ပြည်သူ့လွတ်လပ်ရေးသမဂ္ဂခွဲကို တည်ထောင်ခဲ့သည်။ အပွတန် ဆင်ကလဲယားသည် ၁၉၀၆ ခုနှစ်တွင်၎င်း၊ ၁၉၂၀ ခုနှစ်တွင်၎င်း ဆိုရှယ်လစ် အဖြစ်ဖြင့် အောက်လွှတ်တော်အမတ်အတွက် ယှဉ်ပြိုင်အရွေးခံခဲ့သည်။ ၁၉၂၂ ခုနှစ်၌လည်း အထက်လွှတ်တော်အမတ်အတွက် အရွေးခံခဲ့သည်။ ၁၉၂၆ ခုနှစ်တွင်တကြိမ်၊ ၁၉၃၀ ပြည့်နှစ်တွင်တကြိမ် ကာလီဖိုးနီးယားနယ် ဘုရင်ခံရာထူးအတွက်လည်း အရွေးခံသည်။ ၁၉၃၄ ခုနှစ်တွင် ကာလီဖိုးနီးယားနယ်၌ ဆင်းရဲခြင်းကိုငြိမ်းစေရန်ဟူသော ကြွေးကြော်သံဖြင့် ကာလီဖိုးနီးယားဘုရင်ခံရာထူးအတွက် ဒီမိုကရက်တစ် ပါတီ၏ နာမည်တင်သွင်းထောက်ခံခြင်းကို ခံယူခဲ့ရ၏။ သို့သော် မည်သည့်အခါမျှ ရွေးကောက်ခြင်း မခံခဲ့ရရှာချေ။



အဆိုအကနာမည်ကျော်ဇာတ်တော်ကြီးမင်းသမီး ဆင်ခိုးမကလေး

**ဆင်ခိုးမကလေး။** ။ဆင်ခိုးမကလေးသည် မြန်မာသဘင်လောကတွင် အဆိုအက နှစ်ဌာန၌ နာမည်ကျော်ကြားခဲ့သူ သဘင်ပညာရှင်တဦးဖြစ်သည်။ သူ၏ငယ်မည်မှာ မရွှေမြင့်ဖြစ်၍၊ သက္ကရာဇ် ၁၂၁၄ ခုနှစ်တွင် တောင်တွင်းကြီးမြို့၌ ဖွားမြင်၏။ ဆင်ခိုးမကလေးသည် ကိုယ်လုံးကိုယ်ပေါက် သေးသေးသွယ်သွယ်နှင့် အသားအရေ ညိုစိမ့်စိမ့်ရှိ၍၊ ချောမောလှပယဉ်ကျေးသည်။ ငယ်စဉ်ကပင် အက တတ်မြောက်၍၊ မြေဝိုင်းမင်းသမီး ဖြစ်ခဲ့၏။ ပဌမဦးစွာတွင် တောင်တွင်းကြီးမြို့ လယ်တော်အုပ်နှင့် အကြောင်းပါ၍၊ 'ညာဘွား' နှင့် 'သက်ထား' အမည်ရှိသော သားနှစ်ယောက်ကို ရသည်။ ထိုနောက် ၁၂၃၆ ခုနှစ်ခန့်တွင် မန္တလေးသို့တက်ရောက်ရာ၊ ရနောင်မင်းသားမြင်၍ သိမ်းပိုက်မည်ပြုလေသည်။ ထိုအခါ ဆင်ခိုးမကလေးက 'ကျွန်တော်မမှာ ငယ်လင်ယောကျ်ား လက်ရှိဖြစ်ပါသည်။ သူနှင့်ကွာရှင်းပြီးမှ အသိမ်းအပိုက်တော်ခံဝံ့ပါမည်' ဟုလျှောက်၍၊ ရနောင်မင်းသားသည် သားအကြီး ညာဘွားကို မန္တလေးတွင်ထားခဲ့စေပြီးလျှင် တောင်တွင်းကြီးသို့ လယ်တော်အုပ်နှင့်ကွာရှင်းရန် ဆင်ခိုးမကလေးကို ပြန်လွှတ်သည်။ တောင်တွင်းကြီး၌ လယ်တော်အုပ်နှင့်ကွာရှင်းပြီးနောက်၊ ဆင်ခိုးမကလေးသည် မိန်းမတဦးအား ငွေ ၅၀ဝိ ပေး၍၊ မိမိခင်ပွန်းဟောင်းကို မိမိကိုယ်စား ပြုစုရန်မှာကြားပြောဆိုရလေသည်။ ဤသို့စီစဉ်နေခိုက်တွင်ပင် ရနောင်မင်းသားက ကြာသည်ဟု ခြေမြန်တော်များလွှတ်၍ တောင်တွင်းကြီးမှ ဆင်နှင့်တင်၍ ခေါ်စေသည်။ ယင်းကိုအကြောင်းပြု၍ ဆင်ခိုးမကလေးဟု တွင်သည်။ လယ်တော်အုပ်မှာကား ဆင်ခိုးမကလေးကို တမ်းတ၍ ရူးမတတ်ဖြစ်လျက် ကျန်ရစ်ရှာလေသည်။

ရနောင်မင်းသားသည် ဆင်ခိုးမကလေးအား လွန်စွာမြတ်နိုးတော်မူသဖြင့် ဇနီး ၆ ယောက်တွင် အထူးပြု၍ အိမ်တော်သော့ကို အပ်သည်။ ရနောင်မင်းသားနှင့်သင့်မြတ်၍ ဖွားမြင်သောသားတော်တပါးမှာ အခါလည်အရွယ်တွင် သေဆုံးသွားသည်။ ရနောင်မင်းသားသည် မှုပြစ်မကင်း၍ ရာဇ

ဝတ်တော်သင့်သောအခါတွင် ဆင်ခိုးမကလေးသည်လည်း ရိုက်ဒဏ် ၁၃ ချက်ခံရ၏။ ထိုနောက် ရွှေလှံဗိုလ်အိမ်တွင် ခြေချင်းခတ်၍အချုပ်ချထားရာမှ သီပေါမင်း၏မိဖုရားခေါင်ကြီးအမိန့်နှင့် လွှတ်လိုက်လေသည်။ ဆင်ခိုးမကလေးသည် မိဖုရားခေါင်ကြီး၏ ချစ်မြတ်နိုးခြင်းကို ခံယူရ၏။ 'ဆင်ခိုး၊ ယိုးဒယားသင်စေ' ဟုမိန့်တော်မူ၍၊ ယိုးဒယားရာမ ဆရာဦးဖိုးမြထံတွင် ၃ နှစ် ပညာသင်ယူရလေသည်။ မိဖုရားခေါင်က 'နိုင်ငံတော်တွင် ဆင်ခိုးအပြင် မင်းသမီးမရှိစေနှင့်' ဟုပင် မိန့်၍ မြှောက်စားတော်မူသည်။ အကျဉ်းခံနေရသော ရနောင်မင်းသားသည် မိမိကိုယ်ကို ကတ်ကျေးဖြင့်ထိုး၍ အဆုံးစီရင်လိုက်ပြီးသည့်နောက်၌ မိဖုရားခေါင်ကြီးက ဆင်ခိုးမကလေးကို အိမ်ထောင်သစ်ချထားပေးမည်အပြုတွင် ဆင်ခိုးမကလေးက မိမိ၏ ခင်ပွန်းဟောင်း ရှိသေးကြောင်းနှင့် လျှောက်တင်သဖြင့် တောင်တွင်းကြီးရှိ လယ်တော်အုပ်ကို အမြန်ခေါ်စေ၍ ပြန်လည်လက်ဆက်ပေးလေသည်။

မြန်မာနိုင်ငံကို အင်္ဂလိပ်တို့ အုပ်စိုးသောအခါ၊ ဆင်ခိုးမကလေးသည် နာမည်ကြီး ဇာတ်တော်ကြီးထွက် မင်းသမီးဖြစ်သည့်အားလျော်စွာ မိမိပညာကို မတိမ်ကောစေအောင် ဇာတ်ထောင်၍ကပြရင်း ရှာဖွေစားသောက်ခဲ့ရရှာလေသည်။ မန္တလေးအပျက်တွင် အရှင်နှစ်ပါး ပါတော်မူကြောင်းကို ဖွဲ့နွဲ့သီဆိုခဲ့ရာ ဆုလပ်များစွာရခဲ့၏။ ထိုပြင်လည်း ရတနာဂီရိစံ သီပေါမင်းတရားကြီး၏သမီးတော်များ နားထွင်းမင်္ဂလာ ကျင်းပခဲ့စဉ်က ရတနာဂီရိသို့ သွားရောက်အသုံးတော်ခံခဲ့ရသည်။ ထိုနောက် ကြည့်မြင်တိုင် ငါးကျော်ဖိုမှ အရပ်လူကြီး မောင်မောင်ဘနှင့် အကြောင်းပါ၍ သားတယောက်ရ၏။

သားအကြီး မောင်ညာဘွားသည် လူ့ရှင်တော်ဘဝမှ ဆိုင်းဆရာဖြစ်လာပြီးနောက် ကုန်သည်လုပ်သည်။ သားအငယ် မောင်သက်ထားမှာမူ မိခင်ပညာကို ဆက်ခံ၍ ဇာတ်မင်းသားဖြစ်လာသည်။ နတ်မောက်၊ ကျောက်ပန်းတောင်းနှင့် တောင်တွင်းကြီးနယ်တွင် ဆင်ခိုးမကလေး၏အမည်ကို အထူးလူသိများသည်။ ဆင်ခိုးမကလေးသည် အဆိုအကပညာတွင် ပိုင်ပိုင်နိုင်နိုင်ရှိ၍၊ လက်ညှိုးထိုး ကရာ၌ အလွန်ယဉ်ကျေး၏။ အထူးသဖြင့် 'ခရာသံ' ဒိုးပတ်အက အလွန်ကောင်းသည်ဟုဆိုလေသည်။ အရွယ်ကြီးသည့်အချိန်တွင် စီးပွားရေး ချို့တဲ့၍၊ မိမိပညာ၏တန်ဖိုးကို အကျိုးမခံစားရဘဲ၊ ဆင်းရဲငြိုငြင်စွာ အသက် ၇၀ ကျော်အရွယ်၌ ကွယ်လွန်သွားလေသည်။

**ဆင်စွယ်**။ ။ဆင်စွယ်ကို လူတို့သည် အလှပြ ပန်းပုထည်များ ထုလုပ်ရန် ရှေးအခါကပင် သုံးစွဲလာခဲ့ကြသည်။ အီဂျစ်လူမျိုးများ ကောင်းစားစဉ်ခေတ်က ဆင်စွယ်ဘီး၊ ဆင်စွယ်ဆံထိုး အစရှိသော အသုံးအဆောင်များကို အသုံးပြုခဲ့ကြကြောင်း မှတ်တမ်းများတွင်တွေ့ရ၏။ ဆောလမွန်ဘုရင်သည် ဆင်စွယ်အတိပြီးသော ရာဇပလ္လင်တခုကို ထုလုပ်ခဲ့သည်ဟုအဆိုရှိသည်။ ရှေးတရုပ်လူမျိုးများသည် ဆင်စွယ်အသုံးအဆောင်များကို အမြတ်တနိုး အသုံးပြုခဲ့ကြ၍၊ တရုပ်မင်းများ ကိုယ်တိုင်က ဆင်စွယ်လုပ်ငန်းကို အထူးချီးမြှင့်မြှောက်စားခဲ့ကြသည်။ ခရစ်တော်မပေါ်မီ နှစ်ပေါင်း ၁၀၀၀ ကျော်က နင်နီဗီမြို့၌ အဆီးရီးယန်းလူမျိုးများ ထုလုပ်အသုံးပြုခဲ့ကြသော ဆင်စွယ်အသုံးအဆောင်များကို ဗြိတိသျှပြတိုက်ကြီးတွင် ယခုတိုင်တွေ့မြင်နိုင်သည်။ ၁၃ ရာစုနှစ်နှင့် ၁၄ ရာစုနှစ်များအတွင်း၌ ထွန်းကားခဲ့သည့် ဂေါ်သသုခုမပညာတွင် ဆင်စွယ်ဖြင့်ထုလုပ်ခဲ့သော ရုပ်လုံးများမှာ အလွန်လှပ၍ လက်ရာကောင်းမွန်သည့်အတွက် ထင်ရှားခဲ့လေသည်။

ဥရောပတိုက်သို့ တင်သွင်းကြသော ဆင်စွယ်များကို အများအားဖြင့် အာဖရိကတိုက်မှ ရရှိသည်။ ဆင်စွယ်အချို့ကို အိန္ဒိယပြည်မှလည်းတင်ဆောင်ကြ၏။ အာရှတိုက်၊ အမေရိကမြောက်ပိုင်းနှင့် အထူးသဖြင့် ဆိုက်ဗီးရီးယားနယ်မြောက်ပိုင်းတို့တွင် ရေခဲဖုံးနေသောမြေအောက်၌ ရှေးနှစ်ထောင်ပေါင်းများစွာက နစ်မြုပ်နေသည့် မမ္မုတ်နှင့် မတ်စတိုဒွန်ခေါ် ရှေးဆင်ရိုင်းအသေကောင်များမှလည်း ဆင်စွယ်အများအစား တူးဖော်ရရှိသည်။ သို့သော် ယခုခေတ် ဆင်စွယ်တို့လောက် အမျိုးအစား မကောင်းချေ။ ဆိုက်ဗီးရီးယားနယ်ရှိ အဆိုပါဆင်စွယ်များကို လွန်ခဲ့သည့်နှစ်ပေါင်း ၂၀၀ ခန့်က စတင် တူးဖော်ခဲ့ကြသော်လည်း၊ ယခုတိုင်အောင် ကုန်ခန်းသည်ဟူ၍ မရှိသေးပေ။ ထို့ကြောင့် ကမ္ဘာတွင် လူတို့သတ်ဖြတ်သည့်အတွက် လက်ရှိဆင်များ မျိုးပြုတ်သွားသည့်တနေ့တွင် ထိုဆင်စွယ်များကိုပင် အားထားကြရပေမည်။ ကမ္ဘာပေါ်၌ ဆင်စွယ်ကို အများဆုံးရောင်းဝယ်သော မြို့ကြီးနှစ်မြို့မှာ လန်ဒန်မြို့နှင့် အန်တွပ်မြို့များ ဖြစ်ကြ၏။ ထိုမြို့ကြီးနှစ်မြို့ထွင် တနှစ်တနှစ်လျှင် ဆင်စွယ်တန်ချိန် ၁၀၀၀ မျှ အရောင်းအဝယ်ဖြစ်ကြသည်ဟုသိရလေသည်။

ဆင်စွယ်ရရှိရာအရပ်ဒေသကိုလိုက်၍ ဆင်စွယ် အကောင်းအညံ့ရှိသည်။ အကောင်းဆုံးအမျိုးအစားမှာ အာဖရိကတိုက်အရှေ့ပိုင်းမှရသည့် ဆင်စွယ်မျိုးပင်ဖြစ်၏။ အာဖရိကတိုက်မှရရှိသော ဆင်စွယ်အကောင်းစားကို လတ်လတ်ဆတ်ဆတ် ပိုင်းဖြတ်ကြည့်လျှင် အသား အလွန်ညက်၍၊ အလင်းထိုးဖောက်ဝင်ရောက်နိုင်ကြောင်း တွေ့ရမည်။ အာရှတိုက်မှ ဆင်စွယ်များမှာ ပို၍ဖြူ၏။ သို့သော် အသား အနည်းငယ်ပွ၍၊ မကြာမီ အဝါရောင် သန်းလာတတ်ပြီးလျှင်၊ အရောင်တင်ရန်လည်း အာဖရိကဆင်စွယ်လောက် မလွယ်ကူဟု ဆိုလေသည်။ ညီညာလျက် ပုံပန်းကျ၍၊ မကောက်လွန်း မ

လိမ်လွန်းသော ဆင်စွယ်များ၊ အပေါ်ယံအလွှာချောမွတ် ပါးလွှာကြည်လင်လျက် အလင်းပေါက်သော ဆင်စွယ်များသည် သာမန်ဆင်စွယ်တို့ထက် ပို၍ဈေးကောင်းရတတ်သည်။

ဆင်စွယ်တွင် အမာနှင့်အပျော့ နှစ်မျိုးရှိ၏။ သို့သော် တိတိကျကျ ခွဲခြားဖော်ပြရန်မှာ မလွယ်ကူချေ။ ယေဘုယျအားဖြင့် ပြောရသော်၊ ဆင်စွယ် အမာမျိုးသည် ဖန်ကဲ့သို့ အသွင်အပြင်ရှိ၍ အလင်းပေါက်သည်။ ခွဲစိတ် ဖြတ်တောက်ရာ၌ ပိုမိုမာကျောသည်။ ဆင်စွယ်အပျော့စားမှာ ရေငွေ့ပိုမိုပါရှိ၍၊ ရာသီဥတုနှင့် အပူအအေး ပြောင်းလဲမှုဒဏ်ကို ပိုမိုခံနိုင်ရည် ရှိပြီးလျှင်၊ လွယ်ကူစွာနှင့် ကွဲအက်ခြင်းမရှိပေ။ အာဖရိကတိုက်တွင် ဆင်စွယ်အပျော့မျိုးကို အရှေ့ပိုင်းမှ၎င်း၊ အမာမျိုးကို အနောက်ပိုင်းမှ၎င်း ရရှိတတ်သည်။ ဆင်စွယ်များကို ကန့်လန့်ဖြတ်ကြည့်လျှင် အရောင်အမျိုးမျိုးသန်း၍၊ အရစ်အရစ်ဖြစ်နေသော စက်ဝိုင်းပုံအစင်းကြောင်းများကို တွေ့နိုင်၏။ ဤအမှတ်အသားမျိုးပါမပါကိုကြည့်ခြင်းဖြင့် ဆင်စွယ်အတုနှင့် အစစ်ကို အလွယ်တကူပင်ခွဲခြားသိရှိနိုင်ပေသည်။

ဆင်စွယ်ပင်မဟုတ်သော်လည်း ဆင်စွယ်ကဲ့သို့အသုံးပြုနိုင်သော ဆင်စွယ်အတုများကို ရေမြင်း၊ တောဝက်၊ ဝါးလရပ်ဖျံ၊ နာဝှလင်းပိုင်၊ စပမ်းဝေလငါးတို့၏ အစွယ်များမှရရှိသည်။ သို့သော် ယင်းတို့အားလုံးပင် ဆင်စွယ်အစစ်ကို မမှီကြပေ။ တိရစ္ဆာန်များမှရရှိသည့် ဆင်စွယ်တုများအပြင်၊ အပင်မှရရှိသော ဆင်စွယ်တုနှင့် ဓာတ်ပစ္စည်းများဖြင့်ချက်လုပ်ယူသော ဆင်စွယ်တုများလည်းရှိသေးသည်။ ဆင်စွယ်



မြန်မာနိုင်ငံထွက်ကုန်တရပ်ဖြစ်သော ဆင်စွယ်များ

တုရရှိသောအပင်များမှာ တောင်အမေရိကတိုက် အပူပိုင်းဒေသတွင် ပေါက်ရောက်တတ်သော ဖိုက်တီလီဖတ် ခေါ် အပင်နှင့် အမေရိကတိုက်အလယ်ပိုင်းမှ အက်တေးလီယာ ခေါ် အပင်တို့ဖြစ်ကြ၏။ ထိုအပင်များမှာ ထန်းမျိုးတွင် ပါဝင်၍၊ လူဦးခေါင်းအရွယ်ခန့်ရှိသော အသီးများ သီးလေ့ရှိသည်။ အသီးတလုံးတလုံးတွင် အစေ့ သို့မဟုတ် အဆန်များစွာပါရှိ၍၊ ရင့်မှည့်သောအခါ ဆင်စွယ်တမျှ မာကျောလာသည်။ ယင်းတို့ကို ကြယ်သီး၊ ထီးလက်ကိုင်စသော အသုံးအဆောင်များပြုလုပ်နိုင်လေသည်။ ဓာတ်ပစ္စည်းများမှ ချက်ယူရရှိသော ဆင်စွယ်တုများတွင် ဆဲလျူလွိုက်မှရရှိသောဗွန်ဇိုလင်နှင့် နို့မှရရှိသော ဂလာလစ်တို့မှာ အထင်ရှားဆုံးဖြစ်ကြ၏။

ဆင်စွယ်သည် အဖိုးတန်သည်နှင့် အမျှ မည်သည့်အစိတ်အပိုင်းကိုမျှ စွန့်ပစ်ရသည်မရှိအောင် အသုံးဝင်သည်။ ဆင်စွယ်ကို အထူးသဖြင့် ဗိလယက်ဘောလုံး၊ စန္ဒရားခလုတ်၊ စာအုပ်တန်းထိန်း၊ ထီးရိုး၊ ဓားရိုး၊ စာအိတ်ဖွင့်ဓား၊ စီးကရက်သောက်တံစသည့် လူသုံးပစ္စည်းများအပြင်၊ ရုပ်လုံးစသည့် အလှအပ အသုံးအဆောင်များ ပြုလုပ်ကြသည်။ ဗိလိယက်ဘောလုံးလုပ်သော ဆင်စွယ်မှာ အကောင်းဆုံး အစားဖြစ်၍၊ အာဖရိကဆင်စွယ် အပျော့စားမျိုးဖြစ်၏။ သာမန်ဆင်စွယ်တချောင်းမှ ဗိလယက်ဘောလုံး သုံးလုံးသာ ပြုလုပ်နိုင်သည်ဟုဆိုသည်။ ဆင်စွယ်ကိုတိုက်ဖြတ်ရာ၌ ရရှိသောအမှုန့်များကို အရောင်တင် ဆေးမှုန့် အဖြစ်အသုံးချ၍၊ မင်တမျိုးကိုလည်း ပြုလုပ်နိုင်သည်။ အစအနများကိုမူ အခြားပစ္စည်းများတွင် မြှုပ်နှံ၍ အကွက်ဖော်ရန်နှင့် အခြား အလှသုံးပစ္စည်းအသေးစားများ ပြုလုပ်ရာ၌ အသုံးချရလေသည်။



ဆင်စွယ်ပန်းခက်ပန်းနွယ်များကို စိတ်ရှည်စွာအနုစိတ်ဖော်နေသည့် ပန်းပုပညာသည်တဦး

မြန်မာနိုင်ငံ၌ ဆင်စွယ်ကို အဖျားမှအရင်းအထိ ပန်းခက်ပန်းနွယ်များ၊ ရုပ်လုံးများကို စွယ်စုံပန်းပုထု၍၊ ဘုရားကျောင်းဆောင်များ၌ လှူဒါန်းခြင်း၊ အိမ်များ၌ အလှအပထားခြင်းဓလေ့ ရှိခဲ့ပေသည်။ ဆင်စွယ်ရုပ်လုံးများ၊ လှေ၊ လှည်းသဏ္ဌာန်များကို အလှအပပစ္စည်းငယ်များ အဖြစ်ဖြင့်လည်း ပန်းပုထုကြသည်။ လူသုံးပစ္စည်းအဖြစ်ဖြင့် ဆင်စွယ်ဘီး၊ ဆင်စွယ်ကြယ်သီး၊ ဆင်စွယ်ဆံထိုး၊ ဆင်စွယ်ပုတီးများ ပြုလုပ်၍လည်း သုံးစွဲကြသည်။

**ဆင်တာရာ။** ။တာရာကြီးကိုးလုံး — ရှု။

**ဆင်တုံးမနွယ်ပင်။** ။ဆင်တုံးမနွယ်ပင်ကို ရုက္ခဗေဒ အလိုအားဖြင့် 'တီနိုစပိုးရား ကော့ဒီဖိုးလီးယား' ဟုခေါ်သည်။ မျိုးရင်းမှာ 'မင်နီစပါမေးစီအီး' ဖြစ်သည်။ ဆင်တုံးမနွယ်



ဆေးဖက်ဝင်သည့် ဆင်တုံးမနွယ်ပင်

ပင်သည် အခြားအပင်များပေါ်သို့ နွယ်တက်တတ်သော ချုံပင်မျိုးဖြစ်သည်။ ပင်စည်သည် အရည်ရွှမ်း၏။ အခေါက်ထူ၏။ အပွင့်ဝါ၍ အသီးနီ၏။ ဖေဖွာရီလနှင့် မေလတို့အတွင်း ပွင့်သည်။ ဆင်တုံးမနွယ်ပင်များကို မြန်မာနိုင်ငံ အရပ်ရပ်တွင် တွေ့ရသည်။ ဆင်တုံးမနွယ်အရွက်နှင့်အခေါက်ကို အရေပြားရောဂါ၊ အဖျားရောဂါ၊ ဆစ်ဖလစ်ရောဂါတို့ကို ကုသရာတွင် အသုံးပြုကြသည်။

**ဆင်နင်းသရက်ပင်။** ။ရုက္ခဗေဒသဘောအရ၊ ဆင်နင်းသရက်ပင်သည် 'အန်နကားဒီယေးစီအီး' မျိုးရင်းတွင်ပါဝင်၍၊ ယင်းကို 'မန်ဂျီဖီးရား ဆီလဗားတီးကား' ဟုခေါ်သည်။ ဆင်နင်းသရက်ပင်သည် အမြဲစိမ်း အပင်မျိုးဖြစ်သည်။ အများအားဖြင့် အခြားသရက်ပင်ထက်ကြီးသည်။ ပေ ၆၀ မှပေ ၇၀ အထိမြင့်သည်။ လုံးပတ်သည် ယေဘုယျအားဖြင့် ၆ ပေမှ ၇ ပေအထိရှိသော်လည်း၊ ထိုထက်လုံးပတ်ကြီးသောအပင်ကိုလည်း တွေ့ရသေးသည်။ အပင်တွင် အရွက်များအုပ်အုပ်ဆိုင်းဆိုင်းရှိသည်။ အရွက်မှာ လှံသွားပုံသဏ္ဌာန်ဖြစ်သည်။ အသီးမှာပြား၍ မှည့်လာသောအခါ အဝါရောင်ရှိသည်။ အစေ့မှာ သာမန်သရက်စေ့ထက် ကြီးသည်။ ဆင်နင်းသရက်သားသည် မွဲပြာရောင်ရှိ၍ ပျော့သည်။ ယင်းကို လှေ၊ သေတ္တာတို့လုပ်ရာတွင် အသုံးပြုသည်။ သို့သော် ထိုသရက်သားကိုအသုံးမများလှချေ။

အာရှတိုက်အရှေ့တောင်ပိုင်းနှင့် အပူပိုင်းဒေသတွင် ဆင်နင်းသရက်ပင်များ ပေါက်ရောက်သည်။ မြန်မာနိုင်ငံတွင် တောင်ငူအရှေ့ပိုင်း၊ ပဲခူးရိုးမတောင်တန်းများ၌၎င်း၊ ပေ ၂,၀၀၀ မြင့်သောမြစ်ချောင်းကမ်းပါးတို့၌၎င်း ပေါက်သည်။

မြန်မာနိုင်ငံတွင် ဆင်နင်းသရက်ကို အများအားဖြင့် တို့စရာ အဖြစ်ဖြင့် တို့စားလေ့ရှိကြသည်။ အချို့နိုင်ငံများတွင် ဆင်နင်းသရက်တမျိုးကို အခြောက်လှန်း၍ သဘော်ဆီးသီးခြောက်ကဲ့သို့ စားသုံးကြသည်။

**ဆင်ပိုး။** ။ဆင်ပိုးသည် ပိုးတောင်မာဖြစ်သည်။ 'ရင်ခိုဖိုးရား' ခေါ် ဆင်ပိုးမျိုးရင်းတွင် ပိုးတောင်မာအငယ်စားမျိုးပေါင်း ၂၅၀၀၀ ကျော်ရှိသည်။ ဤမျှများပြားသော ပိုးတောင်မာတို့အနက် လူကိုကောင်းကျိုးပေးသောအမျိုးတမျိုးမျှ မပါရှိပေ။ စင်စစ်အားဖြင့်ကား လူတို့၏အကျိုးကိုဖျက်ဆီးကာ အနှောင့်အရှက်အပေးဆုံး တိရစ္ဆာန်မျိုးပင်ဖြစ်သည်။ ဆင်ပိုးသည် သေးမွှားသောသတ္တဝါကလေးများဖြစ်ရာ၊ မျက်စိဖြင့် အလွယ်တကူမမြင်နိုင်ပေ။ သို့သော် ဆင်ပိုးကို ခွဲခြားသိသာရန်လွယ်သည်။ ဦးခေါင်းသည် နှုတ်သီးကဲ့သို့ ရှည်လျားသည်။ အချို့အကောင်များတွင် တိုတုတ်သောဦးခေါင်းရှိသည်။ သို့သော် 'ကာကူလီအွန်းနီဒီး' မျိုးရင်းဝင် ဆင်ပိုးအစစ်တွင် ဦးခေါင်းသည် ကိုယ်လုံးထက်ပင် ရှည်လျားတတ်သည်။ မွေးခါစဆင်ပိုးကလေးများသည် သစ်သီးအတွင်း၌နေ၍ အသားကိုစားကြသည်။ ဆင်ပိုးကလေးများရှိသောသစ်သီးတို့သည် အများအားဖြင့် ရစရာမရှိအောင် ပျက်စီးသွားကြသည်။

ဆင်ပိုးကလေးများက သစ်သီးအတွင်းကိုစားနေစဉ် ဆင်ပိုးကြီးများက သစ်ပင်၏အစို့၊ အရွက်၊ အခေါက်တို့ကိုစားတတ်ကြသည်။ သစ်ပင်၊ ချုံဖုတ်တို့အပေါ်တွင် ဆင်ပိုးတို့



ဆင်ပိုးသည် ပိုးဥ (ဝဲ) ဘဝမှ ပိုးတုံးလုံး (လယ်) အဆင့်သို့ရောက်ပြီးနောက် အင်္ဂါစုံပိုး (ယာ) ဖြစ်လာသောခါ၌ ဝါ၊ ဆန်၊ ပြောင်းနှင့် သစ်သီးတို့ကို ကြီးစွာဖျက်ဆီးလေ့ရှိသည်။

ရာလိုက် ထောင်လိုက် ရှိနေစေကာမူ၊ ယင်းတို့ကို ရုတ်တရက်မမြင်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော် ဆင်ပိုးသည် ကိုယ်လုံး သေးငယ်ရုံမျှမက အရောင်မှာလည်း အပင်နှင့်ခွဲမရအောင် တူသောကြောင့်ဖြစ်သည်။ ဆင်ပိုး၏အရောင်မှာ အစိမ်းပုပ်ရောင်၊ မီးခိုးရောင်၊ ချောကလက်ရောင်စသည်တို့ ဖြစ်၏။

'ဗိုး ဝီးဗဲ ' ခေါ် ဝါသီးစားပိုးသည် အဖျက်ဆီး အသန်ဆုံးသော ဆင်ပိုးမျိုးဖြစ်၏။ ထိုပိုးသည် ½ လက်မမျှသာ ရှိ၏။ ထိုပိုးတို့ကြောင့် ဝါပင်စိုက်ပျိုးသောတိုင်းပြည်များတွင် တနှစ်တနှစ်လျှင် ဝါပင်အမြောက်အမြား ပျက်စီးဆုံးပါးကြရ၏။ ဝါသီးစားပိုးသည် ဝါပင်၏အဖူး အညှောက်ထဲတွင် ဥ အုသည်။ ဥမှပေါက်လာသောဆင်ပိုးကလေးများသည် ဝါဖူးကို စားကြသည်။ မိခင် ဆင်ပိုးမများက ဝါသီးကိုစားကြသည်။

ဆင်ပိုးမျိုး မြောက်မြားစွာရှိရာ၊ ယင်းတို့ကို ဖျက်ဆီးလေ့ရှိသော အပင်အမည်နှင့်တွဲ၍ မှည့်ခေါ် တတ်ကြသည်။ ပမာအားဖြင့် ဆန်ပိုး၊ ပြောင်းပိုးစသည်တို့ဖြစ်သည်။ ထိုပိုးမျိုးတို့အပြင် သစ်ရွက်လိပ် ဆင်ပိုးမျိုးလည်း ရှိသေး၏။ ထိုပိုးမျိုးသည် သစ်ရွက်ကိုဖေါက်စားပြီးလျှင် ကျန်အရွက်ပိုင်းကို လိပ်၍တင်ထားသည်။ ထိုအလိပ်အတွင်း၌ ဥများကို အုထားတတ်သည်။

**ဆင်ပေါင်ဝဲမြို့**။ ။ဆင်ပေါင်ဝဲမြို့သည် သရက်ခရိုင်၊ အာလံနယ်ပိုင် ဆင်ပေါင်ဝဲမြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ ဧရာဝတီဖြစ်၏ အရှေ့ဖက်ကမ်းတွင် တည်ရှိ၏။ မြန်မာမင်းများရှိစဉ်အခါက ဆင်ပေါင်ဝဲမြို့နယ်ကို မြေထဲစီရင်စုဟု ခေါ်ခဲ့သည်။ ဆင်ပေါင်ဝဲမြို့နယ်၏နယ်နိမိတ်မှာ မြောက်ဖက်၌ မကွေးခရိုင်၊ အရှေ့ဖက်၌ မကွေးနှင့် ရမည်းသင်း ခရိုင်၊ တောင်ဖက်၌ အာလံမြို့နယ်၊ အနောက်ဖက်၌ ဧရာဝတီမြစ်ဖြစ်သည်။ ဧရိယာအကျယ်အဝန်းမှာ စတုရန်းမိုင် ၁၇၇၃ မိုင်ခန့်ရှိသည်။ ၁၉၅၆ ခုနှစ် ခန့်မှန်းခြေ သန်ကောင်စာရင်းအရ ဆင်ပေါင်ဝဲမြို့နယ်၏လူဦးရေမှာ ၄၉,၂၄၇ ယောက်ခန့်ဖြစ်၏။ ဆင်ပေါင်ဝဲမြို့နယ်ကို မြန်မာမင်းများအုပ်ချုပ်စဉ်အခါက မြို့မ၊ တပ်တော်ရာ၊ ခေါသမ္မီ၊ အောက်ဖက်ဟူ၍ တိုက်နယ် ၄ တိုက်ခွဲထားခဲ့သည်။ ၁၈၈၆ ခုနှစ်၌ ဗြိတိသျှတို့သိမ်းပိုက်ပြီးနောက်တွင် တိုက်နယ် ၁၀ ခု ခွဲလိုက်သည်။

ဆင်ပေါင်ဝဲမြို့၏အောက်ဖက် ၁၉ မိုင်ခန့်အကွာတွင် ဆန်ပုံတောင်ရှိသည်။ အောက်ရပ်ဒေသမှ ဆန်တက်လာကြသောကုန်လှေများသည် ထိုနေရာသို့ရောက်လျှင် ပါလာသောဆန်စသည့် ဝန်စည်များကို တောင်ခြေရင်းတွင် ပုံပြီးမှ လှေခွက်ချည်း ဤနေရာရှိရေစီးကို လွန်အောင်ဆွဲယူရသည်။ ဤသည်ကိုအစွဲပြု၍ ဆန်ပုံတောင်ခေါ် သည်ဟုအဆိုရှိ၏။

ဆင်ပေါင်ဝဲဟူသော အမည်မှာ ဆင် ဖြင့် ပေါင်၍ ဆွဲယူရအောင် ကြီးသောဝဲရှိခြင်းကြောင့်ဟု အဆိုရှိသည်။ မြန်မာသက္ကရာဇ် ၄၅၅ ခုနှစ်၌ ပုဂံတွင် နန်းတက်ခဲ့သော ဘုရင်နရပတိစည်သူမင်းကြီးသည် ဖေါင်စကြာဖြင့် တိုင်းခန်းလှည့်လည်ရာမှအပြန်တွင် ဤနေရာသို့ရောက်သောအခါ၊ ဖေါင်တော်သည် ကြီးမားသောဝဲတခုကို မကျော်လွန်နိုင်သဖြင့် ဆင်များဖြင့် ကုန်းပေါ်မှဆွဲယူခဲ့ရသည်။ ထိုသို့ဆွဲယူပြီးနောက် ဖေါင်တော်ဆိုက်ကပ်ရာဒေသ၌ ဖေါင်တော်ဦး အမည်ဖြင့် စေတီတဆူ တည်ထားခဲ့သည်ဟုဆိုသည်။

ဆင်ပေါင်ဝဲမြို့မှ အထက်တမိုင်လောက်အကွာတွင်လည်း ရွှေစစ်အောင်ဘွဲ့တော်ချီ စေတီတဆူရှိ၏။ ထိုစေတီမှာ ဒုတ္တပေါင်မင်းကြီးသည် ပန်ထွာမင်းသမီးကိုအောင်နိုင်ပြီး အပြန်တွင် တည်ထားသောဘုရားဖြစ်သည်ဟု သမိုင်းကဆိုသည်။ အခြား တန်ခိုးကြီးဘုရားနှစ်ဆူမှာ ရှင်ပင်စကြာဘုရားနှင့်

ရွှေမုဋ္ဌောဘုရားများဖြစ်သည်။ ရှင်ပင်စာကြိုဘုရားမှာ ပုဂံပြည့်ရှင် နော်ရထာစောဘုရင်သည် သထုံမှ ပိဋကတ်တော်များပင့်ဆောင်လာသောတပ်တော်များကို တွေ့ဆုံကြိုဆိုရာ၌ တည်ထားသည်ဟုဆို၏။ ရှင်ပင်စာကြိုဘုရားမှာ ဆင်ပေါင်ဝဲမှ အောက်ဖက် ၁၀ မိုင်ကွာတွင် တည်ရှိသည်။ ရွှေမုဋ္ဌောဘုရားမှာ ဆင်ပေါင်ဝဲမြို့မှ အောက်ဖက် ၁ မိုင်အကွာတွင်တည်ရှိ၏။ ထိုစေတီကို သီရိဓမ္မာသောကမင်းကြီး တည်ထားသော ရှစ်သောင်းလေးထောင်သောဘုရားများတွင်ပါဝင်သောစေတီတဆူဟု ပြောဆိုကြသည်။

ဆင်ပေါင်ဝဲမြို့သည် ကုန်းဘောင်ခေတ် ဒုတိယပိုင်း၌ ထင်ရှားသော စာဆိုတော် ဦးကြင်ဥ၏ ဖွားရာဇာတိလည်း ဖြစ်ပေသည်။

**ဆင်ဖြူကျွန်းမြို့**။ ။ဆင်ဖြူကျွန်းမြို့သည် စလင်းမြို့အရှေ့မြောက် ၆ မိုင်ကျော်ခန့်အကွာ ရောဝတီမြစ်နှင့် စလင်းမြစ်တို့ တွေ့ဆုံရာဆိပ်ကမ်းအနီး၌ တည်ရှိသည်။ ရှေးမြန်မာဘုရင်များလက်ထက်နှင့် အထူးသဖြင့် ဘကြီးတော် (မြန်မာ ၁၁၈၁-၁၁၉၉) လက်ထက်တို့တွင် ဆင်ဖြူများရရှိရာဒေသ ဖြစ်၍၊ ဆင်ဖြူကျွန်းဟု တွင်ခဲ့သည်မှာ ယနေ့တိုင် အမည်ထင်ရှားလျက်ရှိလေသည်။

**ဆင်ဖြူရှင်**။ ။ရှေးအခါက စစ်တပ်ဖွဲ့ရာတွင် ဆင်တပ်၊ မြင်းတပ်၊ ရထားတပ်၊ ခြေသည်တပ် ဟူ၍ စစ်အင်္ဂါလေးပါးထားသည်။ ထိုစစ်အင်္ဂါလေးပါးတွင်လည်း ဆင်တပ်သည် အလွန်အရေးကြီးပေသည်။ ထို့ကြောင့် ဟတ္ထိ သမော၊ ဆင်နှင့်တူသော။ ယောမေါ၊ သူရဲသည်။ နတ္ထိ၊ မရှိ။ ဟတ္ထိသမော၊ ဆင်နှင့်တူသော။ သခါ၊ စစ်မြေ၌အပေါ် သဟဲသည်။ နတ္ထိ၊ မရှိ။ ဟတ္ထိသမော၊ ဆင်နှင့်တူသော။ ဗန္ဓု၊ စစ်မြေ၌ အဆွေခင်ပွန်းမည်သည်။ နတ္ထိ၊ မရှိ။ ဟတ္ထိသမံ၊ ဆင်နှင့်တူသော။ ဗလံ၊ ဗိုလ်ပါမည်သည်။ နတ္ထိ၊ မရှိ။ ဟူ၍ရှင်း၊ ရာဇူနံ၊ မင်းတို့၏။ သဂင်္ဂ၊ ဆင်ရတနာနှင့်ပြည့်စုံခြင်းသည်။ သောဘနံ၊ တင့်တယ်သော။ ဗလံ၊ ခွန်အားမည်၏။ ဟူ၍ရှင်း ရာဇသောဝက ဒီပနီစသောကျမ်းဂန်တို့၌လာသည်။ ထို့ကြောင့်လည်း မဇ္ဈိမဒေသမင်းများမှစ၍ မြန်မာမင်းများ၊ သီဟိုဠ်မင်းများ၊ ယိုးဒယားမင်းများသည် ဘုန်းတန်ခိုး ကြီးရာကြီးကြောင်းအတွက် ဆင်ရတနာကို နှစ်သက်လိုလားကြပေသည်။

ဆင်တွင်လည်း ကာလာဝကဆင်၊ ဂင်္ဂေယျဆင်စသည်ဖြင့် ဆယ်မျိုးရှိပြန်ရာ၊ ထိုဆယ်မျိုးတွင် ဥပေါသထနှင့် ဆဒ္ဒန်ဆင်မျိုးတို့သည် အမြတ်ဆုံးဖြစ်ကြပေသည်။ ထိုဆင်နှစ်မျိုးမှာ အရောင်အားဖြင့် ဖြူကြကုန်သည်။ သာသနာတော်ကျမ်း တို့အရ ကြာဖြူပုဏ္ဍရိက် အဆင်းနှင့် တူကြကုန်



ဆင်ဖြူကျွန်းမြို့မြောက်ရပ်ရှိ ဆုတောင်းပြည့်စေတီတော်



ဘိုးတော်ဘုရားလက်ထက် (၁၁၄၃—၁၁၈၁) အမရပူရနန်းရင်ပြင်သို့ ဆင်ဖြူတော်ရတနာကို ဆောင်ကြဉ်းလာစဉ်

သည်။ လောကီဂဇကြန္ထကျမ်းများတွင်မူ ဥပေါသထဆင်သည် ဖွပ်သစ်စပုဆိုးဖြူနှင့် တူသောအဆင်း ရှိ၏။ ဆဒ္ဒန်ဆင်သည် ငွေမင်းစံနှင့် တူသောအဆင်းရှိ၏ဟု ဆိုသည်။ ထို့ကြောင့် အဆိုပါမင်းတို့သည် ဥပေါသထမျိုး၊ ဆဒ္ဒန်မျိုးဖြစ်သောဆင်ဖြူတို့ကို အထူးနှစ်သက်လိုလားကြပေသည်။

ထိုမှတပါးလည်း ဆင်ဖြူနှင့်ပတ်သက်၍ ကျမ်းဂန်၌ အထူးဆိုမိန့်ကြပြန်သေးသည်။ ဥပမာအားဖြင့်ကား ဝေဿန္တရာ ဇာတ်တော်တွင် တဿ၊ ထိုမင်းကြီးအား။ သဗ္ဗသေတော၊ ကိုယ်လုံးဖြူသော။ မင်္ဂလဟတ္ထိ၊ မင်္ဂလာရှိသောဆင်သည်။ အတ္ထိကိရ၊ ရှိသတတ်။ တဿ၊ ထိုဆင်၏။ဂတဂတဋ္ဌာနေ၊ သွားလေရာ သွားလေရာအရပ်၌။ ဒေဝေါ၊ မိုးသည်။ ဝဿိကိရ၊ ရွာသတတ်ဟု ဆင်ဖြူ၏ဂုဏ်ကို ဆိုသည်။ ဒုမ္မေဓဇာတ်၌လည်း အလုံးစုံဖြူသော ဆင်မြတ်မည်သည်ကား စကြဝတေးမင်းအားလျောက်ပတ်၏ဟုဆိုသည်။

ထို့ကြောင့်လည်း မဇ္ဈိမဒေသ ယဉ်ကျေးမှုမှ ဆင်းသက်လာသော မြန်မာနိုင်ငံ ယဉ်ကျေးမှုတွင် ဆင်ဖြူတော်သည် ကျက်သရေမင်္ဂလာ ပြုရေးအတွက်၎င်း၊ စစ်ရေးမက်ရေး အတွက်၎င်း၊ တိုင်ပြည်သာယာဝပြောရေးအတွက်၎င်း အလွန်အရေးပါ အရာရောက်ခဲ့ပေသည်။ ပျူလူမျိုးတို့ဒေသ သရေခေတ္တရာပြည်တွင် သံတောင်တရာခန့်မြင့်သော ဆင်ဖြူရုပ်ရှိ၍၊ ဘေးဥပဒ်တစုံတရာ ကပ်ရောက်သောအခါ ပြည့်ရှင်မင်းနှင့် တိုင်းသူပြည်သားတို့သည် ထိုဆင်ဖြူရုပ်ကို ပူဇော်ကန်တော့လျက် ဆုမွန်ကောင်း တောင်းကြသည်ဟု တရုပ်တို့၏မှတ်တမ်းများကထွက်ရှိသည်။ အနော်ရထာမင်းတရားကြီးသည် သထုံပြည်မှ ဆင်ဖြူတော် ၁၂ စီးကို ပုဂံပြည်သို့ ယူဆောင်ခဲ့ဘူးသည်။ ပင်းယ၊ သီဟသူမင်းသည် အသက်နှင့်ဆင်ဖြူကိုမရနိုင်၍ စမုံမြစ်ဝယ်မျောလာသောဆင်ဖြူကိုပင် စက်ဖြင့်ထူပြီးသော် ရတနာကတင်၍ စီးပြီးလျှင် တစီးရှင်ဟူသောအမည်ကို ခံယူသည့်ထုံးလည်း ပေါ်ပေါက်ခဲ့ဘူးသည်။ ထိုပြင်လည်း ညီတော် ပင်လယ်စားကျော်စွာသည် ဆင်ဖြူငါးစီးကိုရသည်ဟု ကြားလျှင် နောင်တော်ပုဂံမင်း ဥဇနာသည် ခန့်ညားရှုံ့ရှာသည်ဖြစ်၍ ညီတော်အား ထီးနန်းလွှဲအပ်ပေးသည့်ထုံးလည်း ရှိခဲ့ဘူးသည်။ ကျော်စွာလည်း ငါးစီးရှင်ဟူသော အမည်ကိုခံယူသည်။

ဆင်ဖြူကြောင့် မဟာမိတ်ဖြစ်ရပုံ၊ ဆင်ဖြူကြောင့်ပင် ရန်စစ်ကြီးစွာ ခင်းခဲ့ရပုံတို့သည်လည်း သီဟိုဠ်၊ မြန်မာ၊ မွန်၊ ယိုးဒယားရာဇဝင်တလျှောက်တွင် များစွာရှိပေသေးသည်။ ဆင်ဖြူတော်ကား မြန်မာနိုင်ငံသမိုင်းတွင် မန္တလေးခေတ်တိုင်အောင် ဘုန်းကြီးခဲ့ပေသည်။ ဆင်ဖြူများကို တော၌တွေ့၍ဖမ်းယူဆက်သကြသောအခါ စာဆိုပညာရှိများသည် ထိုဆင်ဖြူတို့အကြောင်းကို မော်ကွန်းကဗျာ ရေးဖွဲ့ ဖတ်လျှောက်ဆက်သကြရသည်။ ရှင်ထွေးညို၏ ရွှေစာတိုင်ဆင်

တော်မော်ကွန်း၊ ရှင်သံခို၏ ရတနာပြောင်မွန်ဆင်တော်မော်ကွန်း၊ ဝန်ထောက်မောင်ညို၏ ရွှေမင်းဘုန်းဆင်တော်မော်ကွန်းတို့ကား ယနေ့တိုင်ထင်ရှားကျန်ရှိခဲ့ပေသေးသည်။ ဟံသာဝတီပြည်တွင် ဘုရင့်နောင်ကျော်ထင်နော်ရထာမင်းကြီးသည် ဆင်ဖြူများရှင် ဟူသောအမည်ကို ခံယူခဲ့သည်။ အလောင်းမင်းတရားကြီး၏ ဒုတိယသားတော်ကြီးသည်လည်း မင်းအဖြစ်သို့ ရောက်သောအခါ ဆင်ဖြူ ရှင်ဟူသောအမည်ကိုခံယူသည်။ အသက်ထင်ရှားရှိစဉ် ဆင်ဖြူ ရှင်အမည်ခံယူသော်လည်း၊ ကွယ်လွန်ပြီးနောက်တွင် ဤ အမည်ဖြင့် မထင်ရှားသောမင်းတို့လည်း များစွာရှိလေသေး၏။ ဦးဝန်

**ဆင်ဖြူရှင်မင်း** (မြန်မာ ၁၀၉၈–၁၁၃၈)။ ။ဆင်ဖြူရှင်သည် မြန်မာနိုင်ငံ ကုန်းဘောင်မင်းဆက်တွင် တတိယမြောက်မင်းဖြစ်၍၊ အလောင်းမင်းတရားကြီး ဦးအောင်ဇေယျ၏ ဒုတိယသားတော်ဖြစ်လေသည်။ သက္ကရာဇ် ၁၀၉၈ ခုနှစ် ဝါခေါင်လဆန်း ၁၃ ရက် တနင်္ဂနွေနေ့တွင် ဖွားမြင်၏။ ငယ်မည်မှာ မောင်ရွှေဖြစ်၍၊ မြေဒူးမင်းဟုလည်းတွင်သည်။ နောင်အခါ မကွေးမြို့မှ ဆင်ဖြူတော်ရရှိသဖြင့် ဆင်ဖြူရှင်ဘွဲ့ကိုခံယူသည်။ ဆင်ဖြူရှင်မင်းဟူသော ဘွဲ့မည်ဖြင့်သာ နိုင်ငံသမိုင်းတွင် ထင်ရှား၏။ သို့သော် ဘွဲ့တံဆိပ်နာမံတော်ကား သီရိပဝရသုဓမ္မမဟာရာဇိန္ဒာဓိပတိတည်း။ သက္ကရာဇ် ၁၁၂၅ ခုနှစ် (ခရစ် ၁၇၆၃ ခုနှစ်) ၌ အလောင်း မင်းတရားကြီး၏ ပဌမသားတော် နောင်တော်ကြီးလွန်သဖြင့် ဒုတိယသားတော် မြေဒူးမင်း ထီးနန်းဆက်ခံသည်။ ပဌမတွင် ရွှေဘို ၌ နှစ်နှစ်မျှ စံနေတော်မူပြီးနောက် အင်းဝ၌ မြို့နန်း အသစ်တည်ထောင် ပြောင်းရွှေ့စံတော်မူသည်။ အင်းဝမြို့ကိုရွေးချယ်ခြင်းမှာ အောင်မြေအဖြစ် ယုံကြည်သောကြောင့် တကြောင်း၊ ရွှေဘိုမြို့သည် ကုန်းခေါင်ခေါင်တွင် တည်ရှိသဖြင့် ကူးသန်းသွားလာမှု မလွယ်ကူဘဲ၊ အင်းဝမြို့ကား လယ်တွင်းကိုးခရိုင်ဖြစ်သော ကျောက်ဆည်နယ်နှင့် အဆက်အသွယ်လွယ်ကူနိုးစပ်ခြင်း၊ ဧရာဝတီနှင့် မြစ်ငယ်မြစ် ဆုံရာတွင် တည်ရှိသဖြင့် ရေလမ်းခရီးအားဖြင့် အသွားအလာ လွယ်ကူခြင်းတို့ကြောင့်တကြောင်း ဖြစ်ဟန်တူပေသည်။

ဆင်ဖြူရှင်မင်းသည် ခမည်းတော်လက်ထက် မင်းသားဘဝကပင် စစ်ပွဲများတွင် ပါဝင်တိုက်ခိုက်လာခဲ့သူ ဖြစ်သည့်အလျောက် စစ်ရေးတွင် စိတ်ဝင်စားဟန်ရှိ၏။ ဆင်ဖြူရှင်မင်းလက်ထက်တွင် မြန်မာသမိုင်း၌ ထူးခြားသောစစ်ပွဲများကို တွေ့ရသည်။ ဆင်ဖြူရှင်မင်း နန်းတက်၍မကြာမီပင် ဇင်းမယ်ကို အောင်တော်မူ၏။ ၁၁၂၆ ခုနှစ်တွင် မဏိပူရကသည်းပြည်သို့ ကိုယ်တော်တိုင်ချီတက်တိုက်ခိုက်ရာ အောင်မြင်လေသည်။ မဏိပူရကသည်းပြည်မှ သုံ့ပန်းအများ သိမ်းရုံးခေါ်ဆောင်ခဲ့၏။ ယင်းသို့ မဏိပူရကသည်းများအား ခေါ်ဆောင်လာခဲ့ခြင်းမှာ ဆင်ဖြူရှင်မင်း၏ မြို့တော်သစ် အင်းဝမြို့တွင် လူနေအိမ်ခြေ တိုးပွားရန်ဆန္ဒရှိ၍ခေါ်ခဲ့ခြင်းဖြစ်သည်ဟု ဆိုလေသည်။

ဆင်ဖြူရှင်မင်းသည် ခမည်းတော်လက်ထက်က အောင်တော်မမူသော ယိုးဒယားကို ချီတက် တိုက်ခိုက်စေ၏။ သက္ကရာဇ် ၁၁၂၅ ခုနှစ် (ခရစ် ၁၇၆၄ ခုနှစ်) တပေါင်းလတွင် တပ်ပေါင်း ၂၀ တပ်ကို နေမျိုးသီဟပတေ့ အုပ်ချုပ်စေလျက် ဇင်းမယ်ကြောင်း ချီစေသည်။ သက္ကရာဇ် ၁၁၂၆ ခုနှစ် နတ်တော်လတွင် မဟာနော်ရထာကိုဗိုလ်ချုပ်ခန့်၍ တပ်ပေါင်း ၃၀ ကို ထားဝယ်ကြောင်း ချီစေ၏။ ထိုတပ်အသီးသီးသည် ချီတက် တိုက်ခိုက်လာခဲ့ရာ၊ ၄ နှစ်ခန့် အကြာတွင် အယုဒ္ဓယမြို့ပြင်တွင် တပ်ကြီးနှစ်တပ်ပေါင်းမိကာ အယုဒ္ဓယမြို့ကို ၁၄ လတိုင်တိုင် ဝန်းရံထားခဲ့လေသည်။ သက္ကရာဇ် ၁၁၂၉ ခုနှစ် တန်ခူးလဆန်း ၁၁ ရက် (ခရစ် ၁၇၆၇ ခုနှစ်၊ မတ်လ ၂၈ ရက်) နေ့တွင် အယုဒ္ဓယမြို့ကို အောင်မြင်၏။ ယိုးဒယားမင်းလည်း မြို့အပျက်တွင် လက်နက်ထိမှန်၍ ကျဆုံးလေသည်။

ယိုးဒယားကို အလိုပြည့်ပြီးသော်၊ မြန်မာနိုင်ငံသို့ တရုပ်တပ်များ တိုက်ခိုက်လာသည့်အတွက် ဆင်ဖြူရှင်မင်းသည် ယိုးဒယားပြည်ရှိမြန်မာတပ်များကို ပြန်လည်ခေါ် ယူခဲ့၏။ ယင်းသို့ တရုပ်တို့ မြန်မာနိုင်ငံသို့ ချီတက် တိုက်ခိုက်လာခြင်းမှာ (၁) နယ်ခြားအရေး ရှုပ်ထွေးခြင်း၊ (၂) တရုပ်ကုန်သည်တို့နှင့် မြန်မာတို့ ဆက်ဆံရေး အဆင်မပြေခြင်းနှင့် (၃) သိန္နီ၊ ဗန်းမော်စသည့် နယ်စပ်စော်ဘွားတို့က တရုပ်တို့ကို ချီပင့်ခြင်းတည်းဟူသော အကြောင်း ၃ ရပ်ကြောင့်ဟုဆိုလေသည်။ ပဌမအကြိမ် တရုပ်စစ်သည်တို့သည် ကောင်းတုံမြို့ကို အထပ်ထပ်ဝန်းရံ လုပ်ကြံလာ၏။ ထိုသတင်းကိုကြားလျှင် ဆင်ဖြူရှင်မင်းသည် လက်ဝဲဝင်းမှူး နေမျိုးစည်သူကို စစ်သည်သူရဲများနှင့် ချီတက် တိုက်ခိုက်စေသည်။ ကောင်းတုံမြို့တွင်းကလည်း ထွက်တိုက်သည်နှင့် တရုပ်တို့ မခံနိုင် ဆုတ်ခွာပြေးရလေသည်။ ထိုစစ်ပွဲတွင် တရုပ်တို့ဖက်မှ စစ်သည်ငါးသောင်း၊ မြင်းတသောင်းဖြင့်ချီတက်လာရာ၊ တရုပ်စစ်သည်တသောင်း ကျဆုံးခဲ့သည်ဟု ဆိုလေသည်။ ယင်းသို့ မရှုမလှဆုံးရှုံးခဲ့ရသည့်အတွက် ယူနန်ဘုရင်ခံမှာ မိမိကိုယ်ကို မိမိအဆုံးစီရင်သွားရှာလေသည်။ ထိုနောက်တွင် နောင် တရုပ်တို့ အရေးကို မြော်တင်း၍ ဗလမင်းထင်ကို ကောင်းတုံသို့စေလွှတ်ကာ အခိုင်အလုံ နေစေသည်။

သက္ကရာဇ် ၁၁၂၈ ခုနှစ်တွင် ဒုတိယအကြိမ် တရုပ်စစ်သည် နှစ်သိန်းငါးသောင်း၊ မြင်းသည် နှစ်သောင်းငါးထောင်ဖြင့် ဗန်းမော်ကြောင်း ချီလာပြန်၏။ ဆင်ဖြူရှင်မင်းကြားလျှင်၊ နေမျိုးစည်သူကို ရေကြောင်းမှ ဗန်းမော်သို့ချီတက် တိုက်ခိုက်စေ၍ မဟာစည်သူကို ရေဝတီမြစ်၏ အနောက်ဖက်မှ

မိုးကောင်း၊ မိုးညှင်းကြောင်း၊ ချီစေသည်။ ကောင်းတုံတွင် ရှိနေသော ဗလမင်းထင်၏ တပ်ကိုလည်း အင်အားဖြည့်ပေးလေသည်။ တရုပ်တပ်များသည် ကောင်းတုံမြို့ကို ဝန်းရံတိုက်ခိုက်သော်လည်း၊ ဗလမင်းထင်၏ အစီအမံ ကောင်းသဖြင့် မြို့ပြခိုင်လုံသောကြောင့် မအောင်မြင်ချေ။ ထိုအချိန်တွင် နေမျိုးစည်သူ၏ စစ်ကူများရောက်လာ၏။ သို့ဖြစ်၍ ၃ ရက်အတွင်း တရုပ်တပ်များ ဆုတ်ခွာသွားရလေသည်။

နောက်တနှစ်ဖြစ်သော သက္ကရာဇ် ၁၁၂၉ ခုနှစ်တွင် တရုပ်တို့ တတိယအကြိမ် ချီလာပြန်၏။ ထိုအကြိမ်တွင် တရုပ်ဧကရာဇ်ဘုရင်၏သားမက်တော်မြင်းခုံရဲ (မင်းဂျူးအီ) ကိုယ်တိုင်အုပ်ချုပ်လျက်မြင်းသည်သုံးသောင်း၊ ခြေသည်သုံးသိန်းဖြင့် ချီလာသည်။ တရုပ်တို့သည် သိန္နီမြို့ကိုတိုက်ခိုက် သိမ်းယူပြီးလျှင် ရိက္ခာထောက် အဆက်အလက်များနှင့်တကွ အခိုင်အမာပြုကာ သီပေါသို့ စစ်တကြောင်း၊ ဗန်းမော်သို့ စစ်တကြောင်းချီတက်တိုက်ခိုက်၏။ ထိုအခါ မဟာစည်သူ၏တပ်သည် သီပေါကြောင်းချီလာသောတရုပ်တို့ကို ဆီးကြိုတိုက်ခိုက်ရသည်။ မဟာသီဟသူရတပ်သည် တရုပ်တို့၏ ရိက္ခာထောက်တပ်များကို နောက်ကလှည့်တိုက်ရန် ဘော်ကြိုကြောင်းချီရသည်။ ဗန်းမော်ကြောင်း ချီလာသောတရုပ်တို့ကို လက်ဝဲဝင်းမှူးတပ်က ဆီးကြို တိုက်ခိုက်ရလေသည်။ မဟာစည်သူ၏ တပ်မှာ မခံနိုင်၍ မြန်မာတပ်တော်များမှာ ကတိမ်းကပါး ကစီကရင်ရှိလေသည်။ မဟာစည်သူ၏ တပ်ကို အောင်မြင်လာခဲ့သော မြင်းခုံရဲသည် ဆက်လက် ချီတက်လာခဲ့ရာ၊ မေမြို့ဒေသကို ဖြတ်ကျော်ပြီးနောက် မေမြို့နှင့် ၈ မိုင်ကွာ၊ အင်းဝမှမိုင် ၃၀ ခန့်သာဝေးသော ဆင်ခေါင်းသို့ တပ်ဦးရောက်လာခဲ့၏။ မြန်မာတို့ဖက်မှ မဟာသီဟသူရတို့တပ်သည် တရုပ်တို့၏ ရိက္ခာထောက် နောက်တပ်များကို တိုက်ပြီးနောက်၊ လားရှိုးနှင့် သံလွင်မြစ်ပေါ်ရှိ ကွန်းလုံကူးတို့ဆိပ်ကို ချီတက် သိမ်းယူလိုက်ရာ တရုပ်ပြည်မှ ရိက္ခာထောက်တပ်များ မပေါက်ရောက်နိုင် ရှိလေသည်။ ထိုနောက် လက်ဝဲဝင်းမှူးတို့တပ်နှင့် ပူးပေါင်းမိ၍ သိန္နီမြို့ရှိ တရုပ်တပ်မကြီးကို တိုက်ခိုက်ရာ၊ တရုပ်တို့ တော်မှတ်လှသည်နှင့် ကောင်းစွာမခံနိုင်ဘဲ၊ တပ်လုံးပျက်ကာ ဆုတ်ခွာ ထွက်ပြေးလေသည်။ မြစ်ငယ်ကြောင်းချီ၍ ဆင်ခေါင်းသို့ရောက်နေသော မြင်းခုံရဲ၏တပ်တို့ကိုလည်း မဟာစည်သူတပ်က ထပ်မံတိုက်ခိုက်ပြန်ရာ၊ တရုပ်တို့ ရိက္ခာပြတ်နေချိန် ဖြစ်သည့်အတွက် တပ်ပျက်ကာ ဆုတ်ခွာရသည်။ စစ်ဝိုင်းခံနေရချိန်၌ မြင်းခုံရဲသည် ကျစ်ဆံမြီးကို တရုပ်ဧကရာဇ်ဘုရင်ထံသို့ ဖြတ်၍ပို့ရန် မှာကြားလျက် မိမိကိုယ်ကို မိမိအဆုံးစီရင်သွားလေသည်။ မဟာစည်သူတပ်နှင့် မဟာသီဟသူရတို့တပ်မှာ ပူးပေါင်းမိသွားကာ တရုပ်တို့ကို ထပ်မံလိုက်တိုက်ပြန်ရာ တရုပ်တို့သည် တရုပ်ပြည် တိုင်အောင် ဆုတ်ခွာကြရလေသည်။

ဗန်းမော်ကြောင်းချီလာ၍ ဗန်းမော်မြို့ကို အထပ်ထပ်ဝန်းရံ လုပ်ကြံခဲ့သော်လည်း၊ ဗလမင်းထင် အကွပ်အညှပ် နှာ၍ မရနိုင်ရှိခဲ့သော တရုပ်တို့တပ်လည်း သီပေါကြောင်းချီ တပ်ကြီးပျက်ကြောင်း ကြားလျှင်၊ အရုံဖြုတ်ကာ ထွက်ပြေးသွားလေသည်။

သက္ကရာဇ် ၁၁၃၀ ပြည့်နှစ်တွင် တရုပ်တို့ စတုတ္ထအကြိမ် လာပြန်၏။ ထိုအကြိမ်တွင် တရုပ်တို့သည် ခြေသည် ငါးသိန်းငါးသောင်းဖြင့် ချီလာကာ ဗန်းမော်မြို့ကို တိုက်ခိုက်သိမ်းပိုက်လိုက်လေသည်။ ထိုမှတဆင့် ကောင်းတုံမြို့အရှေ့ ၁၂ မိုင်အကွာ ရွှေညောင်ပင်အရပ်တွင် ခံတပ် အခိုင်အလုံဆောက်၍ ရပ်တည်နေ၏။ ဗန်းမော်ကို ချီခဲ့စဉ်က မြစ်ညာတွင်ထားခဲ့သောတရုပ်တပ်များကလည်း လှေသမ္ဗန်လုပ်ကာ ရေကြောင်းချီလာသည်။ ကောင်းတုံမြို့ကို တရုပ်တို့ ရေကြောင်း ကြည်းကြောင်းဖြင့် အထပ်ထပ် ဝန်းရံ လုပ်ကြံသော်လည်း၊ ဗလမင်းထင် အစီအမံ အကွပ်အကဲ ကောင်း၍ မရချေ။ အင်းဝမှ နေမျိုးသီဟသူရ၊ မဟာသီဟသူရ၊ လက်ဝဲဝင်းမှူးတို့ချီတက်စေ၏။ တရုပ်တို့သည် ကောင်းတုံကို မသိမ်းပိုက်နိုင်ဘဲ သက္ကရာဇ် ၁၁၃၁ ခုနှစ်လောက်တွင် ရွှေညောင်ပင်ခံတပ်ကို လက်လွှတ်လိုက်ရလေသည်။ သို့အတွက် စစ်ပြေငြိမ်းရန် တရုပ်တို့ စကားကမ်းလှမ်းလာ၏။ အခြားစစ်ဗိုလ်များက သဘော မတူသော်လည်း၊ ဗိုလ်ချုပ် မဟာသီဟသူရသည် ရှေ့ရေးကိုမြော်တွေးလျက် ဘုရင်အမိန့်ကိုပင် မခံယူတော့ဘဲ စစ်ပြေငြိမ်းရေးကို လက်ခံလိုက်လေသည်။ ထိုသတင်းကို ကြားလျှင် ဆင်ဖြူရှင်မင်းသည် အမျက်တော်ရှကာ ရရှိခဲ့သောလက်ဆောင်ပဏ္ဏာတို့ကို ဗိုလ်မှူးတပ်မှူးတို့၏ဇနီးများအား ရွက်စေလျက် ၃ ရက်တိုင်တိုင် နေလှန်းသည်ဟု ဆိုလေသည်။ ထို့ကြောင့်လည်း မြန်မာစစ်သည်တော်တို့သည် နေပြည်တော်သို့ မပြန်ကြဘဲ၊ မဏိပူရကသည်းပြည်တွင် ပုန်ကန်ခြားနားသည်ကို သွားရောက် နှိမ်နင်း၍ လက်ဆောင်ပဏ္ဏာများကို ဆောင်ကြဉ်းပြီးမှ ပြန်ခဲ့ကြလေသည်။ ယင်းသို့ နှစ်စဉ် ဆက်ကာဆက်ကာ တရုပ်တို့ လေးကြိမ်တိုင်တိုင် စစ်သည်အင်အား မြောက်မြားစွာဖြင့် တိုက်ခိုက်လာသည်ကို အောင်မြင်စွာ တွန်းလှန်နိုင်ခဲ့သည်မှာ ဆင်ဖြူရှင်မင်းလက်ထက် ထူးခြားချက်တရပ်ဟု ဆိုရပေမည်။

ဆင်ဖြူရှင်မင်းလက်ထက်တွင် အတွင်းဝန် ဝဏ္ဏမဇ္ဈကျော်ထင်သည် (၁) မနုသာရဓမ္မသတ်ကျမ်းသစ်ပါဠိနိသျ၊ (၂) မနုဝဏ္ဏနာဓမ္မသတ်ကျမ်းပါဠိနိသျ၊ (၃) ဝိနိစ္ဆယ ပကာသနီကျမ်းပါဠိနိသျတို့ကို ပြုစုခဲ့သည်။

မြန်မာစာပေလောကတွင် ထင်ရှားလျက်ရှိသော မဲဇာတောင်ခြေနှင့် ဝေဠုန်းစန္ဒာ ရတုများသည် ဆင်ဖြူရှင်မင်းလက်ထက်တွင် ထွက်ပေါ်လာခဲ့သည့် ရတုများဖြစ်ပေသည်။ ယင်းသို့ ထူးခြားသောစာပေများ ထွက်ပေါ်လာခြင်းဖြင့်

ဆင်ဖြူရှင်မင်း လက်ထက်တွင် စာပေရေးရာကိုလည်း အားပေးချီးမြှောက်ခဲ့ကြောင်းထင်ရှား၏။

ဆင်ဖြူရှင်မင်းသည် ယင်းသို့ စစ်ရေး၊ စာပေရေး၌သာ အားပေးချီးမြှောက်ခဲ့သည် မဟုတ်၊ သာသနာရေး၌လည်း အားပေးချီးမြှောက်ခဲ့ပေသည်။ ပုဂံရွှေစည်းခုံဘုရားကိုထီးတော်တင်ကာ ရွှေပိန်းချတော်မူသည်။ မွန်တို့ပုန်ကန်သည်ကို နှိမ်နင်းရင်း ရန်ကုန်မြို့ရှိ ရွှေတိဂုံစေတီတော်မြတ်အား ယနေ့တွေ့မြင်ရသော ဥဘက်တော် ၃၂၇ ပေအထိ တိုးမြှင့်တည်ထား၍ ကိုယ်အလေးချိန်ရှိသော ရွှေများချလျက် ထီးတော်တင်ခဲ့သည်။ အပြန်တွင်လည်း ပြည် ရွှေဆံတော်စေတီကို ဝင်ရောက်ပူးမြှော်လျက် ဖိုးဦးတောင်စေတီကို ထပ်၍တည်တော်မူသည်။

ဆင်ဖြူရှင်မင်းသည် သက္ကရာဇ် ၁၁၃၈ ခုနှစ် နယုန်လပြည့်ကျော် ၉ ရက် တနင်္ဂနွေနေ့တွင် သက်တော် ၃၉ နှစ် ၁၀ လအရွယ်၌၊ နတ်ရွာစံတော်မူလေသည်။ ဆင်ဖြူရှင်မင်းကား ရဲရင့်တည်ကြည်ခြင်း၊ စစ်မက်လိုလားခြင်း၊ယောကျ်ားမြတ်တို့ ရုပ်လက္ခဏာနှင့် ပြည့်စုံခြင်းတို့ကြောင့် အလောင်းမင်းတရားကြီး၏သားတော်ပြီသပေသည်ဟု ပြည်သူတို့ပြောဆိုကြသည်။ ရတနာသုံးပါး၌ယုံကြည်၊ ပညာရှိတို့ကို ချစ်ကြည်၊ ပညာရှိတို့၏စကားကိုနာယူ၊ မိမိလည်း ပညာရှိတော်မူသည်။ အမှုထမ်း ကျွန်တော်မျိုးတို့ကို အထိုက်အလျောက် ချီးမြှင့်ပြုစုတတ်၊ လူရည်လူသွားကို သိ၍ ရွေးချယ်ခန့်ထားတတ်သောကြောင့် ခန့်ထားခိုင်းစေသမျှ အောင်မြင်သည်များ၏။

**ဆင်ဖြူရှင်အရေးတော်ပုံ။** ။မြန်မာသမိုင်းအမှတ်အသားတို့တွင် မြဝတီ အရေးတော်ပုံ၊ ရာဇာဓိရာဇ် အရေးတော်ပုံ၊ ဟံသာဝတီဆင်ဖြူရှင် အရေးတော်ပုံ၊ အလောင်းမင်းတရားကြီး အရေးတော်ပုံ၊ ညောင်ရမ်းမင်းတရား အရေးတော်ပုံဟူ၍၊ အရေးတော်ပုံငါးစောင် ထင်ရှားခဲ့လေသည်။ ထိုအရေးတော်ပုံတို့မှာ ရခိုင်၊ မွန်၊ မြန်မာရှေးမင်းတို့သည် မိမိတို့၏နိုင်ငံတော်ကိုစည်းလုံးညီညွတ်အောင် ကြိုးပမ်းသည့် အရေးတော်ပုံများ ဖြစ်သည်။ (မြဝတီအရေးတော်ပုံ။ ရာဇာဓိရာဇ်အရေးတော်ပုံ။ အလောင်းမင်းတရားကြီးအရေးတော်ပုံ။ ညောင်ရမ်းမင်းတရား အရေးတော်ပုံ — ရှု။)

၁၉၂၃ ခုနှစ် သုမေ့ဓဝတီတိုက်ထုတ် 'အရေးတော်ပုံ ၅ စောင်တွဲ' ကျမ်း၌ ဆင်ဖြူရှင် အရေးတော်ပုံကျမ်းကို သံတော်ဆင့် လက်ဝဲနော်ရထာ ရေးသားသည်ဟု ဖော်ပြပါရှိသည်။ သို့သော် ဦးကျော်ဒွန်း ပြုစုသော မြန်မာစာညွှန်းပေါင်းကျမ်း (တတိယတွဲ) ၌မူကား၊ သံတော်ဆင့် လက်ဝဲနော်ရထာသည် အလောင်းမင်းတရားကြီး၏ အရေးတော်ပုံကျမ်းကို ပြုစုသည်ဟုသာ ဆိုသည်။ ဦးဖေမောင်တင်၏ မြန်မာစာပေ သမိုင်း၌လည်း ပိဋကတ်သုံးပုံ စာတမ်း ပုဒ်ရေ ၂၀၃၅ ၌ အလောင်းမင်းတရားကြီး၏ အရေးတော်ပုံကျမ်းကို သံတော်ဆင့် လက်ဝဲနော်ရထာ စီရင်သည်ဟုပါရှိကြောင်းကိုသာ ဖော်ပြထားသည်။ ဆင်ဖြူရှင် အရေးတော်ပုံကို မည်သူစီရင်သည်ဟုမဖော်ပြထားချေ။

ဟံသာဝတီဆင်ဖြူရှင်သည် မြန်မာ့သမိုင်းတွင် ဘုရင့်နောင်ဟူ၍လည်း ကျော်ကြားသည်။ ပုဂံခေတ် ကျန်စစ်မင်းသည် မြန်မာနိုင်ငံတော်စည်းလုံးခိုင်မြဲရေးကို လုပ်ဆောင်ဘိသကဲ့သို့၊ တောင်ငူခေတ်တွင် ဆင်ဖြူရှင်မင်းတရားသည် တမျိုးသားလုံးကို စည်းလုံးစေ၍၊ မြန်မာနိုင်ငံတော်ကို ညီညွတ်သော အင်အားတရပ် ဖြစ်စေအောင် လုပ်ဆောင်ခဲ့သည်။ မြန်မာသက္ကရာဇ် ၉၁၁ ခုနှစ်တွင် တပင်ရွှေထီး နတ်ရွာစံသောအခါ၊ ကျန်စစ်သားမင်းတည်ထောင်ခဲ့သော မွန်မြန်မာ စည်းလုံးမှုသည် ထီးပြိုင်နန်းပြိုင်တို့ကြောင့် ပြိုကွဲအံ့သကဲ့သို့ ရှိသည်။ ထိုကြောင့် ဆင်ဖြူရှင်သည် ရာမညတိုင်း ဒလမြို့ကို ကိုယ်တော်တိုင်ချီတက်၍၊ မွန်မြန်မာတို့ကို လိုက်လိုသ၍ခေါ်ငင်ပြီးလျှင်၊ တောင်ငူမြို့ကို လက်ရ သိမ်းပိုက်၍၊ တပင်ရွှေထီး၏ထီးနန်းကို ဆက်ခံသည်။ ထိုနောက် ပြည်ကိုအောင်မြင်ပြီးသော်၊ မြန်မာနိုင်ငံ အလယ်ပိုင်းဒေသတို့ကို စည်းရုံးတော်မူလေသည်။ ထိုနောက် ဟံသာဝတီပဲခူးကို ချီတက်၍၊ သမိန်ထောရာမကို အောင်မြင်လေသည်။

ထိုနောက်၌ကား ကစဉ့်ကလျားဖြစ်နေသော အင်းဝကို ပြန်လည်ဖွဲ့စည်းပြီးသော်၊ ရှမ်းပြည်တခုလုံးကို သိမ်းသွင်း၍၊ ဇင်းမယ်ပြည်၊ ကသည်းပြည်၊ လင်းဇင်း၊ ယိုးဒယား၊ ငသည်ဝီပြည်၊ ခန္တီပြည်စသည်တို့ကို အောင်မြင်တော်မူလေသည်။ ဤသို့တိုင်းပြည်နိုင်ငံကို တလုံးတစည်းတည်းဖြစ်အောင် လွန်ကဲသောဥဿာဟဖြင့် ဆင်ဖြူရှင်မင်းတရား ကြိုးပမ်းခဲ့သည်တို့ကို ဆင်ဖြူရှင် အရေးတော်ပုံသည် မှတ်တမ်းတင်လေသည်။ (ဘုရင့်နောင် — ရှု။)

**ဆင်ဗိုင်အိုစစ်။** ။ဆင်ဗိုင်အိုစစ်ဆိုသည်မှာ သက်ရှိသတ္တဝါနှစ်မျိုးတို့ သဟဇာတဖြစ်ကြသောအခြင်းအရာကို ဆိုလိုသည်။ ဤသို့နှစ်ဦးနှစ်ဝ အတူပေါင်းစပ် နေထိုင်ကြသည့်အတွက် တဦးကြောင့် တဦးအပေါ်၌ များသောအားဖြင့် နစ်နာမှုမရှိချေ။ တနေရာရာတွင် နစ်နာမှုရှိနေသည်ဟုဆိုရသည့်တိုင်အောင်၊ ထိုနစ်နာမှုကို အကျိုးရှိစေမှုက ဖြေဖျောက်ပေးလေသည်။ ဤသို့ တဦးနှင့်တဦး အထောက်အပံ့ပြုသောစံနစ်ကို ဆင်ဗိုင်အိုစစ်ဟု ဇီဝဗေဒသဘောဖြင့် ခေါ်ဆိုကြသည်။

အပင်တို့တွင် အချင်းချင်းမှီခိုမှုအများအပြားရှိကြသည်။ သို့သော် အတွေ့အများဆုံးမှာ သစ်ကပ်မှော်ပင်ဖြစ်သည်။ သစ်ကပ်မှော်ပင်သည် ကျောက်တုံး၊ သစ်ပင်၊ သစ်တုံး၊ မြေ



ဆင်ဗိုင်အိုဆစ် သာဓကများ

မျိုးမတူသက်ရှိသတ္တဝါနှစ်မျိုး တဦးကိုတဦး မှီခိုအကျိုးပြုအတူနေထိုင်ခြင်းကို ဆင်ဗိုင်အိုဆစ်ဟုခေါ်သည်။ (ဝဲ) ပုံမှာဖန်းဂပ်ပင်နှင့်အယ်လဂါရေညှိပင်တို့ ပေါင်းစပ်အကျိုးပြုမှုကြောင့်ဖြစ်ပေါ်လာသော လိုင်ခင်ပင်ဖြစ်သည်။ ဟားမစ်ကရက်ခေါ် ကနန်းမျိုးသည် ခရုစသည့်တို့စွန့်ပစ်သောအခွံတွင်း ခိုလှုံလေ့ရှိသည်။ ထိုဟားမစ်ကရက်ကနန်းနှင့် ပင်လယ်မှိုကောင်တို့ အတူနေထိုင်ပုံမှာ (ယာ) ထင်ရှားသော ဆင်ဗိုင်အိုဆစ်သာဓကတရပ်ဖြစ်သည်။ အကျိုးပြုပုံကား မှို၏အဆိပ်ဦးမှင်တို့က ကနန်းကို ရန်သူဘေးမှ ကာကွယ်ပေး၍ ကနန်းက မှိုကောင် အစာရရန် တနေရာမှ တနေရာသို့ ပို့ပေးသည်

ကြီးတို့အပေါ်တွင်ပေါက်သည်။ ယင်းသည် အပင်တပင်တည်းမဟုတ်။ (သစ်ကပ်မှော်ပင် — ရှု။) အယ်လဂါရေညှိပင်နှင့် ဖန်းဂပ်ပင်တို့ ရောစပ်ပေါက်ရောက်နေခြင်းဖြစ်သည်။ သစ်ကပ်မှော်ပင်ကို အလယ်ကပိုင်းဖြတ်ကြည့်ရှုလျှင် ထိုအချက်ကိုသိသာနိုင်ပေသည်။ (အယ်လဂျေပင်။ မှိုပင် — ရှု။)

ဖန်းဂပ်ပင်သည် အယ်လဂါရေညှိထံမှ အစာကိုစုတ်ယူလျက်နေသော်လည်း၊ ရေညှိမှာ အလွန်နစ်နာခြင်းမရှိ။ အယ်လဂါရေညှိသည် ဖန်းဂပ်နှင့်တွဲနေခြင်းအားဖြင့် လေထဲမှရေကို ဖန်းဂပ်ထံမှတဆင့် စုတ်ယူနိုင်သည်။ သို့မဟုတ်ပါက ရေမရနိုင်ဘဲသေဖွယ်ရာအကြောင်းရှိသည်။ အယ်လဂါသည် ဖန်းဂပ်အား အစာထောက်ပံ့၍၊ ဖန်းဂပ်က အယ်လဂါအား ရေထောက်ပံ့သည်။ ဤကဲ့သို့အပြန်အလှန်ထောက်ပံ့မှုဖြင့် သစ်ကပ်မှော်သည် ပူပြင်းခြောက်သွေ့သောဒေသ၌အသက်ရှင်၍နေနိုင်ပေသည်။

ပါဏဗေဒနှင့်ဆိုင်သော အပြန်အလှန်ထောက်ပံ့မှု သာဓကကောင်းတခုကို ပင်လယ်မှိုကောင်နှင့်ဟားမစ်ကရက်ခေါ် ကနန်းတမျိုးတို့တွင်တွေ့နိုင်သည်။ ထိုတိရစ္ဆာန်နှစ်မျိုးအတူတကွ ပေါင်းသင်း နေထိုင်ကြခြင်းဖြင့် တဦးချင်းဘဝ၌ရှိနေသော ချို့တဲ့ချက်အချို့ ပျောက်သွားနိုင်သည်။ အဆိုပါကနန်းမျိုးသည် ကနန်းပင်ဖြစ်သော်လည်း၊ အခြားကနန်းမျိုးမှာကဲ့သို့ ကာကွယ်ရန် အခွံမာများ မရှိချေ။ နူးညံ့သည့်ကိုယ်ထည်သာရှိသည်။ ထိုကြောင့် အဆိုပါကနန်းမျိုး၏ပဌမတာဝန်မှာ ခိုလှုံရန်တခုခုကိုရှာဖွေရန်ဖြစ်သည်။ ထိုကြောင့် ယင်းသည် ရေငန်ခရုပက်ကျိကဲ့သို့သော ခရုမျိုးက စွန့်ပစ်ထားသည့်အခွံဆီသို့ရွှေ့သွားရပေသည်။ ကနန်းအရွယ်ကြီးလာသည့်အခါတွင် ပို၍ကြီးမားသည့်အခွံရှိရာသို့ရွှေ့ပြောင်း၍နေရပြန်သည်။ ထိုနည်းဖြင့် အကာအကွယ်ရနေသောကြောင့် ပို၍စိတ်ချစွာနှင့် တနေရာမှတနေရာသို့ရွှေ့သွားနေနိုင်ပေသည်။

ထိုသို့သွားနေစဉ် တနေ့နေ့၌ ကျောက်ဆောင်တခုတွင် တွယ်ကပ်နေသော ပင်လယ်မှိုကောင်၏အနီးသို့ ချဉ်းကပ်သွားမိတတ်ပေသည်။ ထိုအခါ ပင်လယ်မှိုကောင်က သူ၏လက်သည်းဖြင့် အဆိုပါကနန်း၏အခွံငှားပေါ်တွင်တွယ်ကပ်လိုက်လေသည်။ ထိုအချိန်မှစ၍ ပင်လယ်မှိုကောင်သည် နေသားတကျနေထိုင်ရပြီးလျှင် ကနန်းလှည့်လည်သွားလာရာတွင် ပါသွားလေသည်။ ပင်လယ်မှိုကောင်တွင် အဆိပ်ပါသောဦးမှင်များရှိနေသဖြင့် သူမှီခိုနေထိုင်သည့် ကနန်း၏အနီးသို့ချဉ်းကပ်လာသည့် တိရစ္ဆာန်များအား အဆိပ်ဦးမှင်များနှင့်တုပ်သည်။ ထိုသို့ ကနန်းအား အကာအကွယ်ပေးသောကြောင့် ယင်းကို ကနန်းက တနေရာမှတနေရာသို့ အစာရရန်အတွက် လှည့်လည်ပို့ပေးသည်။ ပင်လယ်မှိုကောင်သည် တွေ့ရာတိရစ္ဆာန်ငယ်ကလေးများကိုသာ ဖမ်းယူစားသောက်နိုင်ပေသည်။

အလွန်ထူးခြားသည့် အပြန်အလှန် ထောက်ပံ့မှု တမျိုးကို ပရွက်ဆိတ်နှင့် ပျကောင်တို့တွင်တွေ့ရပေသေးသည်။ ပျ

ကောင်သည် သူတို့၏နှုတ်သီးဖြင့် အရွက်နုကလေးများထဲမှ အရည်ကို စုတ်ယူစားသောက်သည်။ ထိုပျကောင်၏ကျော ကို ပရွက်ဆိတ်က သူ၏ဦးမှင်များနှင့်ပွတ်သပ်ပေးသည်။ ထို အခါ ပျကောင်မှ အရည်ချိုထွက်လာသည်။ ထိုအရည်ချို သည် ပရွက်ဆိတ်အတွက် ကောင်းမွန်သောအစာအာဟာရ ဖြစ်ပေသည်။ (ပျကောင် — ရှု။)

ပရွက်ဆိတ်သည် ပျထံမှအရည်ချိုရရှိ၍ အပြန်အလှန်သ ဘောဖြင့် ပျကောင်ကိုအကျိုးပြုလေသည်။ ပမာအားဖြင့် ပျကောင်ကို ရန်သူကတိုက်ခိုက်လာလျှင် ပရွက်ဆိတ်သည် ပျကောင်ထံသို့ ပြေးသွားပြီးလျှင် ထိုရန်သူ၏ ဘေးမှကာ ကွယ်ပေးသည်။ ပျသည် အစာနည်းသောအပင်များတွင် စားသောက်နေလျှင် ပရွက်ဆိတ်က အစာပေါမျာသောအ ပင်သို့ပို့ပေးသည်။ အပင်မှအရွက်များကြွေချိန်တွင် ပရွက် ဆိတ်သည် ပျဥများကို သူတို့၏အသိုက်သို့ယူဆောင်လာ၍ ဆောင်းဥတုတခုလုံးအတွင်းတွင် စောင့်ရှောက်ပေးသည်။ နွေဦးသို့ရောက်လာသောအခါတွင် ပျကောင်ကို အစာပေါ များရာအပင်ဆီသို့ပို့ပေးသည်။ ထိုသို့အားဖြင့် ပရွက်ဆိတ် အဖို့ အာဟာရဖြစ်စေသောအရည်ချိုကို ရရှိနိုင်ပေမည်။

**ဆင်းဟား, ဆာ စတ်တျင်ဒြာ ပီ** (ခရစ် ၁၈၆၄– ၁၉၂၈)။ ။ပဌမ ဗဲရွန် ရိုင်းပူးဖြစ်သူ စတ်တျင်ဒြာ ပရပ် ဆာနို ဆင်းဟားသည် ဗင်္ဂလားပြည်နယ်၊ ဗီယာဗွမ်းစီရင်စု ရိုင်းပူးရွာ၌ ၁၈၆၄ ခုနှစ် ဇွန်လတွင်ဖွားမြင်သည်။ ဆင်း ဟားသည် ကဲလကတ္တားမြို့၊ ပရက်ဆီဒင်းစီး ကောလိပ် ကျောင်းတွင် ပညာသင်ကြားခဲ့ပြီးနောက်၊ ထိုမှတဆင့် လန် ဒန်မြို့ လင်ကွန်းအင်းသို့ ၁၈၈၁ ခုနှစ်တွင်သွားရောက်သင် ကြားရာ၊ ပညာ၌ထူးချွန်သဖြင့် ဆုအမျိုးမျိုးရရှိလေသည်။ ၁၈၈၆ ခုနှစ်တွင် ဝတ်လုံတော်ရဘွဲ့ကိုရရှိ၍ ဆင်းဟားသည် အိန္ဒိယပြည်သို့ပြန်လာပြီးလျှင်၊ ကာလကတ္တားမြို့ တရား လွှတ်တော်၌ ဝတ်လုံတော်ရအဖြစ်ဖြင့် အသက်မွေးသည်။ ထိုနောက် ၁၉ဝ၃ ခုနှစ်တွင် အစိုးရအားအကြံပေးရသော အမြဲတမ်းအရာရှိဖြစ်လာ၏။ ၁၉ဝ၈ခုနှစ်တွင် ဆင်းဟား သည် အိန္ဒိယအမျိုးသားများထဲမှ ပဌမဆုံးအကြိမ် ဗင်္ဂလား နယ်အစိုးရရှေ့နေချုပ်ကြီးအဖြစ်၎င်း၊ အိန္ဒိယအစိုးရအဖွဲ့ဝင် အမှုဆောင် ကောင်စီလူကြီး အဖြစ်၎င်း ခန့်အပ်ခြင်း ခံခဲ့ရ လေသည်။

ထိုနောက် ၁၉ဝ၉ ခုနှစ် ဧပြီလမှ ၁၉၁ဝ ပြည့်နှစ် နိုဝင် ဘာလအထိ တရားရေးဝန်ကြီးအဖြစ် ဆောင်ရွက်ခဲ့ပြီး လျှင်၊ ရာထူးမှနုတ်ထွက်ကာ ဝတ်လုံတော်ရအဖြစ် ပြန်လည် အသက်မွေးခဲ့လေသည်။

ဆင်းဟားသည် ၁၉၁၅ ခုနှစ်တွင် ဘုံဘိုင်မြို့၌ အိန္ဒိယအ မျိုးသားကွန်ဂရက်ညီလာခံတွင် သဘာပတိအဖြစ်ဆောင် ရွက်ခဲ့သည်။ ထိုစဥ်က သဘာပတိမိန့်ခွန်းမြွက်ကြားရာ၌ အိန္ဒိယပြည်တွင် ပါလီမန်အုပ်ချုပ်ရေးစံနစ်ထူထောင်ပေးရန် အလို့ငှာ ဗြိတိသျှတို့၏ဝါဒကို ထုတ်ပြန်ကျေညာသင့်ပြီ ဖြစ်ကြောင်းတိုက်တွန်းခဲ့၏။ ထိုနောက် ဆင်းဟားသည် ၁၉၁၇ ခုနှစ်တွင် လန်ဒန်မြို့၌ကျင်းပခဲ့သော အင်ပီးရီးယဲ စစ်ကွန်ဖရင့်အစည်းအဝေးတွင်၎င်း၊ ၁၉၁၈ ခုနှစ်အတွင်းက အင်ပီးရီးယဲစစ်ကက်ဗိနက်အဖွဲ့တွင်၎င်း အိန္ဒိယနိုင်ငံ၏ကိုယ် စားလှယ်အဖြစ်ဆောင်ရွက်ခဲ့ရလေသည်။ ၁၉၁၇ ခုနှစ်မှာ ပင် ဗင်္ဂလားပြည်နယ်ဘုရင်ခံ၏အမှုဆောင်ကောင်စီတွင် ဝင် ရောက်အမှုထမ်းခဲ့ရသေး၏။

၁၉၁၉ ခုနှစ်တွင် ပါရစ်မြို့ စစ်ပြေငြိမ်းရေးညီလာခံကြီး ကျင်းပသောအခါ၊ ဆင်းဟားသည် စစ်ကက်ဗိနက် အဖွဲ့ဝင်တဦးအနေဖြင့် အိန္ဒိယပြည်၏ကိုယ်စားလှယ်တော် အဖြစ်ဖြင့် ဆောင်ရွက်ခဲ့ရသည်။

ဆင်းဟားသည် ၁၉၁၄ ခုနှစ်တွင် ဆာဘွဲ့ ခြီးမြှင့် သူကောင်းပြုခြင်းခံရသည်။ ၁၉၁၈ ခုနှစ်တွင်လည်း အိန္ဒိယ အမျိုးသား ဝတ်လုံတော်ရများအား ပေးလေ့မရှိခဲ့သော ဘုရင့်အမိန့်တော်ရဝတ်လုံဂုဏ်ထူးကို ပေးအပ်ခြင်းခံရသည်။ ၁၉၁၉ ခုနှစ်၊ နှစ်ဦးတွင်ကား ဆင်းဟားသည် လွိုက်ဂျော့၏ အစိုးရအဖွဲ့တွင် အိန္ဒိယပြည်ဆိုင်ရာအတွင်းဝန်ကလေးအဖြစ် ဆောင်ရွက်ရကာ ဗဲရွန် ရိုင်းပူးဘွဲ့ဖြင့် မှူးမတ်မျိုးနွယ် အ ဖြစ်ခြီးမြှင့်ခြင်းခံခဲ့ရလေသည်။ ထိုနောက် ပရီဗီကောင်စီ အဖွဲ့ဝင်လူကြီးတဦးဖြစ်လာသည်။ ၁၉၁၉ ခုနှစ်၌ ဆင်း ဟားသည် အထက်လွှတ်တော်တွင် ၁၉၁၉ ခုနှစ် အိန္ဒိယနိုင်ငံ တော်အစိုးရအက်ဥပဒေကိုတင်သွင်းခဲ့သည်။ ၁၉၂ဝ ပြည့် နှစ်ကုန်ဆုံးခါနီးတွင်မူကား ဗီဟားနှင့် ဩရိဿပြည်နယ်များ ၏ဘုရင်ခံအဖြစ် အိန္ဒိယအမျိုးသားများထဲမှ ပဌမဆုံးအ ကြိမ် ခန့်အပ်ခြင်းခံခဲ့ရလေသည်။ သို့သော် ဆင်းဟား သည် ကျန်းမာရေးချို့တဲ့မှုကြောင့် ၁၉၂၁ ခုနှစ်တွင် ရာထူး သက်တမ်းမစေ့မီပင် ဘုရင်ခံရာထူးမှ နုတ်ထွက်လိုက်ရ၏။ တဖန် ၁၉၂၆ ခုနှစ်၌ ဆင်းဟားသည် ပရီဗီကောင်စီ၏ တရား ရေးရာကော်မီတီအဖွဲ့ဝင်လူကြီးအဖြစ် ခန့်အပ်ခြင်းခံခဲ့ရပြန် လေသည်။

အိန္ဒိယပြည်တွင် သဘောကွဲလျက်ရှိသည်ကိုထောက် ထား၍၊ ၁၉၁၉ ခုနှစ် အိန္ဒိယနိုင်ငံတော်အစိုးရအက်ဥပ ဒေတွင်ညွှန်းထားသည်ထက်စော၍ စုံစမ်းရေးကော်မစ် ရှင်တရပ်ဖွဲ့စည်းခြင်းကို ကန့်ကွက်ခဲ့သော်လည်း၊ ဖွဲ့စည်းရန် ဆုံးဖြတ်ခဲ့ပြီးသည့်နောက်တွင်ကား ဆင်းဟားသည် ဆိုင်မွန် ကော်မစ်ရှင်ကို ထောက်ခံအားပေးကာ၊ အဖွဲ့ဝင်များအား ကာလကတ္တားမြို့တွင် ကောင်းမွန်စွာ ပြုစုညှဉ့်ခံခဲ့ပေသည်။ ၁၉၂၈ ခုနှစ် မတ်လ ၅ ရက်နေ့တွင် ဆင်းဟားသည် ကွယ် လွန်အနိစ္စရောက်လေသည်။

**ဆောင်တော်ကူးပန်းပင်။** ။ဆောင်တော်ကူးပန်းပင်သည် 'ကွန်ဗော်ဗျူလေစီအီး' မျိုးရင်းတွင်ပါဝင်၍၊ ယင်းကို သိပ္ပံအမည်အားဖြင့် 'ပိုရာနာ ပန်နီကျူလေးတား' ဟုခေါ်သည်။ အပင်မှာ သစ်ပင်ကြီးများကိုနွယ်တက်သော ချုံပင်မျိုးဖြစ်သည်။ အသီးများသီး၍ အပွင့်ပွင့်သည်။ အရွက်မှာ ညောင်ရွက်ပုံသဏ္ဌာန်ရှိ၍၊ ရွက်ညှာပါသည်။ အသီးမှာ၍ မအက်ကွဲတတ်ချေ။ ယင်း၌ အစေ့တစေ့သာ ရှိသည်။ ပန်းအရောင်မှာဖြူသည်။ အောက်တိုဘာလမှ ဖေဖွာရီလအတွင်း ပွင့်တတ်သည်။ ပန်းပွင့်ချိန်၌သစ်ပင်ထိပ်တွင် ပန်းပွင့်များဝေဆာလျက်ရှိသည်။



ပွင့်ခက်ဖြူဝေဆာဆာနှင့်ကြိုင်လန်းစွာပွင့်နေသောဆောင်တော်ကူးပန်း

ဆောင်တော်ကူးပန်းပင်များကို ယမုနာမြစ်အရှေ့ဖက် ပေ ၄၅၀၀ ထိ မြင့်သောဒေသများတွင်၎င်း၊ အာသံနယ်၊ ခါဆီနှင့် နာဂတောင်တန်းဒေသ၊ ဗီဟားနယ်၊ အိန္ဒိယအလယ်ပိုင်းနှင့် အထက်မြန်မာနိုင်ငံတို့တွင်၎င်း တွေ့ရသည်။

**ဆောင်း၊ ဦး။** ။စစ်ကိုင်းမင်းဘကြီးတော်ဘုရား၏လက်ထက်၌ ဘုန်းတော်ဖွဲ့ပတ်ပျိုးနှင့် မော်ကွန်းများ၊ ယိုးဒယားသီးချင်းခံ၊ သီးချင်းဆန်းနှင့် ကြိုးသီချင်းများ၊ ပြဇာတ်၊ ညည်းချင်းနှင့် စာဖွဲ့စာနွဲ့ ခန့်ညားသည့်ပျို့များကိုရေးသားစပ်ဆိုလျက်ရှိကြသော မြဝတီမင်းကြီး ဦးစ၊ မင်းကြီးကတော်ခင်ဆုံ၊ ဦးလွှမ်းပြေ၊ ဦးကြင်ဥ၊ ဦးရွှန်း၊ ဦးအိတို့နှင့်တခေတ်တည်း ပေါ်ပေါက်ခဲ့ကြသော စာဆိုကဝိများအနက် ဦးဆောင်းသည်တဦးအပါအဝင်ဖြစ်သည်။ သို့သော် ဦးဆောင်းသည် အဆိုပါစာဆိုများလောက် ထင်ရှားကျော်စောခြင်းမရှိပေ။

ဦးဆောင်းသည် ရိုးရိုးတွေး၍ ရိုးရိုးရေးသူဖြစ်သည်။ နန်းတွင်းသဘာဝတို့ကို ဖွဲ့နွဲ့မည့်အစား တောတောင်ရေမြေနှင့် တောသူတောင်သားတို့၏သဘာဝကိုသာ ဖွဲ့နွဲ့ရေးစပ်လေ့ရှိသည်။ နှစ်သက်ဖွယ်ရာချဉ်ပေါင်ဖူး၊ လက်ပံပွင့်တို့၏ဂုဏ်ကိုသာချီးကျူး၍ရေးစပ်သည်။ ထို့ပြင် ဦးဆောင်းသည် ရိုးရိုးမြင်၍ ရိုးရိုးသိတတ်သူလည်းဖြစ်သေးသည်။ ခမ်းနားသောနန်းမှုနန်းလေ့တို့ကို ဦးဆောင်းသည် စိတ်ဝင်စားဟန်မတူချေ။ ရိုးသားသော တောမှုတောလေ့တို့ကိုသာ ဦးဆောင်းသည်နှစ်သက်မြတ်နိုးပေသည်။

ထို့ကြောင့် ဦးဆောင်းသည် 'အယဉ်ယယ်ကြီးပါတဲ့၊ ဇနီးရယ်ပျော်လို၊ ဖျဉ်းနားတို့တွင်၊ ချဉ်ပေါင်ညိုပေါ် စဖူးရယ်နှင့်၊ ငါးလူးငယ်မျှင်မျှင်၊ ကြေးမသင်ရေလုံပြုတ်ပါလို့၊ အင်ကုပ်ကယ် ကျယ်ကျယ်နှင့် မင်းဘွယ်စိုးရလောက်ပေလေး' ဟူ၍ ရိုးဂုဏ်ရှိသော ချဉ်ပေါင်ဖူးကိုင်း၊ 'လာဟေ့ဒွါး၊ သွားကောက်ချည်စို့၊ ပွင့်ခြောက်ကယ်အနားလန်၊ ဆက်ရက်ကယ်ညံ၊ ပင်လက်ပံကြွေချိန်ကျပြီမို့၊ မိဇလုနှင့်လိုက်အုံးမလား၊ သုံးစိတ်ဝင်ထန်းလျှော်တောင်းရယ်နှင့်၊ ပေါင်းလန်မှပြန်ကြမယ်လေး' ဟူ၍ ယဉ်ဂုဏ်ရှိသော လက်ပံပွင့်ကိုင်း၊ ရိုးရိုးနှင့် ယဉ်သောအဖွဲ့အနွဲ့ဖြင့်ဖွဲ့နွဲ့ခဲ့ပေသည်။ ထို့ပြင် ဦးဆောင်းသည် တောသဘာဝ၏ သာယာသောရှုခင်းများနှင့် တောသားတောသူတို့၏ တောမှုတောလေ့များကိုလည်း 'မိုးမသောက်ခင်က၊ ခလောက်ကယ်ဂျောင်ဂျင်၊ လုပ်ငန်းငယ်ပြင်သည်၊ ချောင်းရေယဉ်သွင်သွင်စီးပါလို့၊ ကောက်ကြီးစပါးနှံက၊ သန်လှတယ်လေး' ဟူ၍ မြင်လျှင်မြင်သည့်အတိုင်း ရိုးရိုးနှင့်ယဉ်ယဉ် ရေးစပ်ခဲ့လေသည်။ ဦးဆောင်းကား ရိုးသားသော တောသူ တောင်သားတို့၏ပင်ကိုယ်သဘာဝကို ဖွဲ့နွဲ့သူ စာဆိုတဦးဖြစ်သတည်း။

**ဆောင်းအောင်းခြင်းဓလေ့။** ။ကမ္ဘာ၏အအေးပိုင်းဒေသများတွင် ဆောင်းရာသီသို့ရောက်လာလျှင် အချို့သော တိရစ္ဆာန်များသည် ကိုယ်ခန္ဓာကိုအအေးဒဏ်မှကာကွယ်စိမ့်သောငှာ၊ မြေတွင်း အသိုက်အအုံ၊ ရွှံ့ညွန် ရေအောက်၊ တောင်ကြို ချောက်ကြားစသော မိမိတို့နှင့် သင့်တော်သည့် ခိုလှုံရာဒေသများ၌ ဝင်ရောက်ခိုအောင်းကာ ဆောင်းရာသီတရာသီလုံး ပကတိမလှုပ်မရှက် အိပ်စက်နေတတ်ကြသည်။ ဤသို့ခိုအောင်းခြင်းကို ဆောင်းအောင်းသည်ဟုခေါ်သည်။ ရာသီဥတု အလွန် အေးသောအရပ်များ၌ တိရစ္ဆာန်အချို့ဆောင်းအောင်းတတ်သကဲ့သို့ အပူပိုင်းအရပ်များတွင်လည်း အစာရေစာခေါင်းပါးသောနွေရာသီ၌ တိရစ္ဆာန်အချို့သည် ထိုနွေရာသီအတွင်းတွင် အောင်းနေတတ်ကြသည်။

ဆောင်းအောင်းသောတိရစ္ဆာန်များမှာ ဆောင်းတွင်း၌ စားရန် တာရှည်ခံမည့် သစ်စေ့၊ သစ်ဥ၊ သစ်ဖု၊ မှိုခြောက် စသည်တို့ကို ကြိုတင်ရှာဖွေ၍ စုဆောင်းမထားတတ်သော တိရစ္ဆာန်များဖြစ်ပေသည်။ ထိုကဲ့သို့သောတိရစ္ဆာန်များသည် ဆောင်းဦးပေါက်ရာသီ၌သီးပွင့်ကြသောသစ်သီးလေးများကို လိုသည်ထက်ပို၍စားသောက်ထားလျက် လာမည့် ဆောင်းရာသီအတွက် သူတို့ကိုယ်ကို အင်အားဖြည့်တင်းထားကြလေသည်။ ထိုသို့အားဖြည့်ထား၍အဆီဖုံးနေသော တိရစ္ဆာန်များသည် ဆောင်းလရာသီ၌ အစားအစာအလျင်း မစားဘဲ၊ ဆောင်းအောင်းနိုင်စွမ်းရှိကြလေသည်။

တိရစ္ဆာန်များဆောင်းအောင်းသည့်နေရာများမှာလည်း အမျိုးမျိုးပင်ဖြစ်သည်။ ဆောင်းအောင်းသောတိရစ္ဆာန်များအနက် ခရုများသည် အခြားသတ္တဝါများကဲ့သို့ ဆောင်းအောင်းရန်ကျင်းရှာရခြင်း၊ အသိုက်အအုံဆောက်လုပ်ရခြင်းမရှိဘဲ၊ မိမိတို့၏အခွံအိမ်တွင်းသို့ ကိုယ်ကိုသွင်းနေ၍၊ အပေါက်ဝကို အလုံပိတ်ထားကြလေသည်။ ကုန်းလိပ်များနှင့် ဖြူယေ်များသည်လည်း ဆောင်းအောင်းကြ၍၊ အမှိုက်ကျင်းများ၊ ထင်းပုံများအောက်၌ ပုန်းကွယ်နေတတ်ကြသည်။ နျကောင်၊ ကင်းလိပ်နှင့် ဖားတို့သည် မြေတွင်း၊ မြေအက်ကြောင်းများထဲ၌ဆောင်းအောင်းကြ၏။ အချို့ဖားများနှင့် ချောင်းမြောင်းတွင်းရှိငါးတို့သည် ရေနက်ရာ၌၎င်း၊ ရွှံ့ညွန်ထူထပ်သောနေရာများ၌၎င်း၊ ကိုယ်ကိုနှစ်ကာ ဆောင်းအောင်းနေတတ်ကြ၏။ ရေခဲသောဒေသရှိငါးများသည် ရွှံ့ထဲသို့တိုးဝင်ကာဆောင်းအောင်း၍၊ ရေခဲပျော်သောအခါမှ ထွက်လာကြလေသည်။

ဆောင်းအောင်းတတ်သောတိရစ္ဆာန်များတွင် ငှက်များလည်းပါဝင်၏။ မြောက်ပိုင်း အေးသောဒေသများရှိ ငှက်တို့သည် ဆောင်းရာသီသို့ရောက်လျှင် တောင်ပိုင်းရပ်များသို့ပြောင်းရွှေ့လာကြလေသည်။ (ဒေသကူးပြောင်းခြင်း–လည်းရှု။) အလွန်အေးသောမြောက်ပိုင်းအရပ်များတွင် ဆောင်းရာသီ၌ သက်ရင့် ပိုးကောင် မွှားကောင်များ သေကြေပျက်စီးကြသည်သာများ၏။ သို့သော် ထိုပိုးမွှားများချန်ခဲ့သောဥများ၊ ပိုးလောင်းကောင်များမှာ နွေဦးပေါက်ရာသီသို့ရောက်လျှင် မျိုးဆက်ရန် ပေါက်ပွားလာကြပြန်သည်။ ယေဘုယျအားဖြင့် သက်ရင့်ပိုးမွှားများတွင် ဆောင်းအောင်းတတ်သောဓလေ့နည်းသည်ဟုဆိုရပေမည်။ ဥဒါဟရုဏ်ပြရသော်၊ နေသာသဖြင့်ပူနွေးသော ဆောင်းရာသီနေ့များ၌၊ လိပ်ပြာများပျံသန်းနေသည်ကို တွေ့မြင်နိုင်လေသည်။ ပျားကောင်များသည်လည်း ဆောင်းရာသီအတွင်း အအေးဓာတ် လျော့ပါးသည့်နေ့များတွင် ပျားအုံ၌အောင်းနေရာမှ ထွက်လာတတ်ကြလေသည်။

မြောက်ပိုင်းဒေသများ၌ရှိသော တိရစ္ဆာန်များကို အကြမ်းအားဖြင့် နှစ်မျိုးနှစ်စားခွဲခြားနိုင်လေသည်။ ပဌမအမျိုးအစားတွင် ဆောင်းရာသီ၌ အစာရေစာရှာဖွေစားသောက်နိုင်သောတိရစ္ဆာန်များပါဝင်သည်။ ဒုတိယအမျိုးအစားတွင် ဆောင်းရာသီ၌ အစာရေစာပြတ်လပ်နေသည့်



ဆောင်းအောင်းတိရစ္ဆာန်အချို့

တိရစ္ဆာန်များပါဝင်လေသည်။ ဒုတိယအမျိုး၌ပါဝင်သော တိရစ္ဆာန်များသည် ဆောင်းတွင်း၌ အစာရေစာအငတ်ခံလျက် ခိုအောင်းနေခြင်းအားဖြင့်သာလျှင် အသက်မသေဘဲ ရှိနေနိုင်ကြလေသည်။ အချို့ခြေလေးချောင်းတိရစ္ဆာန်များမှာကား ထိုကဲ့သို့အစာရေစာအငတ်ခံ၍၊ မြေတွင်းအသိုက်အအုံများ၌ဆောင်းအောင်းနေယင်း အသက်ဆုံးရှုံးသွားတတ်လေသည်။

တိရစ္ဆာန်များဆောင်းအောင်းသည့်အခါ၌ သာမန်အချိန်အခါများတွင်အိပ်စက်နေသကဲ့သို့ အိပ်စက်ကာနေကြသည်၊ မနေကြသည်ကို ယခုတိုင်အတိအကျမသိရသေးပေ။ သို့သော် အိပ်ရိုးအိပ်စဉ်အတိုင်းအိပ်ကြသည်ဟူ၍ ထင်စရာရှိလေသည်။ ခြားနားချက်မှာ၊ မလှုပ်မရှက်နှင့် ကြာရှည်စွာအိပ်နေကြခြင်းပင် ဖြစ်သည်။ ဆောင်းအောင်းကြသော တိရစ္ဆာန်များ၌ ရှဉ့်ကဲ့သို့အအိပ်ဆတ်သော တိရစ္ဆာန်များလည်းရှိကြသည်။ (ရှဉ့် — ရှု။) အအေးဒဏ်သက်သာသည့် နေ့များတွင် ရှဉ့်ကလေးများသည် အပြင်သို့ ထွက်၍ အစာရှာလေ့ရှိကြသည်။ ရာသီပြန်၍အေးလာသည့်အခါ အသိုက်တွင်းသို့ပြန်ဝင်အိပ်ကြလေသည်။ မြွေများ၊ တီကောင်များမှာလည်း ဆောင်းအောင်းသောတိရစ္ဆာန်များဖြစ်လေသည်။

ဝက်ဝံဖြူများတွင်ကား အမများသည် ဆောင်းရာသီ တခုလုံး၌ ဆောင်းအောင်းကာနေတတ်ကြသော်လည်း၊ အထီးများမှာမူ နေ့ညမရှောင်အစာရှာထွက်နေလေ့ရှိကြသည်။ ဤသို့လျှင် တိရစ္ဆာန်များဆောင်းအောင်းခြင်း အမျိုးမျိုး အဖုံဖုံရှိလေသည်။

**ဆိုင်ကလိုထရွန်။** ။ဆိုင်ကလိုထရွန်ဆိုသည်မှာ အက်တမ်ကိုဖြိုခွင်းရာ၌အသုံးပြုသောစက်ဖြစ်သည်။ ဆိုင်ကလိုထရွန်ကို ပဌမဆုံးဆောက်လုပ်ခဲ့သူမှာ ကာလီဖိုးနီးယားတက္ကသိုလ်မှ အားနက် လောရင့်ဆိုသူ သိပ္ပံပညာရှင်ကြီးဖြစ်သည်။ ဆိုင်ကလိုထရွန်သည် အက်တမ်၏အစိတ်အပိုင်းများဖြစ်ကြသော ပရိုတွန်း၊ ဒျူတာရွန်နှင့် အယ်လဖာမှုန် (နျူးထရွန်း) စသည်တို့ကို လျှပ်စစ်သံလိုက် ပိုစွန်းနှစ်ခုကြားရှိ ပလာနယ်ဖြစ်သော သံလိုက်စက်ကွင်းတွင်လည်ပတ်စေ၍၊ အရှိန်လျှင်မြန်သည်ထက်လျှင်မြန်လာအောင်ပြုလုပ်ပေးသည်။ (သံလိုက်ဓာတ်။ အက်တမ် — ရှု။) ဆိုင်ကလိုထရွန်တွင် အရေးကြီးသောအစိတ်အပိုင်းများမှာ အင်္ဂလိပ်အက္ခရာ D ပုံရှိသော အခေါင်းရှိသည့်ချပ်ပြားခြမ်းနှစ်ခြမ်းဖြစ်သည်။ ဤချပ်ပြားခြမ်းတို့ကို 'ဒီ' ဟုခေါ်သည်။ ဤ 'ဒီ' ချပ်ပြားခြမ်းတို့အတွင်း၌ လျှပ်စစ်ဓာတ်ရှိသော အက်တမ် အမှုန်များကို အလွန်မြန်သောအလျင်ဖြင့် သွားစေသည်။ ထိုအမှုန်များသည် သံလိုက်နယ်၏အရှိန်ကြောင့်



အက်တမ်ကိုဖြိုခွင်းသော ဆိုင်ကလိုထရွန်စက်

'ဒီ' ချပ်ပြားများအတွင်းတွင် စက်ဝိုင်းပုံလမ်းအတိုင်း လှည့်ပတ်သွားကြသည်။ ချပ်ပြားနှစ်ခုကို ဗို့အားထောင်ပေါင်းများစွာ ခြားနားခြင်း ရှိစေရန် အနည်းငယ်မျှသာ ခွာထားသည်။ ခွာထားသည့်နေရာတွင် အက်တမ်အမှုန်များ ဖြတ်သန်းသွားသည့်အခါတိုင်း အက်တမ်အမှုန်တို့တွင် အလျင်တိုးလာစေရန် ဗို့ခြားနားမှုကိုမကြာခဏပြောင်းပေးသည်။ အက်တမ် အမှုန်တို့၏ အလျင် တိုးလာသောအခါ ထိုအမှုန်များ လှည့်ပတ်သွားရာစက်ဝိုင်း၏ အချင်း သည်လည်း ကြီးလာသည်။ အက်တမ်ကိုဖြိုခွင်းရန် အသင့်ဖြစ်နေသော အချိန်တွင် အမှုန်တို့၏အလျင်သည် တစက္ကန့်လျှင် မိုင် ၂၀,၀၀၀ မျှရှိသည်။ ဤအလျင်ကား၊ ရိုင်ဖယ်ကျည်ဆန်၏အလျင်ထက် အဆပေါင်း ၃၅,၀၀၀ မျှပို၍မြန်သည်။

အက်တမ်ကို ဆိုင်ကလိုထရွန်ဖြင့်ဖြိုခွင်းရာတွင် ဖြိုခွင်းခံရသောဒြပ်စင်တခု၏အက်တမ်များသည် အခြားဒြပ်စင်တခု၏အက်တမ်များအဖြစ်သို့ပြောင်းသွားသည်။ တခါတရံ ဖြိုခွင်းခံရသောဒြပ်စင်မှအက်တမ်တို့သည် ရေဒီယမ်သတ္တိနှင့်ပြည့်စုံလာကြ၍၊ ရေဒီယမ်ကဲ့သို့ပင် ရောင်ခြည်များလွှတ်ကြသည်။ (ရေဒီယမ်နှင့် ရေဒီယမ်သတ္တိ — ရှု။) ဖြိုခွင်းခံရသောအက်တမ်တို့မှထွက်လာသောအမှုန်အချို့သည် နျူးထရွန်းများဖြစ်ကြသည်။ ထိုနျူးထရွန်းများကို အခြားအက်တမ်များဖြိုခွင်းရာ၌ ပြန်လည်အသုံးပြုနိုင်သည်။ အကြောင်းမှာ ဤသို့ဖြစ်သည်။ နျူးထရွန်းတွင် လျှပ်စစ်ဓာတ်မရှိချေ။ ထိုကြောင့် အက်တမ်၏နျူးကလီးယပ်ပတ်လည်၌ရှိသည့် အလွန်အားကောင်းသော လျှပ်စစ်နယ်သည် ထို

ချူးထရွန်း၏အလျင်ကို နှေးသွားအောင်မလုပ်နိုင်ချေ။ အရှိန်ပြင်းသောချူးထရွန်း၏အလျင်ကို အက်တမ်ဖိုခွင်းရာ၌ အသုံးချ၍ရသည်။

ဒြပ်စင်တခုသည် မည်သည့် အမျိုးအစား ဖြစ်သည်ဟူသောအချက်မှာ၊ ချူးကလီးယပ်တွင်ရှိသော ပရိုတွန်း၏ အရေအတွက်ပေါ်၌အကြောင်းပြုလျက်ရှိသည်။ ဤပရိုတွန်း၏ အရေအတွက်အလိုက် ချူးကလီးယပ်ပတ်လည်၌လှည့်ပတ်သွားနေသော အီလက်ထရွန် အရေအတွက်သည်လည်း ပြောင်းလဲသည်။ ရူပဗေဒပညာရှင်တို့သည် ဒြပ်စင်တခုကို ထိုဒြပ်စင်ထက် အက်တမ်နံပတ်ကြီးသောဒြပ်စင်သို့ပြောင်းယူလိုလျှင်၊ ချူးကလီးယပ်ထဲသို့ ပရိုတွန်း သို့မဟုတ် ဓာတ်ဖိုအစုများကို ပေါင်းထည့်ပေးသည်။ ချူးကလီးယပ်၏ အက်တမ်နံပတ်ကိုလျှော့ပစ်လိုသောအခါ၌မူကား၊ ဓာတ်ဖိုများကိုထုတ်ပစ်သည်။ ခဲပုပ်ချူးကလီးယပ်မှ ပရိုတွန်းသုံးခု ထုတ်ပစ်ခြင်းဖြင့် ခဲပုပ်ကို ရွှေဖြစ်အောင် လုပ်ယူနိုင်သည်။ ဤသို့ သာမန် သတ္တုများမှ ရွှေပြုလုပ်ယူနည်းကို၊ အင်္ဂလိယတ်ဆရာများသည် ရှေးအခါကပင်ကြံဆခဲ့ကြလေသည်။

ဆိုင်ကလိုထရွန်စက်သည် အလွန်ကြီးမားသောစက်ဖြစ်သည်။ ထိုစက်တွင် အားကောင်းသော သံလိုက်စက်ကွင်းများကို အလွန်ကြီးသောလျှပ်စစ်သံလိုက်ဖြင့် ပြုလုပ်ယူကြ၏။ တခါတရံ ဤသံလိုက်များသည် တန်ချိန် ၂၂၀ အထိပင် အလေးချိန်စီးကြသည်။

**ဆိုင်ကလုန်း။** ။လေထု၏ဖိအား (တနည်းအားဖြင့်၊ လေထု၏အလေးချိန်) သည် တနေရာနှင့်တနေရာမတူချေ။ တနေရာတည်း၌ပင် တနာရီနှင့် တနာရီ၊ ယနေ့နှင့်နက်ဖြန်၊ ဤလနှင့်နောက်လမတူချေ။ ဖိအားများလိုက် နည်းလိုက်ရှိသည်။ တနည်းအားဖြင့် လေထုသည် ပါးလိုက်ထူလိုက်၊ လေးလိုက် ပေါ့လိုက်ရှိ၏။ လေထုပေါ့ပါးရာအရပ်ကို ဆိုင်ကလုန်း (ဝါ) ဖိအားနည်း ဧရိယာဟူ၍ ၎င်း၊ လေးလံသောအရပ်ကိုအန်တီဆိုင်ကလုန်းဟူ၍၎င်း၊ ယေဘုယျအားဖြင့်ခေါ် ဝေါ် ၏။ ရာသီအလိုက်ဖြစ်ပေါ် နေသည့် ကျယ်ဝန်းသောပေါ့ပါးရာအရပ်တဝှန်းလုံးကို ဖိအားနည်းဧရိယာဟူ၍၎င်း၊ လေပေါ့ဧရိယာဟူ၍၎င်း သိပ္ပံနည်းဖြင့်ခေါ် ဝေါ် ၏။

ဖိအားနည်းဧရိယာကို အကျယ်အားဖြင့် နှစ်မျိုးနှစ်စား ခွဲ၍ခေါ် ဝေါ် ၏။ သမပိုင်းဒေသ၌ဖြစ်ပေါ် သော လေထုပေါ့ပါးရာအရပ်ကို လေချိုင့်တိမ်ဟူ၍၎င်း၊ အပူပိုင်း၌ဖြစ်ပေါ် သောလေထုပေါ့ပါးရာအရပ်ကို အပူပိုင်းလေချိုင့်တိမ်ဟူ၍၎င်း သိပ္ပံနည်းဖြင့်ခေါ် ဝေါ် ၏။ တနည်းအားဖြင့် လေထုပေါ့ပါးနေခြင်းကြောင့် တိုက်ခတ်လာသော လေအဟုန်၏ ပြင်းထန်မှုပေါ်၌အမှီပြု၍ ခေါ် ဝေါ်ခြင်းမျှသာဖြစ်၏။ အရပ်သုံးစကားဖြင့် ပေါ့ပါးရာ အရပ်သို့တိုက်လာသောလေ၏ အဟုန်သည် ပြင်းထန်မှုမရှိသေးသမျှ လေထုပေါ့ပါးရာရပ်ဟူ၍၎င်း၊ ပျက်စီးချို့ယွင်းလောက်အောင်ပြင်းထန်စွာတိုက်ခတ်လျှင်၊ လေပြင်းမုန်တိုင်းဟူ၍၎င်း ခေါ် ဝေါ် ၏။ ထိုကြောင့် သမပိုင်းဒေသ၌ဖြစ်ပေါ် နေသောပေါ့ပါးရပ်၌ လေသည် သာမန်အားဖြင့် ပျက်စီးလောက်အောင်ပြင်းထန်ခြင်းမရှိ၊ အပူပိုင်းဒေသ၌ဖြစ်ပေါ် က အများအားဖြင့် ပျက်စီးလောက်အောင် ပြင်းထန်စွာ တိုက်ခတ်တတ်သည်ဟု သိအပ်သည်။

အပူပိုင်းဒေသများ၌ ဖြစ်ပေါ်လေ့ရှိသော လေပြင်းမုန်တိုင်းကြီးများကို အောက်ပါအတိုင်း အမျိုးမျိုး ခေါ်ဝေါ်လေ့ရှိကြ၏။

(၁) မက္ကဆီကို ပင်လယ်ကွေ့၊ အနောက် အိန္ဒိယကျွန်းတစ်တိုက်၊ မြောက်အမေရိကတိုက် ဖလော်ရီဒါကမ်းခြေ တတိုက်တို့၌ ဟာရီကိန်း၊

(၂) အာရေဗျပင်လယ်နှင့် ဗင်္ဂလားပင်လယ်အော်တွင် ဆိုင်ကလုန်း၊

(၃) တရုပ်ပင်လယ်နှင့် ဂျပန်နိုင်ငံတဝိုက်၌ တိုင်ဖွန်၊



မုန်တိုင်းဆင်စဉ်

(၄) မောရစ်ရှနှင့် မက်ဒါဂက်စကာကျွန်း၊ အရှေ့အိန္ဒိယ ပင်လယ်တို့၌ ဆိုင်ကလုန်း၊

(၅) ဩစတြေးလီးယားတိုက် အရှေ့ ပစိဖိတ် သမုဒ္ဒရာ ပင်လယ်ပြင်၌ ဟာရီကိန်း၊

(၆) ဖိလစ်ပိုင်ကျွန်းတဝိုက်တွင် ဗားဂယိုဟူ၍ အမျိုးမျိုးခေါ်ဝေါ်ကြ၏။

လေမုန်တိုင်းဟူသည် အများအားဖြင့် သမုဒ္ဒရာထဲ၌သာစ၍ဖြစ်ပေါ်လေ့ရှိပြီးလျှင်၊ ပင်လယ်ပြင်တွင် ရွေ့ရှားသွားလာ တိုက်ခတ်တတ်၏။ ကမ်းခြေသို့ အကြောင်းဆိုက်၍ရောက်လာပါက၊ တဖြည်းဖြည်းအားပျော့သွားပြီးလျှင် ပျောက်ကွယ်ချုပ်ငြိမ်းသွားလေ့ရှိ၏။

လေထုပေါ်ပါးရပ်နှင့် လေမုန်တိုင်းတို့၏ဖြစ်ပေါ်ရခြင်းအကြောင်းနှင့် ရုပ်လက္ခဏာတို့သည် မူအားဖြင့် ခြားနားခြင်းလုံးဝမရှိချေ။ အရပ်ဒေသတခုရှိ လေထုသည် အကြောင်းတစုံတရာကြောင့် ပေါ့ပါးသွားခဲ့သော်၊ ပတ်ဝန်းကျင်ရှိ ထူလေးသောလေထုမှလေသည် စီးဝင်လာမည်မှာ ဓမ္မတာဖြစ်၏။ ရေသည် မြင့်ရာမှနိမ့်ရာသို့စီးသကဲ့သို့ လေသည် ထူလေးသောအရပ်မှ ပေါ့ပါးသောအရပ်သို့တိုက်ခတ်၏။ သို့ရာတွင် ပတ်ဝန်းကျင်မှလေသည် ပေါ့ပါးရပ်၏ဗဟိုသို့တိုးဝင်တိုက်ခတ်ရာ၌ တည့်တိုးဝင်၍မရသဖြင့် ဝဲထိုး၍သာ ဝင်လာနိုင်၏။ တဖန် ကမ္ဘာကြီး၏ အနောက်မှအရှေ့သို့လှည့်လည်မှုကြောင့် အီကွေတာ၏မြောက်ပိုင်းခြမ်း၌ လေသည် အမြဲတစေ ဗဟိုချက်မသို့ လက်ဝဲရစ်ရစ်လျက်တိုက်ခတ်စီးဝင်၏။ အီကွေတာ၏တောင်ပိုင်းခြမ်း၌ကား လက်ျာရစ်ရစ်၍စီးဝင်၏။ ထိုကြောင့် ပေါ့ပါးရပ်ဟူ၍၎င်း၊ မုန်တိုင်းဟူ၍၎င်း ခေါ်ဝေါ်ရာ၌ လေဝဲကြီးဖြစ်ကြောင်းကိုသတိချပ်အပ်၏။ ဖြည်းညှင်းစွာ လည်နေသောလေဝဲကြီးကို ပေါ့ပါးရပ်၊ ပြင်းပြင်းထန်ထန် လည်နေသောလေဝဲကြီးကို မုန်တိုင်းဟုခေါ်ဝေါ်ခြင်းဖြစ်သည်ဟု တနည်းအားဖြင့်သိအပ်၏။

မုန်တိုင်းဟူ၍ ခေါ်ဆိုထားပါလျှင်၊ လေတိုက်နှုန်းသည် ယုတ်စွအဆုံး တနာရီလျှင် မိုင် ၅၀ ကျော်တိုက်ခတ်လျက်ရှိနေပြီ၊ တိုက်ခတ်တော့မည်ဟုသိအပ်၏။

ပေါ့ပါးရပ်ဟူ၍သာ ခေါ်ဝေါ်ထားလျှင်၊ လေတိုက်နှုန်းသည် တနာရီလျှင် မိုင် ၅၀ အောက်သာတိုက်ခတ်နေသည်။ မိုင် ၅၀ ထက်ကျော်နိုင်မည်မဟုတ်ဟူ၍ခွဲခြား၍လည်း သိအပ်၏။

မုန်တိုင်း၏ဗဟို၌ ရံဖန်ရံခါ လေထု၏ဖိနှိပ်အားသည် မိလိဗား ၉၆၀ (ဝါ) လက်မ ၂၈.၃၅ ခန့်ရှိတတ်၍၊ အပြင်စွန်း၌ မိလိဗား ၁၀၂၀ (ဝါ) လက်မ ၃၀.၁၂ ခန့်ရှိတတ်သည်။ အထူးအပါးခြားနားခြင်းဤမျှလောက်ရှိသောမုန်တိုင်း၏ အချင်းသည် တခါတရံ မိုင်ပေါင်း ၆၀၀ ခန့်ကျယ်ဝန်းနိုင်၏။ သို့ရာတွင် ရံဖန်ရံခါ မိုင်ပေါင်း ၁၀၀ မှ ၂၀၀ ခန့်အထိသေးငယ်နိုင်၏။ ထိုတွင်မျှမက အငယ်ဆုံးအချင်းသည် မိုင် ၅၀ မျှသာ ရှိတတ်သေး၏။

သို့သော် ပေါ့ပါးရပ်များ၌မူကား လေဝဲ၏အတွင်းအပြင်တို့၏ဖိနှိပ်အားသည် မိလိဗား ၉၆၀ နှင့် ၁၀၂၀ ခန့် (လက်မ ၂၈.၃၅ နှင့် ၃၀.၁၂ ခန့်) ရှိမူ၊ လေဝဲကြီး၏အချင်းသည် မိုင်ပေါင်း ၁၀၀၀ ကျော်မှ ၂၀၀၀ အထိရှိနိုင်၏။

လေဝဲ၏အချင်းသည် ကြီးမားလျှင် ပြင်းထန်ခြင်းမရှိမူ၍၊ အချင်းသည်သေးငယ်သော် ပြင်းထန်ခြင်းရှိသည်ကိုသတိပြုရာသည်။

မြန်မာနိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့ကိုထိပါးသော လေမုန်တိုင်းမျိုးသည် အပူပိုင်းဒေသလေထု ပေါ့ပါးမှုကြောင့် တဖြည်းဖြည်း မုန်တိုင်းဖြစ်ပေါ်ရခြင်း ဖြစ်သည်။ ထိုငြိမ်သက်နေသောမုန်တိုင်း၏ဗဟိုကို မုန်တိုင်းဗဟိုချက်ဟူ၍ခေါ်ဆို၏။

မြန်မာနိုင်ငံအနားတဝိုက်တွင် မုန်တိုင်းစပျိုးပုံမှာ ဦးစွာ၌ လေထုကြီး၏ဖိအားသည် တနေရာတွင် တဖြည်းဖြည်းလျော့လာသည်ကိုတွေ့ရ၏။ လေသည် ရာသီအလိုက် တိုက်သင့်သောအရပ်မှမတိုက်ဘဲ၊ လက်ဝဲရစ်စ၍ရစ်လာ၏။ သို့ရာတွင် လေသည် ဖြည်းညှင်းစွာတိုက်လျက်ပင်ရှိသေး၏။

လေဖိတူမျဉ်းသည် စက်ဝိုင်းသဏ္ဌာန်ဖြစ်လာ၏။ ဤအချက်၌ လေထုမငြိမ်မသက်ဖြစ်နေသည်ဟူ၍၎င်း၊ လေဖိအားနည်းလှိုင်း သို့မဟုတ် လေဖိအားနည်းဧရိယာ ဖြစ်ပေါ်နေသည်ဟူ၍၎င်း ခေါ်ဝေါ်၏။ ထိုထက် လေဖိတူမျဉ်းများ ၂ ကြောင်း ၃ ကြောင်းခန့်ပေါ်လာပြီးလျှင် လေခပ်သုတ်သုတ်တိုက်၍၊ လက်ဝဲရစ်လှည့်သော လေစီးကြောင်းကို မြေပုံပေါ်၌ပေါ်လွင်စွာတွေ့ရမည်ဖြစ်ပါက၊ လေမုန်တိုင်း အနုစား ပျိုးနေသည်ဟုခေါ်ဆို၏။ တိုက်ခတ်သောလေ၏ပြင်းထန်မှုအပေါ်၌တည်၍ တနာရီလျှင် ၃၅ မိုင်ထက် ကျော်လွန်စွာတိုက်ခတ်နေပါက၊ မုန်တိုင်းဟူ၍၎င်း၊ တနာရီလျှင် မိုင် ၆၀ ကျော်တိုက်ခတ်နေပါက၊ လေပြင်းမုန်တိုင်းဟူ၍၎င်း၊ ခွဲခြားခေါ်ဝေါ်၏။ မုန်တိုင်း၏ဗဟိုချက်နားတဝိုက်တွင် တခါတရံ လေသည် လုံးဝငြိမ်သက်နေကြောင်း တွေ့ရ၏။ စ၍ပျိုးသည်မှ လေမုန်တိုင်းအဖြစ်သို့ရောက်ရန် ၃ ရက်၊ ၄ ရက်ခန့်ကြာတတ်၏။ သို့ရာတွင် ၂၄ နာရီအတွင်း အတော်ပြင်းထန်သော မုန်တိုင်းမျိုးလည်း ချက်ခြင်းလိုပင် ပေါ်ပေါက်တတ်သေး၏။

မုန်တိုင်းသည် အတော်အတန်ကြာကြာတနေရာတည်း၌ ဝပ်နေရာမှ ပြင်းထန်လာပြီးနောက်၊ ယေဘုယျအားဖြင့် တနာရီလျှင် ၁၅ မိုင်မှ မိုင် ၂၀ ခန့်ဖြင့် ရွေ့ရှားသွားလေ့ရှိ၏။

မြန်မာနိုင်ငံတဝိုက်၌ ပျက်စီးလောက်အောင် ပြင်းထန်သောမုန်တိုင်းများသည် ဧပြီလ အဦးဆုံးကာလအတွင်းနှင့် မိုးဦးအကြား၌၎င်း၊ နောက်တဖန် မိုးနှောင်းနှင့် ဒီဇင်ဘာလ အနှောင်းဆုံးကာလအကြား၌၎င်း ဖြစ်ပေါ်လေ့ရှိ၏။




၁၉၅၅ ခု၊ အောက်တိုဘာလ ၈ ရက်နေ့ မြန်မာစံတော်ချိန် နံနက် ၉ နာရီခွဲ (ဂရင်းနစ် စံတော်ချိန် နံနက် ၃ နာရီ) တွင် ဖြစ်ပေါ်နေသောလေမုန်တိုင်းပုံ

မုန်တိုင်း၏ဗဟိုသည် ပုသိမ်၏အနောက်တောင်ဘက် မိုင် ၂၀၀ ကျော်ပင်လယ်ပြင်တွင်ရှိသည်။ ထိုမုန်တိုင်းသည် ၁၉၅၅ ခု အောက်တိုဘာလ ၅ ရက်နေ့ခန့်က ပို့ဗလဲယား၏တောင်ဘက်နားတွင်ဗဟိုပြု၍ စပျိုးခဲ့ရာ၊ တဖြည်းဖြည်းပြင်းထန်လာလျက်၊ မြောက်စူးစူးသို့ ဦးစွာရွေ့လာခဲ့၏။ တဖန် ၉ ရက်နေ့တွင် ကိုကိုကျွန်းနားသို့ကပ်၍ အနောက်မြောက်ဖက်သို့ကွေ့သွားပြီးနောက် ၁၁ ရက်နေ့နံနက်တွင် အိန္ဒိယကမ်းခြေ ကပ်တက်မြို့ တောင်ဘက်နားသို့ရောက်၏။ နောက်တနေ့တွင် ကမ်းခြေသို့ဖြတ်ကျော်ကာ ကွယ်ပျောက်ချုပ်ငြိမ်းသွား၏။ ထိုမုန်တိုင်း၏အရှိန်ကြောင့် မြန်မာပြည်တဝှမ်းလုံးတွင် မိုးအနည်းအပြားသည်းထန်စွာရွာခဲ့၏။ မြန်မာပြည်ကမ်းရိုးတန်းတွင် လေသည်ရံဖန်ရံခါ တနာရီလျှင် မိုင် ၃၀ ကျော်ခန့် တိုက်ခတ်ခဲ့၏။ ဗဟိုနှင့်မိုင် ၁၀၀ ခန့်ဒေသအတွင်းရှိသင်္ဘောများ၏တိုင်းထွာချက်အရ၊ ဗဟိုမှမိုင် ၁၀၀ ပတ်လည်တွင် တနာရီမိုင် ၃၀ ခန့်လေတိုက်နေကြောင်းသိရ၏။ ထို့ကြောင့်ဗဟိုနားတွင် လေသည် တနာရီလျှင် မိုင် ၅၀ ကျော် ၆၀ ခန့် တိုက်နေမည်ဟုခန့်မှန်းနိုင်၏။

ပုံတွင်မြားဦးပြုရာသည် မုန်တိုင်းရွေ့ရှားသွားရာအရပ်ကို ညွှန်ပြသည်။ ┌ ├ ╞ သင်္ကေတများမှာ လေတိုက်ရာအရပ်ကိုပြ၍အဖျားတွင် အတံရှည်တခုပါရှိက တနာရီလျှင် ၁၀ မိုင်နှုန်းခန့်၊ အတံတိုတခုပါရှိက တနာရီလျှင် ၅ မိုင်နှုန်းခန့်လေတိုက်ကြောင်း ဖော်ပြသည်။

မြန်မာနိုင်ငံမိုးလေဝသဌာနမှ အောက်ပါအတိုင်း အထိမ်းအမှတ်များကို ဆိပ်ကမ်းမြို့ကြီးများ၌ လေမုန်တိုင်းသတိပေးချက် အထိမ်းအမှတ် အဖြစ်ဖြင့် လွှင့်တင်၏။ အထိမ်းအမှတ်များမှာ ဝေးလံသောပင်လယ်ပြင်၌ လေမုန်တိုင်းဖြစ်ပေါ်နေကြောင်း အထိမ်းအမှတ်နှင့် ဆိုင်ရာဆိပ်ကမ်းနား၌ဖြစ်ပေါ်နေကြောင်းအထိမ်းအမှတ်ဟူ၍ နှစ်မျိုးရှိရာ၊ ထိုအထိမ်းအမှတ်များကို ပုံတွင်ဖော်ပြထားသည်။ (လေတိုက်ခတ်ခြင်း။ မိုးလေဝသပညာ။ ပထဝီဝင် — ရှု။)

ဒေါက်တာဦးဘိုအေး

ဝေးလံသောအရပ်၌ဖြစ်ပေါ်နေကြောင်း အထိမ်းအမှတ်များမှာ၊ (၁) တခုသောအရပ်၌မုန်တိုင်းဖြစ်ပေါ်နေဟန်ရှိကြောင်းနှင့် (၂) တခုသောအရပ်၌မုန်တိုင်းကျနေပြီတို့ဖြစ်ကြ၏။




ဆိပ်ကမ်းနားတဝိုက်နှင့်သက်ဆိုင်သောညွှန်ကြားချက်များမှာကား အောက်ပါအတိုင်းဖြစ်၏။

(၁) ဆိပ်ကမ်း၌ မိုးလေ ပြင်းထန်မည့်အကြောင်းလက္ခဏာရှိသည်။

(၂) ဆိပ်ကမ်း၌ လေမုန်တိုင်းအန္တရာယ်ရှိသည်။

(၃) ဆိပ်ကမ်း၏မနီးမဝေးအရပ်ကိုဖယ်ပြု၍အတော်အတန်ပြင်းထန်သောလေမုန်တိုင်းသည် ပင်လယ်မှကမ်းခြေသို့ဖြတ်ကျော်တော့မည်ဖြစ်ကြောင်း။

(၄) ဆိပ်ကမ်း ပေါ်သို့သော်၎င်း၊ နီးကပ်စွာသော်၎င်း၊ အတန် ပြင်းထန်သော လေမုန်တိုင်းဖြတ်သွားတော့မည်ဖြစ်ကြောင်း။

(၅) ဆိပ်ကမ်းနှင့် မနီးမဝေးအရပ်ကို ဖယ်ပြု၍ လေပြင်းမုန်တိုင်းကြီး ပင်လယ်မှကမ်းခြေသို့ဖြတ်ကျော်တော့မည်ဖြစ်ကြောင်း။

(၆). ဆိပ်ကမ်းပေါ်သို့သော်၎င်း၊ နီးကပ်စွာသော်၎င်း၊ လေပြင်းမုန်တိုင်းကြီး ဖြတ်သွားတော့မည်ဖြစ်ကြောင်း။

(၇) ဆိပ်ကမ်းနှင့် မိုးလေဝသဌာနတို့ ကြေးနန်းအဆက်အသွယ်ပြတ်နေသည်။ ဆိပ်ကမ်းအရာရှိသည် ဤဆိပ်ကမ်း၌ မိုးလေဝသ ဆိုးရွားလိမ့်မည်ဟုယူဆကြောင်း။






ဗီယက်နမ်နိုင်ငံမြို့တော် ဆိုင်ဂွန်မြို့၏ ရှုခင်းတရပ်

**ဆိုင်ဂွန်မြို့။** ။အင်ဒိုချိုင်းနားကျွန်းဆွယ်၏အရှေ့တောင်ဖက်ရှိ တောင်ပိုင်းဗီယက်နမ်နိုင်ငံ၏မြို့တော်သည် ဆိုင်ဂွန်မြို့ဖြစ်၏။ တရုပ်ပင်လယ်ကမ်းရိုးနှင့် ၃၄ မိုင်မျှသာကွာဝေး၍၊ ဆိုင်ဂွန်မြစ်ပေါ်တွင်တည်ရှိသည်။ ကုန်သွယ်ရေးဝယ်ရေးတွင် အချက်အခြာဌာနတခုဖြစ်၍၊ ပြင်သစ်နိုင်ငံနှင့် အမြဲပင် ဆက်သွယ်လျက်ရှိ၏။

ပြင်သစ်တို့ မသိမ်းပိုက်မီ အချိန်က ဆိုင်ဂွန်မှာ 'ဂိုင်ဒင်သန်' ဟုခေါ်တွင်၍၊ ကိုချင်ချိုင်းနားပြည် အောက်ပိုင်းမြို့တော်ဖြစ်ခဲ့သည်။ ၁၈၅၉ ခုနှစ်တွင် ပြင်သစ်တို့သိမ်းယူခြင်းခံခဲ့ရ၏။ ဆိုင်ဂွန်နှင့် အနီးရှိ ချော်လွန်မြို့တို့မှာ မီးရထား၊ ဓာတ်ရထား၊ မော်တော်ကားလမ်းနှင့် တူးမြောင်းများဖြင့် ဆက်သွယ်လျက်ရှိသဖြင့် တဆက်တည်းကဲ့သို့ပင် ဖြစ်နေ၏။ ယင်းနှစ်မြို့တွင် ဆန်စက်၊ ဆပ်ပြာစက်၊ စီးကရက်စက်ရုံ၊ သစ်စက်၊ တိုင်ယာစက်ရုံနှင့် သစ်သီးစည်သွတ် စက်ရုံအမြောက်အမြားရှိသည်။

ဆိုင်ဂွန်မြို့သည် ခေတ်မှီမြို့ကြီးတမြို့ဖြစ်၍၊ ပြင်သစ်တို့အခြေစိုက်ခဲ့သဖြင့် အရိပ်အာဝါသကောင်းသော လမ်းကျယ်ကြီးများနှင့် ပြင်သစ်ဆန်၍ လှပသောတိုက်တာအဆောက်အအုံကြီးများစွာရှိ၏။ ၁၉၄၀ ပြည့်နှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၇၈,၇၅၀ ယောက်ရှိသည့်အနက် ပြင်သစ်နှင့်ဥရောပတိုက်သားများ တသောင်းကျော်ခန့်ရှိလေသည်။

အင်ဒိုချိုင်းနား၏ ထွက်ကုန်ဝင်ကုန် ထက်ဝက်ခန့်မျှကိုဆိုင်ဂွန်မြို့ဆိပ်ကမ်းမှတဆင့် သယ်ယူပို့ဆောင်လျက်ရှိသည်။ ကြီးကျယ်သော ထွက်ကုန်များမှာ ဆန်စပါး၊ ကြက်ပေါင်စေး၊ ပြောင်း၊ ကျွန်းသစ်၊ သံဖြူ၊ လက်ဖက်ခြောက်၊ ရေတတ်

ကောင်းနှင့် သားရေစိမ်းများဖြစ်ပြီးလျှင်၊ ဝင်ကုန်များမှာ အများအားဖြင့် ပြင်သစ်နှင့် အင်္ဂလိပ်ကုန်စည်များသာဖြစ်သော အထည်အလိပ်၊ ရေနံထွက်ပစ္စည်းများ၊ ဝါဂွမ်း၊ သံနှင့်သံမဏိစက်ကရိယာ၊ စက္ကူအစရှိသည်တို့ဖြစ်ကြ၏။ တရုပ်နိုင်ငံ၊ ယိုးဒယားနိုင်ငံ၊ စင်္ကာပူ၊ ဂျားဗားကျွန်းတို့နှင့်လည်း ကုန်သွယ်ရောင်းဝယ်ဖောက်ကားလျက်ရှိလေသည်။

**ဆိုင်ဖွန်**။ ။ဆိုင်ဖွန်သည် ရေသွယ်ယူသောပြွန်တမျိုးဖြစ်၍၊ ရကောက်ပြွန်ဟုလည်းခေါ်ကြသည်။ အထူးသဖြင့် မော်တော်ကားသမားတိုင်းလိုလိုပင် မော်တော်ကားရှိဓာတ်ဆီလှောင်သောကန်ထဲမှဓာတ်ဆီကို အလွယ်တကူ ထုတ်ယူလိုသောအခါ၌ ဤပြွန်မျိုးကို လက်တွေ့ အသုံးချလေ့ရှိသည်။ မော်တော်ကားသမားများပြုလေ့ပြုထရှိသောနည်းမှာ အရှယ်တော် ရော်ဘာပိုက်လုံးတလုံးကို ယူပြီးလျှင် ထိုပိုက်လုံး၏အစတဖက်ကို ဓာတ်ဆီတိုင်ကီအတွင်းရှိ ဓာတ်ဆီအောက်သို့မြုပ်နေအောင်ထိုးထည့်၍၊ ကျန်အစတဖက်မှ ပါးစပ်ဖြင့် ဓာတ်ဆီကိုစုတ်သွင်းသည်။ ပိုက်လုံးထဲသို့ဓာတ်ဆီလိုက်လာသောအချိန်တွင် ထိုအစကို အောက်သို့ခပ်နိမ့်နိမ့်နှိမ့်ပေးလိုက်သောအခါ၊ တိုင်ကီထဲရှိဓာတ်ဆီသည် အဆက်မပြတ်စီးထွက်လာလေသည်။ ထိုဓာတ်ဆီကို ကြိုက်ရာပုံးသို့မဟုတ် ပုလင်းတို့ဖြင့်ခံယူရသည်။ ဓာတ်ဆီကို ဤကဲ့သို့ ပါးစပ်ဖြင့်စုတ်မယူဘဲ၊ အခြားတနည်းဖြင့်လည်း ယူနိုင်ပေသည်။ ထိုနည်းအရ၊ ရှေးဦးစွာ ရော်ဘာပိုက်လုံးထဲသို့ ဓာတ်ဆီအပြည့်သွင်းပေးရမည်။ ထို့နောက် ပိုက်လုံးထိပ်ဝ နှစ်ခုစလုံးကို ခေတ္တလက်ဖြင့်ပိတ်၍၊ ပိုက်လုံးတစကို တိုင်ကီထဲသို့နှစ်ပြီးလျှင်၊ ကျန်တစကို ဓာတ်ဆီလှောင်ကန်ရှိ ဓာတ်ဆီမျက်နှာပြင်ထက်နိမ့်အောင်နှိမ့်၍ချထားရမည်။ ထို့နောက် ပိုက်လုံးနှစ်ဖက်စလုံး ပိတ်ထားသည်ကို ဖွင့်ပေးလိုက်လျှင်၊ ဓာတ်ဆီလှောင်ကန်ထဲမှ ဓာတ်ဆီများသည် တောက်လျှောက် စီးဆင်းလာလိမ့်မည်။ ဓာတ်ဆီနှင့်တကွ အရည်မှန်သမျှကို ဤနည်းဖြင့် ဆွဲထုတ်ယူရာတွင် အသုံးပြုသော မည်သည့်ပြွန်မျိုးကိုမဆို ဆိုင်ဖွန်ပြွန်ဟူ၍ခေါ်လေသည်။

ရေစီးအားဖြင့်စက်လည်သည့် ရှေးကတီတွင်သော နာရီမျိုးတွင် ဆိုင်ဖွန်ပြွန်၏ဆောင်ရွက်တတ်ပုံသဘောမှုကို အသုံးချခဲ့ဘူးကြောင်းသိရသည်။ တောင်ကမူနှင့် ချိုင့်ဝှမ်းများကိုကျော်ဖြတ်ဆက်သွယ်ထားသည့် အချို့သောရေသွယ်ပြွန်များမှာလည်း တနည်းအားဖြင့် ဆိုင်ဖွန်ပြွန်အကြီးစားများပင် ဖြစ်လေသည်။

ဆိုင်ဖွန်၏သဘောမှာ ဆိုင်ဖွန်၌ တိုသည့်အပိုင်းနှင့် ရှည်သည့်အပိုင်းနှစ်ခုရှိရာ၊ ထိုအပိုင်းနှစ်ခုလုံးရှိအရည်ကို ကမ္ဘာ့ဆွဲအားကဆွဲချသည်။ သို့ရာတွင် ဆိုင်ဖွန်၏တိုသည့်အပိုင်းတွင် အရည်သည် အပေါ်သို့တက်ပြီးလျှင် ရှည်သည့်အပိုင်းတွင် အောက်သို့စီးဆင်းသည်။ အရည်သည် ဤကဲ့သို့စီးဆင်းနိုင်သည်မှာ လေ၏ဖိအားကြောင့်၎င်း၊ ဆိုင်ဖွန်၏တိုသည့်အပိုင်းတွင်ရှိအရည်နှင့် ရှည်သည့်အပိုင်းတွင်ရှိအရည်တို့၏ အလေးချိန်ခြားနားခြင်းကြောင့်၎င်း ဖြစ်သည်။ ဆိုင်ဖွန်၏ရှည်သည့်အပိုင်းရှိအပေါက်မှ အရည်စီးဆင်းချိန်တွင် ဆိုင်ဖွန်၏ထိပ်ပိုင်းတွင် ပလာနယ်ဖြစ်ပေါ်၏။ ထိုအခါ တိုသည့်အပိုင်းတွင်းရှိအရည်သည် လေ၏ဖိအားကြောင့် တက်လာပြီးလျှင် ထိုပလာနယ်ကို ဖြည့်ပေးလိုက်သဖြင့် ရှည်သည့်အပိုင်းဖက်ရှိ အပေါက်မှအရည်သည် အလျှင်မပြတ်စီးဆင်းလာသည်။ အကယ်၍ အရည်စီးဆင်းလာသည့်အပေါက်ကိုသာ တဖက်ရှိအပေါက်နှင့် တပြေးတည်းဖြစ်သည်အထိ မြှင့်တင်လိုက်လျှင် အရည်စီးဆင်းခြင်းရပ်စဲသွားပေမည်။ ထိုသို့ဖြစ်ရခြင်းသည် အရည်တက်ရသည့်အကွာအဝေးနှင့် အရည်ဆင်းရသည့်အကွာအဝေးချင်း တူနေခြင်းကြောင့်ဖြစ်သည်။

ဆိုင်ဖွန်သည် လေ၏ဖိအားပေါ်တွင် အခြေတည်သဖြင့် ရေကို မည်သည့်အခါမှ ၃၄ ပေထက်ပို၍တက်အောင် ဆွဲတင်နိုင်ခြင်း မရှိပေ။ (လေထုဖိအားသည် ၃၄ ပေမျှမြင့်သော ရေထု၏အလေးချိန်နှင့်ညီမျှသည်။)



ရကောက်သဏ္ဍာန် ဆိုင်ဖွန်ပြွန်



ဆိုင်မွန်အစီရင်ခံစာရေးခဲ့သူ ဆာ ဂျွန် ဆိုင်မွန်

**ဆိုင်မွန်, ဆာဂျွန်** (ခရစ် ၁၈၇၃–၁၉၅၄)။ ။ဗြိတိသျှခေတ် မြန်မာနိုင်ငံအုပ်ချုပ်ရေး ပြုပြင်ပြောင်းလဲရန်ကိစ္စတွင် အမည်ထင်ရှားခဲ့သော ဆာ ဂျွန် ဆိုင်မွန်သည် ၁၈၇၃ ခုနှစ် ဖေဖွာရီလ ၂၈ ရက်နေ့တွင် မန်ချက်စတာမြို့၌ဖွားမြင်၍၊ သူ၏အမည်အပြည့်အစုံမှာ ဂျွန် အောစဗရွတ် ဆိုင်မွန်ဖြစ်လေသည်။ ငယ်စဉ်က အောက်စဖို့တက္ကသိုလ်၌ပညာသင်ယူပြီးနောက်၊ ၁၈၉၉ ခုနှစ်မှစ၍ ဝတ်လုံတော်ရအဖြစ်ဖြင့်အသက်မွေးသည်။ နောင်သောအခါ လစ်ဗရယ်ပါတီဝင်အဖြစ်ဖြင့် နိုင်ငံရေးကိုလိုက်စားခဲ့ရာ၊ ၁၉၀၆ ခုနှစ်တွင် ဗြိတိသျှပါလီမန်၏ အောက်လွှတ်တော်အမတ်ဖြစ်လာလေသည်။ ပါလီမန်သို့ အကြိမ်ကြိမ်အဖန်ဖန်အရွေးခံခဲ့ရသည်။ ၁၉၁၀ ပြည့်နှစ်၌ ပါလီမန်အဖွဲ့ဝင် ဥပဒေအရာရှိချုပ်အဖြစ် ဆောင်ရွက်စဉ်၊ ဆာဘွဲ့ဖြင့် သူကောင်းပြုခြင်း ခံရသည်။ ၁၉၁၃ ခုနှစ်၌ နိုင်ငံတော်ရှေ့နေချုပ်ဖြစ်လာသည်။ ၁၉၁၅–၁၆ ခုနှစ်အတွင်းတွင် ပြည်ထဲရေးဌာနဝန်ကြီးအဖြစ် ဆောင်ရွက်ခဲ့ရာမှ အရွယ်ရောက်သူယောကျ်ားတိုင်း စစ်မှုထမ်းရမည်ဟူသော စံနစ်ကို မထောက်ခံနိုင်သောကြောင့်၊ ရာထူးမှနုတ်ထွက်ခဲ့သည်။ ထိုနောက် ၁၉၁၈ ခုနှစ်တွင် ပါလီမန်ရွေးကောက်ပွဲ၌ရှုံးနိမ့်ပြီးလျှင်၊ ၁၉၂၂ ခုနှစ်သို့ရောက်သောအခါမှ ပြန်လည်အရွေးခံရသည်။ ထိုအခါမှစ၍ ပါလီမန်အမတ်အဖြစ်ဖြင့် အစဉ်တစိုက်ဆောင်ရွက်လာခဲ့ရာ၊ ၁၉၂၇–၃၀ ပြည့်နှစ်အတွင်း၌ အိန္ဒိယပြည်အား ကိုယ်ပိုင်အုပ်ချုပ်ရေးပေးရန်ကိစ္စနှင့်စပ်လျဉ်း၍ ပါလီမန်မှ ပြဋ္ဌာန်းဖွဲ့စည်းလိုက်သော စုံစမ်းရေးကော်မစ်ရှင်အဖွဲ့တွင် ဥက္ကဋ္ဌအဖြစ်ဖြင့်ဆောင်ရွက်ခဲ့သည်။ ထိုအစီရင်ခံစာသည် ဆိုင်မွန်ကော်မစ်ရှင် အစီရင်ခံစာဟု အမည်တွင်လေသည်။ ထိုစဉ်က မြန်မာပြည်မှာ အိန္ဒိယဗဟိုအစိုးရ၏ပြည်နယ်တနယ်မျှသာ ဖြစ်လေရာ၊ ဆိုင်မွန်ကော်မစ်ရှင်အစီရင်ခံစာတွင် မြန်မာပြည်အုပ်ချုပ်ရေးလည်း အကျုံးဝင်လေသည်။ မြန်မာပြည်ရှိ တိုင်းရင်းသားတို့၏အယူအဆ၌ကား ဆိုင်မွန်ကော်မစ်ရှင် အစီရင်ခံစာတွင် ပါရှိသော အုပ်ချုပ်ရေးပြုပြင်ပြောင်းလဲမှုအတွက် လျာထားချက်များသည် မြန်မာတို့၏အာသီသနှင့်မကိုက်ညီဟု ယူဆကြလေသည်။ (မြန်မာနိုင်ငံ၊ နိုင်ငံရေးသမိုင်း — ရှု။)

စုံစမ်းရေးကော်မစ်ရှင် ဥက္ကဋ္ဌအဖြစ်ဖြင့် အိန္ဒိယ၌ ရှိစဉ်၊ ဝတ်လုံလိုက်ခြင်းဆက်လက်မပြုတော့ဟုကျေညာခဲ့၏။ ဝတ်လုံလိုက်စဉ်က ဝင်ငွေ တနှစ်လျှင် စတာလင် ပေါင်ပေါင်း ၅၀,၀၀၀ မျှရှိသည်။

ဆာဂျွန်သည် ၁၉၃၁ ခုနှစ်တွင် ဗြိတိသျှအစိုးရ၏ နိုင်ငံခြားရေးဌာနဝန်ကြီး ဖြစ်လာလေသည်။ ယင်းဝန်ကြီး အဖြစ်ဖြင့် ၁၉၃၅ ခုနှစ်အထိဆောင်ရွက်သည်။ ၁၉၃၅–၃၇ ခုနှစ်အတွင်း၌မူ ပြည်ထဲရေးဌာနဝန်ကြီးအဖြစ် ဆောင်ရွက်၍၊ ၁၉၃၇–၄၀ ပြည့်နှစ်အတွင်းတွင် ဘဏ္ဍာရေးဌာနဝန်ကြီးဖြစ်လာသည်။ ၁၉၄၀ ပြည့်နှစ်တွင် ချိန်ဗာလိန်နှင့်အတူ ဝန်ကြီးရာထူးမှ နုတ်ထွက်ရလေသည်။ ၁၉၃၁ခုနှစ်မှစ၍ သူသည် လစ်ဗရယ်နေရှင်နယ်ပါတီ၏ ခေါင်းဆောင်အဖြစ်ဖြင့် ဆောင်ရွက်ခဲ့၏။ ၁၉၄၀ ပြည့်နှစ်တွင် ဗိုင်းကောင့်ခေါ်မှူးမတ်ငယ်အဖြစ် သူကောင်းပြုခြင်းခံရ၍၊ ဗြိတိသျှပါလီမန် အထက်လွှတ်တော်တွင်ပါဝင်ကာ၊ ယင်းလွှတ်တော်၏ သဘာပတိ (လော့ချန်စယ်လာ) အဖြစ်ဖြင့် ၁၉၄၅ ခုနှစ်အထိဆောင်ရွက်ခဲ့၏။ ယင်းအထက်လွှတ်တော်သည် ဗြိတိသျှနိုင်ငံ၏ အမြင့်မားဆုံးသော အယူခံတရားရုံးလည်း ဖြစ်သဖြင့်၊ အထက်လွှတ်တော်သဘာပတိမှာ နိုင်ငံတော်တရားဝန်ကြီးချုပ်ဟူ၍လည်း မည်ပေသည်။ ၁၉၄၅ ခုနှစ်တွင် ညွန့်ပေါင်းအစိုးရပြုတ်ကျသောအခါ၊ အထက်လွှတ်တော်အဖွဲ့ဝင်အဖြစ်ဖြင့်ဆက်လက်နေခဲ့၏။ ဗိုင်းကောင့်ဆိုင်မွန်သည် ၁၉၅၄ ခုနှစ် ဇန္နဝါရီလ ၁၁ ရက်နေ့တွင် လန်ဒန်၌ကွယ်လွန်လေသည်။

**ဆိုင်ယနိုက်**။ ။ဟိုက်ဒရိုဆိုင်ယနစ်၊ တနည်းအားဖြင့် ပရပ်ဆစ်အက်ဆစ် $HCN$ ဟုခေါ်သောဓာတ်၏ဓာတ်ဆားများဖြစ်ကြသော ဆိုင်ယနိုက်တို့သည် အလွန်အသုံးဝင်သော်လည်း အလွန်တရာအဆိပ်ပြင်း၏။ အထူးသဖြင့် ပိုတက်ဆီယမ်ဆိုင်ယနိုက် $KCN$ နှင့် ဆိုဒီယမ်ဆိုင်ယနိုက် $NaCN$ တို့သည် အဆိပ်ပြင်းသည်။ အဝတ်စတစတွင် ပိုတက်ဆီယမ်ဆိုင်ယနိုက် အနည်းငယ်မျှကိုဆွတ်၍၊ နကျယ်

အိမ်အပေါက်ဝတခု၌ ဆွဲထားလိုက်လျှင် အိမ်အတွင်းရှိ နကျယ်ကောင်နှင့်တကွ အပြင်ဖက်မှ အိမ်သို့ပြန်လာသော နကျယ်ကောင်များပါ သေကုန်ကြ၏။ ထိုကြောင့် အထက်ပါအက်ဆစ်နှင့်ဓာတ်ဆားများကို လက်အိတ်လက်ဖုံးမပါဘဲ လက်ချည်းသက်သက်ဖြင့်မကိုင်မတွယ်ရချေ။ ဆိုဒီယမ် ဆိုင်ယနိုက်နှင့် ပိုတက်ဆီယမ် ဆိုင်ယနိုက်ပျော်ဝင်ရည်တို့တွင် ရွှေသည် အလွယ်တကူ ပျော်နိုင်သောကြောင့် ဆိုင်ယနိုက်ကို ရွှေအရိုင်းတုံးများမှ ရွှေသန့်ထုတ်ယူရာ၌ များစွာအသုံးပြုကြသည်။ ရွှေနှင့်ငွေပျော်ဝင်နေသော ဆိုင်ယနိုက်ပျော်ဝင်ရည်ကိုလည်း ဓာတ်ရည်စိမ်ရာ၌ များစွာအသုံးပြုကြ၏။ ပိုတက်ဆီယမ်ဆိုင်ယနိုက်နှင့် အိုင်းယန်းဆိုင်ယနိုက်ဓာတ်ဆားနှစ်မျိုးပေါင်းဖြစ်သော ပိုတက်ဆီယမ် ဖယ်ရို ဆိုင်ယနိုက် $K_4Fe(CN)_6$ နှင့် ပိုတက်ဆီယမ် ဖယ်ရီ ဆိုင်ယနိုက် $2K_3Fe(CN)_6$ တို့သည် ဆေးဆိုးလုပ်ငန်းများတွင် အလွန်အသုံးဝင်၏။

ဟိုက်ဒရိုဆိုင်ယနစ်အက်ဆစ်ရည်သည် အလွန်အဆိပ်ပြင်းထန်၏။ ချယ်ရီသီး၊ ဆီးသီး၊ မက်မုံသီးစသော သစ်သီးများ၏အစေ့တွင်းရှိအဆန်တွင် ဤအက်ဆစ်သည် အခြားပစ္စည်းများနှင့်ရောရှိပါတတ်၏။ ထိုကြောင့် သစ်သီးစေ့တို့၏ အဆန်များကိုမစားသင့်ချေ။ ဟိုက်ဒရိုဆိုင်ယနစ်ဓာတ်ငွေ့ကိုမူ အိမ်၊ သင်္ဘော၊ ကုန်လှောင်ရုံကြီးများနှင့် ကုန်အမျိုးမျိုးတို့ကို ပိုးမွှားကင်းအောင် မှိုင်းတိုက်ပေးရာ၌အသုံးပြုကြလေသည်။

**ဆိုင်းဆရာများ**။ ။ဆိုင်းဆရာအဖြစ်သို့ရောက်လိုသူတယောက်သည် ငယ်ရွယ်စဉ် အခါမှစ၍၊ အားကိုးလောက်သော ပညာရှင်ဆိုင်းဆရာကြီးထံ၌ နှစ်ရှည်လများ တပည့်ခံပြီးလျှင်၊ ဆိုင်းသမားအဖြစ်မှ ပတ်တီးလက်ထောက်၊ ပတ်တီးခေါင်းဆောင်အဖြစ်သို့ တစတစတိုးတက်ရောက်ရှိသည့်တိုင်အောင် အထူးဝီရိယစိုက်၍ပညာဆည်းပူးပါမှ ဆိုင်းဆရာ အဖြစ်သို့ရောက်ရှိနိုင်ပေသည်။ ဤကဲ့သို့သော ဇွဲဝီရိယဖြင့် အားခဲလေ့လာကာ ကြိုးစားခဲ့ကြသဖြင့် မြန်မာနိုင်ငံဆိုင်းလောကတွင် ထင်ပေါ်ကျော်ကြားခဲ့ကြသော ဆိုင်းဆရာများသည် မြန်မာမင်းလက်ထက်မှစ၍ ယနေ့တိုင်အောင် အသီးသီးပေါ်ထွက်ခဲ့ကြလေသည်။ သို့ရာတွင် အချို့သောဆိုင်းဆရာအဆက်အနွယ်တို့သည် ရိုးရာဖြစ်သောဆိုင်းပညာကို ဆက်ခံလိုက်စားခြင်းနည်းပါးသဖြင့် တဖြည်းဖြည်းမှေးမှိန်တိမ်ကောသွားကြရ၏။ အချို့သောဆိုင်းဆရာကြီးများ၏ သားမြေးတို့သည်ကား ဆိုင်းပညာကိုစွန့်၍ ဇာတ်သဘင်ပညာဖြင့်အသက်မွေးကြ၏။ အချို့မှာမူ ရိုးရာဆိုင်းပညာကိုလိုက်စားပါသော်လည်း၊ မိဖဘိုးဘွားများကဲ့သို့ ထူးချွန်ကျော်ကြားခြင်းမရှိကြချေ။ ဤသို့အားဖြင့် တခါက မန္တလေးနေပြည်တော်ဝယ် ထင်ပေါ်ကျော်ကြားခဲ့ကြကုန်သော ဆိုင်းဆရာကြီးများဖြစ်ခဲ့ကြသည့် ဆရာအုန်း၊ ဆရာလတ်တို့၏အဆက်အနွယ်များသည် မြန်မာနိုင်ငံဆိုင်းလောကတွင် တိမ်ကောခဲ့ကြရပေသည်။

ပဥ္စမသင်္ဂါယနာတင် မင်းတုန်းမင်းလက်ထက်၌ ဆိုင်းဆရာကြီး ဦးရောင်နီသည် နန်းသုံးဆိုင်းတော် ဆရာကြီးအဖြစ် ခြီးမြှောက်ခန့်ထားခြင်းခံရသည်။ ဦးရောင်နီသည် ကနောင်မြို့သားဇာတိဖြစ်သည်။ ယင်း၏သားနှစ်ယောက်ဖြစ်သော ဦးရွှေလှနှင့် ဦးရွှေအိမ်တို့သည်၎င်း၊ မြေးများဖြစ်သူ ဦးရွှေလှ၏သား ဆရာစိုးနှင့် ဦးရွှေအိမ်၏သား ဦးရေချမ်းတို့သည်၎င်း၊ မြစ်ဖြစ်သူဆရာစိုး၏သား မောင်ငယ်သည်၎င်း၊ ဦးရောင်နီ၏အမွေအနှစ်ကိုဆက်ခံကာ ဆိုင်းဆရာများဖြစ်လာကြသည်။ ယခုအခါ ဆရာစိုးနှင့် သားမောင်ငယ်တို့သည် ရန်ကုန်မြို့ မင်းမနိုင်ကွက်သစ်၌ အတူနေထိုင်လျက်ရှိကြသည်။ မောင်ငယ်သည် ယနေ့တိုင်အောင် ဆိုင်းပညာဖြင့် အသက်မွေးလျက်ရှိပေသည်။

သီပေါမင်းလက်ထက် ပါတော်မမူမီလေးနှစ်ခန့်တွင် လက်ဝဲဆိုင်းမှ လက်ျာဆိုင်းတော်အဖြစ် ခြီးမြှင့်ခန့်ထားခြင်းခံရသူမှာ ဆိုင်းဆရာကြီးဆရာဖေဖြစ်သည်။ ဆရာဖေသည် မန္တလေးမြို့ မဟာမုနိဘုရားကြီးအနီး အရွေရွာသစ်သားဖြစ်သည်။ အရွယ်ရောက်သော် အရွေရွာသစ်သူ ဒေါ်သစ်နှင့် အကြောင်းပါ၍၊ နောင်အခါ မြန်မာနိုင်ငံဆိုင်းလောကတွင် ဆရာစိမ့်ဟူ၍ ထင်ပေါ်ကျော်ကြားမည့် သားတယောက်ထွန်းကားသည်။ ဒေါ်သစ်ကွယ်လွန်သော် ဆရာဖေသည် မိကျောင်းတူရိယာကိုတီးတတ်သော နန်းတွင်းအပျိုတော် မမလေးနှင့်အိမ်ထောင်ဆက်ပြန်ရာ သားတယောက်နှင့် သမီးနှစ်ယောက်ထွန်းကားသည်။ သားဖြစ်သူမှာ နောင်အခါ မြန်မာနိုင်ငံဆိုင်းလောကတွင် ရွာစားကြီးစိန်ဗေဒါဟုကျော်ကြားမည့် ဦးမောင်ကလေးဖြစ်သည်။ သမီးကြီး ဒေါ်သီကား မိကျောင်းတီးပညာ၌ကျွမ်းကျင်၍၊ သမီးငယ် မယ်လှိုင်သည် နောင်အခါ နာမည်ကျော် အငြိမ့်မင်းသမီး ယိုးဒယားမငွေလှိုင်ဟု ထင်ပေါ်ကျော်ကြားခဲ့သည်။ (စိမ့်၊ ဆရာ။ စိန်ဗေဒါ — ရှု။)

ရွာစားကြီးဆရာဖေသည် သီပေါမင်းလက်ထက်တွင် သိုင်းအလံလေးချက်၊ 'ဘွဲ့ဖြူ' စိန်ဆိုင်းဝိုင်းတစုံနှင့် ဆိုင်းဝိုင်းအထက်တွင်တပ်ဆင်ရန် ဖန်ပဒိုင်းများကို ခြီးမြှင့်ခြင်းခံရသည်။ ထိုနောက်သီပေါမင်းက ဆရာဖေအား နေမျိုးကျော်ခေါင်ဘွဲ့ပေးအပ်၍၊ ပလိပ်မြို့အနီးရှိ ဆီဆုံ ၁၀ ရွာကိုစားစေသည့်အပြင်၊ မန္တလေးမြို့ရှိ ယခုအမျိုးသားကျောင်းဝင်းတည်ရာမြေကွက်ကြီး၌ နေထိုင်ခွင့်ပေးသည်။ ထိုနေရာကို ဆရာဖေနှင့် တပည့်သားမြေးတို့နေထိုင်ခဲ့သည်ကို အစွဲပြု၍ ရှေးအခါကပင် 'ဆိုင်းဝင်း' ဟုခေါ်ဝေါ်ခဲ့ကြလေသည်။

ရှာစားကြီးဆရာဖေ၏ တပည့်ဖြစ်သူ အမရပူရမြို့သား ဆရာပေသည်လည်း ဆိုင်းရာဇဝင်၌ထင်ရှားသူဖြစ်သည်။ ရှာစားကြီးဆရာဖေသည် ရွှေနန်းတော်တွင်း၌ အသုံးတော် ခံခဲ့စဉ်အခါများက တပည့်ကြီးဆရာပေအား မိမိနှင့်အတူလိုက်ပါစေခဲ့သည်။ ဆရာပေသည် ဆရာဖေ၏သားများဖြစ်ကြသော ဆရာစိမ့်နှင့် ဦးမောင်ကလေး (စိန်ဗေဒါ) တို့ကို ငယ်ရွယ်စဉ်အခါက ယင်းတို့၏ ဖခင်ကြီးဆရာဖေနှင့်အတူ ဆိုင်းအတတ်ကို အထူးဝါယမစိုက်ထုတ်ကာ သင်ကြားပေးခဲ့သူတဦးလည်းဖြစ်သည်။ သို့သော် ဆရာပေသည် ဆရာဖေ၏သားကြီး ဆရာစိမ့် ဆိုင်းခွဲ၍ထောင်ပြီးသည့်နောက်မှသာလျှင် ဆိုင်းခွဲ၍ထောင်ခွင့်ကိုရရှိခဲ့လေသည်။ ဆိုင်းအတတ်ကိုသင်ကြားရာတွင် တင်းတိမ်ခြင်းမရှိသော ဆရာပေသည် ယင်းသို့ ဆရာရှာစားကြီး ဆရာဖေနှင့်ခွဲခွာခဲ့သော်လည်း၊ ဆိုင်းဆရာကြီးဦးကျော်ဇံအား သူနှင့်အတူလိုက်ပါနေထိုင်ရန် ပန်ကြားခေါ်ခဲ့၏။ ထိုအပြင် ဆရာပေသည် မုံရွာခရိုင် အရာတော်မြို့မှ နှဲဆရာကြီးဦးရွှေဖောင်၏သား မန္တလေးမြို့ ဂုဏ်တန်ရပ်နေ နှဲဆရာဦးမှင်ကိုပါအတူခေါ်၍ မန္တလေးမြို့မှ ပြည်မြို့သို့စုန်ဆင်းခဲ့သည်။ နှဲဆရာဦးမှင်ကား ယခုအခါနိုင်ငံတော်ဆိုင်းအဖွဲ့ ဦးစီးခေါင်းဆောင်အဖြစ် ထင်ရှားကျော်ကြားလျက်ရှိသူ အလင်္ကာကျော်စွာဦးဟံပ၏ဖခင်တည်း။ ထိုအခါမှစ၍ မြန်မာနိုင်ငံမြေလတ်ပိုင်းတွင် ဆိုင်းပညာ တိုးတက်ပြန့်ပွားခဲ့ရာ ဆိုင်းလောက၌ မန္တလေးမြို့မှလွဲလျှင် ပြည်မြို့သည် အချက်အခြာ ဌာနတခုဟု ဆိုနိုင်တော့လေသည်။ ပြည်မြို့၌ ဆရာပေနှင့် ဆရာကြီးဦးကျော်ဇံတို့၏ သတင်းသည် လွန်စွာကျော်ကြားသည့်အလျောက် တပည့်တပန်းများလည်း လွန်စွာပေါများလေသည်။ ယင်းသည့်တပည့်များအနက် နှဲဆရာဦးမှင်၏သား ဦးဟံပ၊ ယင်း၏ညီ ဦးလှဖေနှင့် ဆရာပေ၏သား ဦးဘစံတို့လည်း ပါဝင်သည်။ ဆရာပေ၏သား ဦးဘစံနှင့် ဦးလှဖေတို့သည် ဆိုင်းအတတ်ပညာ၌နာမည်ကျော်ပြီးမှ ကွယ်လွန်ခဲ့ကြလေသည်။

ရှာစားကြီးဆရာဖေ၏နောက်၌ မြန်မာနိုင်ငံဆိုင်းလောကတွင် နှစ်ပေါင်းအတော်ကြာပြိုင်ဖက်ကင်းသူအဖြစ်ထင်ရှားသူမှာ ဆရာစိမ့်ဖြစ်သည်။ ဆရာစိမ့်ကို အဖရှာစားကြီးဆရာဖေနှင့် အမိဒေါ်သစ်တို့မှ သက္ကရာဇ် ၁၂၃၄ ခုနှစ်တွင် မန္တလေးမြို့ မဟာမုနိဘုရားကြီးအနီး အရှေ့ရွာသစ်၌ ဖွားမြင်သည်။ အသားညိုသဖြင့် သူ့ကိုကျီးကန်းကလေးဟုခေါ်ကြသည်။ ငယ်ရွယ်စဉ်ကပင် မိမိ၏ဖခင်ကြီး ဆရာဖေနှင့် ဆရာဖေ၏တပည့်ကြီးဖြစ်သူ ဆရာပေတို့ထံတွင်ဆိုင်းအတတ်ကို အထူးလေ့လာသင်ကြားသည်။ ဖခင်ကြီးဆရာဖေရွှေနန်းတော်တွင်းသို့ အသုံးတော်ခံ ဝင်ရောက်သောအခါများတွင်လည်း အတူလိုက်ပါသွားလေ့ရှိသည်။ စောင်းအတတ်ကို ဒေဝဣန္ဒာဦးမောင်မောင်ကြီးထံ၌ရှင်း၊ မိကျောင်းတီး အတတ်ကို ဆေးဆရာကြီး မိကျောင်းဝိဇ္ဇာဦးမောင်မောင်ကြီးထံ၌ရှင်း လေ့လာသင်ကြားသည်။ ဆိုင်းအတတ်ကို ပတ်စာတင်နည်းမှစ၍ အစအဆုံးတိုင်အောင် သင်ကြားတတ်မြောက်သည်။ မိမိ၏ဖခင်ထံမှ ဆိုင်းခွဲထောင်ပြီးနောက် ရုပ်စုံစင်တော်များ၊ ဇာတ်ပွဲများနှင့် တွဲဖက်ခဲ့သည်။ ထို့နောက် မြန်မာနိုင်ငံအောက်ပိုင်းသို့စုန်ဆင်းလာခဲ့၍၊ နောင်အခါ ဦးဖိုးစိန်ကြီးဟုထင်ပေါ်ကျော်ကြားမည့် မင်းသားမောင်ဖိုးသိုက်နှင့် ဟင်္သာတမြို့တွင်စတင်တွဲဖက်ကပြခဲ့သည်။ ဆရာစိမ့်၊ မင်းသားမောင်ဖိုးသိုက်၊ အောင်ဗလ၊ နှဲဆရာဦးဇေယျာတို့သည် ကျော်ကြားသော ဇာတ်အဖွဲ့ကြီးတဖွဲ့အဖြစ် ထင်ရှားခဲ့သည်။ ဆရာစိမ့်သည် မန္တလေးသူ ဒေါ်တိုးနှင့်အကြောင်းပါရာ၊ နာမည်ကျော် စန္ဒရားမမကြီးဟူသော သမီးတယောက်ကိုဖွားမြင်ခဲ့သည်။ မြန်မာနိုင်ငံအောက်ပိုင်းသို့ရောက်သောအခါ၊ ဒုတိယအိမ်ထောင်ဖက်အဖြစ် ဦးဖိုးစိန် (မင်းသားမောင်ဖိုးသိုက်) ၏အစ်မဝမ်းကွဲတော်သူ ဒေါ်စိန်မြိုင်နှင့် လက်ဆက်ခဲ့ပြန်ရာ၊ တဦးတည်းသောသား ဦးဘမောင်ကိုဖွားမြင်ခဲ့သည်။ ဦးဘမောင်သည် ယခုအခါ နာမည်ကြီးဆိုင်းဆရာ ဦးဘမောင် အဖြစ်ထင်ရှားလျက်ရှိသူဖြစ်သည်။ ဆရာစိမ့်သည် ပတ်ရင်းကောင်းခြင်း၊ ပတ်သံသာခြင်း၊ အချောက်အလှန့် ကောင်းခြင်းဟူသည်တို့ကြောင့် မြန်မာနိုင်ငံဆိုင်းလောကတွင် အထက်မြန်မာနိုင်ငံကို အင်္ဂလိပ်များသိမ်းယူပြီးသည်မှ ပဌမကမ္ဘာစစ်ကြီးဖြစ်သည်အထိ ပြိုင်ဖက်ကင်းသူအဖြစ် ထင်ရှားကျော်ကြားခဲ့လေသည်။ ၁၂၇၈ ခုနှစ်တွင် မန္တလေးမြို့၌ပင် ဆရာစိမ့်ကွယ်လွန်ခဲ့သည်။ ဆရာစိမ့်ကွယ်လွန်သောအခါ ရှေးအစဉ်အလာ အဆောင်အယောင်အတိုင်း နှုတ်ခမ်း၊ ရင်ပတ်နှင့် လက်နှစ်ဖက်တို့တွင် ရွှေချသည်။ (စိမ့်၊ ဆရာ — ရှု။)

ဆရာစိမ့်ကွယ်လွန်ပြီးသည့်နောက် မြန်မာနိုင်ငံဆိုင်းလောကတွင် နှစ်ပေါင်း ၃၀ မျှ ပြိုင်ဖက်ကင်းသူအဖြစ် ထင်ရှားကျော်ကြားခဲ့သူမှာ ရှာစားကြီးစိန်ဗေဒါခေါ် ဦးမောင်ကလေးဖြစ်သည်။ ဦးမောင်ကလေးကို အဖရှာစားကြီး ဆရာဖေနှင့် အမိနန်းတွင်းသူဒေါ်မမလေးတို့မှ သက္ကရာဇ် ၁၂၄၄ ခုနှစ် တန်ဆောင်မုန်းလကွယ် သောကြာနေ့တွင် မန္တလေးမြို့ ဆိုင်းဝင်းရပ်၌ဖွားမြင်သည်။ ဆရာစိမ့်သည် ဦးမောင်ကလေးနှင့် အဖေတူအမေကွဲညီအစ်ကိုဖြစ်သည်။ ဦးမောင်ကလေးသည် ငယ်စဉ်အခါကပင် ၁၂ လုံးဒိုးခေါ် နရီးကို ကြားရသူတိုင်းဘဝင်စိမ့်အောင် တီးနိုင်သည်။ ဦးမောင်ကလေးသည် မိမိဖခင်ကြီး ဆရာဖေ၊ ယင်း၏တပည့်ကြီး ဆရာပေ၊ ဆိုင်းဆရာကြီး ဦးကျော်ဇံအစရှိသော ဆိုင်းပညာရှင်တို့၏ တီးလုံး တီးကွက် မူအမျိုးမျိုးတို့ကို သင်ကြားခံယူခဲ့ရခြင်း၊ တူရိယာအမျိုးမျိုးတီးမှုတ်ခြင်းအတတ်တို့ကို လေ့လာ တတ်

ကျွမ်းခြင်းများကြောင့် ဆိုင်းအတတ်တွင် ပိုမို၍လပ်မြင်ခဲ့လေသည်။ ပညာစုံသောအခါ ဦးမောင်ကလေးသည် မင်းသားဦးဖိုးကွန်း၊ မင်းသမီးဒေါ်ထွေးလေးတို့၏ဇာတ်အဖွဲ့နှင့် မန္တလေးမှ ရန်ကုန်သို့ဆင်းလာခဲ့သည်။ ရန်ကုန်တွင် 'ဗေဒါ၊ ဗေဒါ၊ နင့်ဗူးကို ဘယ်သူခွဲချတယ်၊ ပြောပါဟဲ့ဗေဒါ၊ မိဗေဒါ' ဟုအစချီသောသီချင်းကိုတီးပြရာ သူ၏လက်သံကို ရန်ကုန်လူထုက အထူးနှစ်ခြိုက်ပြီးလျှင် သူ့အား 'ဗေဒါမောင်ကလေး' ဟုခေါ်စမှတ်ပြုကြသည်။ ထိုနောက် မန္တလေးသို့ ပြန်ရောက်သောအခါတွင် ဦးမောင်ကလေး၏ သတင်းမှာ ပိုမိုပျံ့သင်းလာပြီးနောက် 'စိန်ဗေဒါ' ဟူသောအမည်ကို လူထုပရိသတ်ထံမှ ခံယူရရှိခဲ့ပေတော့သည်။ စိန်ဗေဒါခေါ် ဦးမောင်ကလေးသည် ၁၂၇၂ ခုနှစ်တွင် အိန္ဒိယပြည် ရတနာဂီရိစံ သီပေါမင်းထံသို့ အသုံးတော်ခံသွားခဲ့၏။ သီပေါမင်းက ဦးမောင်ကလေးအား 'နေမျိုးဗလကျော်သူ' ဟူသောဘွဲ့တံဆိပ်တော်နှင့်အတူ ရွှေဆိုင်းအလံလေးချက် ဖန်ပဒိုင်းတို့ကိုချီးမြှင့်လိုက်သည်။ ၁၂၇၃ ခုနှစ်တွင်လည်း ဦးမောင်ကလေးသည် သီပေါမင်း၏သမီးတော်များ နားထွင်းမင်္ဂလာပွဲအတွက် အသုံးတော်ခံရန် ရတနာဂီရိသို့ ဒုတိယအကြိမ်ရောက်ခဲ့လေသည်။ မြန်မာနိုင်ငံမှ ပင်လယ်ရပ်ခြားတိုင်းတပါးများသို့ သွားရောက်ခဲ့သောဆိုင်းဆရာများအနက် စိန်ဗေဒါခေါ် ဦးမောင်ကလေးသည် ပဌမဦးဆုံးသွားရောက်ခဲ့သူဖြစ်သည်။ သူ၏ဇနီးသည်မှာ အကတွင်ဝါသနာထုံသော ညောင်လေးပင်မြို့သူ ဒေါ်စိန်မေဖြစ်၍၊ သားသမီးတယောက်မျှထွန်းကားခြင်းမရှိခဲ့ချေ။ သူ၏နဲ့တပည့်များမှာ ဆရာဆယ်၊ ဦးချစ်မောင်စသည်တို့ဖြစ်၍၊ ဆိုင်းတပည့်များမှာ စိန်ငှက်ရိုး၊ စိန်ကျော်တင့်စသည်တို့ဖြစ်သည်။ ဦးမောင်ကလေးသည် ဒုတိယကမ္ဘာစစ်အတွင်း လည်ချောင်းတွင်ပေါက်သော ကင်ဆာရောဂါစွဲကပ်သဖြင့် ပြွန်တန်ဆာမြို့မှ သူ၏တပည့်မိတ်ဆွေဖြစ်သူ မြန်မာညွန့်ဦးချစ်မောင်နှင့်အတူ ရန်ကုန်သို့ဆင်း၍ဆေးကုခံယင်း ၁၃၀၄ ခု တော်သလင်းလဆုတ် ၁၄ ရက်နေ့တွင် ရွှေတောင်တန်း၌ ကွယ်လွန်ခဲ့သည်။ စိန်ဗေဒါခေါ် ဦးမောင်ကလေးသည် သီချင်းကြီးများမှ တီးလုံးဆန်းများကိုထုတ်နုတ်တီးလေ့ရှိ၍၊ သူ၏လက်သံမှာ ကြည်လင်ပြတ်သားလှပေသည်။ (စိန်ဗေဒါ — ရှု။)

ယခုအခါ လွတ်လပ်သောပြည်ထောင်စုမြန်မာနိုင်ငံတော်ဆိုင်းအဖွဲ့၏ခေါင်းဆောင်အဖြစ် ထင်ရှားကျော်ကြားလျက်ရှိသူမှာ ဦးဟံပဖြစ်သည်။ ဦးဟံပကို ၁၂၅၀ ပြည့်နှစ်တွင် မန္တလေးမြို့၌ဖွားမြင်သည်။ သူ၏ဖခင်မှာ နာမည်ကြီးနဲ့ဆရာ ဦးမှင်ဖြစ်သည်။ ဦးဟံပသည် ဆရာမိဖတို့ ခွင့်ပြုချက်အရ ပခန်းဆရာညို၏ရုပ်သေးနှင့် စတင်တွဲဖက်ခဲ့သည်။ ထိုနောက် ဟသာ်တမြို့သို့စုန်ဆင်းခဲ့ကာ ပလာဆိုင်းတီး၍နေခဲ့သည်။ အသက် ၂၇ နှစ်အရွယ်တွင် ဦးစိန်ကတုံး၏ဇာတ်အဖွဲ့နှင့်တွဲလေသည်။ ထိုနောက် ဝါးခယ်မမြို့သို့ စုန်ဆင်း၍ ကာလအတန်ကြာစွာနေထိုင်ခဲ့သည်။ အသက် ၃၁ နှစ်အရွယ်တွင် ဆရာစိမ့်၏ဇနီး ဒေါ်တိုးကခေါ်၍ မန္တလေးမြို့သို့ တက်ကာ ကွယ်လွန်သူဆရာစိမ့်၏ဆိုင်းကို ၃ နှစ်မျှတီးခဲ့ရသေးသည်။ ဦးဟံပသည် အထက်သားဖြစ်သော်လည်း၊ အောက်ပြည်၌သာ အနေအထိုင်များ၍၊ မြစ်ဝကျွန်းပေါ်ဒေသတွင်ထင်ရှားကျော်ကြားခဲ့သည်။ စိန်ဗေဒါကွယ်လွန်ပြီးနောက်မှ မန္တလေးမြို့သို့သွားရောက်နေထိုင်ခဲ့သည်။ ၁၉၅၂ ခုနှစ်ပြည်တော်သာအခမ်းအနား၌ မန္တလေးမြို့မှ ပြည်တော်သာအဖွဲ့ကြီးနှင့်အတူ ရန်ကုန်မြို့သို့ရောက်လာ၍ မျှားမကြာမီပင် နိုင်ငံတော်၏ဆိုင်းအဖွဲ့ခေါင်းဆောင်အဖြစ် ချီးမြှောက်ခန့်အပ်ခြင်းခံရသည်။ လွတ်လပ်သောပြည်ထောင်စုခေတ်တွင် ဦးဟံပသည် ဆိုင်းဆရာများထဲမှ အလင်္ကာကျော်စွာဘွဲ့ကို ပဌမဦးဆုံးရရှိခဲ့သူဖြစ်သည်။ ထိုပြင် ပြည်ထောင်စုခေတ်၌ နိုင်ငံရပ်ခြား တိုင်းတပါးများဖြစ်သော ထိုင်းလင်းနိုင်ငံ၊ တရုပ်ပြည်သူ့သမတနိုင်ငံနှင့် ဆိုဗီယက်ပြည်ထောင်စုနိုင်ငံများသို့ ဆိုင်းဆရာများထဲမှ ပဌမဦးဆုံး



နိုင်ငံတော်ဆိုင်းအဖွဲ့ခေါင်းဆောင် ဆိုင်းဆရာကြီးအလင်္ကာကျော်စွာဦးဟံပသည် ဆိုင်းတီးသောအခါ နာမည်နှင့်လိုက်အောင်ဟန်ပါသည်။ လက်သံမှာ ပတ်သံမာ၍ကြည်သည်။



**ပတ်သံသာ၍ဆိုင်းပို့အလွန်ကောင်းသူဟု ဆိုင်းလောက၌ထင်ရှားသည့် ဆိုင်းဆရာကြီးဝဏ္ဏကျော်ထင်ဦးဘမောင်**

ထင်ရှားကျော်ကြားသူများမှ ဆင်းသက်ပေါက်ဖွားလာသူဖြစ်ပေသည်။ ထို့ကြောင့် ဦးဘမောင်သည် ငယ်ရွယ်စဉ်အခါကပင် ရိုးရာဆိုင်းအတတ်ပညာကို လေ့လာလိုက်စားခဲ့၍၊ ဦးလေးတော်ဖြစ်သူဦးဖိုးစိန်၏ဇာတ်အဖွဲ့နှင့်တွဲဖက်ခဲ့သည့် ဦးလေးဝမ်းကွဲတဦးဖြစ်သူ ဆိုင်းဆရာ ဆရာဆိတ်၏ဆိုင်းအဖွဲ့တွင် ပတ်မထိန်းအဖြစ် စတင်ဝင်ရောက်ခဲ့ရာမှ ဆိုင်းဆရာကြီးအဖြစ်သို့ တစစတက်လှမ်းရောက်ရှိကာ ဦးဖိုးစိန်၏ဇာတ်၌ပင် နာမည်ကြီးခဲ့လေသည်။ ဦးဖိုးစိန် ကွယ်လွန်သောအခါ ဦးဘမောင်သည် အခြားနာမည်ကြီး ဇာတ်အဖွဲ့များ၌ ဆက်လက်၍တီးခဲ့သည်။ ဦးဘမောင်သည် အဖရှာစားကြီးဆရာစိမ့်ကဲ့သို့ လက်ကျကောင်းသည်၊ ပတ်သံသာသည်ဟု ဆိုင်းလောက၌ထင်ရှား၏။ ဇာတ်ပို့သောပညာ၌လည်း သူမတူအောင် ကျော်ကြားသူ ဖြစ်သည်။ လွတ်လပ်သော ပြည်ထောင်စုခေတ်၌ ဆိုင်းဆရာများထဲမှ ဝဏ္ဏကျော်ထင်ဘွဲ့ကို ပဌမဦးဆုံးခြီးမြှင့်ခြင်းခံရသူဖြစ်သည်။ ဦးဘမောင်သည် နာမည်ကျော်ဇာတ်မင်းသမီးဒေါ်ကြင်ဥနှင့် အကြောင်းပါ၍၊ သားတယောက်နှင့် သမီးတယောက်ထွန်းကားရရှိခဲ့လေသည်။

ပြည်မြို့ဆရာပေနှင့် တချိန်တည်းနာမည်ကြီးခဲ့သော ဆိုင်းဆရာကြီးတဦးမှာ စစ်ကိုင်းဆရာညိုဖြစ်သည်။ ဆရာညိုသည် ပလာဆိုင်းတီးခြင်း၌နာမည်ကျော်သည်။ ပတ်ဝိုင်းအတွင်းရောက်ရှိခဲ့သူလည်း ဖြစ်သည်။ ထိုင်းလင်းနိုင်ငံသို့ ၁၉၅၅ ခုနှစ် မတ်လ ၇ ရက်နေ့တွင် ဝန်ကြီးဦးဝင်းခေါင်းဆောင်သည့် ယဉ်ကျေးမှုအဖွဲ့နှင့် လိုက်ပါသွားခဲ့ရ၏။ တရုပ်ပြည်သူ့ သမတနိုင်ငံသို့ မြန်မာနိုင်ငံယဉ်ကျေးမှုမစ်ရှင်အဖွဲ့နှင့်အတူ ၁၉၅၅ ခုနှစ် စက်တင်ဘာလ ၂၂ ရက်နေ့တွင် သွားရောက်ခဲ့၍၊ ဆိုဗီယက် ဆိုရှယ်လစ်ပြည်ထောင်စု သမတနိုင်ငံသို့ မြန်မာနိုင်ငံယဉ်ကျေးမှုမစ်ရှင်အဖွဲ့နှင့်ပင် ၁၉၅၆ ခုနှစ်တွင် သွားရောက်ခဲ့လေသည်။ ဦးဟံပသည် တံ့တေးဆံထောက်ခေါ် မင်းသမီးဒေါ်ငွေသင်နှင့် အကြောင်းပါ၍၊ မောင်ညွန့်လှိုင်ခေါ် သားတယောက်ထွန်းကားသည်။ ဦးဟံပသည် ဆိုင်းတီးသောအခါ နာမည်နှင့်လိုက်အောင်ဟန်ပါသည်။ သူ၏လက်သံမှာ ပတ်သံမာ၍ကြည်သည်။

ဦးဖိုးစိန်၏ဇာတ်အဖွဲ့၌ ပတ်မထိန်းအဖြစ်မှ ဆိုင်းဆရာကြီးအဖြစ်သို့ ရောက်ရှိထင်ရှားကျော်ကြားခဲ့သူမှာ ဦးဘမောင်ဖြစ်သည်။ ဦးဘမောင်ကို ၁၂၅၇ ခုနှစ်၌ အဖရှာစားကြီးဆရာစိမ့်နှင့် အမိဒေါ်စိန်မြိုင်တို့မှဖွားမြင်ခဲ့သည်။ ဆရာစိမ့်သည် ရှာစားကြီးစိန်ဗေဒါ၏အစ်ကိုဖြစ်၍၊ ဒေါ်စိန်မြိုင်မှာ ဦးဖိုးစိန်ကြီး၏အစ်မဝမ်းကွဲဖြစ်သည်။ ထို့ကြောင့် ဦးဘမောင်သည် မျိုးရိုးအားဖြင့် အဖသည်၎င်း၊ ဦးလေးတော်များသည်၎င်း ဆိုင်းလောက၊ ဇာတ်သဘင်လောကတွင်



**ရန်ကုန်မြို့၌နာမည်ကျော်ကြားသည့် ဆိုင်းဆရာကြီးဦးမိုးညွှန်း**

ဥ္စ ဘီလူးခေါင်းကို ဆောင်းလျက် လက်နှစ်ဖက်တွင် ဒေါင်းတောင်များကိုတပ်ဆင်ကာ ကသကဲ့သို့ တီးလေ့ရှိသည်။

ထိုအချိန်တွင် မြန်မာနိုင်ငံအောက်ပိုင်း ရန်ကုန်မြို့၌ နာမည်ကျော်ကြားလျက်ရှိသူမှာ ဆိုင်းဆရာကြီးဦးမိုးညွှန်းဖြစ်သည်။ ဦးမိုးညွှန်းသည် ပုလဲပတ်စာပိုး အတီးကောင်းသည်ဟု ထင်ရှားကျော်ကြား၏။ ပြည်မြို့ဆရာပေကဲ့သို့ပင် ယင်းထံ၌လည်း တပည့်ကောင်းများရှိခဲ့သည်။ ဦးမိုးညွှန်းသည် ခရစ် ၁၉၁၈ ခုနှစ်တွင် ရန်ကုန်မြို့ ကြည့်မြင်တိုင်၌ ကွယ်လွန်ခဲ့လေသည်။

ဆိုင်းဆရာကြီး ဦးမိုးညွှန်း၏ တပည့်ကောင်းများအနက် ဗိုလ်တပ်ပြန် ဆရာညိုသင်ခေါ် ဆရာညိုသည် နာမည်အထူးကျော်ကြားသည်။ ဆရာညိုသင်ခေါ် ဆရာညိုသည် ၁၉၂၄ ခုနှစ်၌ အင်္ဂလန်နိုင်ငံဝင်ဗလီပြပွဲသို့ မင်းသားဦးဘလတ်တို့၏ ဇာတ်အဖွဲ့နှင့်အတူ သွားရောက်ခဲ့သည်။ ထိုအခါမှစ၍ ဗိုလ်တပ်ပြန်ဆရာညိုဟု ထင်ရှားကျော်ကြားခဲ့ပေသည်။

အခြားနာမည်ကျော်ဆိုင်းဆရာကြီးများအနက် ဆရာနွဲ့သည် မန္တလေးနှင့် ပြည်မြို့များတွင်ထင်ရှားသည်။ ဆရာပုသည် မြင်းခြံမြို့၌ကျော်ကြားသည်။ နာမည်ကျော် ဇာတ်မင်းသား ဦးစိန်ကတုံး၏ဖခင် ဆိုင်းဆရာကြီး ဦးကျော်ဦးသည် ဓနုဖြူမြို့ နာမည်ကျော်ဆိုင်းဆရာကြီး ဦးကျော်ခေါင်နှင့်အတူ ၁၂၅၃ ခုနှစ်လောက်တွင် ကျော်ကြားခဲ့သူဖြစ်လေသည်။ အဆန်းတကြယ်ပြုလုပ်ကြသောခေတ်၌ မန္တလေးမြို့မှ ဆိုင်းဆရာကြီး ဆရာသားသည် ပန်းကန်ဆိုင်းတီးခြင်းဖြင့် နာမည်ကျော်ခဲ့သည်။ မုံရွာမြို့ဆိုင်းဆရာ ဆရာဘိန်း သည်လည်း မိမိ၏ဆရာဖြစ်သူ ဆရာစိမ့်ကဲ့သို့ ခေါင်းပေါ်တွင်ရေအပြည့်ထည့်ထားသောခွက်ကိုတင်၍ တီးသဖြင့် နာမည်ကြီးခဲ့သည်။ ထိုအပြင် ဆရာစိမ့်၏တပည့်များပင် ဖြစ်ကြသော ယိုးဒယားသိန်းမေ၏ ခင်ပွန်း ဦးဘမောင်၊ ထိန်တောဦးဘိုးခ၊ ပဲခူးနယ်သား ဦးရွှေဖဲနှင့် ကြည့်မြင်တိုင် ဆရာကြွယ်တို့သည်လည်း ဆိုင်းလောကတွင် ထင်ရှားသူများဖြစ်ကြသည်။ မအူပင်အပိုင် မလက်တို့ရွာမှ ဆိုင်းဆရာဦးဖိုးရစ်နှင့် ယင်း၏ညီ ဦးဘဖေတို့သည်လည်း ပုလဲပတ်စာပိုး တီးခြင်း၌ အောက်မြန်မာနိုင်ငံတွင် ထင်ရှားသူများဖြစ်ကြသည်။ ဦးဖိုးရစ်သည် မန္တလေးမြို့၌ ၁၂၇၇ ခုနှစ်တွင်ကွယ်လွန်သည်။ ဦးဘဖေကား ပလာဆိုင်းတီးခြင်းနည်း၍ ဇာတ်အဖွဲ့များနှင့်အတွဲများသည်။ ၁၂၉၀ ပြည့်နှစ်တွင် ဦးဘဖေကွယ်လွန်သည်။ ဆိုင်းဆရာကြီးဦးမိုးညွှန်း၏ တပည့်ဖြစ်သူ ဦးထွန်းရင်သည်လည်း ရန်ကုန်တဝိုက်တွင် ထင်ရှားသူဖြစ်သည်။ ဆရာစိမ့်၏သား ဦးဘမောင်ကဲ့သို့ လက်သံသာသည်။ ဦးထွန်းရင်သည် ဒုတိယကမ္ဘာစစ် အတွင်း၌ ကွယ်လွန်သည်။

မြို့နယ်အသီးသီး၌ထင်ရှားသော အခြားဆိုင်းဆရာများ



လက်သံသာသည့် ဆိုင်းဆရာကြီးဦးထွန်းရင်

မှာ၊ မန္တလေး၌ စိန်ငှက်ရိုး၊ စိန်လေးမောင်၊ စိန်ကျော်တင့်၊ မုံရွာ၌ ဆရာသက်၊ စိန်ဘထွန်း၊ မုံရွေး၌ စိန်ကြာပေါ် တို့ဖြစ်ကြသည်။ ယင်းတို့သည် ဆရာစိမ့်နှင့်စိန်ဗေဒါတို့၏ အဆက်အနွယ်တပည့်များဖြစ်ကြသည်။ စိန်ငှက်ရိုးသည် စိန်ဗေဒါမရှိသည့်နောက် အားကိုးလောက်သော ဆိုင်းဆရာတဦးဖြစ်သည်။ ၁၃၁၇ ခုနှစ်တွင် စိန်ငှက်ရိုးကွယ်လွန်သည်။ မုံရွာဆရာသက်သည် သီချင်းကြီးများကို လေးစားစွာ လေ့လာဆည်းပူး၍ တတ်လိုသူတိုင်းအား သင်ကြားပို့ချပေးလေ့ရှိသည်။ ခရစ် ၁၉၂၈ ခုနှစ်တွင် ဆရာသက်ကွယ်လွန်သည်။ စိန်ဘထွန်းနှင့် စိန်ကြာပေါ် တို့ကား ဆရာစိမ့်နှင့် စိန်ဗေဒါတို့ကဲ့သို့ မကြာခဏပြိုင်ဆိုင်လေ့ရှိကြသည်။ နှစ်ယောက်စလုံး ဒုတိယကမ္ဘာစစ်ပြီးမှကွယ်လွန်ကြသည်။ ရွှေတောင်ဦးရွှေကျော်၊ မြန်အောင်ဦးရွှေဂုဏ်နှင့် သား ဦးဖိုးကဲ၊ ဟင်္သာတ ဆရာလပ်၊ ဦးဖိုးထွားနှင့် ဦးဖိုးသူ၊ ဓနုဖြူမြို့ စံခင်းဆိုင်းဆရာ ဦးဖိုးရွှေ၊ ဖျာပုံ ဦးသက်ဖေတို့သည်လည်း ထင်ရှားသောဆိုင်းဆရာများဖြစ်ကြသည်။ ဟင်္သာတမြို့ ဦးဖိုးထွားနှင့် ဦးဖိုးသူတို့သည် ခရစ် ၁၉၀၉ ခုနှစ်တွင် လွန်စွာနာမည်ကျော်ကြားသူများဖြစ်ကြသည်။ ဦးဖိုးကဲကား ၁၉၁၆ ခုနှစ်ခန့်တွင် ပေါ်ပေါက် ထင်ရှားလာသောဆိုင်းဆရာဖြစ်၏။ နေ့ဖြူမြို့ စံခင်းဆိုင်းဆရာဦးဖိုးရွှေမှာ သက္ကရာဇ် ၁၂၇၃ ခုနှစ်လောက်မှအစပြု၍ နာမည်ကျော်ကြားလာခဲ့သူဖြစ်သည်။

ဖျာပုံဦးသက်ဖေကား ရေး၊ မြို့တ်၊ ထားဝယ်ဖက်တွင် ပြိုင်ဖက်မရှိအောင် အထူးကျော်ကြားထင် ရှားခဲ့သူဖြစ်လျက်၊ မြိတ်မြို့၌ပင်ကွယ်လွန်လေသည်။

ဦးဂုဏ်ဘဏ်



ကမ္ဘာ့သမိုင်းဝင် ဆိုင်းရပ် — သ — ဂရိတ်ဘုရင်

**ဆိုင်းရပ်။** ။ပါးရှင်းလူမျိုးတို့၏ ဖခင်ကြီးဟူ၍ ၎င်း၊ ယဟူဒီလူမျိုးတို့၏ ကယ်တင်ရှင်ဟူ၍၎င်း၊ ဆိုင်းရပ်–သ–ဂရိတ် (ဆိုင်းရပ်မင်းတရားကြီး) ဟူ၍၎င်း၊ ရှေးဟောင်းရာဇဝင်သမိုင်းအစောင်စောင်တို့တွင် ဂုဏ်ပုဒ်ခြီးကျူးမှတ်တမ်းတင်ခြင်း ခံခဲ့ရသူကား ပါးရှားနိုင်ငံတော်ကြီးကို တည်ထောင်စည်းရုံးခဲ့သူ ဆိုင်းရပ်ဘုရင်ကြီးပင်ဖြစ်သည်။

ဆိုင်းရပ်သည် ဘီစီ ၆၀၀ ခန့်တွင် ပေါ်ပေါက်ထွန်းကားခဲ့သည်ဟု ယူဆကြသည်။ သူ၏မိဖမျိုးရိုး၊ သူ၏ငယ်စဉ်အကြောင်းအရာများမှာ ရှေးဟောင်းဒဏ္ဍာရီပုံပြင်များဖြင့် ရောထွေး၍နေခြင်းကြောင့် ကျွန်ုပ်တို့ တိကျမှန်ကန်စွာသိရှိရန်မျှားစွာခဲယဉ်းလေသည်။ သို့သော် ဆိုင်းရပ်သည် ပါးရှင်းလူမျိုးဖြစ်၍၊ ပါးရှင်းနိုင်ငံတော်ကြီးကိုတည်ထောင်စည်းရုံးခဲ့သည်မှာကား အမှန်ပင်ဖြစ်သည်။

ဘီစီ ၅၅၉ ခုနှစ်တွင် ဆိုင်းရပ်သည် သူ့ဖိုးတော်၏ မီးဒီးယားနိုင်ငံကိုတိုက်ခိုက်အောင်မြင်ခဲ့လေသည်။ ထိုအခါမှစ၍ ဆိုင်းရပ်သည် မီးဒီးယားနှင့် ပါးရှားနိုင်ငံများကို အစိုးရသောဘုရင်ဖြစ်လာခဲ့သည်။ ထိုနောက် ဆိုင်းရပ်သည် ဘီစီ ၅၄၆ ခုနှစ်တွင် လစ်ဒီးယားနိုင်ငံကိုရင်း၊ ဘီစီ ၅၃၉ ခုနှစ်တွင် ဗတ်ဗီလုံးနိုင်ငံကိုရင်း ဆက်လက်၍အောင်မြင်ခဲ့၏။ ဖီနီးရှန်းနိုင်ငံနှင့် ပါလက်စတိုင်းနိုင်ငံများကိုလည်း နှိမ်နင်းအောင်မြင်ခဲ့၍ ဆိုင်းရပ်သည် ယဟူဒီလူမျိုးများအား ကယ်တင် စောင့်ရှောက်ခဲ့၏။ ဆိုင်းရပ်၏ဘုန်းတန်ခိုးကြီးမားပုံကား ထိုမျှမကသေးချေ။ အာရှတိုက်တွင်လည်း ဟဲလက်စပွန့်မှ အိန္ဒိယနယ်စပ်အထိ ကြီးစိုးမင်းမူခဲ့သေးသည်။ သို့သော် ဆိုင်းရပ်သည် ဘီစီ ၅၂၉ ခုနှစ်တွင် ကက်စပျန်ပင်လယ်၏ အရှေ့မြောက်ဖက်၌နေထိုင်သည့် စီသီယားလူမျိုးများနှင့်တိုက်ခိုက်သော ဒုတိယစစ်ပွဲ၌ ကျဆုံးခဲ့လေသည်။

ဆိုင်းရပ်သည် ၂၅ နှစ်အတွင်း ပါးရှင်းနိုင်ငံတော်ကြီးကို တည်ထောင်စည်းရုံးနိုင်ခဲ့သော စစ်ဘုရင်ကြီးဖြစ်သည်။ သူသည်သူတပါး၏အပေါ်တွင် သနားညှာတာတတ်၍တရားမျှတသော နိုင်ငံခေါင်းဆောင် ဘုရင်ကြီးလည်းဖြစ်သည်။ သူ့အားပါးရှင်းလူမျိုးများက 'ဖခင်ကြီး' ဟူ၍၎င်း၊ ယဟူဒီလူမျိုးများက 'ကယ်တင်ရှင်' ဟူ၍၎င်း၊ ဂရိလူမျိုးများက 'မင်းကျင့်တရားနှင့်အညီ အုပ်ချုပ်သော သက်ဦးဆံပိုင်ဘုရင်ကြီး' ဟူ၍၎င်း ခေါ်ဝေါ်အသိအမှတ်ပြုခဲ့ကြသည်။ ရာဇဝင်သမိုင်းအစောင်စောင်တို့တွင်မူကား သူသည် ဆိုင်းရပ်–သ–ဂရိတ် ဟုထင်ရှားခဲ့လေသည်။

# မြန်မာ့သုခုမအနုပညာ

**ဆိုင်းဝိုင်းသည် မြန်မာတို့၏ယဉ်ကျေးမှုတွင် အရေးပါအရာရောက်သော အနုပညာတရပ်ဖြစ်ပေသည်။ ယခုအခါ နိုင်ငံတော်ဆိုင်းဝိုင်းဟူ၍ပင် သီးခြားဖွဲ့စည်း၍ မြန်မာ့အနုပညာကိုထုတ်ဖော်လျက်ရှိသည်။ ဆိုင်းဝိုင်း၌ ပတ်ဝိုင်း၊ ကြေးဝိုင်း၊ ပတ်မကြီးနှင့် နှဲတို့မှာ အဓိကအစိတ်အပိုင်းများဖြစ်ကြသည်။ ဤဆောင်းပါးတွင် မြန်မာတို့၏အနုပညာဖြစ်သောဆိုင်းဝိုင်းအကြောင်းကို သိလွယ်မှတ်လွယ်အောင် ရှင်းလင်းဖော်ပြထားပေသည်။**

**ဆိုင်းဝိုင်း။** ။ယခုအခါ ပတ်ဝိုင်းဟုခေါ်ကြသောဝိုင်းကို မူလက ဆိုင်းဝိုင်းဟူ၍ ခေါ်သည်။ ဆိုင်းဝိုင်းဟု အဘယ်ကြောင့် ခေါ်ဆိုရပါသနည်းဟူမူ၊ ပန်းပြားကြီးရှစ်ခုကိုဆိုင်း၍ ပတ်လုံးများ၌ပါရှိသော ကြိုးဖြင့်ချည်နှောင်ကာ၊ ဆိုင်းထားရသောကြောင့် ဆိုင်းဝိုင်းဟုခေါ်လေသည်။ နောင်သောအခါ၌မူ ထိုဆိုင်းဝိုင်းကိုပင် ပတ်ဝိုင်းဟုခေါ်ဝေါ်လာကြသည်။ ပတ်ဝိုင်း၏အဓိပ္ပါယ်မှာ ပတ်လုံးများကို ဝိုင်းဖွဲ့ထားခြင်းပင်ဖြစ်၏။ ဤသို့အခေါ်ပြောင်းလာသောအခါ၊ ဆိုင်းဝိုင်းဟူသောစကားသည် ရှေးကထက် ပိုမိုကျယ်ပြန့်လာလေသည်။ ထိုအခါ ဆိုင်းဝိုင်းဟူသည်မှာ ပတ်ဝိုင်းနှင့်ယှဉ်ဖက်၍တီးမှုတ်ရသောတူရိယာများပါဝင်သည့် အဖွဲ့တခုလုံးကို ဆိုလိုသည်။

ဆိုင်းဝိုင်းသည် ဒိုးပတ်ဝိုင်း အိုးစည်ဝိုင်းတို့ကဲ့သို့ တနေရာမှတနေရာသို့ လှည့်ပတ်သွားလာ၍တီးမှုတ်ရသောဝိုင်းမဟုတ်၊ တနေရာတည်းတွင် ထိုင်၍တီးမှုတ်ရသော ဝိုင်းဖြစ်သည်။ ဆိုင်းဝိုင်းအဖွဲ့တဖွဲ့၌ တီးမှုတ်သူခုနှစ်ယောက်မှသည် တကျိပ်

ကျော်အထိပါဝင်သည်။ သာမန်အားဖြင့် (၁) ဆိုင်းဆရာ (၂) ကြေးတီး (၃) ပတ်မတီး (၄) နှဲဆရာ (၅) လက်ထောက်ပတ်မတီး (၆) စည်းတီး (၇) ဝါးတီးတို့ဖြစ်သည်။ သာမန်ထက်ကြီးသော ဆိုင်းဝိုင်းတို့တွင် အထက်ပါ ခုနစ်ဦးအပြင်၊ နှဲငယ်နှစ်လက်၊ မောင်းနှင့်ဝါးတီးများကို တိုးချဲ့ထည့်သွင်းကြသည်။ နောင်သောအခါ ထိုမျှထက်ပင်တိုးချဲ့လာလေရာ၊ ဆိုလတ္တံ့သောစကားစဉ်တို့၌ ယင်းသို့အစဉ်တစိုက် တိုးချဲ့လာပုံကိုဖော်ပြမည်။

ဆိုင်းဝိုင်းရှေ့တန်းတွင် ဆိုင်းဆရာ၊ ကြေးတီးနှင့် ပတ်မတီးတို့ထိုင်ကြရသည်။ နောက်တန်း၌ ကျန်အဖွဲ့သားများထိုင်မြဲဖြစ်သည်။ နောက်တန်းရှိအဖွဲ့သားတို့တွင် နှဲကြီး နှဲကလေးတို့ကိုမှုတ်ရသူများမှအပ၊ ကျန်သူတို့မှာ နောက်ထိုင်ဖြစ်ကြသည်။ ယင်းတို့တွင် အဆိုကောင်းတယောက်နှင့် အပြောကောင်းတယောက်ပါစမြဲဖြစ်သည်။ မူလက ပတ်ဝိုင်းတွင်းမှ ဆိုင်းဆရာသည် ပရိသတ်အား စကားပြောသောအလေ့အထမရှိချေ။ ထိုခေတ်တွင်း၌ အထက်ဖော်ပြခဲ့သောအဆိုအပြောသမားတို့က ပရိသတ်ကို ထရ၍ အဆိုအပြောတို့ဖြင့်အသုံးတော်ခံရသည်။ ထိုအခါ၌ ထိုအဆိုအပြောသမားတို့ကို နောက်ထဟု ခေါ်ကြပြန်၏။ နှောင်းခေတ်၌ ဆိုင်းဆရာတို့သည် ပတ်ဝိုင်းတွင်းမှနေ၍ အဆိုအပြောဖြင့် ပရိသတ်ကိုဖြေဖျော်လာကြသည်။

## ပတ်ဝိုင်း

ဆိုင်းဝိုင်းဖွဲ့စည်းပုံကို ပိုင်းခြား၍ ကြည့်လျှင် ဆိုင်းဝိုင်း၌ ပတ်ဝိုင်း၊ ကြေးဝိုင်း၊ ပတ်မကြီး၊ နှဲဟူသည်တို့မှာ အဓိကအစိတ်အပိုင်းများဖြစ်ကြသည်ကိုတွေ့ရလိမ့်မည်။ ပတ်ဝိုင်းမှာ မှန်စီရွှေချထားသော ပန်းပြားကြီးပေါင်းရှစ်ခုကို ဆက်စပ်ဝိုင်းဖွဲ့ကာ ပုံဟုခေါ်သောပတ်လုံးများဆွဲချိတ်ထားသည့်ဝိုင်းပင်ဖြစ်သည်။ ထိုပန်းပြားကြီးရှစ်ခုအနက်၊ ခုနစ်ခုမှာ ပန်းပြားကြီးတခုလျှင် ပန်းပြားငယ်သုံးခုမှ လေးခုအထိ ထုလုပ်ဆက်စပ်ထားသည်။ ကျန်ပန်းပြားကြီး တခုမှာမူ နောက်ထိုင်များ၏ဖက်၌ ရှိသည်။ ထိုပန်းပြားတွင် ဆိုင်းဆရာ ဝင်ရန်ထွက်ရန် အပေါက်ပါရှိ၍၊ ထိုအပေါက်ကို မင်းပေါက်ဟုခေါ်သည်။ ထိုမင်းပေါက်ပါရှိသောပန်းပြားမှလွဲ၍၊ ကျန်ပန်းပြားတို့၏ထိပ်တွင် ပန်းပြားငယ်အရေအတွက်ကိုလိုက်၍ ပတ်လုံးချိတ်ရန် စရွေးပေါင်း သုံးခုစီဖြစ်စေ၊ လေးခုစီဖြစ်စေရှိသည်။ မင်းပေါက်ပါသောအပြား၌ ဝဲယာနှစ်ဖက်တွင် စရွေးနှစ်ခုရှိသည်။ ပန်းပြားကြီးတခုလျှင် အကျယ်နှစ်ပေခန့်ရှိသည်။ မင်းပေါက်ရှိသောပန်းပြားမှာ နှစ်ပေကျော်မျှကျယ်သည်။ ဆိုင်းဝိုင်း၏အဝန်းမှာ မြန်မာအသုံးအနှုန်းအားဖြင့် ဆယ်တောင်ထွာရှိ၍၊ ပေဖွဲ့သော် ၁၅ ပေ ၁၀ ³⁄₄ လက်မမျှရှိသည်။ ပတ်ဝိုင်း၏အမြင့်မှာ ခြေထောက်ပါ နှစ်ပေရှစ်လက်မခန့်ရှိသည်။ ပတ်ဝိုင်းခွေ၍၊ ပတ်လုံးများကိုဆွဲချိတ်ထားရာ၌၊ ပတ်လုံးနှင့် ပန်းပြားတို့ မထိမကပ်ရလေအောင် ပန်းပြားအတွင်း၌ကြိမ်ကို သံနှင့်ရိုက်၍ခံထားသည်။ ယင်းကို ပတ်ခံ ဟူ၍၎င်း၊ ပတ်ခေါင်းအုံးဟူ၍၎င်း ခေါ်ကြသည်။ ပတ်ဝိုင်း၏ပန်းပြားထိပ်များတွင် ဖန်ပဒိုင်းခေါ် ဖန်အိုးရောင်စုံများကိုတပ်ဆင်လေ့ရှိသည်။ ညအခါ၌



ရှေးမြန်မာဆိုင်းဝိုင်း



ယခုခေတ် မြန်မာဆိုင်းဝိုင်း

ထိုပန်ပဒိုင်းတွင် ဖရောင်းတိုင်ထည့်ကာ မီးထွန်းညှိရသည်။ ပတ်ဝိုင်းတွင် ပတ်လုံးပေါင်း ၁၉ လုံးမှ ၂၁ လုံးအထိ ရှိကြသည်။ ပတ်ဝိုင်းတို့ကို မှန်စီရွှေချထားလေ့ရှိသည်။ မူလက ပတ်ဝိုင်း၌ခြေများမရှိချေ။ သက္ကရာဇ် ၁၂၇၂ ခုနှစ်က အစပြု၍၊ ပတ်ဝိုင်းနှင့် ကြေးဝိုင်းကိုပါ အမြင့် ငါးလက်မခွဲရှိသော ခြေထောက်များ တပ်ဆင်ပေးလာကြသည်။

ပတ်ဝိုင်း၌ပါဝင်သော ပတ်လုံးတို့ကို ပိတောက် သား နှင့် ပြုလုပ်၍၊ နွားရေနှစ်ဖက်ပိတ်ပြီးလျှင်ကျက်ထားလေသည်။ စည်တိုနှင့် ပလုတ်တုတ်မှအပ၊ ပတ်လုံးတို့ကို ထမင်းနှင့် မန်ကျည်းပြာ၊ ညောင်ပြာတို့ကို ညက်အောင်နယ်ထားသော ပတ်စာတပ်၍အသံညှိရသည်။

## ကြေးဝိုင်း

အကျယ် တပေကိုးလက်မခန့် ရှိသော ပန်းပြားပေါင်း ရှစ်ပြားကိုစပ်၍၊ ကြေးဝိုင်းလုပ်လေ့ရှိသည်။ သို့သော် တခါတရံ ပန်းပြားခြောက်ခုဖြင့်သာစပ်လုပ်ကြသည်။ ထိုသို့ပန်းပြား ခြောက်ခုဖြင့်လုပ်သောအခါ၊ ပန်းပြား တပြား၏ အကျယ်မှာ နှစ်ပေလေးလက်မဖြစ်သည်။ ကြေးဝိုင်း၏အဝန်းမှာ ၁၄ ပေခန့်ရှိသည်။ အမြင့်မှာ တပေလေးလက်မခန့်မြင့်၏။ ကြေးဝိုင်းတွင် ကြေးနောင်ပေါင်း ၁၈ လုံးဖြစ်စေ၊ ၁၉ လုံးဖြစ်စေ တပ်ဆင်ရသည်။ ကြေးနောင်ကို လက်ခတ်နှင့် တီးရသည်။ ကြေးဝိုင်းကို ပတ်ဝိုင်းနည်းတူ မှန် စီရွှေချပြုလုပ်လေ့ရှိကြသည်။ ရှေးရိုးမူအတိုင်းမှာ ကြေးနောင်ဝိုင်းကို ပန်းပြားကြီးများဖြင့်တပ်ဆင်လေ့ရှိသော်လည်း၊ နှောင်းအခါ၌ ပန်းပြားအစား ပွတ်လုံးများဖြင့်တပ်ဆင်ကြသည်။

## ပတ်မကြီး

ဆိုင်းဝိုင်း၏လက်ဝဲဖက်တွင် ပတ်မကြီးကိုထားရသည်။ ရှေးရိုးမူအတိုင်းမှာ ပတ်မကြီးကို သုံးချောင်းထောက် ဝက်ခွနှစ်ခုဖြင့် ထမ်းပိုးထားသော တန်းတွင်ဆွဲသည်။ ယင်းကို ပတ်မထမ်းဟု ခေါ်၏။ မူလက ထိုပတ်မထမ်းမှာ ရိုးရိုးသစ်သားတန်းဖြစ်သော်လည်း၊ နောင်သောအခါတွင် ထိုတန်းကို မှန်စီရွှေချပေးလေသည်။ ထိုနောက်၌ကား၊ သက်သေတိုင်ဟုခေါ်သော လေးပေလေးလက်မခန့်မြင့်သည့် ပွတ်လုံးတိုင် တတိုင်ကို ဆိုင်းဝိုင်း၌ကပ်၍ ချည်ပြီးလျှင်၊ မှန်စီရွှေချ ပတ်မထမ်းကို တဖက်၌ သက်သေတိုင်တွင် တင်၍၊ အခြားတဖက်၌ ဝက်ခွတွင်တင်ပြီးသော်၊ ပတ်မကြီးကို ဆွဲထားသည်။ ထိုမှတဖန် ပတ်မထမ်းအတွက် အရင်းတုတ်၍ အဖျားရှူးသော ဝါးမင်းကိုအသုံးပြုလာကြပြန်သည်။ ထိုဝါးမင်း၏အရင်းပိုင်းတွင် နဂါးခေါင်းကိုတပ်လေသည်။ ထိုမှ

တဖန် မှန်စီရွှေချ နဂါးခေါင်းဖြစ်လာပြီးသော်၊ နောင်းအခါ၌ ပတ်မထမ်းမှာ နဂါးရုပ်၊ ပဥ္စရူပရုပ်၊ နရားရုပ်စသည်ဖြင့် တိုးတက်ဖြစ်ပေါ်လာသည်။ များသောအားဖြင့် ထိုအရုပ်တို့မှာ မှန်စီရွှေချဖြစ်သည်။ နရားရုပ်၌ နှာလေးဖက်၊ အတောင်၊ အစွယ်၊ နှာခေါင်းစသည်တို့ ရှိကြသည်။ ပတ်မထမ်းသည် အရှည် ခြောက်ပေခွဲရှိရသည်။

ပတ်မကြီးတီးသူကို ပတ်မထိန်းဟုခေါ်သည်။ ရှေးက ပတ်မထိန်းသည် ပတ်မကြီးတခုကိုသာတီးရသည်။ ထိုစဉ်အခါက မင်းပေါက်၏လက်ဝဲပြင်ဖက်၌ ဒိုးတီးတယောက်သက်သက်ရှိသည်။ ထိုဒိုးတီးသမားသည် မင်းပေါက်ကိုလက်လျှို၍၊ ဆိုင်းဝိုင်းတွင်းရှိ လက်ရင်းပတ်လုံးကြီးဖြစ်သောဒုန်းခဲကို သူ၏ဒိုးနှင့်တွဲဖက်၍တီးရသည်။ သက္ကရာဇ် ၁၂၆၇ ခုနှစ်ခန့်မှစပြု၍၊ ဒိုးတီးကိုဖြုတ်လိုက်လေရာ၊ ပတ်မထိန်းသည် ပတ်မကြီးအပြင် ပတ်လုံးခြောက်လုံးကိုပါတီးရန် တာဝန်ယူရသည်။ ထိုနောက်ပတ်မထိန်းသည် ပတ်လုံးခြောက်လုံးအပြင်၊ ပတ်စာနှစ်ဖက်တပ်စခွန့်ကိုပါ တီးလာရသည်။

## နှဲ

ဆိုင်းဝိုင်းအတွက် နှဲအကြီးအငယ် နှစ်မျိုးထားရသည်။ နှဲတံကို ရှားသားနှစ်ဖြင့် ပွတ်လုပ်ရသည်။ အခင်ကိုမူ ထန်းရွက် အထက်အောက် သုံးခုစီလိုး၍ ပြုလုပ်သည်။ နှဲတံ၏ အရင်းဖက်တွင် နှဲခြေခေါ် ဂေါ်လံကို ကြိုးနှင့် ဆွဲထားရသည်။ နှဲတံအပေါ်ဖက်တွင် လက်ပေါက်အပေါက်ခုနစ်ပေါက်၊ အောက်ဖက်တွင် လက်မပေါက် တပေါက်ရှိသည်။ နှဲတံမှာ အကြီးအသေးဖြစ်ကြ၍၊ နှဲကြီး နှဲကလေးတို့အသံတူထွက်အောင် မှတ်ရာတွင် ယင်းတို့၏ လက်ပေါက်အဖွင့်အပိတ်တို့မှာမတူကြချေ။ နှဲဆရာသည် ကြေးဝိုင်းအနီး၌ထိုင်ရသည်။ (တူရိယာ — လည်းရှု။)

## နောက်ထိုင်များ

ဆိုင်ဝိုင်း၌အဓိကဖြစ်သော အထက်ဖော်ပြရာပါတူရိယာသမားတို့အပြင်၊ နောက်ထိုင်တို့လည်းရှိကြသည်။ နောက်ထိုင်တို့သည် အဓိကတို့အား အထောက်အပံ့ပြုရသည်။ ပတ်မထိန်းအပါး၌ ထိုင်ရသူမှာ လက်ထောက်ပတ်မထိန်း ဖြစ်သည်။ လက်ထောက်ပတ်မထိန်းကား လင်းကွင်းကြီး၊ ရှပ်၊ လင်းကွင်းလတ်နှင့် စည်တိုတို့ကို ကိုင်ရသည်။ စည်းတီးသည် မင်းပေါက်၏ နောက်၌ထိုင်ရ၍၊ ခတ်စည်းနှင့် သံလွင်ကို ကိုင်ရသည်။ ဝါးတီးမှာမူ သီချင်းဆိုသမားနှင့်အတူ စည်းဆရာ၏အပါး၌ထိုင်၍၊ ဝါးလက်ခုပ်ကိုတီးရသည်။ အချို့ဆိုင်းဝိုင်း၌ ဝါးလက်ခုပ်အစား အလယ်က အရှည်လိုက်ဖောက်ထားသော ဝါးပိုးဝါးကို လက်ခတ်ဖြင့်တီးကြသည်။ မောင်းသမားသည် မင်းပေါက်ဝလက်ျာဖက်၌ ကြေးဝိုင်း

နှင့်ကပ်၍ထိုင်ရသည်။ ၁၂၆၆ ခုနှစ်လောက်၌ မောင်းဆိုင်းဟူ၍ တီထွင်ကာ ဆိုင်းဝိုင်း၌ ထည့်သွင်းလာကြသည်။ ထိုအချိန်ကာလနှင့်မရှေးမနှောင်းတွင် ဘင်၊ ခရာ၊ ပလုတ်တုတ်တုတ်ကို ဆိုင်းဝိုင်း၌ထည့်သွင်း အသုံးပြုလာကြသည်။ ယခုခေတ်၌ကား အနောက်နိုင်ငံသုံး တူရိယာအမျိုးမျိုးတို့ကို ဆိုင်းဝိုင်းတွင် ထည့်သွင်းအသုံးပြုလျက်ရှိကြသည်။

ဦးဂုဏ်ဘဏ်

**ဆစ်ကမိုးပင်။** ။ဆစ်ကမိုးခေါ် သစ်ပင်သည် ရုက္ခဗေဒအရ 'အက်စီရေးစီအီး' မျိုးစုတွင်ပါဝင်သည်။ ထိုအပင်များကို အင်္ဂလန်ပြည်တွင်အတွေ့ရများသော်လည်း၊ ထိုပြည်တွင် စတင်ပေါက်ရောက်သော အပင်မျိုးမဟုတ်ပေ။ လွန်ခဲ့သောနှစ်ပေါင်း ၅၀၀ ခန့်ကမှ အင်္ဂလန်ပြည်သို့ရောက်ရှိလာခြင်းဖြစ်သည်။ ထိုအပင်များကို အင်္ဂလန်ပြည်မြောက်ပိုင်းဒေသတွင် အများအားဖြင့်စိုက်ပျိုးကြသည်။ အသက်ရှည်သောအပင်မျိုးဖြစ်သည်။ ယခုအခါ ဆစ်ကမိုးပင်ကို သစ်သားအတွက်စိုက်ပျိုးကြသည်။ အသားသည် မေပယ်ပင်မျိုး၏အသားကဲ့သို့ ဝါဖျော့ဖျော့ အရောင်ရှိ၍၊ အရောင်တင်လိုက်ပါက ပြောင်လက်တောက်ပလာသည်။

ရွက်လွှာတွင် အဟိုက် ၅ ခုရှိသည်။ အရွက်အနားသည် လွှသွားကဲ့သို့ထစ်နေသည်။ အပွင့်များ အန့်လိုက်ပွင့်ကြသည်။ အရောင်မှာ အစိမ်း သို့မဟုတ် အဝါဖြစ်သည်။ အသီးတွင် အတောင် ၂ ခုပါရှိသည်။ လေတိုက်လျှင် အသီးကလေးများသည် လေထဲသို့ဝဲပျံသွားပြီးနောက် မြေသို့ကျ



ဆစ်ကမိုးပင် အသီးအရွက်များ



ဆစ်ကမိုးပင်

သည်။ ထိုနေရာ၌ပင် အညွှောက်ထွက်၍ အပင်ပေါက်သည်။ အပင်ငယ်အများအပြားပေါက်လာလေ‌သော်လည်း၊ လောင်းရိပ်မိခြင်း၊ မြေသြဇာညံ့ခြင်း၊ ကြွက်များဖျက်ဆီးခြင်းတို့ကြောင့် အရွယ်မရောက်မီ အပင်အများအပြား သေကုန်ကြသည်။ အပင်အနည်းငယ်ခန့်သာ တဖြည်းဖြည်းကြီးရင့်လာသည်။

**ဆစ်ကင်။** ။ဆစ်ကင်သည် အိန္ဒိယနိုင်ငံ၏အစောင့်အရှောက်ခံ ပြည်နယ်တခုဖြစ်သည်။ ဟိမဝန္တာတောင်တန်း၏အရှေ့ဖျားတွင်တည်ရှိ၍၊ အကျယ်အဝန်းမှာ ၂,၇၄၅ စတုရန်းမိုင်ဖြစ်၏။ အနောက်ဖက်တွင် ဆစ်ကင်ပြည်နယ်နှင့် နီပေါနိုင်ငံကိုပိုင်းခြားထားသော ဆင်ဂလီလာတောင်တန်းရှိသည်။ ချီယာဘန်ဂျန်လာ တောင်ကြားလမ်းဖြင့် ထိုတောင်တန်းကိုဖြတ်သန်းသွားလာနိုင်သည်။ အရှေ့ဖက်တွင် ချိုလာတောင်တန်းသည် တိဗက်နိုင်ငံနှင့် ဆစ်ကင်ပြည်နယ်တို့ကို ပိုင်းခြားထားသည်။ ထိုတောင်တန်းတွင် နာသူလာတောင်ကြားလမ်းနှင့်ဂျယ်လက်ပလာတောင်ကြားလမ်းတို့ရှိသည်။ ဤကဲ့သို့ တောင်တန်းနှစ်ခုအကြားတွင် တည်ရှိသော ဆစ်ကင်ပြည်နယ်မှာ တောင်ကုန်းတောင်စဉ်ထူထပ်လှသည်။ တောင်ကြားချိုင့်ဝှမ်းပေါ်များလှ၏။ တောင်တန်းများ၌ ပေ ၁၇,၀၀၀ အထက်တွင် ဆီးနှင်းများကို မပြတ်မလပ်တွေ့ရသည်။ ပေ ၁၂,၀၀၀ နှင့် ၁၅,၀၀၀ အကြားတွင် ကုန်းပြင်မြင့်အနည်းငယ်ကို ကြိုးကြားတွေ့ရ၏။ ထိုကုန်းပြင်မြင့်များ၌ ရေအိုင်ငယ်အချို့ရှိသည်။ သစ်တောများမှာ ပေ ၈,၀၀၀ နှင့် ၁၂,၀၀၀ မြင့်သော တောင်စောင်းများတွင်တည်ရှိသည်။ ထိုထက်နိမ့်သောဒေသများ၌ သီးနှံစိုက်ပျိုးလုပ်ကိုင်ကြသည်။ ပေ ၆,၅၀၀ နှင့် ပေ ၄,၅၀၀ အကြားတောင်စောင်းများတွင် ခုတ်ထွင်ရှင်းလင်းပြီးသော်၊ ဖူးပြောင်း၊ နံ့စားပြောင်းနှင့် ပဲမျိုးစုံစိုက်ပျိုးသည်။ တဖန် ထိုထက်နိမ့်သောအပိုင်းများ၌ တောင်စောင်းများကို လှေကားထစ်များသဖွယ်ပြု၍၊ ရေသွင်းပေးနိုင်သောနေရာများတွင် စပါးကို စိုက်ပျိုးကြ၏။ ထင်ရှားသောမြစ်မှာ တစ်စတားမြစ်ဖြစ်သည်။

တောင်ကုန်းများသည် အမြင့် ပေ ၁,၀၀၀ မှ ၂၈,၀၀၀ အထိရှိသောကြောင့် အနိမ့်အမြင့်ကိုလိုက်၍ ဆစ်ကင်ပြည်နယ်၏ရာသီဥတုမှာအမျိုးမျိုးကွဲပြားခြားနားနေလေသည်။ ဆစ်ကင်ပြည်နယ်သည် မုတ်သုန်လေကို ရသောကြောင့် မိုးသည်းထန်စွာရွာသောဒေသဖြစ်သည်။

ဆစ်ကင်ပြည်နယ်မှ ကြေးနီအနည်းငယ်တူးဖော်ရရှိသည်။ ပြောင်း၊ ဆန်စပါး၊ လိမ်မော်သီး၊ သစ်သော့သီးနှင့် သိုးမွေးထည်များထွက်သည်။ ဆစ်ကင်ပြည်နယ်၌ တိဗက်နိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့၏ကုန်သွယ်ရာလမ်းကြောင်း ဖြတ်သန်းလျက်ရှိသည်။

ဆစ်ကင်ပြည်နယ်တွင် နေထိုင်သူများမှာ နီပေါလူမျိုး၊ ဘူတီးယားလူမျိုးနှင့် လက်ပချာလူမျိုးများ ဖြစ်ကြသည်။ အများဆုံးမှာ နီပေါလူမျိုးဖြစ်သည်။ လက်ပချာလူမျိုးတို့သည် လျှိမြောင်တောင်ကြားလမ်းတို့၌ နေထိုင်သူများဖြစ်၍၊ ဆစ်ကင်ပြည်နယ်တွင် အစောဆုံး နေထိုင်ခဲ့ကြသူများဖြစ်ဟန်တူ၏။ အင်ဒိုချိုင်းနားအနွယ်များဖြစ်သည်ဟုလည်း ယူဆရ၏။ ဘူတီးယားလူမျိုးများသည် တောင်ကုန်းပြင်မြင့်များတွင်နေထိုင်၍၊ နွားမွေးမြူရေးလုပ်ငန်းကို လုပ်ကိုင်ကြသည်။ နီပေါလူမျိုးများသည် လယ်ယာစိုက်ပျိုးရေးလုပ်ငန်းဖြင့် အသက်မွေးကြသည်။ ဆစ်ကင်ပြည်နယ်သားတို့၏ သက်ဝင်ယုံကြည်သော အယူဝါဒများမှာ ဗုဒ္ဓအယူဝါဒနှင့် ဟိန္ဒူအယူဝါဒတို့ဖြစ်သည်။

ဆစ်ကင်ပြည်နယ်၏မြို့တော်မှာ ဂန်းတုတ်မြို့ဖြစ်သည်။ ရိုနေ့၊ ရင်းပို၊ လာချန်၊လာချွန်တို့မှာ ထင်ရှားသောမြို့များ ဖြစ်ကြသည်။ ဆစ်ကင်ပြည်နယ်၏လူဦးရေမှာ ၁၉၅၁ ခုနှစ် တွင် ၁၃၅,၆၄၆ ယောက်ဖြစ်သည်။

ဆစ်ကင်ပြည်နယ်ကို ရှေးကအုပ်စိုးခဲ့သူများမှာ တိဗက် လူမျိုးများဖြစ်၏။ ၁၆၄၁ ခုနှစ်တွင် ယင်းတို့သည် ဆစ် ကင်ပြည်နယ်ရှိလက်ပချာလူမျိုးအကြီးအကဲများကိုနှိမ်နင်း အောင်မြင်သဖြင့် ဆစ်ကင်ကိုအုပ်ချုပ်စိုးမိုးခဲ့၏။ လာမာ ဗုဒ္ဓအယူဝါဒကို နိုင်ငံတော်အယူဝါဒအဖြစ် သတ်မှတ်ခဲ့၏။ ၁၈ ရာစုနှစ်အကုန်အထိ ဆစ်ကင်မှာ တိဗက်၏ လက် အောက်ခံဖြစ်ခဲ့လေသည်။ ၁၈၉၀ ပြည့်နှစ်၌ အိန္ဒိယမှဘုရင် ခံချုပ်နှင့် တရုပ်နိုင်ငံမှကိုယ်စားလှယ်တို့သည် ဆစ်ကင်ပြည် နယ်အား ဗြိတိသျှ အစောင့်အရှောက်ခံ ပြည်နယ်အဖြစ် အသိအမှတ်ပြုရန် စာချုပ်တရပ်လက်မှတ်ထိုးခဲ့ကြသည်။ ဗြိတိသျှတို့ခန့်အပ်သော နိုင်ငံရေးအရာရှိတယောက်၊ မဟာ ရာဇာနှင့် ကောင်စီအဖွဲ့ဝင်များသည် ဆစ်ကင်ပြည်နယ် အုပ်ချုပ်မှုကို တာဝန်ယူ၍ဆောင်ရွက်ကြရသည်။ ၁၉၄၇ ခုနှစ်တွင် ဆစ်ကင်သည် လွတ်လပ်သောနိုင်ငံတခုဖြစ် လာသည်။ ၁၉၄၉ ခုနှစ်တွင် ဆစ်ကင်ပြည်အုပ်ချုပ်ရေး ကို အိန္ဒိယအစိုးရကတာဝန်ယူခဲ့လေသည်။ အိန္ဒိယမှ နိုင်ငံ ရေးအရာရှိတဦးက ယာယီအားဖြင့် အုပ်ချုပ်ခဲ့ရလေသည်။ ၁၉၅၀ ပြည့်နှစ်တွင်မူ အိန္ဒိယအစိုးရ၏ အစောင့်အရှောက် ခံပြည်နယ်အဖြစ် ဆက်လက်ထားရန် နှစ်ဦးနှစ်ဖက်စာချုပ် ချုပ်ဆိုခဲ့လေသည်။

**ဆစ်ဆရို** (ဘီစီ ၁၀၆–၄၃)။ ။မာကပ် တာလိယပ် ဆစ်ဆရိုသည် ရောမသမတခေတ် မှိန်စပြုသည့်အချိန်တွင် ပေါ်ပေါက်ခဲ့သော ရောမနိုင်ငံခေါင်းဆောင်ကြီး တဦးဖြစ် ၏။ မိန့်ခွန်းများမြွက်ကြားရာ၌ အလွန်ကျော်ကြားခဲ့၏။ သူကြွယ်မျိုးမှဆင်းသက်လာသူဖြစ်၍၊ မွေးရာဇာတိမှာ အာပီနမ်ဖြစ်သည်။ ငယ်စဉ်က ရောမမြို့တွင် ဥပဒေပညာ၊ စကားပြောအတတ်၊ ဂရိစာပေပညာနှင့် ယထာဘူတ ပညာရပ်များကို ဆည်းပူးခဲ့လေသည်။

ဆစ်ဆရိုသည် အသက် ၂၆ နှစ်အရွယ်တွင် ရှေ့နေအလုပ် ကိုစတင်လုပ်ကိုင်ခဲ့၏။ ဥပဒေတွင်ကျွမ်းကျင်သည့်အ လျောက် ဘီစီ ၇၅ ခုနှစ်တွင် စစ္စလီကျွန်း၌ တရားသူကြီး အဖြစ်ဖြင့်အမှုထမ်းခဲ့ရသည်။ ဘီစီ ၇၀ပြည့်နှစ်တွင် စစ္စလီ ဘုရင်ခံ ဂေးယပ် ဗဲရီးအားဆန့်ကျင်၍၊ ပြည်သူ့ဖက်မှ အမှုပြုလုပ်ခဲ့ရာ၊ ဆစ်ဆရို၏စကားပြော ကောင်းခြင်း ကြောင့် အမှုသွားထင်ရှား၍၊ ဗဲရီးသည် ပြည်နှင်ဒဏ် ခံရ လေသည်။ ထိုအခါမှစ၍ တဆင့်ထက်တဆင့် ထင်ရှား ကျော်ကြားလာပြီးလျှင်၊ ဘီစီ ၆၃ ခုနှစ်တွင် ကွန်ဆာလူကြီး အဖြစ်ဖြင့် ရွေးကောက်တင်မြှောက်ခြင်းခံရလေသည်။ ထို ရာထူးတွင် ထမ်းဆောင်နေစဉ်တွင် ကက်တီလိုင်ဆိုသူ ရောမ ဆီနိတ်အဖွဲ့ဝင်တဦးသည် အုပ်ချုပ်ရေးတဖွဲ့လုံးအား ဖြုတ် ချ၍ အာဏာလုရန် လျှို့ဝှက်စွာကြံစည်သည်ကို ဆစ်ဆရို သိရှိသဖြင့်၊ ဆီနိတ်လူကြီးအစုံအညီရှေ့တွင် ကက်တီလိုင် အား အတိအလင်းထုတ်ဖော်ရှုတ်ချခဲ့၏။ ဆစ်ဆရို၏ပြတ် သားသောမိန့်ခွန်းကြောင့် ကြံစည်သည့်ပြစ်မှုမှာ ထင်ရှား လာသဖြင့်၊ ကက်တီလိုင်လည်း မငြင်းသာတော့ဘဲ ရောမမြို့ မှ ထွက်ပြေးရလေသည်။ သို့ရာတွင် ထက်ကြပ်လိုက်သော စစ်တပ်ကိုလွတ်အောင်မပြေးနိုင်သဖြင့် အသတ်ခံရတော့၏။ ထိုသို့ ကက်တီလိုင်၏အကြံအစည်များကိုပျက်ပြားစေ၍၊ နိုင်ငံတော်ကို မသူတော်တို့၏ဘေးမှကယ်တင်ခဲ့သဖြင့် ဆစ် ဆရိုအား ရောမနိုင်ငံသားတို့က ပြည်သူ့ဖခင်ဟူ၍၎င်း၊ နိုင်ငံတော်ကယ်တင်သူဟူ၍၎င်း ချီးကျူးခေါ်ဝေါ်ခဲ့ကြ၏။

ဆစ်ဆရို၏ဂုဏ်သတင်းကြီးမြင့်ခြင်းမှာ သမုဒ္ဒရာထက်၊ ခဏတက်သည့်၊ ရေပွက်ပမာသာဖြစ်ခဲ့၏။ အဘယ်ကြောင့် ဟူမူ၊ မကြာမြင့်မီပင် ဆီနိတ်အဖွဲ့၏ စည်းလွတ်မျဉ်းလွတ် ကျွပ်ညှပ်သတ်ဖြတ်မှုများသည် ဆစ်ဆရိုအပေါ်တွင် ကျ ရောက်လာသဖြင့် နာမည်ပျက်လေသည်။ ဤသို့ဖြင့် ဆီဇာ၊ ကရက်ဆပ်နှင့် ပွန်ပီတို့၏ ပဥ္စမသုံးပွင့်ဆိုင်အဖွဲ့ပေါ်ပေါက်ပြီး နောက်၊ မကြာမီအတွင်း ဘီစီ ၅၈ ခုနှစ်တွင် ဆစ်ဆရိုသည် ပြည်နှင်ဒဏ် ခံရ၏။ နောက်တနှစ်တွင် ပြည်သူ့ဆန္ဒအရ



စကားပြောကောင်း ရောမနိုင်ငံပြုသုခမိန် ဆစ်ဆရို



ဆစ်ဆရို၏ရုပ်တု တမူ

ပြည်နှင်ဒဏ်မှလွတ်၍၊ ရောမသို့ပြန်လာရသည်။ သို့သော်လည်း မူလသြဇာအာဏာတို့ကိုကား မရရှိတော့ချေ။

ဆစ်ဆရိုသည် ရောမမြို့သို့ ပြန်လည်ရောက်ရှိလာသောအခါ၊ မြို့တော်၏အခြေအနေမှာ ညံ့ဖျင်း၍ ပြည်တွင်းစစ်သို့ ရှေးရှုနေလေသည်။ ဆီဇာနှင့် ပွန်ပီတို့သည် အာဏာရရှိမှုအတွက် အကျိတ်အနယ်ကြိုးပမ်းနေကြ၏။ (ဆီဇာဘုရင် — ရှု။) ထိုအာဏာလုပွဲတွင် ဆစ်ဆရိုသည် ပွန်ပီကို ထောက်ခံအားပေးခဲ့လေသည်။ (ပွန်ပီ — ရှု။) သို့သော် ဘီစီ ၄၈ ခုနှစ်တွင် ဖားဆေးလပ်စစ်ပွဲ၌ ပွန်ပီ မရှုမလှရှုံးနိမ့်သွားပြီးနောက်၊ ဆီဇာနှင့် ဆစ်ဆရိုတို့သည် ပြန်လည်ရင်းနှီးလာကြ၏။ ဘီစီ ၄၄ ခုနှစ်တွင် ဆီဇာလုပ်ကြံခြင်းခံရသောအခါ၊ ဆစ်ဆရိုသည် ဆီနိတ်၏အဖွဲ့တွင် ခေါင်းဆောင်တဦးဖြစ်လာသည်။ ဆစ်ဆရိုသည် မတ် အန်တိုနီအား ပြင်းပြင်းထန်ထန်ပုတ်ခတ်ရှုတ်ချခဲ့၏။ ထိုအတွက် ဘီစီ ၄၃ ခုနှစ်တွင် အန်တိုနီ၊ အော့တေးဗီယပ် ဆီဇာနှင့် လက်ပိဒပ်တို့၏ ဒုတိယသုံးပွင့်ဆိုင်အုပ်ချုပ်ရေးအဖွဲ့ ဖွဲ့စည်းပြီးသည့်အခါ၊ မတ်အန်တိုနီသည် ဆစ်ဆရိုအား သေဒဏ်ပေးလိုက်လေသည်။

ဆစ်ဆရိုသည် ကမ္ဘာတွင် ပရိသတ်ရှေ့၊ လူပုံအလယ်တွင် မိန့်ခွန်းအပြောကောင်းသည်ဟုထင်ရှားသူများအနက် တဦးအပါအဝင်ဖြစ်၏။ လက်တင်ဘာသါအရေးအသားပြေပြစ်ကောင်းမွန်၍၊ ခေတ်သစ်ဥရောပစာပေအရေးအသားတို့၏အခြေခံဖြစ်သော လက်တင်စကားပြေရေးနည်းကို စတင်တီထွင်ခဲ့သည့်ပုဂ္ဂိုလ်ထူးကြီးလည်းဖြစ်သည်။ (လက်တင်ဘာသာနှင့် စာပေ — လည်းရှု။) သူ၏လက်ရာများဖြစ်သော စာအုပ်စာတမ်းများနှင့် ဟောပြောချက် အများအပြား ကျန်ခဲ့၏။ သူ၏မိတ်ဆွေများထံသို့ရေးသားခဲ့သည့်စာများထဲတွင် ရှေးခေတ်ရောမတို့၏အခြေအနေနှင့် သူ၏စိတ်နေသဘောထားအယူအဆများ စေ့စပ်စုံလင်စွာဖော်ပြထားသည်ကို ဖတ်ရှုတွေ့မြင်နိုင်သည်။

**ဆစ်ဒနီ, ဆာ ဖိလစ်** (ခရစ် ၁၅၅၄–၈၆)။ ။၁၅၅၄ ခုနှစ် နိုဝင်ဘာလ ၃၀ ရက်နေ့၌ အင်္ဂလန်ပြည်၊ ကင့်နယ်၊ ပင်းဇဟတ်မြို့တွင် ဆာ ဖိလစ် ဆစ်ဒနီအားဖွားမြင်ခဲ့သည်။ ထိုပုဂ္ဂိုလ်သည် ကဗျာစာဆိုတဦးအနေဖြင့်၎င်း၊ စစ်မှုထမ်းကောင်းတဦး အနေဖြင့်၎င်း၊ ထင်ရှားကျော်ကြား သည်။ အောက်စဖို့နှင့် ကိန်းဗရစ်တက္ကသိုလ်တို့တွင် ပညာသင်ကြားခဲ့ပြီးနောက်၊ အသက် ၁၈ နှစ်အရွယ်မှစ၍ ခရီးထွက်ခဲ့ရာ၊ ပြင်သစ်၊ ဟန်ဂေရီနှင့် ဣတလီနိုင်ငံများသို့ရောက်ရှိခဲ့သည်။ ၁၅၇၅ ခုနှစ်၌ ဂျာမနီနိုင်ငံနှင့် ဖလန်းဒါးခရိုင်တို့မှဖြတ်၍ အင်္ဂလန်ပြည်သို့ပြန်အရောက်တွင် အယ်လစ်ဇဗက်ဘုရင်မ၏ ချီးမြှင့်ခြင်းကိုခံရ၍၊ ၁၅၇၆ ခုနှစ်၌ ဂျာမနီသို့ သံတမန်



ကိုယ်ချင်းစာနာတတ်သူ စစ်မှုထမ်းကောင်း ဆာဖိလစ် ဆစ်ဒနီ

အဖြစ် စေလွှတ်ခြင်းခံရလေသည်။ ၁၅၈၀ ပြည့်နှစ်တွင် နှစ်မဖြစ်သူ ပင်းဗရုတ်မြို့စားကတော်နေထိုင်ရာ ဝီလတန်နေအိမ်၌အနားယူကာ 'အာကေးဒီးယား' အမည်ရှိသော ချစ်တေးကဗျာတပုဒ်ကိုစပ်ဆိုခဲ့လေသည်။

၁၅၈၃ ခုနှစ်တွင်ဆာဖရန်စစ် ဝေါလဆင်းဂမ်၏ သမီးနှင့် လက်ထပ်ခဲ့ပြီးနောက်၊ ဆာဘွဲ့ခြီးမြှင့် သူကောင်းပြုခြင်းခံရ၏။ ဆစ်ဒနီသည် မာတင် ဖရိုးဗစ်ရှား၊ ရတ်ချတ်ဟက်ကလွတ်နှင့် ဆာဝေါလတာ ရော်လီတို့၏ နယ်သစ်ထူထောင်ရေး စီမံကိန်းများတွင် များစွာ စိတ်ပါဝင်စားခဲ့သူဖြစ်လေသည်။

ထို့နောက် ဆစ်ဒနီသည် အယ်လစ်ဇဗက်ဘုရင်မအား စပိန်နိုင်ငံနှင့်စစ်ခင်းရန်တိုက်တွန်းခဲ့ပြီးလျှင်၊ ကိုယ်တိုင်လည်း ပါဝင်တိုက်ခိုက်ခဲ့လေသည်။ စစ်ပွဲအတွင်း နယ်သာလန်ပြည်နယ်၊ ဖလပ်ရှင်းဘုရင်ခံအဖြစ် ဆောင်ရွက်နေရခိုက် တိုက်ပွဲတခုတွင် ကျည်သင့်၍ကျဆုံးခဲ့လေသည်။ ယင်းတိုက်ပွဲ၌ပင် သူ၏ရဲရင့်မြင့်မြတ်သောစိတ်ထားကို ပေါ်လွင်စေသည့်အပြုအမူကို တွေ့မြင်ရသည်။ ဆစ်ဒနီသည် ပြင်းထန်သောဒဏ်ရာနှင့်လဲနေစဉ် ရေငတ်လှသောကြောင့် ရေတောင်းလေသည်။ ထိုအခါ သူ့အတွက်ယူလာသောရေကို သောက်မည်အပြုတွင် အခြားသော သေအံ့ဆဲဆဲစစ်သားတယောက်သည် သူ့ထံမှရေကို မွတ်သိပ်တောင့်တသောမျက်စိများဖြင့်ကြည့်နေသည်ကိုမြင်ရလျှင် ဆစ်ဒနီလည်း သူသောက်မည့်ရေကို ရေငတ်နေသောစစ်သားအား ပေးလိုက်သည်ဟူ၏။

ဆာ ဖိလစ်၏ရုပ်အလောင်းကို အခမ်းအနားဖြင့် စိန့်ပေါကသီဒရယ် ဘုရားရှိခိုးကျောင်းဟောင်းကြီးတွင် မြှုပ်နှံသင်္ဂြိုဟ်ခြင်း ပြုကြလေသည်။

**ဆစ်ဒနီမြို့။** ။ဆစ်ဒနီမြို့သည် ဩစတြေးလီးယားတိုက် နယူးဆောက်သဝေးပြည်နယ်၏မြို့တော်ဖြစ်သည်။ မြို့ပတ်ဝန်းကျင်တွင် ဥယျာဉ်ပန်းမာလ်များဖြင့်ခြံရံလျက်၊ မြို့တွင်း၌ ခမ်းနားကြီးကျယ်တင့်တယ်သည့် အဆောက်အအုံကြီးများရှိသဖြင့် အလွန်သာယာသောမြို့တမြို့ဖြစ်၏။ ၁၈၅၀ ပြည့်နှစ်က တည်ထောင်ခဲ့သော တက္ကသိုလ်ကျောင်းကြီးမှာ အထူးထင်ရှားလေသည်။ ၁၉၅၄ ခုနှစ်တွင် မြို့၏ဆင်ခြေဖုံးမျူနီစီပယ်ရပ်ကွက်များအပါအဝင် လူဦးရေ ၁,၈၆၁,၆၈၅ ယောက်ရှိသည်။ ဆစ်ဒနီမြို့ကြီးသည် ဩစတြေးလီးယားတိုက်တွင် ရှေးအကျဆုံးမြို့ဖြစ်၏။ ၁၇၈၈ ခုနှစ်တွင် ထိုမြို့ကို တည်သည်။ မြို့တည်စဉ်က အင်္ဂလန်ပြည်၊ ပြည်ထဲရေးဝန်ကြီး ဗိုင်းကောင့် ဆစ်ဒနီကိုအစွဲပြု၍ ဆစ်ဒနီမြို့ဟု ခေါ်သည်။

မြို့၏သင်္ဘောဆိပ်ရှိရာ အရပ်ဖြစ်သော ပို့ဂျက်ဆန်မှာ ကမ္ဘာပေါ်တွင် လှပသောသင်္ဘောဆိပ်ကြီးတခုဖြစ်ပြီးလျှင်၊ ဆိပ်ကမ်းမျက်နှာစာမှာ အလျား ၁၅၂ မိုင်မျှရှိ၍၊ ကမ်းခြေတဖက်တချက်တွင် စိမ်းလမ်းသော သစ်တောကြီးများ ဖုံးအုပ်လျက် ရှိသောကြောင့် အလွန်သာယာသော ရှုမျှော်ခင်းတခုဖြစ်လေသည်။ သင်္ဘောဆိပ်ပေါင်းကူးတန်တားကြီးမှာ ကမ္ဘာပေါ်ရှိ အကျယ်ဆုံးပေါင်းကူးတန်တားကြီးများတွင် အပါအဝင်ဖြစ်၍၊ ၁၉၃၂ ခုနှစ်တွင်ပြီးစီးခဲ့၏။



ဆစ်ဒနီမြို့ရှိ ကမ္ဘာကျော်ပေါင်းကူးတန်တားနှင့် အလှပဆုံးဆိပ်ကမ်း

သဘော်ဘဆိပ်တွင် ပင်လယ်ကူးသဘော်ဘကြီးများသည် ဩစတြေးလီးယားတိုက်မှ ထွက်သောကုန်များကို အစဉ်မပြတ်တင်ဆောင်လျက်ရှိကြ၏။ ထိုကုန်များမှာ ဂျုံစေ့၊ ဂျုံမှုန့်၊ ရေခဲစိမ်အသား၊ သိုးမွေး၊ သားရေ၊ ရွှေ၊ ငွေ၊ ခဲ၊ ကြေးနီနှင့် လတ်ဆတ်သောသစ်သီးစိမ်းများ ဖြစ်သည်။ ဩစတြေးလီးယားတိုက်ထွက်ကုန်ပစ္စည်းများကို ထိုသဘော်ဘဆိပ်မြို့ကြီးမှတဆင့် ကမ္ဘာ့အရပ်ရပ်သို့ ဖြန့်ချိကြရ၏။

မြို့အနီးအနားရှိ ကျောက်မီးသွေးတွင်းများမှရသည့် ကျောက်မီးသွေးကို မြို့ပေါ်ရှိစက်မှုလက်မှုအလုပ်ရုံကြီးများတွင် လွယ်ကူစွာသုံးစွဲနိုင်သဖြင့်၊ ဆစ်ဒနီမြို့မှာ ဩစတြေးလီးယားတိုက်၏ စက်မှုလက်မှုထွန်းကားရာ အချက်အခြာမြို့ကြီးလည်း ဖြစ်လေသည်။

**ဆစ်လီကွန်။** ။ဆစ်လီကွန်သည် သတ္တုမဟုတ်သောဓာတုဒြပ်စင်တခုဖြစ်၍ ၁၈၂၃ ခုနှစ်တွင် ဆွီဒင်နိုင်ငံသား ဗာဇီးလီယပ်အမည်ရှိ ဓာတုဗေဒပညာရှင်တဦးက စတင်တွေ့ရှိသည်။ ထိုဆစ်လီကွန်ဒြပ်စင်ကို သဘာဝတွင် ပစ္စည်းသန့်သန့်အနေနှင့် မည်သည့်အခါမျှမတွေ့ရချေ။ သို့သော် အောက်ဆီဂျင်ဓာတ်နှင့်ပေါင်းစပ်ပြီးလျှင်နှမ်းဖတ်ကျောက်၊ ကျောက်သလင်းပွင့်၊ မီးခတ်ကျောက်စသည့်ကျောက်အမျိုးမျိုးအပြင်၊ သဲအစရှိသော ဆစ်လီကွန်အောက်ဆိုက်တို့အဖြစ်ဖြင့်မူ သဘာဝတွင် အမြောက်အမြားတွေ့ရလေသည်။ ဆစ်လီကာအမည်ဖြင့် လူသိအများဆုံးဖြစ်သော ဆစ်လီကွန်ဒိုင်အောက်ဆိုက် ($SiO_2$) ကို သဲအသွင်ဖြင့် အများဆုံးတွေ့ရ၏။ ဤကမ္ဘာမြေပေါ်တွင် ဆစ်လီကွန်ဒြပ်ပေါင်းများ မည်မျှလောက်ပေါများသနည်းဆိုလျှင် အပေါ်ယံမြေလွှာ၏လေးပုံတပုံမျှလောက်သည် ဆစ်လီကွန်ဒြပ်ပေါင်းများနှင့်သာပြီးလျက်ရှိကြောင်း သိရလေသည်။

ဆစ်လီကွန်သည် မဟူရာကျောက်၊ ခရမ်းကျောက်၊နဂါးသွဲ့ကျောက်၊ ကြောင်စသည့်ကျောက်တို့တွင်ပါဝင်သည်။ ဆစ်လီကွန်ဒြပ်ပေါင်းများသည် စက်မှုဓာတုဗေဒ၊ ဖန်ချက်လုပ်ငန်း၊ အိုးခွက်လုပ်ငန်း၊ အပူခံပစ္စည်းများနှင့် သံရည်ကျိုဖိုအတွင်းခံပစ္စည်းများလုပ်ကိုင်ကြရာ၌ အလွန်ပင်အသုံးဝင်လေသည်။ ရွှံ့စေးနှင့် မြေဆီလွှာများတွင် အများအားဖြင့် ဆစ်လီကိတ်များ ပါဝင်လျက်ရှိသည်ကို တွေ့ရသည်။ ဆိုဒီယမ်ဆစ်လီကိတ် ($Na_2SiO_3$) ဟုခေါ်သော ဆစ်လီကွန်ဓာတ်ဆားတမျိုးသည် အရည်ဖြစ်၍ စေးကပ်သောသတ္တိရှိခြင်းကြောင့် ဆစ်လီကိတ်ကို ကုန်ထည့်စက္ကူကြမ်းသေတ္တာများ ပြုလုပ်ကြရာတွင် ကော်အဖြစ်ဖြင့်အသုံးပြုကြ၏။ ဆိုဒီယမ်ဆစ်လီကိတ်ဓာတ်ဆားကို 'ဝါးတားဂလပ်' ဟုခေါ်ကြသည်။ ထိုဆိုဒီယမ်ဆစ်လီကိတ် တဆနှင့် ရေကျက်အေးဆယ်ဆ၊ ဆယ့်တဆရော၍ရသောအရည်တွင် လတ်ဆတ်သောဥများကို စိမ်ထားလျှင် ဆိုဒီယမ်ဆစ်လီကိတ်သည် ဥကိုသိုးပုပ်သွားအောင် ဖျက်ဆီးတတ်သောဗက်တီးရီးယားများ ဥအခွံ၏အပေါက်ငယ်များထဲသို့မဝင်နိုင်အောင် တားဆီးပိတ်ဆို့ပေးနိုင်သည်။ ဤနည်းဖြင့် ဥများကို လပေါင်းများစွာ မပုပ်မသိုးအောင် တာရှည်ထားရှိနိုင်လေသည်။

**ဆည်းလည်း။** ။ခေါင်းလောင်း — ရှု။

**ဆတ်။** ။ဆတ်၌ တင့်တယ်ကြီးမားသော ဦးချိုများရှိသည်။ အသားအတွက်ရင်း၊ ဦးချိုအတွက်ရင်း လူတို့သည် ဆတ်များကို လိုက်လံပစ်ခတ်တတ်ကြသည်။ ဆတ်ချိုကို အိမ်တွင်း အလှအပ ပစ္စည်းအဖြစ်ဖြင့် ထားလေ့ရှိကြ၏။ ဆတ်ချိုနုသည်ကား ဆေးဖက်ဝင်၏။ ဆတ်သည် ကိုယ်ထည်ကြီးမားသည်။ ပျမ်းမျှခြင်းအားဖြင့် အမြင့် ၅၅ လက်မရှိသည်။ ပခုံးမှတိုင်းလျှင် ၅ ပေမျှမြင့်သည်။ အရွယ်ရောက်ပြီးဆတ်တကောင်သည် ကိုယ်အလေးချိန် ပေါင် ၅၀၀ မှ ၇၀၀ အထိရှိတတ်သည်။ အရှည်ဆုံး ဦးချိုမှာ အလျား လက်မ ၅၀ ကျော်ကျော်မျှရှိတတ်သည်။ မလ္လာယုကျွန်းဆွယ်ရှိဆတ်ချိုများသည် ဘေးသို့မကားဘဲ၊ ကျဉ်းသည်။ အဖုအထစ်များ ပို၍ပါရှိသည်။ တောင့်လည်း တောင့်တင်းသည်။ အများအားဖြင့် ၂၆ လက်မခန့် အလျားရှိသည်။

ဆတ်သည် အာရှအရှေ့တောင်ပိုင်းရှိသမင်မျိုးဖြစ်သည်။ (သမင် — ရှု။) ဆတ်၏အရေသည်ကြမ်း၏။ အမွေးများလည်း ကြမ်းသည်။ ဆတ်ထီး၌ လည်ပင်းနှင့် လည်တိုင်တို့တွင် လည်ဆံမွေးများ ရှိသည်။ ပူသောရာသီဥတုတွင် အမွေးများကျွတ်ကုန်တတ်သည်။ အမွေး၏အရောင်သည် အများအားဖြင့် အညိုရောင်တွင် အဝါရောင် သို့မဟုတ် မီးခိုးရောင် ရောလျက်ရှိတတ်သည်။ အတွင်းဖက်အမွေးများသည် ပို၍အရောင်ဖျော့သည်။ ဆတ်မများ၏အရောင်မှာ ပို၍ဖျော့သည်။ အသက်ကြီးသောဆတ်ထီးများ၏ အမွေးသည် ရင့်ယော်လာသောအခါ တဖြည်းဖြည်း မည်းနက်လုနီးမျှ အရောင်ပြောင်းလာတတ်သည်။

ဆတ်ချိုသည် တောင့်တင်း၍ အဖုအထစ်များပါရှိသည်။ ချိုရင်းအဆုံးတွင် ချိုတိုင်သည် ခက်ရင်းခွကဲ့သို့ နှစ်ခွ ကွဲသွားသည်။ အရှည်မှာ ညီတူညီမျှဖြစ်သည်။ အချို့ဆတ်ချိုတွင် အပြင်ဖက်ချိုခွသည် ပို၍ရှည်တတ်ပြီးလျှင် အချို့ဆတ်ချိုတွင်မူ၊ အတွင်းချိုခွသည် ပို၍ရှည်တတ်သည်။ လေးနှစ်သားရှိသောအခါ ဆတ်၌ ချိုစုံလင်လင်ပေါက်လာသည်။

ဆတ်များကို အိန္ဒိယနှင့်မြန်မာနိုင်ငံတို့အပြင် သီဟိုဠ်ကျွန်း၊



အာရှအရှေ့တောင်ပိုင်းရှိ သမင်မျိုးဖြစ်သည့် ဆတ်

မလ္လာယု ကျွန်းဆွယ် တလျှောက်နှင့် ဖိလစ်ပိုင်ကျွန်းစုအလွန် အထိ သစ်တောရှိသောနေရာများတွင် တွေ့နိုင်၏။

ဆတ်သည် သစ်တောထူထပ်သော တောင်စောင်းများ တွင်နေတတ်သည်။ အထူးသဖြင့် စိုက်ပျိုးခင်းများအနီး တွင်နေရန် နှစ်သက်သည်။ ဆတ်၏အစာမှာ မြက်၊ သစ်ရွက်၊ သစ်သီးနှင့် သစ်ခက်နုများဖြစ်သည်။ ညအချိန်တွင် အစာကိုလိုက်လံရှာဖွေစားသောက်လေ့ရှိ၍၊ နေ့အချိန်တွင် ချုံကောင်းသောနေရာများ၌ ပုန်းအောင်းနေတတ်သည်။ နေဝင်ရီတရောအချိန်သို့မရောက်သရွေ့ ပုန်းအောင်းနေရာမှ ထွက်မလာတတ်ချေ။ ဆတ်၏အမြင်သည် သင့်တော်ရုံမျှသာ ကောင်းသော်လည်း၊ အနံ့နှင့် အကြားအာရုံတို့မှာမူ ထက်မြက်ပေသည်။ ဆတ်သည် ကိုယ်ကြီးမားသော်လည်း၊ ချုံထူထပ်သောတောများအတွင်း၌ အသံမမြည်စေဘဲ သွားလာနိုင်ခြင်းသည် အံ့စရာကောင်းပေသည်။ ဆတ်သည် ရေရှိရာအရပ်ကိုကြိုက်သည်။ ရေကူးသောအခါ ကိုယ်ကို ရေထဲ၌မြှုပ်ထားပြီးလျှင် ချိုနှင့် မျက်နှာကိုသာ ရေပေါ်၌ ဖော်ထားသည်။ အချို့ဆတ်ထီးများသည် ဦးချိုများကို အသစ်လဲတတ်ကြသည်။ ဦးချိုဟောင်းများကျွတ်သွားသောအခါ ချိုသစ်များပေါက်လာသည်။ ထိုချိုနုများ အပေါ်တွင် ကတ္တီပါကဲ့သို့သောအမွေးနုများရှိသည်။ နောင်အခါတွင် ထိုအမွေးနုများသည် တဖြည်းဖြည်းပျောက်ကွယ်သွား၏။ ဆတ်ထီးတို့သည် မိမိနေထိုင်ရာလျှို့မြောင်ဒေသသို့ အခြား ဆတ်ထီးများကို ဝင်ခွင့်မပေးလိုကြချေ။ မိမိ ပိုင်ဆိုင်ရာဒေသကိုမှီ၍ တကောင်နှင့် တကောင်တိုက်ခိုက်တတ်သည်။

ဆတ်ထီးတကောင်၏ ပိုင်နက်တွင်းသို့ ဆတ်မများ ဝင်ရောက်လာသည့်အခါ၌မူကား တိုက်ခိုက်ခြင်းမရှိချေ။ သို့သော် ဝင်လာသောဆတ်မသည် ဆတ်ထီး၏မိတ်ဖြစ်ရလေတော့သည်။ နိုဝင်ဘာလနှင့် ဒီဇင်ဘာလသည် ဆတ်တို့၏မိတ်လိုက်ချိန်ဖြစ်သည်။ ထိုအချိန်ကုန်လွန်သောအခါ ဆတ်ထီးများထွက်ခွာသွားကြသည်။ မိတ်လိုက် ရာသီသို့ တဖန်ပြန်ရောက်သည့်တိုင်အောင် တကောင်တည်းနေထိုင်တတ်ကြသည်။ မိုးဦးကျ မေလနောက်ပိုင်း သို့မဟုတ် ဇွန်လအစပိုင်းလောက်တွင် ဆတ်ကလေးများမွေးတတ်သည်။ ဆတ်ထီးကလေးများသည် မိခင်ဆတ်မများနှင့်သာ အတူနေထိုင်လေ့ရှိကြသည်။ ကောင်ရေအမြောက်အမြားနှင့် စုဝေးနေထိုင်သော ဆတ်များကို တွေ့ရခဲသည်။ လေးငါးကောင်မှ ဆယ့်နှစ်ကောင်အထိသာ တွေ့ရလေ့ရှိသည်။ ဆတ်ထီးကိုရင်း၊ ဆတ်မကိုရင်း၊ တကောင်ထီးတည်းလည်း တွေ့နိုင်သည်။ ဆတ်ထီးတကောင်မျှမပါဘဲ၊ ဆတ်မများနှင့် ဆတ်ကလေးများ အုပ်ဖွဲ့၍နေသည်ကိုလည်းတွေ့နိုင်၏။

**ဆတ်သွားဖူးပင်။** ။ရုက္ခဗေဒအရ ဆတ်သွားဖူးပင်သည် ‘ပန်ဒနေစီအီး’ မျိုးစဉ်တွင်ပါဝင်၍၊ ယင်းကို ‘ပန်ဒနေးနပ်တက်တိုးရီးယပ်’ ဟုခေါ်သည်။ မျိုးစိတ်ပေါင်း ၅၀ မကရှိသည်။ ဆတ်သွားဖူးပင်ကို အပင်ကြီးအနေနှင့်ရင်း၊



ဆတ်သွားဖူးပန်း



ဆတ်သွားဖူးပင်

ချုပ်ပင်အနေနှင့်ရင်း တွေ့ရသည်။ အချို့မျိုးစိတ်တွင် ပင်စည်သည်သေးသွယ်၏။ အချို့တွင်မူ ပင်စည်သည် တုတ်ခိုင်သည်။ ပင်စည်မှ လေရှူမြစ်များထွက်လာကာ မြေကြီးထဲသို့ ရှေ့စောင်းပြီးထိုးဆင်းသွားသည်။ ပင်စည်အောက်ပိုင်း ဆွေးမြည့်လာသောအခါ၊ ထိုလေရှူမြစ်တို့ကပင် အပင်ကိုဖေးမပေးသည်။ အပင်၏အမြင့်မှာ ၁၅ ပေမှ ပေ ၂၀ အထိရှိသည်။ အချို့အကိုင်းအခက်တို့၏ အဖျားတွင် ရှည်လျားရှည်သွယ်ပြောင်းသောအရွက်တို့သည် တခုနှင့်တခု သုံးပင်လိမ်ယှက်လျက်ထွက်ကြသည်။ အရွက်၏အလျားမှာ ၃ ပေမှ ၅ ပေထိရှိသည်။ အရွက်တို့၏နံဘေးတဖက်တချက်၌၎င်း၊ ရွက်လယ်ကြော၌၎င်း ဆူးများရှိသည်။ အပွင့် (ဆတ်သွားဖူးပန်း) သည် အဝါနုရောင်ဖြစ်သည်။ အနံ့မှာအလွန်မွှေးကြိုင်သည်။

အရည်ရွှမ်း၍ ထူထဲသောအရွက်တို့မှ လျှော်တမျိုးကို ရသည်။ အရွက်များကို ခမောက်၊ ဦးထုပ်၊ တောင်း၊ ဖျာ ရက်လုပ်ရာတွင်အသုံးပြုရသည်။ ရွက်နုကလေးများကို စားသောက်ဖွယ်ရာတွင် အမွှေးအကြိုင်အဖြစ်အသုံးပြုသည်။

ဆတ်သွားဖူးပင်သည် အပူပိုင်းဒေသတွင် ပေါက်ရောက်သည်။ ဩစတြေးလီးယားတိုက်၊ မလ္လာယုကျွန်းစု၊ အရှေ့အိန္ဒိယကျွန်းစု၊ ပစိဖိတ်သမုဒ္ဒရာကျွန်းစုများတွင် ပင်လယ်ကမ်းရိုးတန်းတလျှောက်နှင့် ညွန်ထူထပ်သော ဒေသများတွင်ပေါက်ရောက်သည်။ မြန်မာနိုင်ငံတွင် သဲပေါ်ရာပင်လယ်ကမ်းရိုးတန်းတွင် ပေါက်သည်။

**ဆိတ်**။ ။ဆိတ်သည် ပါဏဗေဒအလိုအရ 'ကက်ပရာ' မျိုးစုဝင် စားမြုံ့ပြန်ကောင်ဖြစ်သည်။ သိုးနှင့် ဆိတ်တို့သည် ပုံပန်းချင်း အလွန်ဆင်တူလေသည်။ (သိုး — ရှု။) သားမွေးအတွက်မွေးမြူသော သိုးတမျိုးမှာ ဆိတ်နှင့်ခွဲ၍ မရအောင် ဆင်တူနေသဖြင့် တိရစ္ဆာန်အကြောင်း မကျွမ်းကျင်သူများအဖို့ အမြီးအနေအထားကို ကြည့်၍သာလျှင် ခွဲခြားနိုင်ပေမည်။ ဆိတ်၏အမြီးမှာ အပေါ်သို့ထောင်နေ၍ သိုး၏အမြီးမှာ အောက်သို့ကုပ်ကျနေသည်။ သိုးနှင့်ဆိတ် ခွဲခြား၍သိနိုင်သည့် အခြားတချက်မှာ ဆိတ်၏ကိုယ်လုံး ကိုယ်ဖန်သည် သိုးထက် ယဲသည့်အပြင်၊ ဆိတ်မွေးမှာ

ပုံရှည်သည်။ ပုံဖြောင့်သည်။ ဆိတ်ရိုင်းများကို ဥရောပတိုက်၊ အာဖရိကမြောက်ပိုင်းနှင့် ဟိမဝန္တာတောင်များပေါ်၌ တွေ့ရသည်။ လူတို့မွေးမြူကြသော ဆိတ်ယဉ်တို့မှာ ပါးရှားနိုင်ငံရှိ ဆိတ်ရိုင်းများမှဆင်းသက်လာကြသည်ဟု ယူဆရသည်။ ရှေးပဝေဏီကာလမှစ၍၊ ကမ္ဘာပေါ်ရှိ အရပ်ရပ်တွင် ဆိတ်ကိုမွေးမြူခဲ့ကြသည်။ အာရှမိုင်းနားရှိ အန်ဂိုးရားမြို့ကိုအစွဲပြု၍ အန်ဂိုးရားဆိတ်ဟု အမည်တွင်သော ဆိတ်မျိုးမှာ ဗမ္မဟောင်းကျမ်းစာခေတ်မှစ၍ ထင်ရှားခဲ့သည်။ အန်ဂိုးရားဆိတ်သည် အရှေ့တိဗက်နိုင်ငံမှ ပေါက်ပွားလာသည်။ အန်ဂိုးရားဆိတ်တွင် ရှည်လျား၍ ပိုးသားကဲ့သို့သားမွေးများ တကိုယ်လုံးကို ဖုံးအုပ်လျက်ရှိသည်။ ထိုသားမွေးများဖြင့် မိုဟဲခေါ် ဆိတ်မွေးထည်ကို ရက်လုပ်သည်။ အန်ဂိုးရားဆိတ်မျိုးပေါင်း များစွာရှိရာ၊ အာဖရိကတိုက် တောင်ပိုင်း၊ ဩစတြေးလီးယားတိုက်နှင့် အမေရိကန်ပြည်ထောင်စုတို့တွင် ဤဆိတ်မျိုးကို သားမွေးအတွက် မွေးမြူကြသည်။ သားမွေးအတွက်မွေးမြူကြသော အခြားဆိတ်တမျိုးမှာ ကသ္မီရဆိတ်မျိုးဖြစ်သည်။ ကသ္မီရဆိတ်သည် သာမန်ဆိတ်နှင့်ပုံ၍တူသည်။ အန်ဂိုးရားဆိတ်မှာ သိုးနှင့်ပို၍ဆင်သည်။ ကမ္ဘာပေါ်တွင် ထင်ရှားသော ကသ္မီရရှောစောင်ကို ထိုကသ္မီရဆိတ်မှရသော သားမွေးဖြင့် ရက်လုပ်လေသည်။ ကသ္မီရဆိတ်၏ အတွင်းထပ်သားမွေးကို ရှောစောင်အဖြစ် ရက်လုပ်သည်။ အပြင်အမွေးများ ရှည်လေလေ၊ အတွင်းဖက် သားမွေးထပ်မှာ ထူထဲပေါများလာလေလေဖြစ်သည်။ အလျားနှင့်အနံ တကိုက်ခွဲစီရှိသော ရှောစောင် တထည် ရရှိရန်အတွက် ဆိတ်ဆယ်ကောင်မှ သားမွေးများကိုလိုလေသည်။ ထို့ပြင် လက်ဖြင့်သာ ရက်လုပ်သောကြောင့်၊ စောင်တထည်ပြီးမြောက်ရန် တနှစ်ခန့်မျှကြာသည်။ ထို့ကြောင့် ကသ္မီရရှောစောင်သည် အလွန်အဖိုးထိုက်တန်၏။ အဆင်ဆန်း ရှောစောင်တထည်ကို တခါတရံ ပေါင် ၃၀၀ မျှပေးရသည်။ အန်ဂိုရားဆိတ်နှင့် ကသ္မီရဆိတ်နှစ်မျိုးလုံးမှာ အရွယ်ငယ်၍၊ နားရွက်များ တွဲလျားကျသည့်ပြင်၊ ဦးချိုများလိမ်နေသည်။

တရုပ်နိုင်ငံ၊ ဂရိတ်ဗြိတိန်နိုင်ငံ၊ ဥရောပတိုက်နှင့် မြောက်အမေရိကတိုက်တို့တွင် ဆိတ်များကို နို့စားရန်အတွက် မွေးမြူကြသည်။ နို့စားဆိတ်မျိုးတွင် ဆွစ်ဇာလန်နိုင်ငံမှ တော်ဂင်ဗုနှင့် ဆာနင်မျိုးများမှာ အကောင်းဆုံးဖြစ်သည်။ အိန္ဒိယနိုင်ငံရှိ ဆိတ်မျိုးတွင် ဇူရတ်မြို့မှ ဇူရတီဆိတ်မျိုးသည် ထင်ရှား၏။ အများအားဖြင့် အရောင်ဖြူသည်။

သားမွေးအတွက်နှင့် ဆိတ်နို့အတွက်သာလျှင် ဆိတ်ကို မွေးမြူကြသည်မဟုတ်ပေ။ အသားစားရန်အတွက်ဖြစ်စေ၊ သားရေအတွက်ဖြစ်စေ၊ ဆိတ်ကို မွေးမြူကြသေးသည်။ ဆိတ်ကလေး သားရေကို လက်အိတ်နှင့် ဖိနပ်ချုပ်ရာ၌ အသုံးများသည်။ သို့သော် ယခုအချိန်တွင် ကြွက်သားရေနှင့် ခွေးသားရေတို့ကို ဆိတ်ကလေး သားရေတုများ ပြုလုပ်၍ ရောင်းချလျက်ရှိကြသည်။ ဖိနပ်များ၊ စာရွက်စာတမ်းများ ထည့်ရန် လက်ဆွဲအိတ်၊ စာအုပ်များအတွက် မိုရော့ကို သားရေပုံးနှင့် အခြားပစ္စည်းများကို ဆိတ်ရေဖြင့် ချုပ်လုပ်ကြသည်။ သားမွေးစောင်နှင့် သားမွေး ကိုယ်ရုံထည်များ ချုပ်လုပ်ရန် အင်ဂိုးရားဆိတ်ရေကို သားမွေးများမပယ်ဘဲ အသုံးပြုကြသည်။



ရွှက်ကြပ်ႏရွက်နုပရှောင် သစ်ခေါက်ကိုပင်မှီ၀ဲနေနိုင်သော ဆိတ်

သို့ဖြစ်၍ လူတို့အတွက် ဆိတ်သည်များစွာအသုံးဝင်သည်ဟု ဆိုရပေမည်။ ထို့ပြင် ဆိတ်သည် အလွန်ကြံ့ခိုင်သဖြင့် ရောဂါ ရုတ်တရက်မကူးစက်တတ်ချေ။ ဆိတ်သည် ရွက်ကြမ်းရွက်နုမရှောင်၊ သစ်ပင်တို့၏အခေါက်ကိုပင် ခွာစား၍အသက်ရှင်နေနိုင်သည့် သတ္တဝါမျိုးဖြစ်သည်။ ထို့ကြောင့် အခြားတိရစ္ဆာန်များကို မွေးမြူ၍မဖြစ်နိုင်အောင် အစာရေစာ ဆွံ့ရှားသော အရပ်မျိုးတွင် ဆိတ်ကိုမွေးမြူနိုင်၏။ ဆိတ်၏သာမန်သက်တမ်းမှာ ၈ နှစ်မှ ၁၂ နှစ်ထိဖြစ်သည်။ ဆိတ်မတို့သည် တကြိမ်လျှင် ဆိတ်ကလေးနှစ်ကောင် သုံးကောင်မျှမွေးဖွားလေ့ရှိသည်။ တခါတရံ တကြိမ်လျှင်ဆိတ်ကလေး လေးကောင်မှ ငါးကောင်အထိလည်း မွေးတတ်သည်။ ဆိတ်မတွင် ဇည်းကပ်၍၊ ၂၁ သီတင်း၊ ၂၂ သီတင်းအတွင်းသို့ရောက်မှ သားဖွားတတ်သည်။ ဆိတ်မ၏ အသက် ၁၅ လကျော်မှ မျိုးစပ်ပေးသင့်လေသည်။



ဆိတ်ချေးပင် အရွက်ခက်



ဆိတ်ချေးပင် အဖူးခက်

**ဆိတ်ချေးပင်။** ။ဆိတ်ချေးပင်ကို ရုက္ခဗေဒအလိုအားဖြင့် 'ဗရိုက်ဒဲလီးယား ရီတျူဆာ' ဟူ၍ခေါ်သည်။ မြန်မာနိုင်ငံ အထက်ပိုင်းနှင့် အောက်ပိုင်းတွင် အတွေ့ရများသည်။ အမြင့်ပေ ၄၀၊ ပေ ၅၀ ခန့်ရှိ၍၊ လုံးပတ် ၃ ပေ၊ ၄ ပေခန့်ရှိသည်။

အသားမာ၏။ အရောင်ညိုသည်။ အိမ်တိုင်လုပ်ရာ၌ အသုံးများ၏။ ရေအောက်၌ တာရှည်ခံသည်။ ထွန်တုံး၊ ထွန်တံ၊ လှည်းအိမ်လုပ်ရန်ကောင်း၏။ အသားမှာကျစ်၍၊ ကုဗတပေလျှင် ၅၂ ပေါင်စီး၏။ သစ်ခေါက်ကို သားရေနယ်ရန်အတွက် အသုံးချရသည်။

# မြန်မာ့အသက်သွေးခဲ

**ပြည်ထောင်စုမြန်မာနိုင်ငံသည် လွတ်လပ်သော အချုပ်အချာအာဏာပိုင်နိုင်ငံ ဖြစ်လာသည်နှင့်အမျှ စီးပွားရေးဖက်၌လည်း တောင့်တင်းကြံ့ခိုင်ဖို့ လိုပေသည်။ သို့မှသာလျှင် ပြည်ထောင်စုတိုင်းရင်းသားတို့၏ လူနေမှုအဆင့်အတန်းသည် တိုးတက်လာမည်ဖြစ်၏။ ကမ္ဘာ့ဈေးကွက်တွင် မြန်မာ့ဆန်ကို တွင်ကျယ်စွာရောင်းချနိုင်ရန် နိုင်ငံတော်အစိုးရစိုက်ပျိုးရေးဌာနက စပါးမျိုးကောင်းမျိုးသန့်ရရှိရေး၊ စပါးဖျက်ပိုးနှင့်ရောဂါ နှိမ်နင်းရေး၊ မြေဩဇာအသုံးပြုရေး၊ ခေတ်မှီစိုက်ပျိုးရေးကရိယာများ အသုံးချရေးစသည့် စိုက်ပျိုးရေးလုပ်ငန်းတို့ကို ထိရောက်စွာဆောင်ရွက်လျက်ရှိပေသည်။**

**ဆန်။** ။ရှေးလွန်လေပြီးသော ခေတ်အခါကပင် လူတို့သည် ဆန်ရရှိအောင် စပါးကိုစိုက်ပျိုးခဲ့ကြသည်။ မြန်မာလူမျိုးတို့အဖို့ ဆန်သည် ပဓာနအစာဖြစ်သည်။ အထူးသဖြင့် အရှေ့တိုင်းသားများအဖို့ အခြားကောက်ပဲသီးနှံများထက် ဆန်သည် အရေးပါလှသည်။ ရုက္ခဗေဒပညာရှင်များက ယခုစိုက်ပျိုးလုပ်ကိုင်နေကြသော စပါးမျိုးများသည် ရှေးအခါက အရိုင်းပေါက်ခဲ့သော စပါးမျိုးမှ ဆင်းသက်လာသည်ဟုဆို၏။ (စပါး — ရှု။) ရုက္ခဗေဒအလိုအရ စပါးသည် 'အိုရိဇာ' မျိုးစုတွင် ပါဝင်သည်။ ယင်းမျိုးစုမှ မျိုးစိတ်ပေါင်း ၂၅ မျိုးခွဲထွက်လာ၏။ ယင်းတို့ကို အာရှတိုက်၊ အာဖရိကတိုက်နှင့် တောင်အမေရိကတိုက် အပူပိုင်းနှင့် အပူလျော့ပိုင်းဒေသများတွင် အနှံ့အပြား တွေ့ကြရလေသည်။ ထိုမျိုးစိတ်များသည် အာရှတိုက်ရှိ ပင်ရင်းအမျိုးတခုမှရင်း၊ အာဖရိကတိုက်ရှိ ပင်ရင်းအမျိုးတခုမှရင်း ဆင်းသက်လာကြသည်ဟု ယူဆရသည်။ တောင်အမေရိကတိုက်ရှိ မျိုးစိတ်များသည် အာဖရိကတိုက်မျိုးမှ တဆင့်ပေါက်ပွားလာလေသည်။

အချို့ရုက္ခဗေဒပညာရှင်တို့ကလည်း အာရှတိုက်မျိုးဖြစ်

သော အိုရီဇာ ဖက်တျူအာ နှင့် အိုရီဇာ ဆာတီဗားမှရင်း၊ အနောက် အာဖရိကတိုက် မျိုးဖြစ်သော အိုရီဇာ စတက်ဖီး အိုင် မျိုးမှရင်း ပေါက်ပွားလာသည်ဟုယူဆကြ၏။ အိုရီဇာ ဖက်တျူအာနှင့် အိုရီဇာ မိုင်နျူတာ စပါးမျိုးကို ဟိမဝန္တာ အရှေ့ပိုင်းမှ သီဟိုဠ်ကျွန်းအထိ၊ တဖန် တရုပ်နိုင်ငံ တောင် ဖက်အကျဆုံးအပိုင်းမှ မြန်မာနိုင်ငံ၊ အင်ဒိုချိုင်းနား၊ ဂျာဗား၊ ဗော်နီယိုနှင့် ဖိလစ်ပိုင်ကျွန်းအထိ စွတ်စိုထိုင်းမှိုင်း သော ဒေသများတွင် အနှံ့အပြားတွေ့ရ၏။ အာရှတိုက် မှစပါးမျိုးများကို ၁၇ ရာစုနှစ်က အနောက်အာဖရိက တိုက်သို့ ပေါ်တူဂီကုန်သည်များ ယူဆောင်လာ၍ စိုက်ပျိုး ခဲ့ကြသည်ဟုဆို၏။ အာရှတိုက်ရှိ စပါးရိုင်းမျိုးများအနက် အိုရီဇာ ဆာတီဗားနှင့် အိုရီဇာ အော်ဖီစီနယ်လစ် စသော အပင်များမှာ ယခုအခါစိုက်ပျိုးနေသော စပါးပင်များ၏ မူလအစပင်ဖြစ်သည်။

ကမ္ဘာ့သမိုင်း ခေတ်ဦးခန့်ကပင်လျှင် အာရှတိုက်၌ စပါး ကို စတင်စိုက်ပျိုးခဲ့၍၊ သမိုင်းမတင်မီခေတ်လောက်ကပင် ဆန်ကို ပဓာနအစာအဖြစ် စားသုံးခဲ့ကြဟန်တူလေသည်။ လွန်ခဲ့သော နှစ်ပေါင်း ၅၀၀၀ ခန့်က ရေးသားခဲ့သော ရှေး ဟောင်းတရုပ်စာပေများထဲ၌ ဆန်အကြောင်းကိုတွေ့ရှိရ၏။ ထိုပြင် ရှေးဟိန္ဒူကျမ်းစာများထဲ၌လည်း မိမိတို့၏အယူဝါဒ အရ ပူဇော်ပသရာ၌ ဆန်ကို အသုံးပြုကြောင်းတွေ့ရှိရ လေသည်။ မည်သည့်တိုင်းပြည်တွင် စတင်စိုက်ပျိုးသည်ဟု မသိရသော်လည်း၊ အာရှအရှေ့တောင်ပိုင်းတွင် စတင် စိုက်ပျိုးခဲ့၍၊ မြောက်ဖက်ဆီသို့ ပျံ့နှံ့သွားသည်ဟု ယူဆ ရ၏။ ထိုပြင် မလ္လာယုကျွန်းစုနှင့် အင်ဒိုနီးရှားသို့လည်း ပျံ့နှံ့သွားခဲ့လေသည်။ သီဟိုဠ်ကျွန်းတွင် စပါးကို ရှေး ပဝေဏီကာလကပင် စိုက်ပျိုးခဲ့ရာ၊ ဖိလစ်ပိုင်ကျွန်းစုတွင် လည်း ထိုအတူပင်ဖြစ်လေသည်။ သို့သော် အချိန်အတော် နှောင်းမှ အာရှတိုက် အရှေ့ပိုင်းတိုင်းပြည်များမှ တဆင့် အာရှတိုက် အနောက်ပိုင်းတိုင်းပြည်များသို့၎င်း၊ ယင်းတို့မှ တဆင့် အလွန်ယဉ်ကျေးတိုးတက်နေသော အီဂျစ်၊ ဂရိ၊ ရောမတိုင်းပြည်များသို့၎င်း ပျံ့နှံ့ရောက်ရှိသွား၏။ ဣတလီ နိုင်ငံမြောက်ပိုင်း၌ ၁၅ ရာစုနှစ်မှစ၍ စပါးကိုစိုက်ပျိုးခဲ့၏။ အာရပ်တို့သည် နိုင်းမြစ်ဝှမ်းတွင် စပါးကို စတင်စိုက်ပျိုး ခဲ့သည်။ မက်ဒါဂက်စကာကျွန်းသို့ ပသျှူးလူမျိုးများက စပါးကို ယူဆောင်လာခဲ့၍၊ အာဖရိက အရှေ့ကျွန်းများ သို့မူ၊ အိန္ဒိယလူမျိုးများက စပါးကို ယူဆောင်လာခဲ့သည် ဟုဆိုသည်။ မူးဝါးလူမျိုးတို့သည် စပိန်နိုင်ငံသို့ စပါးကို ယူဆောင်လာခဲ့ပြီးနောက်၊ စပိန်လူမျိုးတို့ကတဖန် ဣတလီ နိုင်ငံသို့ ယူဆောင်သွားခဲ့သည်။ ဥရောပတိုက် အရှေ့ တောင်ပိုင်းတွင် စပါးစိုက်ပျိုးခြင်းအလေ့ ပျံ့နှံ့ခဲ့သည်မှာ တူရကီလူမျိုးတို့ကြောင့်ဖြစ်သည်။ ဗရာဇီးနိုင်ငံသို့ ပေါ် တူဂီများက စပါးကို ယူဆောင်လာကြပြီးလျှင် အမေရိက တိုက်အလယ်ပိုင်း တိုင်းပြည်များသို့ စပိန်လူမျိုးများက ယူဆောင်လာကြ၏။ ဟာဝိုင်းယန်းကျွန်းစု၌ ၁၈၅၃ ခု နှစ်ခန့်မှစ၍ စပါးကို စိုက်ပျိုးခဲ့ကြသည်။ အမေရိကန်ပြည် ထောင်စု၌ ၁၆၈၅ ခုနှစ်ခန့်မှစ၍ စပါးကို စိုက်ပျိုးခဲ့ကြ၏။ ဩစတြေးလီးယားတိုက်၌ ၁၇၉၁ ခုနှစ်ခန့်ကစ၍ စပါးကို စမ်းသပ်စိုက်ပျိုးကြည့်ခဲ့ရာ၊ ပဌမဦးစွာတွင် မအောင်မြင် ခဲ့သော်လည်း၊ နောင်တွင် အမျိုးမျိုးစမ်းသပ်စိုက်ပျိုးသည့် အခါမှပင် ကောင်းစွာအောင်မြင်ခဲ့သဖြင့် ၁၉၂၄ ခုနှစ်မှစ၍ စီးပွားဖြစ် စိုက်ပျိုးလုပ်ကိုင်ခဲ့လေသည်။

စပါးသည် မြေဩဇာကောင်းသောနေရာများ၌ပင် ဖြစ် ထွန်းနိုင်၏။ အရေးတကြီးလိုအပ်သည်မှာ ကောင်းစွာဖြစ် ထွန်းလာသည်အထိ ရေလုံလောက်စွာ ရရှိရန်ပင်ဖြစ်သည်။ စပါးသည်အပူလျှော့ပိုင်းဒေသနှင့် နွေးသမပိုင်းဒေသများ၌ အကောင်းဆုံးဖြစ်ထွန်းသည်။ စပါးသည် အီကွေတာ တောင်ဖက် လတ္တီတွဒ် ဒီဂရီ ၄၀ နှင့် မြောက်ဖက် လတ္တီတွဒ် ဒီဂရီ ၄၀ အကြား၌ များပြားလှသည့် ရာသီဥတုအခြေ အနေအမျိုးမျိုးတွင် ဖြစ်ထွန်းနိုင်သည်။ အများအား ဖြင့် စိုစွတ်သော အပူပိုင်းဒေသများနှင့် ကောင်းစွာသင့် လျော်သည်ဟု သဘောထားလေ့ရှိသော်လည်း၊ အီဂျစ်၊ ဩစတြေးလီးယားနှင့် သမပိုင်း ရာသီဥတုရှိသော အရပ် ဒေသများဖြစ်သည့် စပိန်၊ ပေါ်တူဂီနှင့် ဣတလီနိုင်ငံများ ၌လည်းဖြစ်ထွန်းပေသည်။ ထိုပြင် အီကွေတာ တောင်ဖက် လတ္တီတွဒ် ဒီဂရီ ၄၀ နှင့် မြောက်ဖက် လတ်တ္တီတွဒ် ဒီဂရီ ၄၀ အကြားရှိ အလယ်ပိုင်းအမေရိက၊ အမေရိကန်ပြည် ထောင်စု ထက်ဝက်ခန့်၊ အနောက် အိန္ဒိယကျွန်းစု၊ တောင် အမေရိကတိုက်၊ အိန္ဒိယ၊ တရုပ်၊ ဂျပန်၊ မလ္လာယုကျွန်း ဆွယ်နှင့် ပစိဖိတ်သမုဒ္ဒရာတွင်းရှိ ကျွန်းများ၌လည်း စပါး ဖြစ်ထွန်းနိုင်သည်။ ဤသို့ စပါးသည် နေရာအနှံ့အပြား၊ ရာသီဥတုအခြေအနေအမျိုးမျိုး၌ ဖြစ်ထွန်းနိုင်ခြင်းမှာ စပါး ပင် အမျိုးမျိုး အဖုံဖုံ ရှိသောကြောင့်ပင်ဖြစ်၏။ အချို့ သော စပါးပင်များသည် မိုးခေါင်ခြင်းဒဏ်ကို ခံနိုင်ရည်ရှိ၏။ အချို့ကား ရေလွှမ်းသော်လည်း ရှင်နေနိုင်၏။ အချို့စပါး များကို ရေချို၌သာစိုက်ပျိုးနိုင်၏။ အချို့စပါးမျိုးများ မှာကား ရေငန်၌လည်း ဖြစ်ထွန်းနိုင်၏။

ထိုပြင် အချို့သော စပါးမျိုးသည် အပူချိန်အမြောက် အများလိုသော်လည်း၊ အချို့သော စပါးမျိုးတို့သည် အအေးဒဏ်ကို ခံနိုင်ကြသည်။ အိန္ဒိယနိုင်ငံ၌ စပါးတမျိုး ကို ဆောင်းဥတု ဇန်နဝါရီလတွင် စိုက်ပျိုးလေ့ရှိ၍ မတ်လ၌ ရိတ်သိမ်းကြ၏။ စပါးပင် ဖြစ်ထွန်းနိုင်ရန် အရေးကြီးဆုံး မှာ နေရောင်ခြည်ပင်ဖြစ်၏။ လောင်းရိပ်သည် အပင်ကို ကြုံလှီစေ၏။ သို့သော် အိန္ဒိယနိုင်ငံ မာလာဗာကမ်းရိုးတန်း

၌ စိုက်ပျိုးသော စပါးတမျိုးမှာ လောင်းရိပ်ထဲ၌ပင် ကောင်းစွာဖြစ်ထွန်းပေသည်။

စပါးစိုက်ပျိုးရန် ကောင်းမွန်သော မြေမျိုးသည် ရေကို စုတ်မပစ်ဘဲ၊ ရေတင်သော မြေမျိုးဖြစ်ရပေမည်။ အာရှတိုက်၌ စပါးကို မြစ်ဝကျွန်းပေါ် ဒေသများနှင့် မြစ်ချောင်းကမ်းပါးတလျှောက်၌ စိုက်ပျိုးလေ့ရှိရာ၊ စပါးစိုက်ပျိုးရာ ဒေသများတည်နေပုံမှာ မြေအမျိုးအစားထက် ရေရရှိမှု အပေါ်တွင် ပို၍တည်သည်ဟု ဆိုရပေမည်။ ထိုပြင် စပါးသည် သဲမြေမှာထက် ရွှံ့စေးမြေတွင် ပို၍ဖြစ်ထွန်းနိုင်သည်ဟု ဆိုရပေမည်။ သို့သော် သဲမြေ၌ပင် ရေအမြောက်အမြားသွင်း၍၊ မြေဩဇာထည့်ပေးကာ စိုက်ပျိုးလျှင်လည်း ကောင်းစွာဖြစ်ထွန်းနိုင်၏။ တူးမြောင်းများဖြင့် ရေသွင်း၍စိုက်ပျိုးရာ၌ ရေသွင်းရေထုတ်ကို အထူးပင် ဂရုစိုက်ရ၏။ အပင်များကြီးလာသည်နှင့်အမျှ ရေကိုများများသွင်းပေးရ၏။ ထိုနောက် ရေကို တဖြည်းဖြည်းလျှော့ပေးရသည်။ သို့မှသာ စပါးရိတ်သိမ်းချိန်၌ မြေကြီးသည် ခြောက်သွေ့နေပေမည်။ ရေသွင်းပေးရာ၌လည်း ရေကို ဝပ်မနေစေရ။ ရေဝပ်နေလျှင် စပါးပင်များ ပျက်စီးတတ်၏။

စပါးကိုစိုက်ပျိုးရာ၌ ရေကို မည်မျှအထိပေးရမည်ဟူသော အချက်မှာ အကြောင်းအချက်အလက် အမျိုးမျိုး အပေါ်၌ တည်ပေသည်။ ရေများများပေးသော်လည်း၊ စပါးပင်သည် ရေကို ပို၍များများအသုံးပြုသည်မဟုတ်။ သို့သော် ဖော့စဖိတ်ကဲ့သို့သော မြေဩဇာများကို အသုံးပြုလျှင် ရေကိုပို၍သုံး၏။ ထိုပြင် ရာသီဥတု အခြေအနေပေါ်၌လည်းတည်၏။

စပါးအထွက်မှာ စပါးပင်အတွက် အသုံးပြုသော ရေပေါ်၌တည်၏။ ရေထဲ၌ အပင်များအဖို့ ဩဇာဖြစ်စေမည့် ဓာတ်ပစ္စည်းများလည်းပါရှိ၏။ သို့မဟုတ် အပင်များကို ပျက်စီးစေသော ပစ္စည်းများလည်းပါရှိနိုင်၏။ မြစ်များမှသွင်းယူသော ရေသည် အခြားနေရာများမှ ရသော ရေထက် ကောင်းမွန်၏။ ရေသွင်းရာ၌ အပင်၏ အခြေအနေကိုကြည့်ရ၏။ ရေလိုသည့်အချိန်၌ ရေလုံလောက်စွာ မရရှိလျှင် အပင်များပျက်စီးနိုင်သည်။ မြန်မာနိုင်ငံ အောက်ပိုင်း၌ ရေသွင်း ရေထုတ်ခြင်း ပြုလုပ်ရန်မလိုပေ။ သို့သော် မြန်မာနိုင်ငံ အထက်ပိုင်း၌ ဆည်မြောင်းများမှ ရေကိုသွင်းယူ၍၊ စပါးစိုက်ပျိုးရသဖြင့် ရေသွင်း ရေထုတ်ခြင်းမှာ အထူးပင်အရေးကြီး၏။ တူးမြောင်းများမှငှင်း မြစ်ချောင်းများမှငှင်း ရေသွင်းရာ၌ တိုင်းပြည်ဒေသအလိုက် နည်းအမျိုးမျိုးရှိပေသည်။

စပါးအမျိုးမျိုးရှိရာတွင် အချို့မှာ ခြောက်သွေ့သော အခြေအနေများ၌ပင် စိုက်ပျိုးနိုင်၏။ သို့သော် မိုးရေကို ၃၊ ၄ လမျှ ရရှိရပေမည်။ ရေထဲ၌ စိုက်ပျိုးရသည့် စပါးမျိုး အနက် အချို့သော စပါးသည် ရေစီးထဲ၌ ကောင်းစွာဖြစ်ထွန်း၏။ အချို့ကိုမူ ရေသေထဲ၌ စိုက်ပျိုးရ၏။ အချို့သော စပါးများသည် ရေအနက် ပေ ၂၀ မျှအထိ လွှမ်းသွားသော်လည်း မပျက်စီးနိုင်ပေ။

တိုင်းပြည်တပြည်တွင် စိုက်ပျိုးသော စပါးအမျိုးအစားများသည် ရာသီဥတု အခြေအနေနှင့် ယဉ်ကျေးမှု အဆင့်အတန်းပေါ်တွင်၎င်း၊ ပြည်တွင်းစားသုံးရန် အတွက်လော၊ သို့မဟုတ် ပြည်ပသို့ တင်ပို့ရောင်းချရန်လော ဟူသည့်အချက်ပေါ်တွင်၎င်း တည်နေပေသည်။ ထိုပြင် လူမျိုးအလိုက် နှစ်ခြိုက်မှုပေါ်တွင်လည်း တည်နေပေ၏။ ပမာဆောင်ရသော်၊ ဖိလစ်ပိုင်ကျွန်းစု၌ စပါးလုံးရှည်၍ ဆန်လုံးမာသော စပါးမျိုးကိုစိုက်ကြ၏။ ဂျပန်လူမျိုးများသည် စပါးလုံးတို၍ စေးသောဆန်ထွက်သည့် စပါးမျိုးကိုစိုက်ကြ၏။ အင်ဒိုနီးရှားနိုင်ငံ၌ ကြိတ်ဆန် အကောင်းအညံ့ကိုလိုက်၍ ဆန်မျိုး ၄ စားခွဲထား၏။ ဆန်လုံးရှည်၊ ဆန်လုံးသေး၊ ဆန်လုံးပုနှင့် ကောက်ညှင်းဟူ၍ဖြစ်သည်။ မလ္လာယုနိုင်ငံ၌လည်း ဆန်လုံးအရွယ် ပမာဏကိုကြည့်၍ ဆီရော့မျိုး၊ ရာဒင်မျိုး၊ ရန်ကုန်မျိုး၊ ယိုးဒယားမျိုးဟူ၍ ၄ မျိုး ၄ စား ခွဲခြားထားသည်။ အမေရိကန်ပြည်ထောင်စု၌ စိုက်ပျိုးသော စပါးမျိုးတို့၏ မူလဘူတမှာ အာရှတိုက်မှ စပါးမျိုးများဖြစ်၏။ လွန်ခဲ့သည့် နှစ်ပေါင်း ၃၀ အတွင်း ကမ္ဘာ့အရပ်ရပ်မှ စပါးမျိုးပေါင်း ၅၀၀၀ ခန့် မျိုးယူ၍ စမ်းသပ်စိုက်ပျိုးခဲ့၏။ သို့သော် စပါးမျိုးအနည်းငယ်လောက်သာလျှင် အမေရိကန်ပြည်ထောင်စု၌ စိုက်ပျိုး၍အောင်မြင်ခဲ့သည်။ အမေရိကန်ပြည်ထောင်စု၌ ယခုအခါ စိုက်ပျိုးနေသည့် အချို့သော စပါးများမှာ တမျိုးနှင့်တမျိုးကို မျိုးစပ်ပေါင်းခြင်းဖြင့် ရရှိခဲ့သော မျိုးသစ်စပါးများဖြစ်၏။ ထိုစပါးတို့မှ ထွက်သော ဆန်မျိုးတို့တွင် အချို့သည် မီးတုံးနှင့်အလားတူ၏။ အချို့ကား ငစိန်နှင့်အလားတူ၏။ အချို့မှာ ညှော့မထနှင့်အလားတူ၏။ ဂျပန်နိုင်ငံ၌ ရာသီဥတု အခြေအနေအမျိုးမျိုးတွင် စိုက်ပျိုးရန်သင့်လျော်မည့် စပါးမျိုးများကို သုတေသနပြုလုပ်၍ ရှာကြံယူကြ၏။ ရုရှနိုင်ငံ၌လည်း မိမိတို့၏ရာသီဥတုနှင့် သင့်လျော်မည့် စပါးမျိုးကို ရှာကြံစမ်းသပ်လျက်ရှိလေသည်။ မြန်မာနိုင်ငံတွင် စပါးရိုးရိုးနှင့် ကောက်ညှင်းဟု ခွဲခြားခေါ်ဝေါ်ကြသည့်အနက်၊ ကောက်ညှင်းသည် ရုက္ခဗေဒအလိုအားဖြင့် အိုရိဇာ ဂလူတီနိုးဇားဖြစ်သည်။ ယင်းကို အာရှတိုက်၌ အနည်းအပြား စိုက်ပျိုးကြ၏။ တရုပ်နှင့်ဂျပန်နိုင်ငံထွက် စပါးစုစုပေါင်း ၁၀ ရာခိုင်နှုန်းမှာ ကောက်ညှင်းဖြစ်သည်ဟုဆိုသည်။

မြန်မာနိုင်ငံ၌ ဆန်စက်သမားတို့၏ အသုံး အနှုန်းကိုလိုက်၍ ဆန်ကို ၅ မျိုးခွဲခြားထား၏။ ယင်းတို့မှာ ငစိန်၊ မီးတုံး၊ ညှော့မထ၊ လက်ရွေးဆန်နှင့် ဗျတ်တို့ဖြစ်သည်။

ဇစိန်ဆန်သည် မာ၏။ အရောင်ကြည်၏။ စက်အကြိတ်ခံ၏။ နိုင်ငံခြားသို့တင်ပို့ရောင်းချရာ၌ အဓိကဖြစ်၏။ မီးတုံးဆန်မှာမူ ပုရှ် ဇစိန်ထက် အလုံးကြီး၏။ ဇစိန်ထက်လည်း ပျော့ပျောင်း၏။ စက်ကြိတ်ခံသော်လည်း၊ တာရှည်ထား၍မရသောကြောင့် နိုင်ငံခြားခရီးဝေးသို့ တင်ပို့ရောင်းချခြင်းနည်း၏။ မြန်မာနိုင်ငံနှင့်နီးစပ်သော အရှေ့နိုင်ငံတို့တွင် မီးတုံးဆန်ကို ရောင်းချ၍ရ၏။ ညှော့မထဆန်သည် ဆန်လုံးရှည်၍ မာသော်လည်း၊ စက်ကြိတ်ရာ၌ ကြေတတ်၏။ ထိုကြောင့် ညှော့မထကို ပြုတ်ဆန်လုပ်ကြသည်။ လက်ရွေးဆန်မှာမူ ဇစိန်နှင့် ညှော့မထအမျိုးအစား နှစ်ခု၏ကြား၌ရှိသည်။ ညှော့မထကဲ့သို့ ပြုတ်ဆန်လုပ်ရန်ကောင်း၏။ ဗျတ်ဆန်ကား ဆန်လုံးကြီး၍ စက်ကြိတ်ခံသည်။ သို့သော် ပြည်တွင်းသုံးဆန်သက်သက်မျှဖြစ်သည်။

အာရှတိုက်ရှိ နိုင်ငံများ၌ ဆန်စိုက်ပျိုးသည့် မြေကေများကို အသီးအနှံစိုက်ပျိုးကြသည့် မြေကေ၏ ရာခိုင်နှုန်းအလိုက် အောက်တွင် ဖော်ပြထားပေသည်။

| | | |
|---|---|---|
| အင်ဒိုချိုင်းနား | ၈၆ | ရာခိုင်နှုန်း |
| မြန်မာနိုင်ငံ | ၆၅ | ,, |
| ဖိလစ်ပိုင်ကျွန်း | ၆၄ | ,, |
| ဖော်မိုးဆားကျွန်း | ၅၄ | ,, |
| ဂျပန်နိုင်ငံ | ၄၅ | ,, |
| ဂျားဗားကျွန်း | ၄၅ | ,, |
| ကိုရီးယားနိုင်ငံ | ၃၀ | ,, |
| အိန္ဒိယနိုင်ငံ | ၂၃ | ,, |
| တရုပ်နိုင်ငံ | ၂၁ | ,, |

၁၉၃၉ ခုနှစ် ဒုတိယကမ္ဘာစစ်မဖြစ်မီအချိန်က တကမ္ဘာလုံးတွင် (ရုရှနိုင်ငံမှအပ) ဆန်စပါးစိုက်ပျိုးသည့်မြေကေမှာ သန်းပေါင်း ၂၀၀ မှ ၃၀၀ ကြားတွင် ရှိသည်ဟုဆိုသည်။ စစ်ပြီးခေတ်၌ ကမ္ဘာ့ဈေးတွင် ဆန်အနုတ်အသိမ်း များလာသဖြင့်၊ ကေပေါင်း ၉ သန်းခန့် တိုးချဲ့စိုက်ပျိုးခဲ့ကြ၏။ တကမ္ဘာလုံးမှထွက်သော ဆန်တန်ချိန် ၉၀ ရာခိုင်နှုန်းခန့်ကို အာရှတိုက်၌ စိုက်ပျိုးခဲ့သည်။ တရုပ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံ နှစ်နိုင်ငံပေါင်း၏ဆန်ထွက်သည် တကမ္ဘာလုံးမှ ထွက်သော ဆန်တန်ချိန်စုစုပေါင်း၏ ထက်ဝက်မျှရှိသည်။ လွန်ခဲ့သည့် နှစ်ပေါင်း ၆၀ အတွင်း ဂျပန်နိုင်ငံ၌ ဆန်စပါးကို ပိုမို တိုးချဲ့စိုက်ပျိုးခဲ့သည့်ပြင်၊ မျိုးကောင်းများ စိုက်ပျိုးကာ မြေဩဇာများကို သုံးခဲ့ကြသဖြင့် တကေထွက် ဆန်တန်ချိန်မှာလည်း တိုးတက်လာခဲ့ပေသည်။ အခြားတိုင်းပြည်များ၌လည်း နောင်အခါတွင် ဆန်ပိုမိုထွက်ရှိစေရန် ဆည်မြောင်းများ ဖောက်လုပ်၍ ဆန်စပါးစိုက်ပျိုးရေးကို တိုးတက်အောင်ကြိုးစားနေကြ၏။

အမေရိကန်ပြည်ထောင်စုနိုင်ငံမှလည်း ဆန်စပါးပိုမိုထွက်ခဲ့သည်။ တောင်အမေရိကတိုက်၌ ဆန်စပါးစိုက်ပျိုးရန် ကောင်းမွန်သော နေရာပေါင်းအမြောက်အမြားပင်ရှိနေသော်လည်း၊ ဗရာဇီးနိုင်ငံ၌သာ ဆန်စပါးသည် အရေးပါအရာရောက်သော ကောက်ပဲသီးနှံမျိုး ဖြစ်နေပေသည်။ ယခုအခါ အာရှတိုက်မှထွက်သော ဆန်တန်ချိန်သည် ဒုတိယကမ္ဘာစစ်မဖြစ်မီက စံချိန်ကို ပြန်၍မှီလာပေပြီ။ သို့သော် ရှေ့အဖို့၌ ကမ္ဘာက လိုအပ်သမျှသော ဆန်တန်ချိန်ကိုဖြည့်စွမ်းပေးနိုင်အောင် ဆန်ထုတ်လုပ်ရေးကို ပိုမိုလုပ်ကိုင်နိုင်ကြလိမ့်မည်ဟု မယူဆနိုင်သေးချေ။ အထူးသဖြင့်



နိုင်ငံခြားသို့ဆန်ရောင်းဝယ်ရေးသည် မြန်မာ့သွေးခဲလုပ်ငန်းဖြစ်သည်။

နိုင်ငံရေး မငြိမ်မသက်ဖြစ်နေသည့် ဒေသတို့တွင် ရှေး အခါကကဲ့သို့ ရင်းစားအခြေသို့ပြန်ဆိုက်ဖို့ခက်သည်။

၁၉၃၉ ခုနှစ် မတိုင်မီက၊ တကမ္ဘာလုံးမှထွက်သော စပါးတန်ချိန်သည် မက်ထရစ်တန်ချိန် ၁၄၇½ သန်းဖြစ်၏။ မျိုးစပါးအတွက် နုတ်ပြီးနောက်၊ ကြိတ်ပြီးသား ဆန်တန်ချိန်မှာ မက်ထရစ်တန်ချိန် ၉၄ သန်းဖြစ်၏။ ဒုတိယကမ္ဘာစစ်အတွင်းက စပါးထွက်မှာ အာရှတိုက်တွင် လျော့နည်းသွားခဲ့၍ ကမ္ဘာအနောက်ပိုင်းတိုင်းပြည်များ၌ တိုးလာခဲ့သည်။ ၁၉၅၂ ခုနှစ်၌ ဆန်စပါးကို တိုးချဲ့စိုက်ပျိုးခဲ့သော်လည်း၊ အာရှတိုက်တွင် ဆူပူလှုပ်ရှားမှုများကြောင့် နှစ်စဉ် နှစ်တိုင်း ဆန်တန်ချိန် ၅ သန်းမျှ လိုနေခဲ့ပေသည်။

အီကွေတာ တောင်ဖက်၊ လတ္တီတွဒ် ၂၀ ဒီဂရီကြားနှင့် မြောက်ဖက် လတ္တီတွဒ် ၂၀ ဒီဂရီတို့အကြားရှိ အပူပိုင်း၌ တကေလျင် ဆန်ပေါင်ချိန် ၉၀၀ ခန့်မျှထွက်၏။ အီကွေတာ၏တောင်ဖက်တွင်ရှင်း၊ မြောက်ဖက်တွင်ရှင်း၊ လတ္တီတွဒ် ၃၀ ဒီဂရီနှင့် ၄၀ ဒီဂရီအကြားရှိ အရပ်များ၌ တကေလျင် ဆန်ဖြူပေါင်ချိန် ၁၇၀၀ ခန့်ထွက်လေသည်။

သို့သော် ထူးခြားချက်များလည်းရှိပေသည်။ အာရှတိုက်၊ အာဖရိကတိုက်၊ တောင်အမေရိကတိုက်နှင့် အမေရိကအလယ်ပိုင်း၊ လတ္တီတွဒ် ၀ ဒီဂရီနှင့် ၁၀ ကြားရှိ ဒေသများ၌ တကေလျင် ပေါင်ချိန် ၇၁၀ နီးပါးသာ ထွက်သော်လည်း၊ ယင်း လတ္တီတွဒ်များအကြားရှိ တောင်အမေရိကတိုက် ဒေသများ၌ တကေလျင် ပေါင်ချိန် ၁၆၀၀ ထွက်၏။ ယင်းမှာ မြေဩဇာအလွန်ထက်သန်သောကြောင့်ဖြစ်သည်။ တောင်အမေရိကတိုက် အချို့ဒေသများ၌ ဆန်စပါးကို တနှစ်လျင် ၂ ကြိမ် စိုက်ပျိုးနိုင်၍၊ အချို့ဒေသများ၌မူ အချိန်မရွေး စိုက်ပျိုးနိုင်လေသည်။ အီကွေတာ၏တောင်ဖက်တွင်ရှင်း၊ မြောက်ဖက်တွင်ရှင်း လတ္တီတွဒ် ၃၀ ဒီဂရီနှင့် ၄၀ ဒီဂရီအကြားရှိဒေသများ၌ တကေလျင် ဆန်အထွက်နှုန်းသည် ပေါင်ချိန် ၁၇၀၀ ဖြစ်၏။ သို့သော် အမေရိကန်ပြည်ထောင်စု၌တကေလျင် ပေါင်ချိန် ၁၄၉၀ မျှသာထွက်ပေသည်။

မျိုးကောင်း မျိုးသန့်စပါး၊ မြေဩဇာနှင့် အခြား လိုအပ်သည့် ပစ္စည်းများ ချို့တဲ့ခြင်းကြောင့်လည်း ဆန်အထွက်ကို ထိခိုက်စေနိုင်၏။ စစ်အတွင်းက ပျက်စီးခဲ့သော ရေကာတာနှင့်တူးမြောင်းများကို ပြန်လည်မပြင်ဆင်ရသေးသဖြင့်၊ အချို့တိုင်းပြည်များ၌ ဆန်ထွက်နည်းနေသေး၏။ ကျွဲနွားများ ရှားပါးမှုကြောင့်လည်း ဆန်ထွက်နည်းရ၏။

ဒုတိယကမ္ဘာစစ်ကြီးမဖြစ်မီက မြန်မာနိုင်ငံ၌ ဆန်စပါးစိုက်ပျိုးသည့် ကေပေါင်းမှာ ၁၂½ သန်းရှိ၏။ မျိုးစပါးကို နုတ်ယူပြီးနောက် ဆန်တန်ချိန်ပေါင်း မက်ထရစ်တန်ချိန် ၄,၅၇၇,၀၀၀ ထွက်၏။ ယင်းဆန် တန်ချိန်မှ ဆန်တန်ချိန် ၃ သန်း သို့မဟုတ် ဆန်ထွက်တန်ချိန်အားလုံး၏ ၆၇ ရာခိုင်နှုန်းကို နိုင်ငံခြားသို့ တင်ပို့ရသည်။ သို့သော် စစ်ပြီးနောက်ပိုင်းအချိန် ၁၉၅၁ ခုနှစ်၌ ဆန်တန်ချိန် ၁,၃၀၀,၀၀၀ သို့မဟုတ် ဆန်ထွက်တန်ချိန်၏ ၃၇ ရာခိုင်နှုန်းမျှကိုသာ နိုင်ငံခြားသို့ တင်ပို့နိုင်ခဲ့၏။

အာရှတိုက်ရှိ နိုင်ငံတိုင်း၌ ဆန်စပါးကို စိုက်ပျိုးကြသော်လည်း၊ မြန်မာနိုင်ငံ၊ ဗီယက်နမ်နိုင်ငံ၊ ယိုးဒယားနိုင်ငံ၊ ကိုရီးယားနိုင်ငံနှင့် ဖော်မိုးဆားကျွန်းများမှသာ နိုင်ငံခြားသို့ ဆန်တင်ပို့နိုင်ခဲ့ပေသည်။ ဥရောပနိုင်ငံအချို့၊ အီဂျစ်၊ အမေရိကန်ပြည်ထောင်စုနှင့် ဗရာဇီးနိုင်ငံများမှလည်း နိုင်ငံခြားသို့ ဆန်တင်ပို့ကြ၏။ အချို့ အာရှနိုင်ငံများသည် ပြည်တွင်းစားသုံးရန်ပင် မလုံလောက်၍ နိုင်ငံခြားမှ ဆန်ကို တင်သွင်းယူရပေသည်။ နိုင်ငံခြားသို့ တင်ပို့ရောင်းချသော ဆန်တန်ချိန် ၇၀ ရာခိုင်နှုန်းမှာ အာရှတိုက်နိုင်ငံများမှ ထွက်၏။ တကမ္ဘာလုံးမှထွက်သည့် ဆန်တန်ချိန် ၇၀ရာခိုင်နှုန်းကိုလည်း အာရှတိုင်းပြည်များကပင် စားသုံးကြသည်။

ဒုတိယကမ္ဘာစစ်မဖြစ်မီက မြန်မာနိုင်ငံမှ တနှစ်လျင် ဆန်တန်ချိန် သန်းပေါင်း ၃.၃ တင်ပို့ရောင်းချခဲ့ရာ တန်ဖိုးငွေ ၂၂ ကုဋေဖြစ်၏။ စစ်ပြီးနောက် တန်ချိန် သန်းပေါင်း ၁.၂၆ အထိ ကျဆင်းသွား၏။ သို့သော် တန်ဖိုးမှာ ၈၂.၆ ကုဋေ ဖြစ်သည်။ တိုးချဲ့လုပ်ကိုင်ခြင်းဖြင့် ၁၉၆၈ ပြည့်နှစ်ခန့်လောက်တွင် တနှစ်လျင် တန်ချိန် သန်းပေါင်း ၃.၅ ထွက်မည်ဟု မြော်လင့်၏။ ကမ္ဘာ့ဈေး၌ မြန်မာ့ဆန်ကို အခြားတိုင်းပြည်များမှထွက်သော ဆန်၊ ဂျုံ၊ ဂျုံမှုန့်များနှင့် ယှဉ်ပြိုင်ရောင်းချနိုင်စေရန် အဖက်ဖက်မှ ကြိုးစားကြရမည်ဖြစ်သည်။

စစ်ပြီးခေတ်နောက်ပိုင်း၌ ၁၉၅၃ ခုနှစ်အထိ ဗမာ့ဆန်မှာ ကမ္ဘာ့ဈေး၌ မျက်နှာပန်းပွင့်လှသည်။ ထိုနှစ်နောက်တွင်ကား၊ ကမ္ဘာ့ဆန်ဈေးမှာ တဖြည်းဖြည်း ကျဆင်းလာ၏။ ဆန်ဈေးကျဆင်းလာသည်နှင့်အမျှ နိုင်ငံတော်အစိုးရ၏နိုင်ငံခြားသုံး ငွေမှာလည်း လျော့နည်းလာ၏။ ထိုကြောင့် နောင်အခါတွင် ဆန်တန်ချိန် အမြောက်အမြားတင်ပို့ရမည့်အပြင်၊ တင်ပို့သည့် ဆန်အမျိုးအစားကိုလည်း ပဌမတန်းဖြစ်အောင် ကြိုးစားရမည်ဖြစ်သည်။ ထို့ပြင် နိုင်ငံခြားသို့ တင်ပို့ရာ၌ သယ်ယူပို့ဆောင်ရေး အခက်အခဲများလည်း ရှိပေသည်။ ထိုကြောင့် မြန်မာနိုင်ငံသည်အဓိကစီးပွားရေး တရပ်ဖြစ်သော ဆန်အရောင်း အဝယ်ကိစ္စကို တိုးတက်ရလေအောင် စိုက်ပျိုးရေး၊ ဆန်ကြိတ်ထုတ်ရေး၊ ရောင်းဝယ်ရေး၊ နိုင်ငံခြားသို့ တင်ပို့ရေးကဲ့သို့သော ပြဿနာများကို ဖြေရှင်းလျက်ရှိလေသည်။

မြန်မာနိုင်ငံမှ ဆန်ဖြူ၊ ပြုတ်ဆန်၊ ဆန်ကွဲ၊ ဖွဲနု၊ စပါးများကို နိုင်ငံခြားသို့တင်ပို့၏။ ၁၉၅၄ ခုနှစ်၌ နိုင်ငံခြားသို့ တင်ပို့သော ဆန်နှင့် ဆန်ထွက်ပစ္စည်းများမှာ စုစုပေါင်း တန်ချိန် ၁.၂၆ သန်းအထိပင် ကျဆင်း၏။ တန်ဖိုးငွေမှာ ကျပ်သန်းပေါင်း ၈၂၆.၄၀ ဖြစ်သည်။ ဆန်နှင့် ဆန်ထွက်ပစ္စည်းများ၏ တန်ချိန်မှာ ၆၂ ရာခိုင်နှုန်းလျော့သွားသော်လည်း၊ တန်ဖိုးမှာ ၂၇၅ ရာခိုင်နှုန်း အထိတက်လာကြောင်းတွေ့ရလေသည်။

စစ်မဖြစ်မီက မြန်မာ့ဆန်နှင့် ဆန်ထွက်ပစ္စည်းများကို ယူနိုက်တက် ကင်းဒမ်း၊ ဂျာမနီ၊ ဗဲလဂျီယမ်နှင့် အခြား ဥရောပနိုင်ငံများသို့ တင်ပို့ခဲ့၏။ မြန်မာ့ဆန်ရောင်းရာ ဒေသများကို အုပ်စုခွဲကြည့်လျှင် ၄ မျိုး ၄ စားခွဲနိုင်၏။

ပဌမအုပ်စု၌ ယူနိုက်တက်ကင်းဒမ်းနှင့် ဥရောပတိုက်၊ဒုတိယ အုပ်စု၌ အာဖရိကတိုက်၊ အမေရိကတိုက်၊ အနောက်အိန္ဒိယကျွန်းစုနှင့် ကမ္ဘာ့အရှေ့အလယ်ပိုင်း နိုင်ငံများ၊ တတိယ အုပ်စု၌ ဂျပန်နိုင်ငံ၊ တရုပ်နိုင်ငံ၊ အင်ဒိုနီးရှားနိုင်ငံ၊ မလ္လာယုနိုင်ငံ၊ စတုတ္ထအုပ်စု၌ အိန္ဒိယနှင့် သီဟိုဠ်နိုင်ငံတို့ အသီးသီးပါဝင်ကြ၏။ စစ်ပြီးခေတ် လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် ဖြစ်လာသောအခါ၊ မြန်မာ့ဆန်ကိုဝယ်မည့် ဖောက်သည် နိုင်ငံများကိုရှာခဲ့၏။ တိုးလာသော မြန်မာ့ဆန်ဖောက်သည်နိုင်ငံများမှာ ယူဂိုစလားဗီးယားနိုင်ငံ၊ ဆိုဗီယက် ဆိုရှယ်လစ် ပြန်ထောင်စုသမတနိုင်ငံ၊ အရှေ့ဂျာမနီ၊ ချက်ကိုစလိုဗားကီးယားနိုင်ငံ၊ ဟန်ဂေရီနိုင်ငံ၊ အနောက်ဂျာမနီ၊ ပိုလန်နိုင်ငံနှင့် တရုပ်ပြည်သူ့ သမတနိုင်ငံတို့ ဖြစ်၏။

စစ်မဖြစ်မီက နိုင်ငံခြားသို့ တင်ပို့သော ဆန်တန်ချိန်၌ ငစိန် ၆၅%၊ မီးတုံး ၁၅%၊ ညှော်မထ ၁၄%၊ လက်ရွေးဆန် ၆% စသည်ဖြင့် အသီးသီးပါဝင်၏။ သို့သော် မကြာသေးမီက မြန်မာ့ဆန်ကို ရှေးကကဲ့သို့ အိန္ဒိယနိုင်ငံမှ အဝယ်မများတော့ဘဲ၊ ဂျပန်၊ သီဟိုဠ်၊ တရုပ်၊ ရုရှ၊ ချက်ကိုစလိုဗားကီးယား၊ ဂျာမနီနှင့် အခြားဥရောပနိုင်ငံများမှ အဝယ်များလာကြရာ၊ ဝယ်ယူသော နိုင်ငံများအကြိုက်ကို လိုက်၍ ပြောင်းလဲစိုက်ပျိုးရလေသည်။ ပမာအားဖြင့် ဂျပန်နိုင်ငံနှင့် ကမ္ဘာ့ အနောက်ပိုင်း နိုင်ငံများမှ အကြိုက်များသော မီးတုံးဆန်ကို ပို၍စိုက်ပျိုးရ၏။ အကြိုက်နည်းသော လက်ရွေးဆန်ကို လျှော့၍စိုက်ရပေသည်။ ဥရောပတိုက်နိုင်ငံများနှင့် ကမ္ဘာ့အနောက်ပိုင်း နိုင်ငံများ၌ ယိုးဒယားဆန်၊ အမေရိကန် ပြည်ထောင်စုမှ ကယ်ရိုလီးနားဆန်တို့နှင့်ယှဉ်ပြိုင်ရောင်းချနိုင်ရန် ညှော်မထဆန်ကို ပိုမို၍စိုက်ပျိုးရပေမည်။

စစ်ပြီးခေတ်၌ မြန်မာနိုင်ငံအစိုးရ စိုက်ပျိုးရေးဌာနမှ ဆန်စပါးစိုက်ပျိုးရေးနှင့်ပတ်သက်၍ ပိုမိုကောင်းမွန်သော စပါးမျိုးများရရှိရေး၊ စပါးပင်တို့ကို ပျက်စီးစေသော ပိုးမွှားနှင့်ရောဂါများ နှိမ်နင်းရေး၊ မြေဩဇာများ အသုံးပြုရေး၊ စိုက်ပျိုးရေးနည်းသစ်များ စုံစမ်းရေး၊ ခေတ်မီစိုက်ပျိုးရေး ကရိယာများ အသုံးချရေးစသည့် လုပ်ငန်းများကို ဆောင်ရွက်ခဲ့ပေသည်။ မြေယာကျေးလက် ကြီးပွားတိုးတက်ရေး ကော်ပိုရေးရှင်းမှလည်း စပါးမျိုးကောင်းမျိုးသန့်ရရှိစေရန်အတွက် ၃ နှစ်စီမံကိန်း ရေးဆွဲထား၏။ ထိုစီမံကိန်းအရ ၃ နှစ်အတွင်း လယ်မြေဧကပေါင်း ၉ သန်းအတွက် စိုက်ပျိုးရန် မျိုးသန့်စပါးမျိုးများရရှိရေးကို ကြိုးစားလုပ်ကိုင်လျက်ရှိ၏။ ထိုပြင် အမတော်ကြေး ထောက်ပံ့၍လည်း စပါးစိုက်ပျိုးရေးကို အားပေးလျက်ရှိပေသည်။

အာဟာရဗေဒအလိုအားဖြင့် ဆန်ထဲ၌ အာဟာရဖြစ်စေမည့်ဓာတ်ပစ္စည်းများရှိကြောင်းသိရ၏။ ဆန်၌ ပရိုတင်းဓာတ် ရာခိုင်နှုန်း ၆ မှ ၇ အထိ ပါရှိ၏။ ယင်းပရိုတင်းဓာတ်မျိုးသည် ဂျုံထဲ၌ပါသော ပရိုတင်းဓာတ်ထက်ပို၍ တန်ခိုးသတ္တိထက်ကြောင်းသိရသည်။ ဆန်ထဲ၌ အဆီလည်း




စက်မကြိတ်မီ (ဝဲ) နှင့်စက်ကြိတ်ပြီးနောက် (ယာ) တွေ့မြင်ရသောဆန်စေ့




မြန်မာတို့စားသုံးသောဆန်တွင် ရာခိုင်နှုန်းအလိုက်ပါဝင်သော အာဟာရဓာတ်များ

အနည်းငယ်ပါရှိပြီးလျှင် ကယ်လဆီယမ်ခေါ် ထုံးဓာတ်လည်း အနည်းငယ်သာပါရှိ၏။ သံဓာတ်နှင့် ဗီတာမင် ဘီ လည်းပါရှိ၏။ ဆန်ကို (၁) ဆန်ညှာဆန်ညှောက်၊ မျိုးဗီဇ (၂) အမြှေး၊ ဖွဲနု (၃) ဆန်နှစ် ဟူ၍ အစိတ်အပိုင်း သုံးမျိုးခွဲခြားနိုင်သည်။ ဆန်နှစ်ကို ဖုံးအုပ်နေသော အမြှေးဖွဲနုနှင့် ဆန်ညှာဆန်ညှောက်တွင် အာဟာရဖြစ်စေသော ပရိုတင်းဓာတ်၊ သံဓာတ်နှင့်ဗီတာမင် ဘီ ဓာတ် များစွာပါရှိ၏။ ဆန်နှစ်တွင် အာဟာရဓာတ် အလွန်နည်းပါး၏။ ဆန်နှစ်တွင် ကာဗိုဟိုက်ဒရိတ်ဓာတ်သာ များများပါ၏။ ဆွတ်ဆွတ်ဖြူအောင် ကြိတ်ထားသော ဆန်တွင် ဆန်နှစ်သာ ကျန်တော့သဖြင့် ကာဗိုဟိုက်ဒရိတ်ဓာတ်သာ အများဆုံးပါဝင်ပေသည်။ အခြားအာဟာရဓာတ်များ ချို့တဲ့ခြင်းကြောင့် ဆန်ဖြူချည်းကိုသာစားနေရလျှင် အင်အားမပြည့်စုံသောကြောင့် အနာရောဂါဖြစ်လွယ်သည်။

ဆန်ထဲ၌ ဖော့စဖောရပ်ခေါ် ဓာတ်ပစ္စည်းတမျိုးလည်း ပါရှိ၏။ ဆန်ဖြူသည် မောင်းထောင်းဆန်ထက် ဖော့စဖောရပ်အချိုးအစားထက်ဝက်မျှလျော့ပါး၏။ ပွတ်ဆန် ကြိတ်ရာ၌ စပါးကို ပဌမဦးစွာ ရေနွေးဖြင့် ပေါင်းတင်ရသဖြင့် အာဟာရဓာတ်များမှာ ဆန်သားထဲ၌စိမ့်ဝင်သွားသဖြင့်၊ ရိုးရိုးဆန်ဖြူထက်ပို၍ အာဟာရဓာတ်ပါရှိ၏။ မောင်းထောင်းဆန်သည် ဆန်ဖြူထက်ပိုမို၍ ဗီတာမင် ဘီ ပါရှိသဖြင့် စားသုံးရန်ပို၍သင့်လျော်၏။ လုံးတီးဆန်ကို ဖြူစေရန် စက်ဖြင့်ကြိတ်ရာ၌ ဗီတာမင်ဓာတ်များ ၇၅% ယုတ်လျော့သွားသည်ဟုဆို၏။ ဆန်ကို ဖြူအောင် မောင်းနှင့်ဖွပ်ရာ၌ ဆန်လုံးများပျက်သဖြင့် သင့်တော်ရုံပင် ဖွပ်ကြလေသည်။ ထို့ကြောင့် မောင်းထောင်းဆန်၌ ဖွဲနုရာခိုင်နှုန်း ၅၀ မှ ၇၀ အထိ ပါရှိသေးသည်။

ဆန်ကို ဖြူအောင် စက်ဖြင့်ကြိတ်ရာ၌ ဗီတာမင် ဘီ ၂ များလည်း ဆုံးရှုံးရ၏။ အာဟာရဓာတ်ထဲ၌ ယင်းဗီတာမင်များ ချို့တဲ့မှုကြောင့် ဗယ်ရီဗယ်ရီခေါ် ထုံနာစို ကိုယ်ဖောနာဖြစ်တတ်သည်။ အာဟာရချို့တဲ့နေသော ဆန်ဖြူကို ချက်သည့်အခါ အကြိမ်ကြိမ် ဆေးပြီးမှချက်၍၊ တဖန် ထမင်းရည်ကို သွန်ပစ်လေ့ရှိပြန်ရာ၊ ချက်ပြီးသော ထမင်း၌ အာဟာရဓာတ်လွန်စွာချို့တဲ့တတ်သည်။ ဂျပန်နှင့်တရုပ် လူမျိုးများသည် ဆန်ကို ချက်မစားဘဲ၊ ပေါင်း စားလေ့ရှိကြသည်။ ထိုဓလေ့သည် အထူးပင်ကောင်းမွန်လှပေသည်။

**ဆန်ကွဲပန်းပင်။** ။ဆန်ကွဲပန်းပင်ဆိုရာ၌ အင်္ဂလိပ်လို 'ကန်ဒီတပ်' ပင်ကိုဆိုလိုသည်။ ဤပန်းပင်မျိုးသည် 'ကရူစီဖာရီး' မျိုးစဉ်တွင် ပါဝင်သည်။ ဥယျာဉ်စိုက် ပန်းပင်တမျိုးဖြစ်၍ အဖြူ၊ အပြာနှင့် အနီရောင် အပွင့်များပွင့်သည်။ များသောအားဖြင့် အပင်ပုများဖြစ်၍၊ ၂ ပေခန့်မြင့်သည်။ ဥရောပတိုက် တောင်ပိုင်းနှင့် အာရှတိုက် အနောက်ပိုင်းဒေသများတွင် အလေ့ကျ ပေါက်သည်။ မြန်မာနိုင်ငံ၌လည်း ထိုပန်းပင်မျိုးရှိသည်။ ထိုပန်းမျိုးများကို သာမန်ဥယျာဉ်မြေပေါ်တွင် စိုက်ပျိုးနိုင်သည်။ သို့ရာတွင် လောင်းရိပ်မရှိရန် အထူးဂရုပြုရသည်။ အပေါ်များဆုံး အမျိုးအစားမှာ 'အိုက်ဗီးရစ် အမ်ဗလေးတာ' ဖြစ်၍၊ ဥရောပတိုက် တောင်ပိုင်းဒေသတွင် ပေါက်ရောက်သည်။ အမျိုးကိုလိုက်၍ အရောင်အမျိုးမျိုး ပွင့်သည်။ အခြားတမျိုးမှာ 'အိုက်ဗီးရစ် အမ္မရာ' ဖြစ်၍ အဖြူပွင့်များ ပွင့်ပြီးလျှင်၊ ပွင့်ခိုင်များမှာ လက်ချောင်းပုံသဏ္ဍာန်ရှိသည်။ အထက်ပါ ပန်း ၂ မျိုးစလုံးပင် တနှစ်ခံပင်များဖြစ်ကြသည်။



ဆန်ကွဲပန်းပင်



အိန္ဒိယနိုင်ငံ ဗိုပါးစီရင်စု ဆန်ချီရွာရှိ ထူပါရုံစေတီတော်ကြီး

**ဆန်ချီ။** ။ဆန်ချီသည် အိန္ဒိယနိုင်ငံအလယ်ပိုင်း ဗိုပါးစီရင်စု၊ ဗိုပါးမြို့၏အရှေ့မြောက် ၂၃ မိုင်ကွာတွင် တည်ရှိသော ရွာကလေးတရွာဖြစ်သည်။ ယင်းဆန်ချီရွာကလေးသည် ရှေးခေတ် အိန္ဒိယယဉ်ကျေးမှုနှင့် ဆက်စပ်လျက်ရှိပေသည်။

သီရိဓမ္မာသောကမင်း (ဘီစီ ၂၇၃ — ၂၃၂) သည် ကလိင်္ဂတိုင်းကိုအောင်မြင်ပြီးနောက်၊ အသက်အိုးအိမ် စည်းစိမ်ဥစ္စာ အမြောက်အမြား ဆုံးရှုံးပျက်စီးကြရသည်ကို မြင်၍၊ တရားသံဝေဂ ရယူကာ စစ်ဖြင့်အောင်နိုင်ခြင်းကို စွန့်လွှတ်လျက်၊ တရားဓမ္မဖြင့် အောင်နိုင်ခြင်းသို့ ရှေးရှုခဲ့လေသည်။ ထိုမှစ၍ အိန္ဒိယနိုင်ငံတော်အဝှန်း၌ ရေတွင်း ရေကန်တူးခြင်း၊ ဘုရား ပုထိုး စေတီ ဂူကျောင်းတည်ဆောက်ခြင်းအစရှိသော ဗုဒ္ဓသာသနာနှင့် စပ်လျဉ်းသည့် အမှုများကိုပြုလုပ်ခဲ့၏။ ဗုဒ္ဓသာသနာသည်လည်း မင်းကြီး၏လက်ထက်၌ တိုးတက်ထွန်းကားရ၍လာခဲ့လေသည်။ ယင်းသို့ ဗုဒ္ဓသာသနာထွန်းကားတိုးတက်ခဲ့သည်နှင့်အမျှ၊ ဗုဒ္ဓမြတ်စွာနှင့် ဗုဒ္ဓသာသနာကို ကြည်ညိုစိတ်ထက်သန်သော သူတို့သည် အိန္ဒိယနိုင်ငံအဝှန်း၌ များစွာပေါ်ပေါက်ခဲ့လေသည်။

မြတ်စွာ ဘုရား ပရိနိဗ္ဗာန် ပြုပြီးသည့်နောက်တွင်ကား၊ ဗုဒ္ဓအယူဝါဒီတို့သည် ဘုရား၏ဓာတ်တော် မွေတော်များကို ဌာပနာ၍ ခိုင်ခံ့လုံခြုံသော ထူပါရုံစေတီတော်ကြီးများ၌ ဌာပနာကြ၏။ ယင်း ထူပါရုံ စေတီတော်ကြီးများကိုလည်း ကြည်ညိုဖွယ်ဖြစ်အောင် အဆန်းတကြယ် တည်ထားဆောက်လုပ်ခဲ့ကြလေသည်။ ဤသို့ဖြင့် သီရိဓမ္မာသောကမင်း၏ခေတ်လောက်မှစ၍ ထူပါရုံစေတီတော်ကြီးများသည် ဆန်ချီရွာတဝှန်း၌ ပေါ်ထွန်းခဲ့ကြရာ၊ ထိုအကြောင်းကိုမှီ၍ ဆန်ချီရွာသည် ရာဇဝင်တွင် ထင်ရှားကျော်စော၍လာခဲ့ပေသည်။

ထူပါရုံစေတီတော်ကြီးများကို ဗီတွာမြစ်၏ လက်ဝဲဖက်ကမ်း၊ ပေ ၃၀၀ အမြင့်ရှိသော သဲကျောက် တောင်ကုန်းငယ်တခုတွင် တည်ထားဆောက်လုပ်ခဲ့ကြ၏။ ဆန်ချီတောင်ကုန်းပေါ်၌ကား ထူပါရုံ စေတီတော်ကြီးပေါင်း ၁၀ ဆူမျှရှိခဲ့လေသည်။ ယင်းတို့အနက် စေတီတော်ကြီးတဆူမှာ အချင်းအားဖြင့် ၁၀၃ ပေခန့်ရှိလျက်၊ ဥဘက်တော်အားဖြင့် ၄၂ ပေခန့်ရှိ၏။

ပုံပန်းမှာ အခြေ၌ ပစ္စယာ အဆင့်ဆင့်ခံထား၏။ ပစ္စယာပေါ်၌ ဥသဏှာန်စေတီပုံတည်၍၊ အထက်ဆုံး၌ အချင်း

၃၄ ပေရှိသော ပလ္လင်နှင့် ထီးတို့ရှိလေသည်။ ပစ္စယာသို့ လှေကားဖြင့် တက်ရ၏။ ပစ္စယာပတ်လည်တွင်လည်း ကျောက်လက်ရန်းရှိလေသည်။ ထူပါရုံစေတီတော်ကြီး တခုလုံး၏ပတ်လည်၌ကား အရံတံတိုင်းရှိ၏။ ယင်းတံတိုင်း လေးမျက်နှာတွင် ၁၈ ပေစီရှိသော မုတ်ပေါက်လေး ပေါက်ရှိ၍၊ မုတ်ပေါက်တိုင်းတွင် တုရိုဏ်တခုစီရှိလေသည်။ ယင်းမုတ်ပေါက်နှင့်ကျောက်လက်ရန်းများ၌ကား၊ ဗုဒ္ဓမြတ်စွာ၏ ဖြစ်စဉ်များ၊ နိပါတ်တော်များကို ပန်းတမော့ပညာ လက်ရာမြောက်စွာဖြင့် ကျောက်ရုပ်ကျောက်ပန်းများထု၍၊ ကျောက်စာများကိုလည်း ရေးထိုးမော်ကွန်းတင်ထားရစ်ခဲ့ကြလေသည်။

အဆိုပါ ထူပါရုံစေတီတော်ကြီးများအနက် ထူပါရုံ အမှတ် ၃ ဟု အမှတ်အသားပြုထားသော ထူပါရုံတခု၏ဌာပနာတိုက်အတွင်းမှ ရှင်သာရိပုတ္တရာနှင့် ရှင်မောဂ္ဂလာန်တို့၏ ဓာတ်တော်များကို ၁၈၅၁ ခုနှစ်တွင်တူးဖော် ရရှိသည်။ ထိုသို့ ရရှိသောဓာတ်တော်တို့ကို ဗြိတိသျှအစိုးရတို့က လန်ဒန်မြို့သို့ ပင့်ဆောင်၍ သွားလေသည်။ အိန္ဒိယနိုင်ငံ လွတ်လပ်ရေးရသောအခါ ဗြိတိသျှအစိုးရသည် ထိုဓာတ်တော်တို့ကို အိန္ဒိယနိုင်ငံသို့ ပြန်ပို့သဖြင့် အိန္ဒိယနိုင်ငံအစိုးရသည် ၁၉၅၂ ခုနှစ် နိုဝင်ဘာလ ၃၀ ရက်နေ့တွင် မူလထူပါရုံအနီး၌ တည်ဆောက်ထားသော ဝိဟာရအသစ်၌ ဓာတ်တော်တို့ကိုပြန်လည် ဌာပနာလေသည်။

**ဆန်စက္ကူ**။ ။ဆန်စက္ကူသည် စင်စစ်အားဖြင့် ဆန်မှပြုလုပ်ယူသော စက္ကူမဟုတ်ပေ။ ဖော်မိုးဆားကျွန်းတွင် အလေ့ကျပေါက်သော တကြက်ပနက် ပက်ပီရီဖာပင်၏ အူမှ ပြုလုပ်ယူသော စက္ကူသာလျှင်ဖြစ်သည်။ တရုပ်နိုင်ငံတွင်ပေါက်သည့် အက်စခိနောမီနီပင်မှလည်း ဆန်စက္ကူ လုပ်ယူနိုင်သေးသည်။

ဆန်စက္ကူပင်သည် 'အရေးလီယေးစီအီး' မျိုးရင်းဝင် ချုံပင်မျိုးဖြစ်သည်။ ဂ ပေမှ ၁၅ ပေထိမြင့်သည်။ ထိုအပင်၌ အမွေးနုများရှိသော ရွက်ခြားလက် အရွက်ကြီးများပေါက်သည်။ အစိမ်းရောင် ပန်းပွင့်များသည် အခိုင်လိုက် ငိုက်လျက်ပွင့်ကြသည်။

ဆန်စက္ကူ ပြုလုပ်ရာတွင် ဆန်စက္ကူပင်၏အခေါက်နှင့် အပြင်အသားကိုခွဲ၍ အလယ်အူကို ထုတ်ယူရလေသည်။ စက္ကူပြုလုပ်သောအခါ၊ ဓားထက်ထက်ဖြင့် အူကို ကျွမ်းကျင်စွာလွှာယူရသည်။ အလွှာများ ရသောအခါ၊ ယင်းတို့ကို လိုသလိုအရောင်ဆိုးပေးကြသည်။ ထိုနောက်မှာသည့် မျက်နှာပြင်ချောချောပေါ်တွင်တင်၍၊ ဖိအားကြီးကြီးနှင့် ဖိပေးရသည်။ ထိုနောက် အရွယ်ကို လိုသလို ဖြတ်ယူကြသည်။

ဆန်စက္ကူကို ပန်းလုပ်ရာတွင်ဖြစ်စေ၊ ပန်းချီကား ရေးရာတွင်ဖြစ်စေ အသုံးပြုကြသည်။ ထိုပြင် နေကာဦးထုပ်များ လုပ်ရာတွင်လည်း အနည်းအကျဉ်း အသုံးပြုကြသေးသည်။

**ဆန်တီယားဂိုမြို့**။ ။ဆန်တီယားဂိုမြို့သည် တောင်အမေရိကတိုက် ချီလီနိုင်ငံ၏ မြို့တော်ဖြစ်သည်။ အန်းဒီးတောင်တန်းအနောက်ဖက် သွယ်လျှားသော ချီလီနိုင်ငံ၏ အလယ်ပိုင်းတွင်ရှိသည်။

အကျယ်အဝန်းမှာ စတုရန်းမိုင် ဂ မိုင်မျှရှိ၍ လူဦးရေ ၁,၃၀၆,၈၈၉ ယောက် (၁၉၅၂) ရှိ၏။ မြို့တည်နေပုံမှာ အန်းဒီးတောင်စဉ်တန်းနှင့် ပစိဖိတ်ကမ်းခြေ တောင်တန်းတို့အကြားရှိ သာယာလှပသော တောင်ကြားတွင် ပင်လယ်ရေပြင်ထက် ၁၇၀၆ ပေမျှမြင့်သော ကုန်းထက်၌ တည်နေသည်။ ပင်လယ်ဆိပ်ကမ်းမြို့ဖြစ်သော ဗယ်လပရိုက်ဇိုမြို့ အရှေ့တောင်ဖက် ၁၁၆ မိုင်အကွာတွင်ရှိသည်။

ဆန်တီယားဂိုမြို့တော်သည် တောင်အမေရိကတိုက်တွင် အလှဆုံးသော မြို့ဖြစ်၏။ တောင်အမေရိကတိုက်တွင် စတုတ္ထမြို့ကြီးတမြို့လည်း ဖြစ်သည်။ မြို့ထဲတွင် ကြီးကျယ်လှပသော ဉယျာဉ်ပန်းခြံကြီးများရှိရာ၊ မြို့၏သာယာခြင်းကို ပိုမိုတင့်တယ်စေသကဲ့သို့ရှိသည်။ မိုးရွာနည်းပါးသော ဒေသဖြစ်၍၊ ထိုဉယျာဉ်ပန်းခြံများကို ဆည်မြောင်းစံနစ်ဖြင့် ရေသွင်းပေးရလေသည်။

မြို့တော်တွင် ဘုရားရှိခိုးကျောင်းကြီးများ၊ ၁၈၄၂ ခုနှစ်တွင် တည်ထောင်သော ချီလီတက္ကသိုလ်၊ သမတအိမ်တော်၊ နိုင်ငံတော် ဥပဒေပြုအဖွဲ့ တည်ရာဌာန၊ နိုင်ငံတော်ပြတိုက်၊ နိုင်ငံတော် စာကြည့်တိုက်နှင့် အခြားအဆောက်အအုံကြီးများ ရှိ၏။ ကျယ်ဝန်းဖြောင့်တန်းသော လမ်းကျယ်ကြီးများလည်းရှိရာ၊ ထိုအထဲတွင် အလာမေဒါ လမ်းမကြီးကား အကျော်ကြားဆုံးဖြစ်လေသည်။ ထိုလမ်းမကြီးမှာ အရှေ့နှင့် အနောက်ဖြတ်သန်းလျက်ရှိရာ၊ လမ်းဘေးတွင် သစ်ပင်ကြီးများ စိုက်ထား၍၊ ရေတသွင်သွင်စီးဆင်းနေသော တူးမြောင်းကလေးများလည်းရှိ၏။ ရေပန်းများ၊ ရုပ်လုံး ရုပ်တုများလည်းရှိသေးသည်။ မြို့လယ်ခေါင်တွင် ဆန်တာလူချာ တောင်ကုန်းရှိ၍၊ အရှေ့ဖက်နှင့် အနောက်ဖက်တို့တွင်လည်း တောင်ကြီးများရှိသဖြင့် နေဝင်ချိန်တွင် အခြားမည်သည့်မြို့တွင်မျှ မမြင်မတွေ့နိုင်သော ကြည်နူးသာယာလှသည့် ရှုမျှော်ခင်းကို ဆန်တီယားဂိုမြို့၌ တွေ့မြင်နိုင်ပေသည်။

ယင်းဆန်တီယားဂိုမြို့ကို တောင်အမေရိကတိုက်ရှိ အခြားနာမည်တူမြို့များနှင့် ကွဲပြားစေရန်၊ ဆန်တီယားဂို သေချီလေ (ဝါ) ချီလီရှိ ဆန်တီယားဂိုမြို့ဟူ၍လည်းခေါ်ဝေါ်ကြသည်။

**ဆန် ဖရန်စစ္စကိုမြို့။** ။ဆန်ဖရန်စစ္စကိုမြို့သည် အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်ရှိ မြို့ကြီးဖြစ်၍၊ ယင်းပြည်ထောင်စု၏ ပစိဖိတ်သမုဒ္ဒရာဖက်တွင် အကြီးကျယ်ဆုံးသော ကုန်စည်ရောင်းဝယ်ရေးမြို့ဖြစ်သည်။ ထိုပြင် အမေရိကတိုက် နှစ်တိုက်စလုံးတွင် ပစိဖိတ်သမုဒ္ဒရာကမ်းခြေဖက်၌ အကြီးဆုံးသော ပင်လယ်သင်္ဘောဆိပ်မြို့ကြီးလည်း ဖြစ်လေသည်။ သင်္ဘောကြီးများ ဆိုက်နားနိုင်၍ ကုန်းမြေကာရံလျက်ရှိသော ရေပြင်မှာ ကျယ်ဝန်းသဖြင့် သင်္ဘောဆိပ်ကောင်းလည်းရှိသည်။ ဆန်ဖရန်စစ္စကိုမြို့သည် အနောက်ဖက်ရှိ ပစိဖိတ်သမုဒ္ဒရာနှင့် အရှေ့ဖက်ရှိ ဆန်ဖရန်စစ္စကို ပင်လယ်အော်တို့ အကြားတွင် ငေါ်ထွက်နေသော ကျွန်းဆွယ်ပေါ်၌တည်ရှိ၍၊ သင်္ဘောဆိပ်အတွင်းသို့ ပင်လယ်ဖက်မှ သင်္ဘောများဝင်ထွက်နိုင်သည့် တခုတည်းသော ရေလက်ကြားရှိရာ၊ ယင်းကို ‘ဂိုးလဒင်းဂိတ်’ (ရွှေတံခါးပေါက်) ဟုခေါ်သည်။ သင်္ဘောများဝင်ရောက်ဆိုက်နားနိုင်သည့် ရေပြင်မှာ အလျားမိုင် ၄၀၊ အနံ ၅ မိုင်မျှ ရှိလေသည်။

ဆန်ဖရန်စစ္စကိုမြို့သည် ‘ရွှေတံခါးပေါက်’ ရေလက်ကြား၏တောင်ဖက် ကျွန်းဆွယ်ပေါ်တွင် ဘေးဖက်နှင့် အနောက်ဖက်တို့၌ တောင်ကုန်းများ ဝန်းရံလျက် တည်ရှိသည်။ မြို့သည် အရှေ့ဖက်သို့ မျက်နှာမူလျက်ရှိသည်။ ပစိဖိတ်သမုဒ္ဒရာကား ဆန်ဖရန်စစ္စကိုမြို့၏ အနောက်ဖက်တွင်ရှိ၏။

ဆန်ဖရန်စစ္စကိုမြို့သည် ကုန်ကူးသန်း ရောင်းဝယ်ရေး၊ ငွေအရင်းအနှီး ဖလှယ်ရေး၊ ကုန်စည်ထုတ်လုပ်ရေးစသည်များတွင် အရေးပါသော အချက်အခြာဌာနကြီး ဖြစ်သည့်ပြင်၊ နယူးယောက့်မြို့စသည့် အမေရိကန်ပြည်ထောင်စု၏ အရှေ့ဖက်ကမ်းရှိ မြို့ကြီးများနှင့် မီးရထားဖြင့်၎င်း၊ လေကြောင်းခရီးဖြင့်၎င်း တိုက်ရိုက်ဆက်သွယ်လျက်ရှိ၏။ လုပ်ငန်းပေါင်း ၅၀ မျှအတွက် အလုပ်ရုံကြီးများသည် ထိုမြို့ကြီးတဝိုက်တွင်ရှိကြသည်။ သို့သော် ကမ္ဘာအရပ်ရပ်မှ သင်္ဘောကြီးများ ဝင်ရောက်ဆိုက်နားရာ သင်္ဘောဆိပ်မြို့ကြီး အဖြစ်ဖြင့် ပိုမို၍ထင်ရှားသည်။ အနောက်ဖက်ပြည်နယ်ဆယ့်တနယ်မှ ထွက်ကုန်များဖြစ်သည့် သစ်သီး၊ ဂျုံစပါး၊ ဓာတ်သတ္တုနှင့် ရေနံတို့ကို ထိုမြို့ကြီးမှတဆင့် နိုင်ငံခြားသို့တင်ပို့ရ၏။

ယခု ဆန် ဖရန်စစ္စကိုမြို့၏နေရာတွင် ခရစ် ၁၇၇၆ ခုနှစ်မှစ၍ ပဌမဆုံး လာရောက်နေထိုင်ကြသူများမှာ စပိန်စစ်သားများနှင့် ခရစ်ယန်ဘုန်းကြီးများဖြစ်ကြသည်။ ထိုသူတို့သည် ဆန်ဖရန်စစ္စကိုပင်လယ်အော်ကို ၁၇၆၉ ခုနှစ်တွင် အမှတ်မဲ့သွားရောက်တွေ့ရှိသူများဖြစ်၏။ ထိုသူတို့နောက် ရောက်လာသူများကား ဗော်စတန်မြို့မှ ရေလမ်းဖြင့် ရောက်လာကြသော အမေရိကန်ကုန်သည်များနှင့် အလာ




ကမ္ဘာ့ကုလသမဂ္ဂစတင်ဖွဲ့စည်းရာ ဆန် ဖရန်စစ္စကိုမြို့

စကာပြည်နယ်ဖက်မှ ရုရှလူမျိုးများဖြစ်လေသည်။ ယခု ဆန်ဖရန်စစ္စကိုမြို့တည်ရှိရာဒေသတဝိုက်ကို ၁၈၂၁ ခုနှစ်တွင် စပိန်လက်မှ မက္ကဆီကိုနိုင်ငံသစ်က ပြောင်းလဲဆက်ခံယူလိုက်၏။ ၁၈၄၆ ခုနှစ်တွင် ထိုဒေသကို အမေရိကန်ပြည်ထောင်စု ရေတပ်များက သိမ်းပိုက်လိုက်ပြီးလျှင်၊ မြို့၏အမည်ကို ၁၈၄၇ ခုနှစ်တွင် ဆန်ဖရန်စစ္စကိုမြို့ဟု အမည်ပြောင်း၍တွင်စေခဲ့၏။ ၁၈၄၉ ခုနှစ်တွင် ဆန်ဖရန်စစ္စကိုမြို့အနီး၌ ရွှေတွေ့သည့်သတင်းကြောင့် လူပေါင်းများစွာထိုမြို့နယ်တွင်းသို့ ရောက်လာကြလေသည်။ ထိုနောက်တွင်ကား မြို့ကြီးမှာ အရောင်းအဝယ်များဖြင့် များစွာသာယာစည်ကားလာခဲ့သည်။ အမေရိကန်ပြည်ထောင်စု၏ အရှေ့ဖက် အတ္တလန္တိတ်ကမ်းခြေမှ အနောက်ဖက် ပစိဖိတ်ကမ်းခြေအထိ၊ မြောက်အမေရိကတိုက်ကို ကန့်လန့်ဖြတ်၍ ပဌမဦးဆုံး ဖေါက်လုပ်ခဲ့သော မီးရထားလမ်းကို ၁၈၆၉ ခုနှစ်တွင် ဆန်ဖရန်စစ္စကိုမြို့၌ လမ်းဆုံးသတ်ခဲ့သည်။

ဆန်ဖရန်စစ္စကိုမြို့သည်ကား ငလျင်လှုပ်တတ်သောဒေသတွင် ကျရောက်လျက်ရှိ၏။ ထို့ကြောင့် လွန်ခဲ့သည့်အနှစ်တရာအတွင်း ထိုမြို့ကြီးမှာ ငလျင်ခုနစ်ကြိမ်မျှ မိခဲ့၍ ပျက်စီးခဲ့သည်။ ၁၉၀၆ ခုနှစ် ဧပြီလ ၁၈ ရက်နေ့က ငလျင်မှာ အကြီးအကျယ်ဆုံးဖြစ်၍၊ ငလျင်ဒဏ်ကြောင့် သုံးရက်မျှဆက်၍မီးလောင်ပျက်စီးခဲ့၏။ ထိုငလျင်ကြောင့် လူ ၄၅၂ ယောက် သေကြေ၍၊ အိုးအိမ်တိုက်တာများ

အပျက်အစီးတန်ဖိုးမှာ ဒေါ်လာငွေ သန်း ၄၀ ဖြစ်သည်။ သို့သော် ထိုမြို့သူမြို့သားတို့၏ စွမ်းရည်နှင့် ဇွဲသတ္တိတို့ဖြင့် မြို့ကြီးကို လျှင်မြန်စွာ အရှိန်ကောင်းမွန်အောင်ပင် ပြုပြင်လာနိုင်ခဲ့သည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်းက ဆန်ဖရန်စစ္စကိုမြို့သည် အခြားပစိဖိတ် ကမ်းရိုးတန်းဖက်ရှိ အမေရိကန်မြို့များထက် စစ်ရေးတွင် ပိုမိုအရေးပါစွာ ပါဝင်ခဲ့သည်။ ထိုစဉ်က ဆန်ဖရန်စစ္စကိုမြို့သည် ကမ္ဘာပေါ်တွင် သင်္ဘောဆောက်လုပ်ရာ အကြီးဆုံးသောဌာနဖြစ်သည့်ပြင် အမေရိကန်၏ အကြီးဆုံး ရေတပ်စခန်းလည်း ဖြစ်ခဲ့လေသည်။ စစ်ဌာန အသီးသီးမှ စစ်သားပေါင်း ထောင်ပေါင်းများစွာပင် ထိုမြို့အတွင်း၌သော်၎င်း၊ အနီးအနား၌သော်၎င်း၊ စခန်းချနေခဲ့ကြရ၏။

ဆန်ဖရန်စစ္စကိုမြို့၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၄၄.၀၆ မိုင်မျှရှိ၍၊ ကုန်းပိုင်းရော ရေပိုင်းပါဆိုလျှင် စတုရန်းမိုင် ၉၃ မိုင်ရှိ၏။ လူဦးရေမှာ ၇၇၅,၃၅၇ ယောက်ဖြစ်သည်။ မြို့အနေအထားလှပသည်။ ယင်းသို့လှပသောမြို့များမှာ ကမ္ဘာပေါ်တွင် အလွန်နည်းပါးသည်။ ထိုမြို့ကြီးနှင့် တဖက်ကမ်းရှိ ဆင်ခြေဖုံးရပ်များသို့ ကူးသန်းသွားလာရန် ထင်ရှားသောတန်တားကြီး နှစ်ခုရှိသည်။ ယင်းတို့မှာ 'ရွှေတံခါးပေါက်' ရေလက်ကြားကိုဖြတ်၍ဆောက်လုပ်ထားသော ပေ ၄,၂၀၀ မျှရှည်လျားသည့် 'ရွှေတံခါးပေါက် တန်တား' ခေါ် ကြိုးတန်တားကြီးနှင့် ဆန်ဖရန်စစ္စကိုမြို့နှင့် အရှေ့ဖက်ရှိ အုတ်ကလန်မြို့ကို ဆက်သွယ်ထားသော ပေ ၄၀၀၀ ကျော်ရှည်လျားသည့် တန်တားကြီး ဖြစ်လေသည်။

ဆန်ဖရန်စစ္စကိုမြို့မှတဆင့် နိုင်ငံခြားသို့တင်ပို့သော ကုန်များမှာ ဂျုံစသော ကောက်ပဲသီးနှံများ၊ ဂျုံမှုန့်၊ စည်သွတ်သစ်သီးများ၊ သစ်သီးခြောက် သစ်သီးစိုများ၊ ရွှေ၊ ငွေ၊ ဓာတ်ဆီ ရေနံဆီနှင့် ယင်းမှဘေးထွက်ပစ္စည်းများနှင့်ဝါဂွမ်း ဖြစ်သည်။ ထိုမြို့မှတဆင့် နိုင်ငံတွင်းသို့ တင်သွင်းသော ကုန်များမှာ ကာဖီမှုန့်၊ လက်ဖက်ခြောက်၊ ပိုးထည်၊ရော်ဘာ၊ သိုးမွေးနှင့် သကြားဖြစ်သည်။ မြို့ရှိ ကုန်ထုတ်လုပ်ငန်းများ အနက်၊ အသားစည်သွတ်လုပ်ငန်း၊ သကြားချက်လုပ်ငန်း၊ ကာဖီလှော်လုပ်ငန်း၊ ဟင်းခတ်အမွှေးအကြိုင်လုပ်ငန်း၊ စာပုံနှိပ်နှင့် စာအုပ်ထုတ်ဝေရေး လုပ်ငန်းများနှင့် စက်မှုကရိယာ လုပ်ငန်းများသည်ကား ကြီးကျယ် မြောက်မြားလှပေသည်။ မြို့ရှိ ထင်ရှားသော တက္ကသိုလ်များမှာ ၁၈၅၅ ခုနှစ်က တည်ထောင်ခဲ့၍ ယောကျ်ားစာသင်သားများ အတွက်သာဖြစ်သော ဆန်ဖရန်စစ္စကိုတက္ကသိုလ်၊ အမျိုးသမီးစာသင်သားများအတွက် ဆန်ဖရန်စစ္စကို အမျိုးသမီး ကောလိပ်ကျောင်းနှင့် ကျား၊ မနှစ်ဦးစလုံး သင်ကြားနိုင်သော ဆန် ဖရန်စစ္စကိုပြည်နယ်အစိုးရပိုင်ကောလိပ်ကျောင်းတို့ ဖြစ်သည်။ ကာလီဖိုးနီးယား တက္ကသိုလ်၏ဆေးကျောင်းကို ဆန် ဖရန်စစ္စကိုမြို့တွင် ထားရှိသည်။

**ဆန် မာရီးနိုသမတနိုင်ငံ။** ။ဆန်မာရီးနိုနိုင်ငံသည် ဣတလီကျွန်းဆွယ်၌ အေဒြီယက်တစ် ပင်လယ်ကမ်းခြေအနီး ဣတလီပိုင် ရဗဲနားနယ် တောင်ဖက်တွင် တည်ရှိသည်။ ဣတလီပိုင် ရီမီနီမြို့နှင့် မဝေးကွာလှပေ။ စတုရန်းမိုင် ၃၈ မိုင်မျှသာ ကျယ်ဝန်းလျက်၊ ကမ္ဘာပေါ်တွင် အသေးငယ်ဆုံးသော သမတနိုင်ငံ တနိုင်ငံဖြစ်၏။ ထိုသို့အရွယ်အားဖြင့် သေးငယ်သော်လည်း၊ ဥရောပတိုက်၌ ရှေးအကျဆုံး နိုင်ငံ တခုဖြစ်သည်ဟုဆို၏။ ၁၈၉၇ ခုနှစ်တွင် ဣတလီနိုင်ငံနှင့် ချစ်ကြည်ရေး စာချုပ် ချုပ်ခဲ့၍၊ ၁၉၅၃ ခုနှစ်တွင် တကြိမ်ထပ်မံ ချုပ်ဆိုခဲ့သည်။ ယင်းနိုင်ငံ၏ လူဦးရေမှာ ၁၉၅၃ ခုနှစ်တွင် ၁၃,၅၀၀ ယောက်ဖြစ်သည်။

ထိုနိုင်ငံကို ၄ ရာစုနှစ်တွင် တည်ထောင်ခဲ့သည်ဟု အဆိုရှိ၏။ ၁၆၃၁ ခုနှစ်တွင် ရောမရဟန်းမင်း အဋ္ဌမ အာဗန်က လွတ်လပ်သော တိုင်းပြည်အဖြစ်ဖြင့် အသိအမှတ်ပြုခဲ့၏။ ထိုနိုင်ငံ၏မြို့တော်မှာ ဆန်မာရီးနိုမြို့ဖြစ်သည်။ တောင်တန်းတခု၏ တောင်စောင်းတွင် မြို့တည်ထားသည်။ ဆန်မာရီးနိုမြို့ရှိ ကောက်ကျစ်၍ မညီမညာရှိသော ရှေးလမ်း



ကမ္ဘာတွင် အငယ်ဆုံးသမတနိုင်ငံ ဆန် မာရီးနိုမြို့ရှိ စံအိမ်တော်

ငယ်ကလေးများမှာ အလွန်ပင်ကျဉ်းမြောင်းလှသဖြင့် အများအားဖြင့် ယာဉ်များ၊ ရထားများပင်သွား၍မဖြစ်နိုင်ချေ။ လမ်းဘေးရှိ ကျောက်ဖြင့် ဆောက်လုပ်ထားသော လူနေအိမ်များမှာလည်း ယိုင်နေသဖြင့် လမ်းပေါ်သို့ပြို၍ ကျမည်ကိုပင် အထူးစိုးရိမ်ရတော့၏။ ဆန်မာရီးနိုမြို့၏ လူဦးရေမှာ ၄၀၀၀ ခန့်ရှိသည်။ ဘဏ္ဍာရေးအတွက် အစိုးရက စာပို့တိုက်တံဆိပ်တော်ခွန်များ စည်းကြပ်ကောက်ခံ၏။ တိုင်းသူပြည်သားမှာ ဣတလီတို့နှင့် သွေးနီးစပ်သူများဖြစ်ကြသည်။

**ဆန်းကျမ်း။** ။ဆန်းကျမ်းဟူသည်ကား လောကီဗေဒင်ကျမ်းများတွင် အပါအဝင်ဖြစ်သော အစိတ်အပိုင်းကျမ်းတမျိုးဖြစ်၍၊ ပါဠိဂါထာ သီကုံးရေးသားရာ၌၎င်း၊ ကဗျာလင်္ကာ သီကုံးရေးသားရာ၌၎င်း၊ အပြစ်ဒေါသလွတ်ကင်းစေရန် ဂိုဏ်း၊ ဂရု၊ လဟုထားပုံ၊ မတြာထားပုံနှင့် ယတိထားပုံစသော သီကုံးရေးသားပုံ စည်းကမ်းနည်းလမ်းတို့ကို ညွှန်ပြသော ကျမ်းဖြစ်သည်။

ကျမ်းဂန်၌ ကျနသည်၊ ကျွမ်းကျင် လိမ်မာသည်၊ တတ်မြောက်သည် ဆိုရာဝယ်၊ ကျနခြင်း၊ ကျွမ်းကျင် လိမ်မာခြင်း၊ တတ်မြောက်ခြင်း အကြောင်းရင်းဖြစ်သော သဒ္ဒါကျမ်း၊ အဘိဓာန်ကျမ်း၊ ဆန်းကျမ်း၊ အလင်္ကာကျမ်းဟူ၍ ကျမ်းလေးမျိုးရှိသည်။ ယင်းလေးမျိုးအနက် ဆန်းကျမ်းသည် တမျိုးအပါအဝင်ဖြစ်၍၊ စာရေးဆရာ ပညာရှိ ကဝိသုခမိန်တို့ လေးစားအပ်သော ကျမ်းဖြစ်ကြောင်းထင်ရှား၏။

ယင်းဆန်းကျမ်း၌ သက္ကဋဆန်းကျမ်း၊ မာဂဓဆန်းကျမ်းဟူ၍ နှစ်မျိုးရှိရာ၊ (၁) ပိင်္ဂလဆန်းကျမ်း (၂) ဝုတ္တရတနာကရဆန်းကျမ်း (၃) ဝုတ္တရတနာဝလိဆန်းကျမ်း (၄) ဝုတ္တပစ္စယကောမုဒီဆန်းကျမ်း (၅) ဝုတ္တစန္ဒြိတာဆန်းကျမ်း (၆) ဆန္ဒောမဉ္ဇရီဆန်း စသော ကျမ်းပေါင်း ဆဲ့ခုနစ်ကျမ်းတို့မှာ သက္ကဋဆန်းကျမ်းများဖြစ်ကြသည်။ ထိုသက္ကဋဆန်းကျမ်းများကို သက္ကဋအရာလိမ်မာကျွမ်းကျင်သော ပိင်္ဂလစသော ဆရာကြီးများစီရင်ရေးသားခဲ့ကြသည်။

(၁) ဝုတ္တောဒယဆန်းကျမ်းနှင့် (၂) ဆန္ဒောမဉ္ဇရီဆန်းကျမ်းတို့မှာ မာဂဓဆန်းကျမ်းများဖြစ်ကြသည်။

ဝုတ္တောဒယဆန်းကျမ်းကို သီဟိုဠ်ကျွန်း ပရက္ကမဗာဟုမင်းလက်ထက် တောင်ကြားတောရကျောင်းနေ၊ သီလမည်သော မထေရ်၏တပည့် အရှင်သံဃရက္ခိတ မဟာသာမိမထေရ်စီရင်ရေးသားတော်မူသည်။

ဆန္ဒောမဉ္ဇရီဆန်းကျမ်းကို မန္တလေးရတနာပုံ ပဌမမြို့တည်နန်းတည် ပဉ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီးလက်ထက် ဒုတိယ ရွှေကျင်သာသနာပိုင် မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီး စီရင်ရေးသားတော်မူသည်။

ဝုတ္တောဒယဆန်းကျမ်း၌ ဆန်းတို့သည် (၁) မတြာတို့ဖြင့် မှတ်၍ဖွဲ့စီးထားသော မတ္တာဝုတ္တိဆန်း၊ (၂) ဂရု၊ လဟုအက္ခရာတို့ဖြင့် မှတ်၍ဖွဲ့စီးထားသော ဝဏ္ဏဝုတ္တိဆန်းဟူ၍ နှစ်မျိုးရှိသည်။ ယင်းနှစ်မျိုးတို့အနက် မတ္တာဝုတ္တိဆန်းသည်လည်း (၁) အရိယဆန်း၊ (၂) ဂီတိဆန်း၊ (၃) ဝေတာလီဆန်း၊ (၄) မတ္တာသမကဆန်းဟူ၍ လေးမျိုးရှိသည်။ ဝဏ္ဏဝုတ္တိဆန်းသည်လည်း (၁) သမဆန်း ဆဲ့ခုနစ်မျိုး၊ (၂) အဍ္ဍသမဆန်း ဆဲ့တမျိုး၊ ဤသို့လျှင် ဆန်းကျမ်းအမျိုးမျိုး၌ ဆန်းအမျိုးများစွာပင်ရှိ၏။

နှစ်ပေါင်းများစွာ ရှေးအခါကပင် ယင်းဆန်းကျမ်းများတွင် ညွှန်ပြထားသော စည်းကမ်းနည်းလမ်းအတိုင်း ပါဠိဂါထာ ကဗျာလင်္ကာများကို သီကုံးရေးသားလေ့ရှိကြသည်။

မြတ်စွာဘုရား ဟောကြားတော်မူအပ်သော ပါဠိဘာသာ ဒေသနာများ၌လည်း (၁) ပဇ္ဇဗန္ဓ၊ (၂) ဂဇ္ဇဗန္ဓ၊ (၃) ဝိမိဿဗန္ဓဟူ၍ ဒေသနာသုံးမျိုးရှိသည်။ ယင်းဒေသနာ သုံးမျိုး အနက်၊ မင်္ဂလသုတ်၊ ရတနသုတ် စသော ဒေသနာမျိုးကား ဂါထာသက်သက်ဖြစ်၍၊ ပဇ္ဇဗန္ဓဒေသနာမျိုးဖြစ်သည်။ ဗြဟ္မဇာလသုတ်၊ မဟာသတိပဋ္ဌာနသုတ်စသော ဒေသနာမျိုးကား စုဏ္ဏိယသက်သက်ဖြစ်၍၊ ဂဇ္ဇဗန္ဓဒေသနာမျိုးဖြစ်သည်။ ဓဇဂ္ဂသုတ်၊ အာဋာနာဋိယသုတ်စသော ဒေသနာမျိုးကား ဂါထာစုဏ္ဏိယနှစ်မျိုးဖြစ်၍၊ ဝိမိဿဗန္ဓဒေသနာမျိုးဖြစ်သည်။ ဦးကြီးဖေ

**ဆန်းချူးမင်။** ။ဆန်းဒျူးပင်သည် 'ဒရော့ဆီရာ' မျိုးစုတွင် ပါဝင်သည်။ ထိုမျိုးစုတွင် မျိုးစိတ်ပေါင်း ၉၀ ရှိသည်။ မြောက်အမေရိကတိုက်တွင် ထိုအပင် မျိုးစိတ် ၄ မျိုးရှိ၍၊ ဥရောပတိုက်တွင် ၃ မျိုးခန့်ရှိသည်။ အားလုံးသော မျိုးစိတ်များမှာ ပိုးမွှားစားပင်မျိုးဖြစ်ကြသည်။ ပိုးမွှားများကို ရွက်လွှာပေါ်ရှိ အမျှင်အင်္ဂါဖြင့် ဖမ်းယူသည်။ ဖမ်းယူပုံမှာ ဤသို့ဖြစ်သည်။ ရွက်လွှာများမှာ ရွက်ဝိုင်းကလေးများဖြစ်သည်။ ရွက်လွှာ၏အပေါ်ယံတွင် အမျှင်အင်္ဂါများရှိသည်။ ထိုအမျှင်အင်္ဂါများ၏အဖျားတွင် အစေးရှိ၍၊ နေရောင်အောက်တွင် အမြဲပြောင်လက်နေသည်။ ပိုးမွှားကောင်များသည် နေရောင်အောက်တွင် တလက်လက်တောက်နေသော ဆန်းဒျူးရွက်လွှာများကို မျက်စိကျမိသည်။ ထိုကြောင့် အနီးသို့ပျံသန်းလာကြ၍၊ အစေးပေါ်တွင် နားကြသည်။ ဝတ်ရည်များကို လောဘကြီးစွာ စုတ်ယူရန် ဟန်ပြင်ကြသည်။ သို့ရာတွင် အမျှင်အင်္ဂါများသည် ပိုးမွှားကောင်၏ထိခိုက်မှုကြောင့် ကွေးညွတ်လာပြီးလျှင် ပိုးမွှား၏ကိုယ်အင်္ဂါနှင့် ခြေလက်များကို ဖိညှပ်လိုက်ကြသည်။ ထိုအခါ၌ ပိုးမွှားသည် မလှုပ်မရှားနိုင်တော့ဘဲ၊ ညပ်၍မိနေတော့သည်။ လွတ်အောင် ရုန်း



ရွက်မျှင်ဖြင့် ပိုးမွှားကိုဖမ်းယူစားလေ့ရှိသော ဆန်းဒျူးပင်

သော်လည်း ပို၍သာတင်းကြပ်လာပြီးလျှင် နောက်ဆုံးတွင် ပိုးမွှားမှာ ထိုနေရာ၌ပင် အသက်ပျောက်တော့သည်။

ပိုးမွှားသည် အသက်မပျောက်မီ ရှိန်းကန်သောအခါ ရွက်လွှာအတွင်းမှ အရည်များထွက်လာသည်။ ထိုအရည်သည် ပိုးမွှားကောင်ကို ချေဖျက်သည်။ ထိုနောက် ရွက်လွှာက ကြေပျက်နေသော အစာကိုစုတ်ယူသည်။ ဤနည်းဖြင့် ဆန်းဒျူးပင်သည် ပိုးမွှားများကို စားသည်။ ယင်းသို့စားပြီးသောအခါ အမျှင်အင်္ဂါများသည် အပေါ်သို့ မတ်ထောင်လာ၍၊ နောက်တဖန် ပိုးမွှားတကောင်ကို ချေဖျက်ရန် အသင့်စောင့်နေပြန်သည်။

ပိုးမွှားသေများ၌ ပရိုတင်းရှိခြင်းကြောင့် ဆန်းဒျူးပင်တို့သည် နိုက်ထရိုဂျင်ကို အများအပြားရနိုင်သည်။ နိုက်ထရိုဂျင်မှာ ပိုးမွှားစားပင်များအတွက် အရေးကြီးဆုံးဖြစ်၏။

ရွက်လွှာတခုပေါ်တွင် အမျှင်ပေါင်း ၂၀၀ နီးပါးမျှရှိ၏။ ပေါ်တူဂီနိုင်ငံတွင် ဆန်းဒျူးပင်၏အမျိုးအနွယ်ဖြစ်သော ပိုးမွှားစားပင် တမျိုးရှိသည်။။ ကျေးရွာများတွင် ကျေးတောသားများသည် ပိုးမွှားများဘေးမှ ကာကွယ်ရန်အတွက် ထိုအပင်မှ အကိုင်းအခက်များကို တဲအိမ်များတွင် ချိတ်ဆွဲထားလေ့ရှိကြသည်။

အင်္ဂလန်ပြည်တွင် မျိုးစိတ် ၃ မျိုးကိုတွေ့ရသည်။ ယင်းတို့မှာ ရွက်ဝိုင်းမျိုး၊ ရွက်ရှည်မျိုး၊ အင်္ဂလိပ်ဆန်းဒျူးမျိုးများဖြစ်ကြသည်။ ထိုအပင်များသည် စိုစွတ်သော မြေရိုင်းကွင်းပြင်များတွင် ပေါက်ရောက်လေ့ရှိသည်။

**ဆပ်ကပ်ပွဲ။** ။ဆပ်ကပ်ပွဲဆိုသည်မှာ ဆင်လိမ္မာ၊ ခြင်္သေ့လိမ္မာ၊ ကျားလိမ္မာ၊ ခွေးလိမ္မာ စသည်ဖြင့် ယဉ်ပါးလိမ္မာအောင် သင်ထားသော တိရစ္ဆာန်များနှင့် ကစားပြခြင်း၊ မြင်းများကို စီးပြခြင်း၊ ဓား သေနတ်စသည်တို့ကို ကျွမ်းကျင်စွာ ပစ်ပြခြင်း၊ မြေစိုက်ဘား၊ ကောင်းကင်ဘားများပေါ်၌ ရှေ့ဂျွမ်း၊ နောက်ဂျွမ်းအမျိုးမျိုးကို ကျင်လျင်စွာ ကစားပြခြင်းတို့ဖြင့် ပရိသတ်ကို ဖြေဖျော်ပြသသည့်ပွဲဖြစ်သည်။ လူတို့သည် အထူးအဆန်းကို ကြည့်လိုမြင်လိုမြဲ ဖြစ်သည့်အတိုင်း ဆပ်ကပ်ပွဲဟုဆိုလျှင် ကလေးလူကြီးမရွေး မနှစ်သက်သူဟူ၍မရှိပေ။ ဆပ်ကပ်ပြပွဲ၌ ရုံအတွင်း ဘေးပက်လည်တွင် ပရိသတ်ထိုင်နိုင်ရန် စင်မြင့်များဆောက်လုပ်၍ အလယ်တွင် ကွက်လပ်တခုထားလေ့ရှိသည်။ ဆပ်ကပ်ပြပွဲကို ရှေးရောမလူမျိုးများက စတင်တီထွင်ခဲ့၍၊ ရောမတို့၏အကျော်ကြားဆုံး ဆပ်ကပ်ပြပွဲရုံကြီး







ဂျမ်းဘားအမျိုးမျိုးကစားပြနေသော ဆပ်ကပ်မယ်များ (ပေါ်—ဝဲ) မြင်းများလိမ်မာပုံကို ဆပ်ကပ်တွင်တွေ့မြင်နိုင်ပေသည်။ (ပေါ်—ယာ)
(အောက်) သားရဲတိရစ္ဆာန်တို့နှင့် အသဲထိတ်စဖွယ် ကစားပြနေပုံ



နယ်လှည့်ဆပ်ကပ် ရှက်ထည်ရုံကြီး

မှာ 'ဆပ်ကပ် မက်ဆီးမပ်' ဟု တွင်လေသည်။ ထိုရုံကြီးကို အကြိမ်ကြိမ်ထပ်မံချဲ့ထွင်ပြင်ဆင်လာခဲ့ကြရာ၊ ၄ ရာစုနှစ်အတွင်းသို့ ရောက်သောအခါ၊ ထိုရုံကြီးမှာ အရှည်တမိုင်ကျော်၊ အကျယ်သုံးဖာလုံနီးပါး၊ အမြင့်ပေ ၃၀၀ မျှရှိ၍၊ ပရိသတ် ၄၀၀,၀၀၀ နီးပါး ဆံ့အောင်ပင် ကြီးကျယ်သည်ဟု ဆိုလေသည်။ နောင်သော် နယ်လှည့်ဆပ်ကပ်ပွဲ၊ ကမ္ဘာလှည့် ဆပ်ကပ်ပွဲများပေါ် ပေါက်လာကြသည်။

ဆပ်ကပ်အဖွဲ့များတွင်တိရစ္ဆာန်လိမ်မာများ၊ ဂျွမ်းဘားသမားများ၊ စက်ဘီးစီးသမားများ၊ ကြိုးတန်းလျှောက်သမားအပြင် တခါတရံ လူရှည်၊ လူပု၊ လူဝ၊ ဗလကြီးသူစသော အထူးအဆန်းများလည်း ပါဝင်တတ်သည်။ ဆပ်ကပ်ပွဲ၌ လူပျက် ပါမြဲပင်ဖြစ်သည်။ ဆပ်ကပ်လူပျက်မှာ မျက်နှာကို ဆေးခြယ်၍၊ ရောင်စုံအဝတ်အစားကို ဝတ်ဆင်ကာ၊ ပရိသတ်များ မငြီးငွေ့စေရန် ရယ်အောင်ပြုလုပ်ပေးရသည်။

**ဆပ်ပြာ။** ။လူတိုင်း၌ သန့်ရှင်းမှုသည် အလွန် အရေးကြီး၏။ လူ၏ကိုယ်ခန္ဓာဖြစ်စေ၊ ဝတ်ဆင်ထားသည့် အဝတ်များဖြစ်စေ သန့်ရှင်းမှသာလျှင် လူ၏စိတ်သည် ကြည်လင် သန့်ရှင်း၍၊ ကိုယ်ခန္ဓာလည်း ကျန်းမာလျက် ရှိပေလိမ့်မည်။ သန့်ရှင်းစွာ ဝတ်စားနေထိုင်ခြင်းသည် ရောဂါကို ကာကွယ်ဟန့်တားပေးနိုင်သော အကြောင်းတရားဖြစ်သည်။ ထို့ကြောင့် ကျန်းမာရေးတွင် ကိုယ်ခန္ဓာသန့်ရှင်းမှုသည် အရေးအကြီးဆုံး အချက်တရပ်ဖြစ်သည်။ (ကျန်းမာရေး — ရှု။) ကိုယ်ခန္ဓာ သန့်ရှင်းမှုပြုလုပ်ရာ၌ ဆပ်ပြာသည် အဓိက အရေးကြီးဆုံး ပစ္စည်းတခုဖြစ်ပေသည်။ ဆပ်ပြာကို ဖောဖောသီသီ အသုံးပြုနေနိုင်စဉ်တွင် ဆပ်ပြာအကျိုးအာနိသင်ကို ဂရုမပြုမိတတ်ကြချေ။ ဆပ်ပြာ အလွန်ရှားပါးနေသည့် အချိန်ကျခါမှ ဆပ်ပြာကို အထူးတောင့်တမိတတ်ကြသည်။ ဆပ်ပြာ သန့်ရှင်းစေတတ်ပုံ၊ ချေးကျွတ်စေတတ်ပုံမှာ ဤသို့ဖြစ်၏။ လူ၏ကိုယ်ခန္ဓာပေါ်ရှိ ချွေးပေါက်ငယ်များမှ ပြန့်ထွက်လာသော အဆီတို့သည် အညစ်အကြေး၊ ဖုံမှုန့်တို့နှင့်ငြိတွယ်ပေါင်းစပ်၍ အဝတ်အစား၌ ၎င်း၊ ကိုယ်ခန္ဓာ၌၎င်း ချေးညှော်ဖြစ်စေတတ်၏။ ဆပ်ပြာနှင့် ပွတ်တိုက်လိုက်သောအခါ၊ ဆပ်ပြာမြှုပ်မှ ဖက်တီးအက်ဆစ်သည် လူ့ကိုယ်ခန္ဓာမှထွက်လာသော အဆီနှင့်ပေါင်းမိရာ၊ ဆေးကြောရာ၌ အဆီသည် ရေနှင့်ရော၍ပါသွားပေသည်။ ဖုံမှုန့်နှင့် အညစ်အကြေးတို့မှာလည်း ဆပ်ပြာမြှုပ်များထဲတွင် ကပ်ငြိ ပေါင်းစပ်ခြင်းဖြင့် စင်ကြယ် သွားကြရသည်။

ထိုသို့ ဆပ်ပြာသည် သန့်ရှင်းမှု၌ အရေးကြီးသည့် ပစ္စည်းတရပ်ပင် ဖြစ်ငြားသော်လည်း၊ ခရစ်မပေါ်မီက ဆပ်ပြာကို အသုံးပြုခဲ့သည်ဟူ၍ အမှတ်အသားများ မတွေ့ခဲ့ဘူးချေ။ သို့ရာတွင် ရှေးအလွန်ကျသော အချိန်များ၌ သံလွင်ဆီ၊ သစ်ဆီနှင့် သဲဆပ်ပြာတို့ကိုမူ ဆပ်ပြာသဘောမျိုးဖြင့် သုံးစွဲခဲ့ကြကြောင်းကိုကား သိရပေသည်။ အေဒီ ပဉ္စမရာစုနှစ်

အတွင်း ရောမပညာရှိကြီး ပလင်နီ ရေးသားချက်အရ၊ ပဌမဆုံးပြုလုပ်ခဲ့သည့် ဆပ်ပြာမှာ ဆိတ်အဆီနှင့် ကော့စ တစ်ခေတ်ပါသော သစ်သားမှရသည့် ပြာကို ရောနှော၍ ကျိုချက်ယူသော ဆပ်ပြာဖြစ်သည်ဟုဆိုသည်။ ဆပ်ပြာ လုပ်ငန်းသည် ၁၃ ရာစုနှင့် ၁၄ ရာစုနှစ်တို့တွင် ဣတလီနှင့် ဂျာမနီပြည်တို့မှ ပြင်သစ်နှင့် အင်္ဂလန်ပြည်များသို့ ပြန့်ပွား သွား၍၊ အမေရိကတိုက်တွင် ၁၇၀၀ ပြည့်နှစ်ခန့်လောက် အထိ အိမ်တွင်းလုပ်ငန်းအဖြစ် အိမ်တိုင်းလိုလိုတွင် လုပ်ကိုင် ခဲ့ကြသည်ဟူ၍ အမှတ်အသားများရှိလေသည်။ ၁၇၂၃ ခုနှစ်တွင် ပြင်သစ် ဓာတုဗေဒပညာရှင် ရှက်ဗရယ်သည် တိရစ္ဆာန်တို့၏ အဆီများမှာ ဖက်တီးအက်ဆစ်နှင့် ဂလစ် ဆရင်းတို့ ပေါင်းစပ်ထားခြင်းဖြစ်သည်ဟု တွေ့ခဲ့လေသည်။ ထို့ပြင် အယ်လကာလီနှင့် အဆီတို့ အပြန်အလှန်ဓာတ်ဖက် ကြခြင်းဖြင့် ဆပ်ပြာဖြစ်လာပုံကိုလည်း ပြခဲ့သည်။ ရှက်ဗ ရယ်၏တွေ့ရှိချက်များနှင့် ၁၇၉၁ ခုနှစ်တွင် လာဗလန်း တီထွင်ခဲ့သော ဆားရည်မှ ဆိုဒါထုတ်ယူနည်းများကို အခြေပြု၍၊ ဆပ်ပြာလုပ်ငန်းသည် ယခင်ရှေးဟောင်း အခြေမှ လုံးဝပြောင်းလဲ တိုးတက်လာခဲ့လေသည်။

ဆပ်ပြာသည် အမှန်အားဖြင့် ဖက်တီးအက်ဆစ်အချို့မှ ဖြစ်သော သတ္တုဓာတ်ဆားဖြစ်သည်။ ဖက်တီးအက်ဆစ် မှဖြစ်သော ဆိုဒီယမ်၊ ပိုတက်ဆီယမ်၊ အမ်မိုးနီးယမ်း ဓာတ် ဆားများသည် သန့်ရှင်းစေတတ်သော သတ္တိရှိ၍၊ ရေထဲ တွင် ပျော်ဝင်နိုင်ကြသည်။ ဆေးဖက်တွင် သုံးစွဲသော ခဲဆပ်ပြာသည် ရေထဲ၌အရည်မပျော်နိုင်သဖြင့်၊ ချေးချွတ် ရာ၌ အသုံးမကျချေ။ ဆပ်ပြာတွင် အမာအပျော့ဟူ၍ နှစ်မျိုးရှိရာ၊ ပိုတက်ဆီယမ်ဆပ်ပြာမှာ အပျော့မျိုးဖြစ်၍၊ ဆိုဒီယမ်ဆပ်ပြာမှာ အမာမျိုးဖြစ်သည်။

ဆပ်ပြာချက်လုပ်ငန်းတွင် အများအားဖြင့် ဆူပွက် အောင် ကျိုချက်သည့်နည်းကို အသုံးများကြ၏။ ဆပ် ပြာကို ကျိုချက်ရာ၌ အသုံးပြုသော ဒယ်အိုးကြီးများမှာ









ဆပ်ပြာချက် လုပ်ငန်း

ဆပ်ပြာသည် နေ့စဉ်အိမ်သုံးပစ္စည်းဖြစ်သဖြင့် ယင်းလုပ်ငန်းသည်လည်းကြီးကျယ်ထွန်းကားလျက်ရှိသည်။ ကျိုအိုးထဲသို့အရည်ပျော်အဆီများ ထည့်ပြီးနောက် ကော့စတစ်ဆိုဒါကို တဖြည်းဖြည်း လောင်းထည့်ကျိုချက်သောအခါ (ပေါ်—ဝဲ) ဆပ်ပြာနှင့်ဂလစ်ဆရင်းဆီတို့ကို သီးခြားစီရရှိ သည်။ ကရုတ်ချာခေါ် ဒလက်များပါရှိသောစက်၌ (ပေါ်—ယာ) ဆပ်ပြာရည်ကိုလိုသောအမွှေးနံ့ရောပြီးလျှင် သမအောင်မွှေပေးရသည်။ ဆပ် ပြာရည် ချောမွတ်လာသောအခါအခြောက်ခံထား၍ (အောက်—ဝဲ) အတုံးခဲလာသောအခါ လိုသလိုဖြတ်ယူရသည် (အောက်—ယာ)။

အလွန်ကြီးမား၍ အောက်ခြေ၌ ကတော့ပုံသဏ္ဌာန်ရှိသည်။ ဒယ်အိုးကြီးများကို ဘေးပတ်လည်မှ ရေနွေးငွေ့ဖြင့် အပူတိုက်ပေးရသည်။ ထိုဒယ်အိုးကြီးများထဲသို့ အရည်ပျော်သောအဆီကို ထည့်ပြီးနောက်၊ ကော့စတစ်ဆိုဒါအရည်ကို တဖြည်းဖြည်းလောင်းထည့်ရ၏။ ထိုအခါ ဓာတ်နှစ်မျိုးသည် ဆာပွန်နီဖီကေးရှင်းခေါ် အပြန်အလှန်ဓာတ်ဖက်မှုဖြစ်ခြင်းအားဖြင့် ဆပ်ပြာနှင့် ဂလစ်ဆရင်းတို့ကို သီးခြားဖြစ်လာစေသည်။ ဆပ်ပြာသည် အပေါ်၌နေ၍၊ ဂလစ်ဆရင်းသည် အောက်သို့ထိုင်ကျသွားသည်။ ဂလစ်ဆရင်းသည် ဆားရည်၌ ပျော်ဝင်နိုင်၍ ဆပ်ပြာမှာ မပျော်ဝင်နိုင်သဖြင့် ဆားရည်လောင်းထည့်ခြင်းဖြင့် ဂလစ်ဆရင်းကို ဆပ်ပြာမှခွဲထုတ်ပစ်နိုင်လေသည်။ ဂလစ်ဆရင်းကို မစွန့်ပစ်ရချေ။ အခြားနေရာများ၌ အသုံးပြုနိုင်သည်။ အချို့ဆပ်ပြာချက်ရုံတို့တွင် ဖက်တီးအက်ဆစ်ကို တိုက်ရိုက်အသုံးပြု၍ ချက်လုပ်သောကြောင့် ဂလစ်ဆရင်းကို ဘေးထွက်ပစ္စည်းအဖြစ် မရရှိချေ။ (ဂလစ်ဆရင်း — လည်းရှု။)

ဆပ်ပြာကို အထပ်ထပ်ဆူပွက်နေအောင် ကျိုထားပြီးနောက် အအေးခံရသည်။ ထိုလုပ်ငန်းမှာ ရက်သတ္တနှစ်ပတ်မျှကြာ၏။ ထိုနောက် ဆပ်ပြာကို ကရတ်ချာခေါ် စက်သို့ပို့၍၊ ထိုစက်ထဲတွင် လိုအပ်သည့် အမွှေးနံ့များ၊ အရောင်တင်ဆေးများ စသည်တို့ကို ထည့်ပေးရသည်။ ကရတ်ချာ၏ အလယ်အူတိုင်တွင် ဒလက်များတပ်ဆင်ထားရာ ထိုဒလက်များဖြင့် ဆပ်ပြာကို ချောမွတ်လာသည်အထိ မွှေပေးရလေသည်။ ထိုနောက် အခြောက်ခံသည့် အခန်းသို့ပို့၍၊ ပုံစံခွက်ကြီးများထဲတွင်ထည့်ထားလျက် အခြောက်ခံထားရသည်။ ဆပ်ပြာမာလာသောအခါ၊ ဆပ်ပြာတုံးကြီးများကို ဈေး၌ရောင်းသည့်အရွယ်အမျိုးမျိုးရအောင် ဖြတ်တောက်ယူ၍၊ ဈေးသို့တင်ပို့ရောင်းချရန် သက်ဆိုင်ရာ ဌာနများသို့ ပို့ပေးလေသည်။

ဆပ်ပြာမှုန့်များကို ချက်လုပ်သောအခါ ကရတ်ချာသို့ မပို့ဘဲ၊ တိုက်ရိုက်အခြောက်ခံပြီးလျှင် ကြိတ်စက်ရုံသို့ပို့ပေးရသည်။ ထိုစက်တွင် အဖတ်ငယ်ကလေးများဖြစ်လာသည်အထိ ကြိတ်လိုက်ပြီးနောက် အမွှေးနံ့များ၊ အရောင်တင်ဆေးများနှင့် ရောနှောပေးရလေသည်။ ထိုသို့ ရောနှောပြီးသောအခါတွင် ဒလိမ့်တုံးများထဲ၌ ထည့်ကြိတ်ခြင်းအားဖြင့် အမွှေးနံ့ စသည်တို့သည် ဆပ်ပြာထဲ၌ ပျံ့နှံ့သွားကြလေသည်။ နောက်ဆုံးကြိတ်စက်မှ ထွက်လာသောဆပ်ပြာကို ပုံစံခွက်၌သွင်း၍ လိုအပ်သည့် ပုံစံအတုံးငယ်များဖြစ်အောင် လုပ်ရသည်။ စက်ဖြင့်ပြုလုပ်သော ဆပ်ပြာများသည် အခြားဆပ်ပြာတို့ထက် ချောမွတ်၍ အမြှုပ်ပိုထွက်သည်။

ဆပ်ပြာမွှေးများကို အပြိုင်အဆိုင် ပြုလုပ်ကြရာတွင် အချို့က အဆန်းထွင်၍ အလင်းပေါက်ဆပ်ပြာကို ပြုလုပ်ကြသည်။ ထိုဆပ်ပြာမျိုးကို 'အအေးနည်း' ဖြင့်ချက်လုပ်ရသည်။ ရိုးရိုးဆပ်ပြာတွင် အရက်ပြန် ထည့်ပြီးလျှင် အရက်ပြန်ကို ပေါင်းချေးခံ၍ ထုတ်ပစ်ခြင်းအားဖြင့် အလင်းပေါက်ဆပ်ပြာကိုရနိုင်သည်။ ရိုးရိုးဆပ်ပြာအပြင် လေသွင်းထည့်ထားသော ရေပေါ်ဆပ်ပြာ၊ ဆေးဖြင့်စိမ်ထားသော ဆပ်ပြာမွှေးများကိုလည်း ပြုလုပ်ကြသည်။ ဒုတိယ ဆပ်ပြာမျိုးမှာ အသားအရေ၌ဖြစ်သော အနာရောဂါများကို ထိရောက်စွာ ကုသ ကာကွယ်ပေးနိုင်သော ဆပ်ပြာမျိုးဖြစ်ပေသည်။

**ဆပ်ပြာပူဖောင်း။** ။ဆပ်ပြာရည်တခွက်တွင် သဘာ်ရိုးကိုနှစ်လျက် ဆပ်ပြာပူဖောင်းဖြစ်အောင် မှုတ်ကစားနေသော ကလေးများကို ကြည့်ရခြင်းအားဖြင့် မည်မျှပျော်ရွှင်ကြသည်ကို တွေ့ရပေမည်။ ဆပ်ပြာပူဖောင်းများတွင် လှပသော အရောင်စုံများ ရောယှက်ထွက်ပေါ်လျက်ရှိသည်။

ဆပ်ပြာပူဖောင်းကို ကလေးကစားစရာ သက်သက်ဟု သဘောထား၍ မပြီးနိုင်ချေ။ သိပ္ပံပညာနှင့်သက်ဆိုင်၍ များစွာ အကူအညီ အထောက်အပံ့ရသော အချက်အလက်များကို ဆပ်ပြာပူဖောင်းမှ ရှာဖွေတွေ့ရှိနိုင်ပေသည်။ ယင်းသို့ ရှာဖွေတွေ့ရှိခဲ့သော ပုဂ္ဂိုလ်ကား ဂျိုးဇက် ပလာတိုးဆိုသူ ဗဲလဂျီယန်လူမျိုး မျက်မမြင် သိပ္ပံပညာရှင်တဦးဖြစ်သည်။ ထိုပုဂ္ဂိုလ်သည် မျက်မြင်သူတို့၏ အကူအညီဖြင့် ဆပ်ပြာရည် အမြှေးတွင် လေ့လာစုံစမ်းခဲ့ရာ၊ အရည်များ၏ အတွင်းအားသဘောနှင့်သက်ဆိုင်သည့် အရေးကြီး၍ စိတ်ဝင်စားဖွယ်ကောင်းသော အကြောင်းအရာများကို သိခဲ့လေသည်။ ပူဖောင်းသည် မည်သည့်အတွက်ကြောင့် လုံးရသည် ဆိုသည့်အချက်ကို လူတိုင်းပင် သိလိုကြပေမည်။ မိုးရေပေါက်ကလေးသည် မျက်နှာပြင်တင်းမှုကြောင့် ငယ်နိုင်သမျှ ငယ်သွားပြီးလျှင် လုံးသွား၏။ အလုံးတခု၌ ရှိသော မျက်နှာပြင်သည် အရွယ်ထုချင်းတူညီသော အစိုင်အခဲတခု၏ မျက်နှာပြင်ထက်ငယ်၏။ ထိုကဲ့သို့ဖြစ်ရခြင်းမှာ မျက်နှာပြင်တင်းအား၏ သတ္တိကြောင့်ပင်ဖြစ်သည်။ သို့ဖြစ်၍ မိုးပေါက်၊ နှင်းပေါက်ကလေးများ လုံးရခြင်းမှာ မျက်နှာပြင်တင်းအားကြောင့်ဖြစ်သည်။ ကျည်ဆန် ပြုလုပ်ရာတွင် ကျိုထားသည့် ခဲရည်ကိုလောင်းချသောအခါ အလုံးများ ဖြစ်လာရခြင်းမှာလည်း မျက်နှာပြင်တင်းအားကြောင့်ပင်ဖြစ်သည်။

ရေပေါက်တွင် မျက်နှာပြင်တခုတည်းသာရှိသော်လည်း၊ ပူဖောင်းတွင်ကား မျက်နှာပြင်နှစ်ခုရှိသည်။ တခုမှာ အတွင်း၌ရှိ၍၊ အခြားတခုသည် အပြင်၌ရှိသည်။ ထို့ကြောင့် အရွယ်ချင်းတူညီလျှင် ပူဖောင်းကလေး၏မျက်နှာပြင် တင်းအားသည် ရေပေါက်ကလေး၏ မျက်နှာပြင်တင်းအားထက်

နှစ်ဆပိုမည်။ ပူဖောင်းသည် အတွင်းရှိ လေ၏ဖိအား ရပ်စဲသွားသည်အထိ ကျုံ့ဝင်လျက်နေသည်။ ကမ္ဘာ့ဆွဲအားသည် ပူဖောင်း၏ထိပ်ပိုင်းကို ဆွဲသဖြင့် ထိုထိပ်ပိုင်းသည်ပို၍ ပါးလာပြီးလျှင် ပေါက်ကွဲလွယ်သည်။ ထိုအကြောင်းကြောင့်ပင် ပူဖောင်းသည် တာရှည်မခံနိုင်ချေ။ သို့သော် ဆပ်ပြာရည်ပူဖောင်းသည် ရေပူဖောင်းထက် ပို၍ တာရှည်တည်နေနိုင်၏။ အဘယ်ကြောင့်ဆိုသော်၊ ဆပ်ပြာရည်သည် ရေထက်ကျုံ့အား နည်းသောကြောင့်ဖြစ်၏။ တနည်းအားဖြင့်ဆိုလျှင် မျက်နှာပြင်တင်းအား ပျော့သောကြောင့်ပင်ဖြစ်၏။ ထို့ပြင် ဆပ်ပြာရည်တွင် မျက်နှာပြင်တင်းအားသည် တချိန်နှင့်တချိန်မတူအောင် ပြောင်းလဲသောကြောင့်လည်း ဖြစ်လေသည်။




ဆပ်ပြာပူဖောင်းမှုတ်ကစားခြင်းဖြင့် ပျော်ရွှင်မှုရနိုင်၏။

ဂလစ်ဆလင်းခေါ် အလှဆီပါသော ဆပ်ပြာရည်ဖြင့် မှုတ်ထားသော ပူဖောင်းများသည် အခြေအနေကောင်းလျှင် ရက်ပေါင်းများစွာကြာအောင်ပင် တည်နေနိုင်ကြသည်။ ထိုကဲ့သို့သော ပူဖောင်းမျိုးသည် တနှစ်ကြာမျှ တည်နေနိုင်ကြောင်းကို မှတ်တမ်းတင်ထားခဲ့ဘူးလေသည်။ ဆပ်ပြာရည်ပူဖောင်းမှ လှပသော အရောင်များ ထွက်လာရသည့် အကြောင်းကို လူတိုင်းပင်သိလိုပေမည်။ ဆပ်ပြာဖူဖောင်းပေါ်သို့ ကျရောက်သော အလင်းတန်းသည် အမြှေး၏မျက်နှာပြင် နှစ်ခုလုံးကို ဟပ်၍ ပြန်တက်လာ၏။ ထို့ကြောင့်ပြန်တက်လာသည့် အလင်းတန်းများ၏ လှိုင်းများသည် ကျရိုးအတိုင်းမကျဘဲ အချင်းချင်း ဖျက်လိုက်ကြလေသည်။ (အလင်း — ရှု။) ထိုသို့ ဖျက်လိုက်ကြရာတွင် အလင်းတွင်ရှိသော အရောင်များအနက် အရောင်တရောင်သည် ပျောက်သွားလေသည်။ ထိုအရောင်၏ ဖြည့်ဖက်အရောင်ကို အလင်းရောင်တွင် မြင်နိုင်၏။ (အရောင် — ရှု။) ပူဖောင်း အထူအပါး ပြောင်းလဲသည်ကိုလိုက်၍ ပူဖောင်းမှ ပြန်တက်လာသော အလင်း၏အရောင်များသည်လည်း ပြောင်းလဲကြသည်။

မှုတ်ခါစတွင် ပေါက်၍မသွားသော ပူဖောင်းသည် အပေါ်သို့ တက်နိုင်၏။ အဘယ်ကြောင့်ဆိုသော် မှုတ်လိုက်သည့်လေသည် ပို၍နွေးသောကြောင့်ဖြစ်၏။ နွေးသည့်လေသည် အေးသည့် လေထက်ပို၍ ပေါ့သည်။ ကာဗွန် ဒိုင်အောက်ဆိုက် သို့မဟုတ် အီသာသည် လေထက်ပို၍ လေးသဖြင့် လေအေးနှင့်မှုတ်ထားသော ပူဖောင်းသည် ထိုဓာတ်ငွေ့များအတွင်း၌ အပေါ်သို့ တက်နိုင်၏။ အထက်ပါ ဖော်ပြချက်များသည် သိပ္ပံပညာရှင်များက ဆပ်ပြာရည်ပူဖောင်းတွင် လေ့လာစုံစမ်းခဲ့ကြသဖြင့် သိရသည့် စိတ်ဝင်စားဖွယ်ကောင်းသော အချက်အချို့ပင်ဖြစ်လေသည်။

**ဆိပ်ဖြူမြို့။** ။ဆိပ်ဖြူမြို့သည် ပခုက္ကူခရိုင်၊ ပေါက်နယ် အပိုင် ဆိပ်ဖြူမြို့နယ်၏ ရုံးစိုက်ရာ မြို့ဖြစ်သည်။ ဧရာဝတီ မြစ်၏ အနောက်ဖက်ကမ်းတွင် တည်ရှိ၍၊ မကွေးခရိုင်အပိုင်၊ ချောက်မြို့နှင့် မျက်နှာချင်းဆိုင်လျက်ရှိသည်။ (ချောက် မြို့ — ရှု။) သင်္ဘောဆိပ်မြို့ ဖြစ်သည်။ နွေရာသီတွင် အနောက်ဖက် မိုင် ၇၀ အကွာတွင် တည်ရှိသော ဆောမြို့နှင့် ကားလမ်းဖြင့် ဆက်သွယ်နိုင်သည်။ မြို့နယ်၏အကျယ် အဝန်းမှာ စတုရန်းမိုင်ပေါင်း ၅၅၉ မိုင်မျှရှိသည်။

**ဆံကျင်တာရာ။** ။တာရာကြီးကိုးလုံး — ရှု။

**ဆံခြည်ပြွန်လျှောက်သတ္တိ။** ။မင်နှိပ်စက္ကူပေါ်၌ မင်ပျံ့သွားပုံ၊ မီးစာတလျှောက်ကို ဆီ သို့မဟုတ် ရေနံဆီ တက်လိုက်လာပုံ၊ ရေကို မျက်နှာသုတ်ပုဝါက စုတ် ယူ ပုံ စသော အခြင်းအရာများမှာ နေ့စဉ်နှင့်အမျှ တွေ့ကြုံနေရ သော ကိစ္စဖြစ်သည့်အလျောက်၊ များသောအားဖြင့် ကျွန်ုပ်တို့သည် ဤကိစ္စကို ထွေထွေထူးထူး ဂရုမပြုကြတော့ ပေ။ သို့ရာတွင် သိပ္ပံပညာမျက်စိရှိသော ပုဂ္ဂိုလ်များက ဤကိစ္စကို သာမညအနေဖြင့် လျစ်လျူရှုကာ ပစ်မထားဘဲ၊ အဘယ်ကြောင့် ဤသို့ဖြစ်ရသနည်းဟူသော အကြောင်း ရင်းကို လေ့လာရှာဖွေခဲ့ကြသည်။ ဤသို့ လေ့လာရာတွင်၊ မင်နှိပ်စက္ကူ၊ မီးစာ၊ မျက်နှာသုတ် ပုဝါနှင့်တကွ ဆား၊ သကြား၊ ကော်မှုန့်၊ သစ်ပင် ဝါးပင်ရှိ အမျှင်ကလေးများ စသော အရည်ကို စုတ်ယူတတ်သည့် ပစ္စည်း မှန်သမျှတို့၌



ဆံခြည်ပြွန်လျှောက်သတ္တိနှစ်မျိုး

ပုံတွင် လုံးပတ်ချင်း မတူသော ပြွန်နှစ်ခုကို ရေထဲ နှစ်ထားရာ၌ ဆံခြည် ပြွန် လျှောက်သတ္တိကြောင့် တက်လာသော ရေသည် ပြွန် ကျဉ်းလေမြင့်လေ သ ဘောကိုရင်း၊ ပြွန်ချောင်း၏ပြင်ပ၌ရေသည် အထက်သို့ တွယ်တက်၍ (ဝဲ)၊ ဆီသုတ်ပြွန် ပြင်ပ၌မူ အောက်သို့ တွယ်ဆင်းသည့် သဘောကိုရင်း (ယာ) တွေ့မြင်နိုင်ပေသည်။

အလွန်သေးငယ်သော ပြွန်ချောင်းသဏ္ဌာန် ခေါင်းပွနေရာ အမြောက်အမြားပါရှိသည်ကို တွေ့ရှိကြလေသည်။ ဆံခြည် ပေါက်နီးပါးမျှ သေးငယ်သော ထို ပြွန်ချောင်းကလေးများ ကို အရည်များထဲသို့ ထိုးနှစ် စမ်းသပ်ကြည့်ရာတွင် အဆို ပါ ပြွန်ချောင်းကလေးများအတွင်း၌ အရည်သည် အလို အလျောက်တက်ကြွလာရုံမက၊ ပြွန်ချောင်းပေါက် သေး လေလေ၊ ပို၍မြင့်အောင် တက်လေလေ ဖြစ်သည့်အခြင်း အရာကို တွေ့ရလေသည်။ ဆံခြည်ပေါက် ပြွန်ကလေးများ ဖြင့် ဦးစွာပဌမ စတင်စမ်းသပ်ခဲ့ခြင်းကို အကြောင်းပြု၍၊ အထက်တွင်ဖော်ပြခဲ့သော အရည်စုတ်ယူတတ်သည့်သတ္တိကို ဆံခြည်ပြွန်လျှောက်သတ္တိဟူ၍ ခေါ်စမှတ်ပြုကြလေသည်။

လယ်ယာခြံမြေတို့တွင် အပေါ်ယံမြေလွှာသို့ မြေလွှာ အတွင်းရှိရေတက်လာနိုင်ခြင်းမှာ အဆိုပါဆံခြည်ပြွန် လျှောက်သတ္တိကြောင့်ပင်ဖြစ်သည်။ အပင်တို့၏ ရှင်သန် ဖွံ့ဖြိုးမှုသည် ထိုမြေလွှာအတွင်းရှိ ရေအပေါ်တွင် အမှီပြု လျက်ရှိသည်ဖြစ်ရာ၊ ဆံခြည်ပြွန်လျှောက်သတ္တိသဘောနှင့် စိုက်ပျိုးရေးလုပ်ငန်း ဆက်စပ်လျက်ရှိသည့်အချက်ကို တောင်သူလယ်သမားတိုင်း ကောင်းစွာသတိပြုရာသည်။ (စိုက်ပျိုးရေး — လည်းရှု။)

ဤနေရာ၌ ရေကိုစုတ်တင်ပေးသောအရာမှာ မြေမှုန့်က လေးများပင် ဖြစ်သည်။ သို့သော် ဆံခြည်ပြွန်ကလေးများ နှင့် စမ်းသပ်ကြည့်ရာတွင် ပြွန်ပေါက်သေးလေလေ၊ ရေအ တက် မြင့်လေလေဖြစ်သည့်အတိုင်း၊ ကျွန်ုပ်တို့စိုက်ပျိုးမည့် မြေကွက်ရှိ မြေကို သေးငယ်နိုင်သမျှ သေးငယ်အောင် အမှုန့်ပြုလုပ်ပေးရန်နှင့် ထိုမြေမှုန့်များကို သိပ်သည်းနိုင် သမျှသိပ်သည်းအောင် ပြုလုပ်ပေးရန်လိုအပ်ပေသည်။

မြေမှုန့်များ သိပ်သိပ်သည်းသည်းရှိသောနေရာ၌ အပေါ်သို့ ရေတက်လာခြင်းသည် မြေမှုန့် သိပ်သိပ် သည်းသည်းမရှိဘဲ၊ ပွလျက်နေသောနေရာ၌ ရေတက် ခြင်းထက် လျင်မြန်လွယ်ကူသည်။ ထို့ကြောင့် အခြောက်စိုက်ပျိုးနည်းဟုခေါ်သော မိုးရာသီကုန်ပြီးမှ စိုက်ပျိုးရသည့် လုပ်ငန်းမျိုးတွင် စိုက်ပျိုးမည့်မြေကို ရှေးဦးစွာ ထယ်ဖြင့် ခပ်နက်နက်ထိုးဆွပေးရသည်။ ထို့နောက် မြေကိုသိပ်သည်းအောင် ကျမ်းတုံးရိုက်ပေး ရသည်။ ဤကဲ့သို့ပြုလုပ်ပေးခြင်းမှာ စိုက်ပျိုးမည့် အပင်တို့၏ အမြစ်များရှိရာသို့ မြေလွှာအတွင်းရှိရေ လွယ်လင့်တကူ တက်လိုက်လာစေရန်ဖြစ်သည်။ ဤသို့ တက်လာသောရေကို ရေခိုးရေငွေ့အဖြစ် ပျံ့လွင့်သွား ခြင်းမရှိရအောင် အပေါ်ယံတွင် ခြောက်သွေ့သော မြေမှုန့်ဖြင့် ဖုံးအုပ်ထိန်းထားပေးရန် လိုအပ်သည့် အတိုင်း အပေါ်ယံမြေလွှာကို ထွန်ဖြင့် ထွန်ယက်ပေး ရလေသည်။





ပုဂံခေတ် (အပေါ်ပုံ) နှင့်ကုန်းဘောင်ခေတ် (အောက်ပုံ) များက ဆင်ယင်ထုံးဖွဲ့ခဲ့ကြသည့် နန်းတွင်းဆံထုံးများ

# ဆံပင်ထုံးဖွဲ့မှု

**ဆံပင်ကိုဆင်ယင်ထုံးဖွဲ့ခြင်း၌ လူတမျိုးနှင့်တမျိုး ကွဲပြားခြားနားသည်။ မြန်မာလူမျိုးတို့သည် ဆံပင်ကို အမြတ်တနိုးထား၍၊ အမျိုးမျိုးထုံးဖွဲ့လေ့ရှိကြသည်။ မြန်မာ့ရိုးရာအစဉ်အလာတွင် အသက်အရွယ်ကိုလိုက်၍ ဆံပင်ထုံးဖွဲ့ပုံကွဲပြားသည်။ ဤဆောင်းပါးတွင် ခေတ်အလျောက် မြန်မာတို့၏ဆံပင်ထုံးဖွဲ့နည်းပြောင်းလဲသည်ကို စာပေကောက်နုတ်ချက်များဖြင့်ကိုးကား၍ဖော်ပြထားသည်။**

**ဆံထုံး။** ။မြန်မာလူမျိုးတို့သည် ဆံပင်ကို အမြတ်တနိုးထား၍ အမျိုးမျိုး ထုံးဖွဲ့လေ့ရှိကြသည်။ ဆံပင်ထုံးဖွဲ့ပုံများသည် ထုံးဖွဲ့သူတို့၏ အသက်အရွယ်ကိုလိုက်၍ ကွဲပြား ခြားနားသည်။ မြန်မာ့ရိုးရာ အစဉ်အလာတွင် မွေးဖွားပြီးနောက် ခုနစ်ရက်လည်သော ကလေးကို ခေါင်းဆေး၍ ခေါင်းတုံး တုံးပေးရသည်။ ထိုနောက် ထိုကလေးကို ကာလအတန်ကြာမျှ ခေါင်းတုံးနှင့်ပင်ထားရှိပြီးသော်၊ခေါင်းထိပ် တည့်တည့်တွင် ဦးစွန်းဖုတ်ထားပေးရ၏။ ဦးစွန်းဖုတ်နေရာမှလွဲ၍၊ ကျန်ဦးခေါင်း ပတ်ပတ်လည်၌ ဆံပင်ကိုရိတ်ထားသည်။ ဦးစွန်းဖုတ်မှ ဆံပင်များကိုသာ ၂ လက်မခန့်အထိ အရှည်ခံ၍ ရှေ့သို့ဖြီးချပေးရ၏။အချို့ကလေးများကို ၂ နှစ်သား၊ ၃ နှစ်သားအရွယ်၌ နားပန်းဆံထားပေးသည်။ ယင်းမှာ ဦးခေါင်းဘေး တဖက်တချက်၌ဦးစွန်းဖုတ်ကဲ့သို့ပင် ဆံပင်ကွက်၍ထားခြင်းဖြစ်သည်။ ထိုမှတဖန်ခေါင်းတုံးတုံးပြီးလျှင်၊ ကြာကွက်ထားပေး၏။ ကြာကွက်ဟူသည်ကား၊ နဖူးဆံစမှ ဦးခေါင်းပတ်ပတ်လည် စက်ဝိုင်းသဏ္ဌာန်ရစ်ထားသော အကွက်ကြီးဖြစ်သည်။ ယင်းကြာကွက်မှဆံပင်ကို အရှည်ခံလျက် ကျန်နေရာများကို ဆံရိတ်မြဲရိတ်ရ၏။ နားပန်းဆံမထားသော ကလေးများ၌ ဦးစွန်းဖုတ်နေရာကို ချဲ့ ချဲ့ ပေးခြင်းဖြင့် ကြာကွက်ဖြစ်လာသည်။ အများအားဖြင့် ခေါင်းတုံးမှ ကြာကွက်အဖြစ် ထားရှိသည်က များ၏။

အသက် ၄ နှစ်ရွယ်မှ ၁၀ နှစ်ရွယ်အတွင်း ယောကျ်ားလေးများနှင့် မိန်းကလေးများသည် ကြက်တောင်စည်းနှင့် ဆံရစ်ဝိုင်းထား၏။ ကြာကွက်မှ ဆံပင်များသည် စုစည်းနိုင်လောက်သောအခါ၊ အလယ်တွင် ပန်းစည်းကြိုးနှင့် စုစည်းပြီးနောက် တလက်မခွဲ နှစ်လက်မခန့်ရှိ ဆံရစ်များကို အောက်သို့ပတ်ပတ်လည်ချထားသည်။ အလယ်မှ ဆံပင်များသည် အတော်အတန်ရှည်လာသော်၊ တပတ်လျှိုယောင်ထုံးနှင့် နှစ်ပတ်လျှိုယောင်ထုံးများထုံးကြလေသည်၊ တပတ်လျှိုဟူသည်မှာ ဆံပင်ကို ကွင်းသဏ္ဌာန်တပတ်ရစ်ပြီးလျှင် ထိုကွင်းထဲမှလျှို၍ ဆံပင်စကို ထုတ်လိုက်ခြင်းဖြစ်၏။ နှစ်ပတ်လျှိုမှာမူ၊ ရှေးနည်းတူ တပတ်ရစ်ထားသော ကွင်းသဏ္ဌာန်ကို ထပ်၍ တပတ်လိမ်ပြီးမှ ဆံပင်ကိုလျှိုသွင်းပြီးလျှင် လိမ်ထားသောနေရာကို တွန်း၍ ဆံစကိုထုတ်လိုက် ခြင်းဖြစ်၏။ ဆံပင်တိုနေသေးလျှင် အထုံးမှ ထွက်နေသော ဆံမြိတ်ကို ဖားလျားချထားသည်။ ဆံမြိတ်ရှည်လာပါက ယင်းကိုလိမ်ကျစ်၍ အထုံးပတ်လည်တွင် ထောင်လိုက် ချပ်ပြားဝိုင်းဝိုင်းဖြစ်လာသည်အထိ ရစ်ပတ်ထားသည်။ ယင်းကို မြင်းခွာယောင်ဟု ခေါ်သည်။



ဆံရစ်ဝိုင်းမှပြုပြင်ယူရသည့် မြို့မဆံထောက်

မိန်းကလေးများသည် ၁၀ နှစ်ခန့်မှ ၁၆ နှစ်၊ ၁၇ နှစ်ခန့် အရွယ်သို့ ရောက်သော်၊ နဖူးရှေ့မှ ဆံရစ်များကို ရှိမြဲတိုင်းထား၍၊ ကျန်ဆံရစ်ဝိုင်းမှ ဆံပင်များကို အရှည်ခံသည်။ နားရွက်စွန်းနှင့် တညီတည်းဖြစ်လာအောင် ညှိပေးသည်။ ယင်းကို ဆံထောက်ဟု ခေါ်သည်။ အချို့ဒေသတို့တွင် ဆံထောက်ကို ဆံလေးတိုဟု ခေါ်ကြသည်။ အလယ်မှာမူ ရှေးနည်းတူပင် မြင်းခွာဆံထုံး ထုံးသည်။ အချို့က နှစ်ပတ်လျှိုထုံး၍ ဆံမြိတ်ကို အကုန်မထုတ်ဘဲ၊ ကွင်းသဏ္ဌာန်လုပ်၍ ချထား၏။ နှစ်ပတ်လျှို ဆံမြိတ်ကွင်းဟု ခေါ်သည်။ အချို့ကမူ တပတ်လျှိုထုံး၍ ဆံမြိတ်ဖားလျားချသည်။



**ဘီးဆံပတ်ဆံထုံးကို မူတည် ပြုပြင်ယူလျက် မနိမ့်မမြင့် မကြီးမငယ် လုံးလုံးကလေးထုံးဖွဲ့သည့် ယခုခေတ်ဆံထုံး**

ဆံထောက်တွင် နောက်ဖက်မှတို၍၊ ရှေ့ဖက်သို့ရှည်လျက် ရှုူးလာလျှင် ယင်းကို ရိုးရိုးဆံထောက်ဟုခေါ်သည်။ ပတ်ပတ်လည် တညီတည်းထားလျှင် မြို့မဆံထောက်ဟုခေါ်၏။

အသက် ၁၇ နှစ်ခန့်ရောက်လျှင် ဆံထောက်မှ ဆံပင်များကို အရှည်ခံ၏။ ယင်းကို အုပ်လုံးသွင်းသည်ဟု ခေါ်သည်။ ထိုနောက် ဆံပင်ရှည်ကို ကုပ်နားတွင် တပတ်လျှိုထုံး၍ ရစ်ပတ်ထား၏။ ယင်းကို နောက်တွဲဟုခေါ်သည်။ ဆံထောက်မှဆံပင်များကို ဆံညှပ် ဘီးကုပ်တို့ဖြင့် ဖိညှပ်ထားသည်။ ထိုဆံပင်များ အတန်ငယ် ရှည်လာသော်၊ တခေါင်းလုံးရှိဆံပင်ကို အပေါ်သို့ ပင့်တင်၍ တပတ်လျှို ထုံးပြီးနောက်၊ ဆံမြိတ်ဖားလျား ချလေသည်။ ဤကဲ့သို့သော ထုံးဖွဲ့နည်းကို တပတ်လျှို ဆံထုံးဟု ခေါ်သည်။ ၁၉၂၀ ပြည့်နှစ်ခန့်တွင် တပတ်လျှို ဆံထုံးများကို အထုံးနည်းပါးလာ၏။ နောက်တွဲထုံးကိုသာ အထုံးများသည်။

အသက် ၁၇ နှစ်ခန့်မှ ၃၀ ကျော်အထိ အမျိုးသမီးများသည် အလှူအတန်းပွဲနေပွဲထိုင်များ၌ဆံထုံးကို ထုံးကြသည်။ ယင်းဆံထုံးများမှာ ရတနာပုံ မန္တလေးခေတ်က ခေတ်စားခဲ့သော ဘီးဆံပတ်ဆံထုံးကို မူတည်၍ ပြောင်းလဲ ပြုပြင်ထားခြင်း ဖြစ်သည်။ ဘီးဆံပတ်ဆံထုံးမှာ ဦးခေါင်းထိပ်တွင် ဆံပင်ကိုပင့်တင်၍၊ ဘီးတချောင်းခံပြီးနောက်၊ဆံပင်ကို နဖူးပြင် အစွန်း ၂ ဖက်နှင့်အမျှ အထပ်ထပ်ခွေထားခြင်း ဖြစ်သည်။ ထိုဆံထုံးမှ တဆင့် ဘီး အငယ်ကလေးများနှင့် ဆံထုံးခံတခုကို မြှုပ်ခံ၍၊ ဆံစုတို့ဖြင့် ရစ်ပတ်ကာ ထုံးရသော ဆံထုံးတမျိုးခေတ်စားလာ၏။ ပုံစံမှာ ဘီးဆံပတ် ဆံထုံးထက် အောက်ခြေတွင် သိမ်၍၊ ထိပ်ဝ၌ ကားလေသည်။ ဆံထုံးတွင် ဆံထိုး ဆံညှပ် ဆံကျင်တို့ကို စိန်ရွှေ ကျောက်မျက်ရတနာတို့နှင့် ပြုလုပ်ဆင်ယင်၍၊ ပန်းကုံး ပန်းခိုင်တို့ကိုလည်း ပန်ဆင်လေသည်။ မိန်းမပျိုများ အဖို့ များသောအားဖြင့် ဆံထုံး၏ညာဖက်မှ ဆံမြိတ် ဖွားရရား ချလေ့ရှိသည်။ မိန်းမကြီးများအဖို့မူကား၊ ဆံမြိတ်ချမသုံးဘဲ၊ ဆံထုံးကိုသာ ကြီးကြီး ခန့်ခန့်ထုံးကြသည်။ ဆံထုံးပုံစံသည် တသမတ်တည်းမရှိချေ။ ၁၉၂၆ ခုနှစ်ခန့်မှစ၍ ဆံထုံးကြီးများသည် တစတစနှင့်ကြီးထွားမြင့်မားလာခဲ့ရာ၊ ထိုခေတ်က ကာတွန်း ရုပ်ပြောင်ဆရာများသည် ဆံထုံးကြီးများကို လှောင်ပြောင်၍ တက်ရမည့် အခြေမျိုး ရောက်နေလေဟန်ကို ပြောင်လှောင်ရေးဆွဲခဲ့ကြဘူးသည်။ ထိုနောက် ဒုတိယကမ္ဘာစစ်ကြီးမဖြစ်ပွားမီ နှစ်အနည်းငယ်ခန့်မှစ၍ ဆံထုံးမြင့်မြင့်ထုံးသော ဓလေ့သည် တဖြည်းဖြည်း တိမ်ကောသွားလေသည်။ ထိုနောက် ယခုခေတ်တွင်



**ရတနာပုံခေတ်က ဘီးဆံပတ်ဆံထုံးကိုဤသို့ထုံးဖွဲ့ကြသည်။**

တွေမြင်ရသော ဆံထုံးကဲ့သို့ မနိမ့်မမြင့် မကြီးမငယ် လုံးလုံးကလေး ထုံးလာကြသည်။ ဆံမြိတ်ချကိုလည်း အရှည်၊ အတို၊ အကွင်းဟူ၍ အမျိုးမျိုးထွင်ကြ၏။ ပွဲလမ်းမသွားသည့်အခါများ၌မူ၊ နောက်တွဲထုံး၊ ဘီးကျော်ပတ်တို့နှင့်သာ နေကြသည်။

ဘီးကျော်ပတ်ဆိုသည်မှာ ကုပ်အထက်၌ ဘီးတချောင်း စိုက်၍ ဆံပင်ကို ဘီးပေါ်မှ ကျော်လျက် ရစ်ပတ်ထားခြင်း ဖြစ်၏။ ဘီးကို အရှည်အတို အမျိုးမျိုးပြောင်းလဲ၍အသုံးပြုသည်။ ရစ်ပတ်နည်းကိုလည်း အနည်းနည်း အဖုံဖုံ ထွင်ကြသည်။ လေယာဉ်ပျံ ဆံထုံးဟူ၍လည်း ခေတ်စားခဲ့၏။ ယင်းမှာ ဘီးကျော်ပတ်တမျိုးပင်ဖြစ်သည်။ ဘီး ရှည်လွန်းသဖြင့် အစွန်းနှစ်ဖက်ထွက်နေသည်မှာ လေယာဉ်ပျံ တောင်ပံနှင့်တူသောကြောင့် လေယာဉ်ပျံဆံထုံးဟု ခေါ်ခြင်းပင်ဖြစ်သည်။

ဆံထုံး ထုံးသောအလေ့သည် ရှေးမဆွကပင်ရှိခဲ့သည်။ မြန်မာ့ယဉ်ကျေးမှုအစ တကောင်းခေတ်က သတိုးနဂါးနိုင်မင်း၏မိဖုရားကြီးသည် 'ရာပေး၍ဆုပ်၊ ထောင်ပေးလို့ချုပ်၊ ချစ်သူ့အရိုးဆံထိုးလုပ်' ဟူ၍စကားထာဝှက်ခဲ့ရာယင်းကို ထောက်ရှု၍ ထိုခေတ်က ဆံထုံးထုံးခြင်း၊ ဆံထုံး၌ဆံထိုး ဆံညှပ်များ တပ်ဆင်ခြင်းစသည်တို့ကို သိရှိနိုင်လေသည်။

သာသနာနှစ် ၆၀မှ ၆၀၀ အတွင်း သရေခေတ္တရာပျူများခေတ်တွင် နန်းတွင်းသူများသည် ဆံပင်ကို ထိပ်အလယ်တည့်တည့်တွင်တင်၍၊ ခပ်ဝိုင်းဝိုင်းဖြစ်အောင် အရစ်ရစ်ပတ်ထားသော ဆံထုံးကိုထုံး၍၊ ပုလဲသွယ် ငွေထည်ပန်းကုံးစသည်တို့ဖြင့် ဆင်ယင်ထားကြောင်းကို ရှေးဟောင်း ကျောက်ပြားချပ်များမှ ထွင်းပုံများတွင်တွေ့ရ၏။ ချင်မင်းဆက် တရုပ်မှတ်တမ်းများ၌လည်း ဖတ်ရှုရ၏။

ပုဂံခေတ်တွင် ဆံထုံးအမျိုးပေါင်း ၅၅ မျိုးရှိခဲ့ကြောင်းကို အမျိုးသမီးစာဆိုတော် ရဝေရှင်ထွေး၏ အန်ချင်းအရ သိရ၏။ ယင်းမှာ အောက်ပါအတိုင်းဖြစ်သည်။

'အစောတို့လေ၊ ရတနာတွေ့၊ ရွှေမိုးစွေ၍၊ သပြေမည်ခံ၊ ပြည်ပုဂံဝယ်၊ နိုင်ငံကျယ်ပြော၊ ရှေးမင်းစောတို့၊ မနောဇမ္ဗူ၊ ခံတော်မူက၊ မြိတ်ပြူမြိတ်စို့၊ သွယ်ညှိမြိတ်လွတ်၊ ရစ်ပတ်စုလည်း၊ ရေဒရည်းထုံးဖွဲ့၊ တုမဲ့ရွှေရောင်၊ တိမ်တောင်တက်သက်၊ လျှပ်စက်ပြက်သို့၊ စဝှက်ရောင်ပြေး၊ နှင်းသွေးမစို့၊ ကြာညိုဝတ်ဆံ၊ ဓူဝံနိုင်းရှည့်၊ ရှုကြည့်မငြီး၊ ဦးပြည်းရှင်ပျော်၊ ဇင်ယော်တန်းဝဲ၊ ပုလဲကိုးမှန်း၊ ဂမုန်းငုံအာ၊ လေသာဝေ့လည်၊ မြူခြည်မတင်၊ ယကင်ထုံထုံး၊ လုံးတင်ခရချောင်၊ ထုံးကြောင်ထုံးကြား၊ ငါးပါးမြိတ်စို့၊ အောင်မျို့နိမိတ်၊ မြိတ်ရစ်လှပ၊ ကရဝိကနှုတ်သီး၊ ဆိတ်သမီးနှင့်၊ ပြန်ပြီးဆယ်ထွေ၊ နေအရုဏ်ခံ၊ ညဥ့်ယံသောက်ရှူး၊ တိမ်ဦးနဂါး၊ လေးပါးရာသီ၊ နှိုင်ပြီစံလွတ်၊ နဂါးပတ်ကြော့ကွင်း၊ နန်းတွင်းမဥ္ဇူ၊ ထွက်ပြူမုတ်ဝ၊ ပဒုမသိဒ္ဓိ၊ မဏိကိုးပါး၊ ချယားပွင့်သေး၊ ယုန်ရေးလဝယ်၊ နေလယ်ဥဒေါင်း၊ သုံးချောင်းခြူးယှက်၊ စဝှက်ရောင်ချော၊ သဘောတမ်းခွန်၊ အနန္တဖုသျှ၊ မောရဂီဝါ၊ ဟင်္သာစာခွံ၊ ထုံးအုံတကွင်း၊ ပဇင်းတောင်ဖြန့်၊ သည်းညွန့်လက်သင်၊ ကွမ်းလင်နောက်တွဲ၊ မုတ္တာခွဲနှင့်၊ ပုလဲကွန်ချာ၊ ရတနာမဏ္ဍိုင်၊ ပွင့်ဆိုင်ပုဏ္ဍရိတ်၊ နဂါးအိတ်လေးထောင့်၊ ရှစ်မြှောင့်ပြန်ကာဘက်၊ ပန်းယှက်ခေါင်ဗွေ၊ နန်းလုံးဝေမျှ၊ မြတေစံကျော်၊ နှိုင်းမမော်ကို၊ လွမ်းတော်မမူ လှည့်ပြီလောလေ။ ဘော်ချင်းတို့လေဘော်ချင်းတို့။' ထိုဆံထုံးများမှာ သစ်စေးသားရိုးနက်ဖြင့် ပုံအမျိုးမျိုးပြုလုပ်ထားသော ပစ္စည်းတခုကို ဆံညှပ်သဖွယ်စိုက်ထောင်၍၊ ဆံမြိတ်ဖြင့် ရစ်ပတ်ထားခြင်းဖြစ်သည်။ (ပုံ — ၅။)

အင်းဝခေတ်တွင် အထက်ပါ ဆံထုံးမျိုးတို့ကိုပင် ဆက်လက်ထုံးဖွဲ့ကြသည်။ ထိုခေတ်ပေါ် မယ်ဘွဲ့ကဗျာများ၌ 'လှမျိုးကြွယ်သား၊ ဆံသွယ်မြမြိတ်စို့၊ ဆင်းရောင်ပျို့ကို' ဟူ၍၎င်း၊ 'ဆင်းစုံကြန်သား၊ အလွန်ရပေခက်၊ ပြူမြိတ်ရှက်နှင့်' ဟူ၍၎င်း၊ 'ကေသာနက်မည်း၊ ယကင်ပည်းမျှ၊ စုလည်းသွယ်ပတ်၊ မမှီတတ်၍၊ မြိတ်လွတ်မထုံး၊ ပုလဲကုံးတိ' ဟူ၍၎င်း၊ 'မဏိကိုးပါး၊ စီခြားခြယ်မြောင်၊ ခရချောင်နှင့်' ဟူ၍၎င်း စပ်ဆိုထားကြသည်ကို ထောက်ရှုသိသာနိုင်သည်။



ပြန်လည်ခေတ်စားလာသော မဟာဆန်သည့်ဗျာပါဆံ

အင်းဝခေတ်မှာပင် ဗျာပါဆံချသော အလေ့ပေါ်လာသည်ဟု ယူဆကြ၏။ ဗျာပါဆံမှာ ဆံထုံးအကြားမှ နားရွက်နှစ်ဖက်အစွန်းနောက်သို့ ချထားသော ဆံပင်များဖြစ်သည်။ အမရပူရ၊ ကုန်းဘောင်၊ မန္တလေးခေတ်တို့တိုင်အောင် ဗျာပါဆံချသော အလေ့ရှိခဲ့သည်။ (ဗျာပါဆံ — ရှု။)

အမရပူရခေတ်တွင် ဆံထုံး နောက်တွဲ ထုံးသည်ကိုလည်း တွေ့ရသည်။ ဝန်ကတော်တဦး၏ပုံတွင် တွေ့ရသော ဆံထုံးမှာ ထိပ်လယ်တွင် ရှည်မျောမျော ကွင်းသဏ္ဌာန်ဖြစ်၏။ အတွင်းဝန်ကတော် တဦးမှာကား ဦးထိပ်၌ ဆံထုံးပွံ့ပွံ့နှင့် ဗျာပါဆံချထားသည်ကိုတွေ့ရသည်။ ထိုခေတ်တွင် မင်းခမ်းဝင် ဆံထုံးတော်ခုနစ်မျိုးအဖြစ် မြိတ်ပြူ၊ မြိတ်စို၊ မြိတ်လွတ်၊ စုလည်း၊ ယကင်၊ လုံးတင်၊ မြိတ်ရစ်တို့ကို သတ်မှတ်ထားရှိလေသည်။

ကုန်းဘောင်ခေတ်တွင် ထိုဆံထုံးခုနစ်မျိုးကိုပင် ဆက်လက်ထားရှိခဲ့သည်။ ထိုအပြင် ပုပ်ထုံးဟုသော ဆံထုံးတမျိုးခေတ်စားလာပြန်သည်။ စတင်ထုံးဖွဲ့သူမှာ ရွှေဘိုမင်း၏ အနောက်နန်းမိဖုရား မမြကလေးဖြစ်သည်ဟုဆိုသည်။ ယင်းကို ပြည်မင်းသားနှင့်ကြံရာပါဟုဆို၍ ကွပ်မျက်ရန် အနောက်တံခါးမှ ထုတ်လာရာ၊ မမြကလေးသည် စိတ်မချမ်းမြေ့ခိုက်ဖြစ်သဖြင့် ဆံပင်ကို နောက်ဖက်၌ တပတ်လျှို လျော့လျော့ထုံး၍၊ ဆံမြိတ်ဖားလျားချလျက် ထွက်လာသည်။ ယင်းကဲ့သို့ ထုံးဖွဲ့သည်ကို အတုယူ၍၊ နောက်ကာလများ၌ ထုံးကြ၏။ မန္တလေးခေတ်တွင် ဗျာပါဆံနှင့်ဆံထုံးများခေတ်စား၏။ ဘီးဆံပတ် ဆံထုံးကြီးများကို ယင်းခေတ်၌ပင် စတင်တွေ့ရှိရ၏။

မြန်မာနိုင်ငံကို ဗြိတိသျှတို့ သိမ်းယူပြီးသည့်နောက်တွင် မြန်မာတို့၏ အစဉ်အလာ ဆံပင်ထုံးဖွဲ့နည်း အမျိုးမျိုးသည် တစတစနှင့် ခေတ်မှိန်လာခဲ့သည်။ ကြာကွက် ဆံရစ်ဝိုင်း ဆံထောက် စသည်တို့ကို ကျေးလက်တောရွာများ၌သာ တွေ့မြင်နိုင်ပေတော့၏။ ဆံထုံးကိုမူ မင်္ဂလာအခမ်း အနားများနှင့် ယဉ်ကျေးမှုကို ဖော်ထုတ်သော ပွဲလမ်းသဘင်များ၌ ထုံးဖွဲ့ကြ၏။

**ဆံပင်**။ ။ဆံပင်သည် လူ၏ဦးခေါင်းအရေပြားရှိ တွင်းငယ်ကလေးများမှ ပေါက်သည်။ ထိုတွင်းငယ်၏ အောက်ခြေတွင် အဖုငယ်ကလေးရှိသည်။ ဆံပင်၏အမြစ်သည် ထိုအဖုငယ်ကလေးတွင် တည်ရှိ၏။ ထိုအဖုငယ်ကလေးသည် အရောင်ဖြူ၍နူးညံ့၏။ ဆံပင်တွင်းငယ်၌ အတွင်းနှင့် အပြင်အထပ်များရှိသည်။ အတွင်းထပ်သည် ဆံပင်အမြစ်နှင့် ကပ်လျက်ရှိပြီးလျှင် ယင်း၌ အလွှာနှစ်ခုရှိသည်။ ထိုအလွှာများကို အမြစ်၏ အပြင်နှင့် အတွင်းအစွပ်များဟု ခေါ်သည်။ အမြစ်မပါသော ဆံပင်၌ အတွင်းဖက်မှ အပြင်ဖက်တိုင်အောင် ဆံပင်အူ၊ အကာ၊ အရေပါးရှိသည်။ ထိုအဖုငယ်ကလေးတွင် သွေးလွှတ်ကြောရှိသဖြင့် ဆံပင်ကို သန်အောင်လုပ်ပေးသော ပစ္စည်းသည် သွေးထဲတွင်ပါလာသည်။




**ဆံပင်ပေါက်ပုံ**

ထိုသွေးကပင် အညစ်အကြေးများကို သယ်ဆောင်သွားသည်။ ဆံပင်ကျွတ်သွားသောအခါ ထိုအဖုငယ်ကလေးမှ ဆံပင်ပြန်လည် ပေါက်လာသည်။ အစဉ်သဖြင့် ဆံပင်မပေါက်ဘဲ ထိပ်ပြောင်နေခြင်းသည် ထိုအဖုငယ်ကလေးများ ပျက်စီးသွားသောကြောင့်ဖြစ်သည်။

ဆံပင်တွင်းငယ်တိုင်းတွင် အဆီဂလင်းရှိသည်။ ထိုဂလင်းမှ ဆီကဲ့သို့သော အရည်ကို ထုတ်ပေးသဖြင့် ဆံပင်သည် ချောမွတ်နေသည်။ ဆံပင်သည် ခိုင်မာ၍ ပျော့ပျောင်း၏။ ထို့ပြင် ရုန်းကန်သတ္တိလည်း ရှိသည်။ ဆံပင်တွင် ဆဲကလေးမြောက်မြားစွာ ရှိသည်။ ဆံပင်တွင်းငယ်၌ ကြွက်သားရှိသောကြောင့် ကြောက်လန့်သောအခါ ဆံပင်ထောင်လာနိုင်လေသည်။

ဆံပင်သည် အစဉ်သဖြင့် ကျွတ်ပြီးလျှင် ပြန်ပေါက်သည်။ လူ၏ခေါင်းမှ ဆံပင်သည် ၃၊၄ နှစ်လျှင် တကြိမ်ကျ အသစ်လဲသည်ဟု ဆိုသည်။ ခေါင်း၌ ဆံပင်မပေါက်ခြင်းသည် ရောဂါရှိခြင်းကြောင့်၎င်း၊ အရေပြား အခြေအနေ ညံ့ဖျင်းခြင်းကြောင့်၎င်း၊ မျိုးရိုးဇာတိကို လိုက်ခြင်းကြောင့်၎င်း

ဖြစ်နိုင်သည်။ ကွက်၍ ဆံပင်မပေါက်ခြင်းသည် အားကုန်ခန်းခြင်းကြောင့်လည်း ဖြစ်နိုင်သည်။

လူတမျိုးနှင့်တမျိုးတွင် ဆံပင် အမျိုးအစားချင်းကွဲလွဲသည်။ ပမာအားဖြင့် နီးဂရိုးလူမျိုးတို့၏ ဆံပင်သည် သိုးမွေးကဲ့သို့ လိပ်ခွေလျက်ရှိသည်။ မွန်ဂိုးလူမျိုးတို့တွင် ကြမ်း၍သေးငယ်သော ဆံပင်ရှိသည်။ ဩစတြေးလီးယန်း တိုင်းရင်းသားတို့၏ ဆံပင်သည် ထူးခြားစွာ တွန့်လိမ်လျက်ရှိသည်။ ကော်ကေးရှန်းလူမျိုးတို့၏ ဆံပင်သည် အများအားဖြင့် ချောမွတ် တောက်ပြောင်၍ လှိုင်းကဲ့သို့တွန့်လျက်ရှိသည်။

ဆံပင်၏ လုပ်ခြင်းသည် အထူးသဖြင့် လူ၏ကျန်းမာရေးပေါ်တွင် တည်ပေသည်။ ဦးခေါင်းရေ သန့်ရှင်း၍ သွေးသည် ကောင်းစွာ လှည့်လည်လျက်ရှိလျှင် ဆံပင်ကောင်းတတ်သည်။ ရောဂါ တမျိုးမျိုးစွဲကပ်သဖြင့် သွေးညစ်ညမ်းလာလျှင် ဆံပင်၌ ထိခိုက်ခြင်းရှိတတ်သည်။ ပမာအားဖြင့် သွေးအားနည်းသူ၏ ဆံပင်သည် အရောင်မရှိဖြစ်တတ်သည်။ ကျန်းမာရေးနှင့် ညီညွတ်စွာ နေထိုင်ခြင်း၊ အိမ်ပြင်ပတွင် ကိုယ်လက်အင်္ဂါလှုပ်ရှားကစားခြင်း၊ အစားအသောက်ကို မှန်ကန်စွာ စားသောက်ခြင်း၊ စိတ်ကိုရွှင်ရွှင်လန်းလန်းထားခြင်းတို့သည် ကိုယ်ကို ကျန်းမာစေသဖြင့် ဆံပင်၏သဘာဝလုပ်ခြင်းကို အားပေးလေသည်။

ဆံပင်၏ အသွေးအရောင် ခြောက်နေလျှင် ဦးခေါင်းရေကို နှိပ်ပေးသင့်သည်။ နှိပ်ပေးရာတွင် လက်မနှစ်ချောင်းကို နားရွက်နောက်တွင် ထောက်ထားပြီးလျှင် ကျန်လက်ချောင်းများကို ငယ်ထိပ်ပေါ်တွင် ဖြန့်၍ထားကာ၊ ဦးခေါင်းရေကို လှည့်ပေးရပေမည်။ ထိုသို့ပြုလုပ်ရာ၌ ဦးခေါင်းရေသာ လှုပ်ရှားစေ၍ လက်ချောင်းထိပ်များ ရွေ့မသွားရန် သတိပြုရမည်။ ထိုနည်းဖြင့် ဦးခေါင်းရေ တခုလုံး၏ နေရာအနှံ့အပြားကို လှုပ်ရှားစေသင့်သည်။ ထို့ပြင် လက်ဖဝါးများဖြင့်လည်း ဦးခေါင်းရေကို ဖိ၍နှိပ်ပေးသင့်သည်။ လျော့နေသော ဦးခေါင်းရေကသာ တစ်ရှူးများတွင် သွေးကို လွတ်လပ်စွာ လှည့်လည်စေမည်။ ဦးခေါင်းရေ တင်းနေလျှင် သွေးသည် လွတ်လပ်စွာ မလှည့်လည်နိုင်သဖြင့် ဆံပင်သည် အမျှင်သေး၍ အားနည်းနေပေမည်။

ဦးခေါင်းရေနှင့် ဆံပင်တို့ သန့်ရှင်းနေစေရန် ခေါင်းကို လျှော်ပေးသင့်သည်။ ဖုန်နှင့်မီးခိုးပေါများသည့် မြို့ကြီးများတွင် နေထိုင်သူတို့သည် သန့်ရှင်းသော တောရွာများတွင် နေထိုင်သူတို့ထက် ပို၍အကြိမ်များများ ခေါင်းလျှော်သင့်သည်။ ထို့ပြင် ဆီများသော ဆံပင်ကိုလည်း ဆီခြောက်သော ဆံပင်ထက်ပို၍ အကြိမ်များများ ဆေးလျှော်သင့်ပေသည်။ မည်သို့ပင်ဖြစ်စေ၊ အနည်းဆုံး ရက်သတ္တနှစ်ပတ်လျှင် တကြိမ်ကျ ခေါင်းလျှော်နိုင်လျှင် ကောင်းသည်။

ခေါင်းလျှော်ရာ၌ တရော် ကင်ပွန်းကို မရနိုင်လျှင် ရေနွေးနှင့် ဆပ်ပြာဖြင့်ပင် လျှော်နိုင်ပေသည်။ အရေးကြီးသည့်အချက်မှာ ဆံပင်နှင့်ဦးခေါင်းရေကို ရေဖြင့် စင်ကြယ်သည့်တိုင်အောင် ဆေးကြောပစ်ရမည်ဖြစ်သည်။ သို့မဟုတ်က ဆပ်ပြာ၌ဖြစ်စေ၊ အခြားကျန်ရစ်သည့် ပစ္စည်းတခုခု၌ဖြစ်စေ အညစ်အကြေးများ စုဝေးနေတတ်ပေသည်။

**ဆမ္မဆန်**။ ။ဆမ္မဆန် (ရှံဆုန်) ၏အကြောင်းကို ဓမ္မဟောင်းကျမ်း၊ တရားသူကြီးမှတ်စာ အခန်းတွင် ဖော်ပြပါရှိသည်။ အဇ္ဇရီယယ် (ဣသရေလ) လူမျိုးတို့၏ ရှေးရိုးပုံပြင်တွင် ဆမ္မဆန်မှာ အလွန်ခွန်အားဗလကြီးသော သူရဲကောင်းအဖြစ် ထင်ရှားလေသည်။ ထိုအခါက အဇ္ဇရီယယ်လူမျိုးတို့မှာ ဖိလစ္စတင်း (ဖိလိတ္တိ) လူမျိုးတို့၏ လက်အောက်တွင်ရှိသည်။ ဆမ္မဆန်သည် မိမိ၏အမျိုးသားများဖြစ်သော အဇ္ဇရီယယ်လူမျိုးအား ဖိလစ္စတင်းလူမျိုးတို့၏ လက်တွင်းမှ ကယ်ရန် ကြိုးစားခဲ့သူ ဖြစ်သည်။ အနောက်တိုင်းစာပေနှင့် စကားပုံများတွင် ဆမ္မဆန်၏ခွန်အားနှင့် ဒလိုင်းလား၏ သစ္စာမဲ့ပုံများကို တင်စား၍ မကြာခဏ ထည့်သွင်းဖော်ပြလေ့ရှိ၏။

ဆမ္မဆန်သည် မိမိနှင့်ရည်ငံနေသော ဖိလစ္စတင်းအမျိုး



ခြင်္သေ့နှင့် အားချင်းဖက်ပြိုင်အနိုင်ယူနေသည့် ဆမ္မဆန်

သမီးထံသို့ အသွားတွင် လမ်း၌ ခြင်္သေ့တကောင်နှင့်တွေ့၍၊ ထိုသားရဲကို လက်ချည်းသက်သက်ဖြင့် သတ်ဖြတ်ခဲ့၏။ တခါသော်၊ ဆမ္မဆန်သည် မြေခွေး ၃၀၀ ကို ဖမ်း၍၊ အမြီးဖျားတွင် မီးတုတ်ချည်လျက် ဖိလစ္စတင်းလူမျိုးတို့၏ လယ်ယာများကို မီးရှို့ဖျက်ဆီးပစ်လေသည်။ ဖိလစ္စတင်းတို့လည်း ဆမ္မဆန်၏ ဇနီးနှင့် တကွ အိမ်သူ အိမ်သားများကို သတ်၍လက်စားချေကြ၏။ ထိုအခါ ဆမ္မဆန်သည် မြည်းမေးရိုးတချောင်းဖြင့် ဖိလစ္စတင်းအမျိုးသားတထောင်ကို ရိုက်သတ်လေသည်။

တဖန် ဆမ္မဆန်သည် ဒလိုင်းလား (ဒေလိလ) အမည်ရှိသော ဖိလစ္စတင်းအမျိုးသမီးတဦးနှင့်ရည်ငံပြန်၏။ ထိုမိန်းမသည် ဆမ္မဆန်၏ကြီးမားသော ခွန်အားသည် သူ၏ဆံပင်၌တည်ရှိကြောင်းကို သိရသဖြင့် သူအိပ်ပျော်နေခိုက် ဆံပင်ကို ရိတ်ပစ်လေသည်။ ထိုအခါ ဖိလစ္စတင်းလူမျိုးတို့သည် ဆမ္မဆန်အား ဖမ်းဆီးနိုင်ကြ၍၊ မျက်လုံးအစုံကို ဖောက်ပြီးလျှင် ထောင်သွင်းအကျဉ်းချထားကြလေသည်။

ဖိလစ္စတင်းလူမျိုးတို့၏ ဒေးဂုန် နတ်ပွဲနေ့တွင် ဆမ္မဆန်ကို ဘုရားကျောင်းထဲသို့ ခေါ်ဆောင်ခဲ့ကြလေသည်။ ဆမ္မဆန်တွင် ဆံပင်များ ပြန်၍ပေါက်လာပြီဖြစ်ရာ၊ ခွန်အားလည်း ပြန်၍ ပြည့်လာပြီဖြစ်၏။ ဘုရားကျောင်းထဲတွင် ဖိလစ္စတင်းမင်းများနှင့် ဧည့်ပရိသတ်တို့ဖြင့် ပြည့်လျက်ရှိသည်။ ဆမ္မဆန်လည်း ဘုရားကျောင်းတိုင်နှစ်ခုကို မှီလျက်ရပ်နေ၏။ ထိုနောက် ဆမ္မဆန်သည် အားကုန်သွန်၍ ထိုတိုင်များကို တွန်းလှဲ ဖြိုဖျက်လိုက်ရာ၊ ကျောင်းအဆောက်အအုံ ပြိုပျက်ပိကျ၍ သူနှင့်တကွ ဖိလစ္စတင်းလူမျိုး မြောက်မြားစွာတို့ သေကြေပျက်စီးကုန်၏။

ကဗျာစာဆိုကျော် ဂျွန် မီလတန်က ဆမ္မဆန်အကြောင်းကို ကဗျာဖွဲ့ဆိုခဲ့၏။ တေးသံစုံဇာတ်နှင့် ရုပ်ရှင်ကားများဖြင့်လည်း ဆမ္မဆန်နှင့် ဒလိုင်းလားအကြောင်းကို သရုပ်ဖော် ပြသခဲ့ကြသည်။

**ဆုံတားဆရာတော်**။ ။ရဟန်းမည် ရှင်နန္ဒမာလာ၊ တံဆိပ်မည် နရိန္ဒာဘိ သိရိသဒ္ဓမ္မဇ မဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့ရ၊ ဆုံတား ဆရာတော်သည် စဥ့်ကူးမင်း လက်ထက်၌ ထင်ရှားသော ကျမ်းတတ်ဆရာတော် ပုဂ္ဂိုလ်ကျော်တပါးဖြစ်သည်။ ဇာတိကား ဗန့်ကျီတိုက်စီရင်စု၊ ဆုံတားရွာတည်း။

စဥ့်ကူးမင်း လက်ထက်နှင့် ဘိုးတော်ဘုရား လက်ထက်တို့တွင် အတင်ဂိုဏ်း၊ အရုံဂိုဏ်းကိစ္စ၌ အဆုံးအဖြတ် ပေးရာဝယ် အကြီးအကဲ ဆရာတော်တပါးအဖြစ် ပါဝင်၍ အဆုံးအဖြတ်ပေးခဲ့၏။ ဘိုးတော်ဘုရားလက်ထက်၌ မင်းအိုဆရာတော်၊ မာန်လည်ဆရာတော်၊ မင်းရွာဆရာတော်၊ ညောင်ကန်ဆရာတော်၊ ရွှေတောင်ဆရာတော်၊ ဆင်တဲဆရာတော်၊ မဲထီးဆရာတော်၊ မှန်ကင်းဆရာတော်တို့နှင့်အတူ သာသနာတော်ကို ပြုစုစောင့်ရှောက်ရန်၊ မင်း၏အာဏာကန့် လွှဲအပ်ခြင်းကို ခံရသော သုဓမ္မာအဖွဲ့ဝင် ဆရာတော်ဖြစ်သည်။

ဆရာတော် ပြုစုခဲ့သော ကျမ်းများကား ပိဋကတ်သမိုင်း စာတန်းအရ၊ (၁) သုတ္တသင်္ဂဟပါဠိတော်နိဿယသစ် (၂) သုတ္တသင်္ဂဟအဋ္ဌကထာနိဿယ (၃) ဒွါဒသနိပါတ်ဇာတ်အဋ္ဌကထာနိဿယ (၄) တေရသနိပါတ်ဇာတ်အဋ္ဌကထာနိဿယ (၅) ဝိသုဒ္ဓိမဂ်အဋ္ဌကထာနိဿယ (၆) အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာနိဿယ (၇) အဖေဂ္ဂုသာရဒီပနီ အမေးအဖြေ (၈) သုတ်မဟာဝါအဋ္ဌကထာဂဏ္ဌိ (၉) သုတ်ပါထေယျအဋ္ဌကထာဂဏ္ဌိတို့ဖြစ်လေသည်။ ဆရာတော်သည် သက်တော် ၆၅ နှစ်၊ ဝါတော် ၄၅ ဝါတွင် ပျံလွန်တော်မူ၏။

# ဂေါ့သလူမျိုးတို့၏နေရပ်

ဆွီဒင်နိုင်ငံတွင် ဘုရင်အစိုးရစနစ်ဖြင့်အုပ်ချုပ်လျက်ရှိသော်လည်း၊ ပြည်သူတို့၏အကျိုးစီးပွားကိုပြုစုသောအုပ်ချုပ်ရေးသာလျှင်ဖြစ်ပေသည်။ ဆွီဒင်နိုင်ငံသည် ငြိမ်းချမ်းရေးကိုမြတ်နိုးသဖြင့် နှစ်ပေါင်းတရာကျော်မျှ ချမ်းသာယာလျက်ရှိခဲ့သည်။ လွန်ခဲ့သောကမ္ဘာစစ်ကြီးများတွင်လည်း ကြားနေခဲ့သည်။ သယံဇာတပစ္စည်းကြွယ်၍ စက်မှုလုပ်ငန်း၌ တိုးတက်လျက် ရှိသည်။ ဆွီဒင်နိုင်ငံတွင် လင်းနီးယပ်၊ အဲလဖရက် နိုဗဲ စသော ကမ္ဘာကျော်သိပ္ပံပညာရှင်များ ပေါ်ထွန်းခဲ့သည်။

**ဆွီဒင်နိုင်ငံ**။ ။စကန်ဒီနေးဗီးယား ကျွန်း ဆွယ်ကြီး အရှေ့ပိုင်းတခုလုံးကိုဖြန့်၍၊ ဥရောပတိုက် မြောက်ဖက်ဖျား၌ တည်ရှိသော တိုင်းပြည်သည်ကား ဆွီဒင်နိုင်ငံပင်ဖြစ်သည်။ တိုင်းပြည်၏ မြောက်ဖက်ဖျား အရပ်များ၌ နွေရာသီတွင် နေသည် တလတိုင်တိုင် မဝင်ဘဲရှိတတ်သည်။ ဆောင်းအခါတွင်မူကား နေသည် မိုးကုပ်စက်ဝိုင်းအထက်မှတလလုံးလုံး မတက်ချေ။ ဆွီဒင်နိုင်ငံရှိအခြားအရပ်များ၌ နွေရာသီတွင် တနေ့လျှင် ၂ နာရီ၊ ၃ နာရီခန့်မျှသာ မှောင်၍၊ ဆောင်းရာသီ၌မူ တနေ့လျှင် ၂ နာရီ၊ ၃ နာရီမျှသာ အလင်းရောင်ရရှိလေသည်။ (စကန်ဒီနေးဗီးယား — ရှု။)

အနောက်ဖက်တွင် နော်ဝေးနိုင်ငံရှိသည်။ နော်ဝေးနယ်စပ်တွင် ရှိသော တောင်ကုန်းမြင့်သည် အရှေ့ဖက်သို့ မတ်စောက် နိမ့်ဆင်း၍၊ တောင်ဖက်သို့ ခပ်ပြေပြေဆင်းသွား၏။ (နော်ဝေးနိုင်ငံ — လည်းရှု။) တိုင်းပြည်၏ အရှေ့ဖက်နယ်စပ်မှာ ဗော့သနီးယား ပင်လယ်ကွေ့နှင့် ထိစပ်လျက်ရှိသဖြင့် ထိုနေရာ၌လည်း မြေသည်နိမ့်၍၊ သဲဆန်သောညွန်ပျောင်း

များရှိ၏။ ပင်လယ်ကမ်းရိုးတန်းမှာတောင်ဖက်သို့ ရောက်လေလေ၊ ကျောက်ထူထပ်လေလေ ဖြစ်သည်။ ဗောလတစ်ပင်လယ်ကမ်းခြေ၌မူ ကျောက်ဆောင်နှင့် ကျွန်းငယ်ကလေးများသည် ပြည့်နှက်လျက်ရှိ၏။ အကြီးဆုံးကျွန်းများမှာအရှေ့တောင် ကမ်းရိုးတန်းအနီးရှိ အာလန်ကျွန်းနှင့် ဂေါ့တလန်ကျွန်းများဖြစ်သည်။ ပင်လယ်ကမ်းရိုးတန်းမှာမိုင်ပေါင်း ၁၄၀၀ ကျော်ရှည်၍၊ သင်္ဘောဆိပ်ကောင်းများစွာရှိလေသည်။

ဆွီဒင်နိုင်ငံကို နော်လန်၊ ဆွီအာလန်နှင့် ယတ်တလန်ဟူ၍နယ်ကြီး ၃ နယ်ခွဲထား၏။ နော်လန်နယ်ကား ဆွီဒင်နိုင်ငံမြောက်ပိုင်းဖြစ်၍ တောရိုင်းများ၊ တောင်များ အထူထပ်ဆုံး နေရာဖြစ်သည်။ လက်လူမျိုးများနေထိုင်ရာ ဒေသဖြစ်ပြီးလျှင်၊ တောရိုင်းများထဲ၌ ကီးရူးနဗာရခေါ် တောင်တန်းရှိရာ၊ ထိုတောင်မှ အလွန်ကောင်းသော သံရိုင်းများကိုတူးဖော်ရရှိလေသည်။ ထိုသံရိုင်းများကို နော်ဝေးနိုင်ငံ အတ္တလန္တိတ်သမုဒ္ဒရာ ကမ်းခြေဖက်ရှိ နားဗစ်မြို့သို့ လျှပ်စစ်မီးရထားဖြင့် တင်ပို့ပြီးနောက် နိုင်ငံခြားများသို့ တင်ပို့လေသည်။



ဆွီဒင်နိုင်ငံ တည်နေရာပြ မြေပုံ

ဆွီအာလန်နယ်မှာ ဆွီဒင်နိုင်ငံ အလယ်ပိုင်းတွင်ရှိ၍၊ တိုင်းပြည်၏ ဗဟိုအချက်အခြာဖြစ်သည်။ အင်းအိုင်ကြီးများနှင့် ထင်းရှူးတောကြီးများရှိသည်။ စိမ်းလန်းစိုပြည်သော လယ်ခင်းနှင့် လူနေအိမ်ခြေ စည်ကားသော မြို့ကြီးများလည်း ရှိ၏။ ထိုနယ်၌ပင် လူဦးရေ ၇၇၀,၀၀၀ ကျော်ရှိသော ဆွီဒင်နိုင်ငံမြို့တော် စတော့ဟုမ်းမြို့ရှိ၏။ (စတော့ဟုမ်းမြို့ — ရှု။) ထိုမြို့တော်၏ မြောက်ဖက်တွင် ရှေးအခါက ဆွီဒင်ဘုရင်ကြီးများ စံရာမြို့ဖြစ်၍၊ ယခုအခါ တက္ကသိုလ်မြို့ကြီးဖြစ်သော အပ်ဆားလားမြို့တည်ရှိ၏။ ဤနယ်မှာ ဆွီဒင်နိုင်ငံတွင် သံ၊ ကြေးနီးအစရှိသော သတ္တုများထွက်ရာ အချက်အခြာဒေသဖြစ်သည်။

ယတ်တလန်နယ်သည်ကား၊ ရှေးအခါက ဂေါ့သလူမျိုးတို့၏ အရပ်ဒေသဖြစ်သည်။ ထိုနယ်၏ ၄ ပုံ ၃ ပုံမျှသော မြေယာကို ထွန်ယက်လုပ်ကိုင်နိုင်ကြသဖြင့် ထိုနယ်သည် လယ်ယာကိုင်းကျွန်း အဖြစ်ထွန်းဆုံးဒေသဖြစ်၏။ ယတ်တလန်နယ်မှာ ပင်လယ် ၂ ခုကို မျက်နှာမူပြီးလျှင်၊ သင်္ဘောဆိပ်များစွာ ရှိသဖြင့် ထင်ရှားသော နယ်ကြီးတနယ် ဖြစ်လေသည်။ ထိုနယ်၌ရှိသော ယာ့တီဗောယီမြို့မှာ ဆွီဒင်နိုင်ငံတွင် ဒုတိယမြို့ကြီးဖြစ်၍၊ အနောက်ဖက် ပင်လယ်ကမ်းခြေပေါ်၌ တည်ရှိသည်။ ထိုမြို့မှ သစ်၊ သံနှင့် သံမဏိများကို နိုင်ငံခြားသို့ ထုတ်ယူတင်ပို့သည်။ အခြားမြို့ကြီးများမှာ ဟယ်လဆင်ဗောယီနှင့် မာလမိုစသော မြို့များဖြစ်သည်။ ဤတောင်ပိုင်းနယ်သည်ကား ဆွီဒင်နိုင်ငံတွင် လူဦးရေအထူထပ်ဆုံးဖြစ်သည်။ ယာ့တီဗောယီမြို့နှင့် စတော့ဟုမ်းမြို့ကို တူးမြောင်းကြီးဖြင့် ဆက်သွယ်ထားရာ၊ ထိုတူးမြောင်းသည် ကုန်စည် ကူးသန်းရောင်းဝယ်ရေးအတွက် အချက်အခြာလမ်းမကြီးပင်ဖြစ်လေသည်။

ဆွီဒင်နိုင်ငံတွင် သံရိုင်းအပြင် ကြေးနီ၊ ဘော်၊ သွပ်နှင့် ကန့်မှုန့်များလည်းထွက်၏။ တွင်းထွက်သတ္တုများ ကြွယ်ဝသဖြင့် တယ်လီဖုန်းကရိယာ၊ မီးပြတိုက်ကရိယာ၊ အင်ဂျင်စက်နှင့် လျှပ်စစ်ကရိယာ၊ ကြေထည်နှင့် မှန်ပစ္စည်းများ၊ စက္ကူ၊ မီးခြစ်၊ အထည် စသောပစ္စည်းများ ထုတ်လုပ်သော

စက်ရုံကြီးများ ရှိလေသည်။ သင်္ဘောဆောက်လုပ်ခြင်း လုပ်ငန်းမှာလည်း တိုးတက်လျက်ရှိသည်။ စက်မှုလုပ်ငန်း အတွက် ကျောက်မီးသွေးမရှိသဖြင့်၊ ရေအားသုံး လျှပ်စစ် ဓာတ်အားကို အသုံးပြုရ၏။

စက်မှုလုပ်ငန်းများ တိုးတက်လာသော်လည်း၊ လူဦးရေ တဝက်နီးပါးမှာ လယ်ယာလုပ်ကိုင်ကြ၏။ အာလူးနှင့် သကြားမုန်လာကို အကြီးအကျယ် စိုက်ပျိုးကြပြီးလျှင်၊ သကြားမုန်လာဥမှ သကြားချက်လုပ်သော လုပ်ငန်းကို တွင်ကျယ်စွာ လုပ်ကိုင်ကြသည်။ ကျွဲနွားများ မွေးမြူ၍၊ ထောပတ်နှင့် ဒိန်ခဲကို ဂရိတ်ဗြိတိန်နှင့် အခြားနိုင်ငံများ သို့ တင်ပို့၏။ တိုင်းပြည် တပြည်လုံး၏ ထက်ဝက်ကျော် ကျော်မျှသော မြေမှာ သစ်တောများဖုံးအုပ်လျက်ရှိသဖြင့်၊ ဆွီဒင်နိုင်ငံ၏ သစ်လုပ်ငန်းမှာ အတော်ပင်ကြီးကျယ်သည်။ သစ်တောထွက် ပစ္စည်းများဖြစ်သော သစ်၊ သစ်ပျော့ဖတ်၊ စက္ကူ၊ ပိုးတု၊ အိမ်ထောင်ပရိဘောဂ၊ မီးခြစ် စသည်တို့ကို နိုင်ငံခြားသို့ အမြောက်အမြားတင်ပို့သည်။ သစ်တောများ ပြန်လည်ထူထောင်ရေးကိစ္စကိုလည်း အစိုးရက ဂရုစိုက် ဆောင်ရွက်လျက်ရှိရာ၊ ပေါက်သော သစ်ပင်ဦးရေကို ကြည့်၍ သစ်သုံးစွဲရေးကိုပင် ကန့်သတ်ထားလေ၏။

ဆွီလူမျိုးများသည် ယဉ်ကျေးမှုတွင် အထက်တန်း ကျသော လူမျိုးတမျိုးဖြစ်ရာ၊ ပညာရေးကို အထူးဂရုစိုက် လေသည်။ အသက် ၇ နှစ်နှင့် ၁၄နှစ်အကြားရှိ ကလေး သူငယ်များအား ပညာ အခမဲ့ မသင်မနေရ ဥပဒေထုတ် ထား၏။ စတော့ဟုမ်းမြို့နှင့် ယာ့တီဗောယီမြို့များတွင် အပ်ဆားလားမြို့မှာကဲ့သို့ တက္ကသိုလ်ကျောင်းများရှိ၏။



ဆွီဒင်နိုင်ငံ စတော့ဟုမ်းမြို့တော်ရှိ လမ်းတလမ်း



ဆွီဒင်နိုင်ငံ တောမြို့ငယ်များသည် ချမ်းသာယာလှပေသည်။



စတော့ဟုမ်းမြို့ရှိ နာမည်ကျော် စကင်ဆန် လေဟာပြင်ပြတိုက်

ဆွီလူမျိုးများမှာ သိပ္ပံပညာဖက်တွင် အထူးဝါသနာထုံ၍၊ ဆွီဒင်နိုင်ငံမှ လင်းနီးယပ်နှင့် အဲလဖရက် နိုဗဲတို့ကဲ့သို့ နာမည်ကျော် သိပ္ပံပညာရှင်များ ထွန်းကားပေါ်ထွက်ခဲ့၏။ အဲလဖရက် နိုဗဲဆိုသူ ပုဂ္ဂိုလ်ကြီးကား အခြားမဟုတ်၊ ပညာအရပ်ရပ်၌ အထူးတလည် ထူးချွန်သော ပုဂ္ဂိုလ်များကို ရွေးချယ်၍ နိုဗဲဆုများချီးမြှင့်ရန် အမွေဥစ္စာ အမြောက်အမြား ထားခဲ့သော ပုဂ္ဂိုလ်ကြီးဖြစ်ပေသည်။ (နိုဗဲဆုများ — ရှု။) ဆွီဒင်နိုင်ငံတွင် အသက် ၂၃ နှစ်မှ ကျော်သော ယောကျ်ား မိန်းမများ မဲဆန္ဒပေးခွင့်ရှိ၏။ ၁၉၁၄ ခုနှစ်ကစ၍ တိုင်းပြည်တွင် အရက်သေစာကို ကန့်သတ်၍ ရောင်းချရလေသည်။

ဆွီဒင်နိုင်ငံသည် ၁၃၉၇ ခုနှစ်က နော်ဝေး၊ ဒိန်းမတ်တို့နှင့် ပူးပေါင်းခဲ့၏။ ထိုနောက် ၁၅၂၄ ခုနှစ်တွင် ဂပ်စတားဗပ်ဗာဆာဆိုသူ ခေါင်းဆောင်ကာ ဒိန်းလူမျိုးတို့ကို ပုန်ကန်၍ လွတ်လပ်သော နိုင်ငံတနိုင်ငံဖြစ်လာလေသည်။ ၁၇ ရာစုနှစ် အစလောက်တွင် တန်ခိုးကြီးသော ဥရောပနိုင်ငံကြီး တနိုင်ငံ ဖြစ်လာသည်။ နှစ်သုံးဆယ်စစ်ပွဲတွင် ဂျာမနီနိုင်ငံဖက်မှ ကူညီတိုက်ခိုက်ခဲ့၍၊ ရုရှ၊ ပိုလန်နှင့် ပရပ်ရှားနိုင်ငံများမှ နယ်မြေများကို သိမ်းယူခဲ့၏။ သို့ရာတွင် ၁၇၀၉ ခုနှစ်၌ ၁၂ ဆက်မြောက် ချားဘုရင်သည် ရုရှားနိုင်ငံတောင်ပိုင်း၌ ပီတာဘုရင်ကြီးနှင့် တိုက်ခိုက်ရာ စစ်ရေးရှုံးနိမ့်ပြီးလျှင် ဆွီဒင်နိုင်ငံမှာ တန်ခိုးမှေးမှိန်သွား၏။ ဆွီဒင်ပိုင် နယ်ပယ်များလည်း တဖြည်းဖြည်း ဆုံးရှုံးသွားတော့၏။ ၁၈၀၇–၉ ခုနှစ်တွင် ရုရှနှင့် စစ်ဖြစ်၍ အရေးရှုံးနိမ့်ရာ ဖင်းလန်နယ်ကို ရုရှနိုင်ငံသို့ ပေးအပ်လိုက်ရ၏။ သို့ရာတွင် တဖက်မှ နော်ဝေးနိုင်ငံကို ဆွီဒင်နိုင်ငံနှင့်ပေါင်း၍ အုပ်ချုပ်နိုင်ခဲ့လေသည်။ သို့သော် ၁၉၀၅ ခုနှစ်တွင် နော်ဝေးသည် ဆွီဒင်နှင့်ခွဲထွက်၍ မိမိတို့ကိုက်နှစ်သက်သူကို ဘုရင်အဖြစ် တင်မြှောက်၏။ ဆွီဒင်နိုင်ငံသည် ကမ္ဘာစစ်ကြီးများ အတွင်းတွင် ကြားနေနိုင်ငံအဖြစ် တည်ရှိခဲ့လေသည်။

စတုရန်းမိုင် ၁၇၃,၄၃၆ မိုင် ကျယ်ဝန်း၍ လူဦးရေ ၇,၁၉၂,၃၁၆ ယောက် (၁၉၅၃ ခုနှစ်) ရှိသည်။ ဆွီဒင်နိုင်ငံ မြောက်ပိုင်းတွင် လက်လူမျိုးများ နေထိုင်၍ ငါးဖမ်းခြင်း၊ အမဲလိုက်ခြင်းအလုပ်များဖြင့် အသက်မွေးမှုကာ အိုးခြေအိမ်ခြေ အတည်တကျမရှိဘဲ၊ တနေရာမှ တနေရာသို့ ရွှေ့ပြောင်းနေထိုင်လေ့ရှိကြသည်။

**ဆွီဒင်ဗော့, အီ** (ခရစ် ၁၆၈၈–၁၇၇၂)။ ။သိပ္ပံပညာရှင် တဦးဖြစ်သော အီမန်းနျူအယ် ဆွီဒင်ဗော့သည် ဆွီဒင်နိုင်ငံ စတော့ဟုမ်းမြို့၌ ဖွားရာဇာတိရှိသည်။ ယင်း၏အမည်မှာ ဆွီဒင်စကားဖြင့် ဆွေးဒင်ဗောရီဟု အသံထွက်သည်။ ဖခင်မှာ ခရစ်ယန်ဂိုဏ်းအုပ် ဘုန်းတော်ကြီးတဦးဖြစ်လေရာ၊



သိပ္ပံပညာရှင် အီမန်နျူအယ် ဆွီဒင်ဗော့

သူသည် သာသနာရေး ခေါင်းဆောင်တဦးလည်းဖြစ်ခဲ့သည်။ ဦးစွာ၌ အပ်ဆားလားတက္ကသိုလ်တွင် ပညာသင်၍၊ ယင်းမှတဖန် ဥရောပတိုက်ရှိ ယူးထရက်၊ ပါရစ်တက္ကသိုလ်များ၌၎င်း၊ ဗြိတိန်နိုင်ငံရှိ အောက်စဖို့တက္ကသိုလ်၌၎င်း၊ ဆက်လက် ပညာသင်၍၊ သင်္ချာ၊ နက္ခတ္တ ဗေဒ၊ အနာတမီ၊ ဘူမိဗေဒပညာရပ်တို့တွင် တတ်ကျွမ်းသော ပညာရှင်ဟု အများက အသိအမှတ်ပြုခြင်းကို ခံယူရသည်။ တီထွင်တတ်သော ဉာဏ်ပဋိဘာန်ရှိသည့်အလျောက်၊ ရေငုပ်သင်္ဘော၊ လေသင်္ဘော၊ ယမ်းတောင့်အိမ် တပ်ထားသော သေနတ်စသည်တို့ကို ပြုလုပ်ရန် စံနစ်ပုံစံများ ရေးဆွဲခဲ့ဘူးသည်။ သိပ္ပံပညာ အကူအညီဖြင့် ခေတ်မှီပစ္စည်းအမျိုးမျိုးကိုလည်း တီထွင်ခဲ့သည်။ လကိုကြည့်၍ မည်သည့် လောင်ဂျီတွဒ်သို့ရောက်ရှိနေကြောင်း တွက်ချက်သည့်နည်းကိုလည်း ရှာဖွေတွေ့ရှိခဲ့သည်။ ခရစ် ၁၇၁၆ ခုနှစ်မှစ၍ နှစ်ပေါင်းသုံးဆယ်မျှ သိပ္ပံပညာကျမ်းစာများကို ရေးသားပြုစုခဲ့၏။

ပညာသင်ကြားတတ်မြောက်ပြီးနောက်၊ ဦးစွာ မိမိ၏နိုင်ငံဖြစ်သော ဆွီဒင်နိုင်ငံ၌ သတ္တုတွင်းဆိုင်ရာ ဘုတ်အဖွဲ့တွင် ရာပြတ်အဖြစ်ဖြင့် နှစ်ပေါင်းများစွာ အမှုထမ်းယင်း ဥရောပတိုက်ရှိ သတ္တုတွင်း အမျိုးမျိုး၊ သတ္တုအရည်ကျိုစက် အမျိုးမျိုးတို့ကို လေ့လာခဲ့ဘူး၏။ နောင်သော်၊ ၁၇၄၇ ခုနှစ်တွင် လန်ဒန်မြို့၌ အတည်တကျနေထိုင်ခဲ့ရာ သေသည် အထိပင်ဖြစ်သည်။

ဆွီဒင်ဗော့သည် လူလတ်ပိုင်း အရွယ်သို့ရောက်သောအခါ၊ သာသနာရေးဖက်သို့ ပို၍စိတ်ညွှတ်လာသည်။ ၁၇၄၇ ခုနှစ်မှစ၍ သာသနာရေးနှင့် စပ်လျဉ်း၍ သူ၏အယူအဆတို့ကို ကျမ်းအမျိုးမျိုးဖြင့် ရေးသားဖြန့်ချိခဲ့ရာတွင် အများပင် လက်ခံလာကြသည်။ သူ၏ဝါဒကို လက်ခံသူတို့သည် ဆွီဒင်ဗော့ ကွယ်လွန်ပြီးနောက်၊ ခရစ် ၁၇၈၇ ခုနှစ်တွင် သူ၏ အမည်ကိုစွဲ၍၊ အသင်းတော်သစ်တခုကို ဖွဲ့စည်းကြသည်။ ထိုသာသနာရေး အသင်းများသည် ဆွီဒင်ဗော့၏ကျေးဇူးကြောင့် သမ္မာကျမ်းစာ၌ သာမန်လူတို့ မသိမမြင်ရသေးသော အဓိပ္ပါယ်သစ်တို့ ပေါ်လွင်လာလေသည်။ ဆွီဒင်ဗော့သည် ၁၇၇၂ ခုနှစ်တွင် လန်ဒန်မြို့၌ သေဆုံး၍၊ သူ၏ရုပ်ကလာပ်ကိုမူ ဆွီဒင်နိုင်ငံသားတို့က စတော့ဟုမ်းမြို့သို့ ယူဆောင်၍၊ မြှုပ်နှံသင်္ဂြိုဟ်လေသည်။

**ဆွေမျိုးစု။** ။ဆွေမျိုးစုသည် လွန်စွာ အရေးပါအရာရောက်သော ရှေးခေတ်၏ အခြေခံ လူမှုစံနစ်တခုဖြစ်၏။ မည်သည့်လူမျိုးတွင်မဆို ဆွေမျိုးစု အနည်းနှင့်အများ ရှိတတ်သည်။ ဆွေမျိုးစုဆိုသည်မှာ လူမျိုးတမျိုးတည်း၌ပင် ဆွေစဉ် မျိုးဆက်ကိုလိုက်၍၊ သွေးသား နီးစပ်ရာ လူများ အချင်းချင်း စည်းရုံးနေထိုင်ကြသည့်လူစုကို ခေါ်



ဆွေမျိုးစုဆိုင်ရာဝတ်စုံကို ဆင်ယင်ထားသည့် စကော့အမျိုးသားတဦး



စကော့လူမျိုး ဖရေဇာဆွေမျိုးစု စုဝေးလှည့်လည်လာစဉ်

ပေါ်ခြင်းဖြစ်သည်။ ဆွေမျိုးစုတွင် ဘေးမှဆင်းသက်သော ဆွေမျိုးစု၊ အဖိုးမှဆင်းသက်သော ဆွေမျိုးစု၊ အဖမှဆင်းသက်သော ဆွေမျိုးစုစသည်ဖြင့် အမျိုးမျိုးရှိလေသည်။

ဆွေမျိုးစုများကို ရှေးခေတ်တွင်သာမဟုတ်၊ ယခု မျက်မှောက်ခေတ်တွင်လည်း တွေ့ရှိနိုင်သည်။ စကော့တလန်ပြည်တွင် ရှေးခေတ်ကကဲ့သို့သော ဆွေမျိုးစုများကို ယခုခေတ်တွင်လည်း တွေ့ရှိနိုင်ပေသည်။ ရှေးအခါက စကော့ဆွေမျိုးစုများသည် တစုနှင့်တစု ရန်ငြိုးထားခြင်း၊ စစ်တိုက်ခြင်းများ ပြုလုပ်ခဲ့ကြ၏။ မြန်မာနိုင်ငံတွင်လည်း ချင်း၊ ကရင် စသော တောင်ပေါ်သားများထဲတွင် ဆွေမျိုးစု စံနစ်ကို အခြေတည်၍ ဖွဲ့စည်းထားသော လူမှုရေးစံနစ်ကို ယနေ့ထက်တိုင် တွေ့နိုင်လေသည်။

ဆွေမျိုးစုများမှာ တဦးနှင့် တဦး ဓလေ့ထုံးစံများတွင် မတူကြပေ။ ပမာပြရမည်ဆိုသော်၊ အချို့သော ဆွေမျိုးစုများတွင် အစုဝင် အချင်းချင်း ထိမ်းမြားလက်ထပ်ခြင်း မပြုရန်ကို တားမြစ်ထား၏။ အချို့မှာ အစုဝင် အချင်းချင်းသာ လက်ထပ်နိုင်၍၊ အခြားဆွေမျိုးစုမှ လူများနှင့် လက်ထပ်နိုင်ခွင့်မရှိပေ။အချို့သော ဆွေမျိုးစုများတွင်ကား လက်ထပ်ရေးတွင် ချုပ်ချယ်မှုများမရှိဘဲ၊ မိမိတို့သဘောအတိုင်း လက်ထပ်လိုသူနှင့် လက်ထပ်နိုင်လေသည်။

ဆွေမျိုးစုတခုတွင် မွေးဖွားခဲ့သောသူသည် မိမိ၏အသက်ထက်ဆုံး ထိုဆွေမျိုးစုဝင်အဖြစ် နေနိုင်ခွင့်ရှိသည်။ ဆွေမျိုးစုဝင်များသည် မိမိတို့ ဆွေမျိုးစု၏ အမှတ်သညာ အဖြစ်ဖြင့် အထိမ်းအမှတ် တခုခုကို တပ်ဆင်တတ်ကြ၏။ ထိုအပြင် မိမိတို့၏ ဘိုးဖအစဉ်အဆက်က ပြုလုပ်ခဲ့သော ရိုးရာ အခမ်းအနားများကို ပြုလုပ်ကြ၍၊ ဆွေမျိုးစု သီချင်းများကိုလည်း သီဆိုကြလေသည်။

ဆွေမျိုးစုတို့သည် အများအားဖြင့် ရွာတရွာတည်းတွင် စုဝေးနေထိုင်လေ့ရှိကြ၏။ ပေါင်းသင်းဆက်ဆံရေး၊ သာရေး၊ နာရေးစသော လူမှုရေးလုပ်ငန်းများတွင် တဦးနှင့်သာ သက်ဆိုင်သည်ဖြစ်စေ၊ အများနှင့် သက်ဆိုင်သည် ဖြစ်စေ၊ အားလုံးက ဝိုင်း၍လုပ်ကိုင်ပေးလေ့ရှိကြ၏။ ဆွေမျိုးစုတွင် ပါဝင်သော လူတိုင်း လူတိုင်း၌ အသက်မွေးမှု အလုပ်အကိုင် ကိုယ်စီရှိကြ၏။ ပမာဆိုသော်၊ ယောကျ်ားများသည် လယ်ယာစိုက်ပျိုးခြင်း၊ အမဲလိုက်ခြင်း စသော လုပ်ငန်းများကို လုပ်ကိုင်၍၊ မိန်းမများက အိမ်တွင် ကလေးသူငယ်များနှင့် အတူနေပြီးလျှင် ဆန်ဖွပ် မောင်းထောင်းခြင်း၊ အဝတ် အထည် ရက်လုပ်ခြင်း စသော အိမ်မှုကိစ္စအဝဝတို့ကို ဆောင်ရွက်လုပ်ကိုင်လေသည်။

ဆွေမျိုးစုဝင်တို့သည် မိမိတို့ပိုင်ဆိုင်သော နယ်ဟူ၍ သတ်မှတ်ထားသော နေရာများ အတွင်း၌သာ နေထိုင်လေ့ရှိကြ၏။ ဆွေမျိုးစုတခု ပိုင်ဆိုင်သော နယ်နှင့် အခြားအစု

တခုပိုင် နယ်စပ်ကြားတွင် ချောင်းဖြစ်စေ၊ မြစ်ဖြစ်စေ၊ တောတန်းချိုင့်ဝှမ်းတခုဖြစ်စေ ခြားလျက်ရှိတတ်၏။ ဆွေမျိုးစုဝင် တယောက်ယောက်အား အခြားအစုမှ လူတယောက်က စော်ကားနှိပ်စက်လျှင် သို့မဟုတ် တိုက်ခိုက်လျှင် အားလုံးက ဝိုင်းကူကြရသည်သာမက သားစဉ် မြေးဆက်တိုင်အောင်ပင် ရန်စမဆုံးနိုင်ဘဲ၊ တဖက်နှင့် တဖက် အပြန်အလှန် လက်စားချေခြင်းကို ပြုလုပ်တတ်ကြ၏။ တခါတရံ အကျိုးစီးပွား တူညီကြသော ဆွေမျိုးစုများသည် တစုနှင့်တစု မျိုးဆက်ခြင်းဖြင့် မဟာမိတ်ဖွဲ့ကာ သင့်မြတ်စွာ နေထိုင်ကြ၏။ ယင်းသို့ မဟာမိတ်ဖွဲ့ကာ ပူးပေါင်းခြင်းအားဖြင့် ဆွေမျိုးစုများ တိုးတက်ကြီးပွားလာ၍ မျိုးတူစုဖြစ်ပေါ် လာလေသည်။ ထိုမျိုးတူစုများ ပူးပေါင်းနေထိုင်ရာမှ တဆင့် လူမျိုးဟူ၍ ပေါ်ပေါက်လာသည်။ (မနုဿဗေဒ— ရှု)။

**ဆွင်းဗန်း, အော၊ စီ** (ခရစ် ၁၈၃၇–၁၉၀၉)။ ။အင်္ဂလိပ်လူမျိုး လက္ခဏာ ချား ဆွင်းဗန်းသည် အင်္ဂလိပ်ကဗျာဆရာတဦးဖြစ်သည်။ လန်ဒန်မြို့တွင် မွေးဖွား၍၊ အီတင်ကောလိပ်ကျောင်းနှင့် အောက်စဖို့တက္ကသိုလ်များ၌ ပညာသင်ကြားခဲ့သည်။ သို့ရာတွင် တက္ကသိုလ်မှဘွဲ့ထူးရသည်အထိ ပညာကို ဆုံးခန်းတိုင်အောင် မသင်ကြားဘဲ၊ ကျောင်းထွက်ခဲ့ရသည်။ သူကျောင်းထွက်သည့် ၁၈၆၀ ပြည့်နှစ်၌ 'မယ်တော်ဖုရား' နှင့် 'ရိုဇမန်' ခေါ် စာအုပ်နှစ်အုပ်ကို ရေးသားထုတ်ဝေလေသည်။ ထိုအခါ ဆွင်းဗန်းမှာ အသက် ၂၃ နှစ်သာ ရှိသေးသည်။ မိဖများမှာ မျိုးကောင်း ဆွေကောင်း အထက်တန်းစားများဖြစ်သည့်အပြင် သူ၏မိခင် ကိုယ်တိုင်ကလည်း လိမ္မာရေးခြား၍၊ စာပေတတ်မြောက်သူ တဦးဖြစ်ရကား၊ ဆွင်းဗန်းမှာ ငယ်စဉ်ကတည်းက မိခင်၏သွန်သင်ပြသ လမ်းညွှန်မှုကို ခံယူခဲ့ရ၏။ သူသည် ဗေလီယိုကောလိပ်ကျောင်း၌ ပညာသင်ကြားနေစဉ် ဂရိကဗျာများ၊ ပြင်သစ်နှင့် ဣတလီစာပေများကို ကောင်းစွာ လေ့လာခဲ့၏။

ဆွင်းဗန်းသည် စတူးဝပ် နန်းဆက် ဘုရင်များကို အထူးကြည်ညိုသူဖြစ်သည်။ သူသည် စကော့ဘုရင်မ မေရီအကြောင်းကို ပြဇာတ်သုံးပုဒ်ရေးခဲ့၏။ သူသည် ဘာသာစကား ငါးမျိုးကိုနှံ့နှံ့စပ်စပ် လေ့လာခဲ့ဘူးသည်။

ဆွင်းဗန်းသည် ခရစ်ယန်အယူဝါဒရေးကို လိုက်စားသူမဟုတ်ချေ။ ငယ်စဉ်ကပင် အယူဝါဒနှင့် စပ်လျဉ်းလာလျှင် အတိုက်အခံပြုခဲ့သူဖြစ်၏။ သို့သော် သူသည် အယူဝါဒရေးကို သူထင်မြင်ယူဆသည့်အတိုင်း အဘယ်အမှုပြုလျှင် အဘယ်ကဲ့သို့ခံစားရမည်ဟူသော အပြစ်တို့ကို ထူးဆန်းစွာ ဖော်ပြရေးသားသည်။ သူရေးသော 'ကဗျာများနှင့်



အင်္ဂလိပ်ကဗျာဆရာ ဆွင်းဗန်း

တေးသီချင်းများ' ဟူသော စာအုပ်တွင် သူ၏ဆန့်ကျင်ဖက် အယူဝါဒများကို တွေ့နိုင်လေသည်။

ဆွင်းဗန်းမှာ ကဗျာလက်ာဖွဲ့ဆိုမှု၌ စကားလုံးရွေး ကျွမ်းကျင်သူဖြစ်၏။ ကာရန်များကို တေးဂီတသံထွက်အောင် ရွေးချယ်စပ်ဆိုတတ်၏။ သူ၏ ကဗျာများမှာ တေးရှိုးကြီး သီချင်းခံများကဲ့သို့ ဂီတသဘောသန္ဓာယ်နေ၏။ အင်္ဂလိပ်စာပေတွင် ဆွင်းဗန်းသည် လစ်ရစ်ကဗျာများကို စပ်ဆိုရာ၌ နာမည်ထင်ရှားလေသည်။ ဆွင်းဗန်း သည်အသက်ကြီးလာသောအခါ၊ ကျန်းမာရေး ချို့တဲ့လာသဖြင့် မိတ်ဆွေရင်းတယောက်နှင့် အတူ လန်ဒန်မြို့ ပတ္တနီရပ်ကွက်တွင် အေးချမ်းစွာ နေထိုင်လေတော့သည်။ ၁၉၀၉ ခုနှစ်တွင် ကွယ်လွန်လေသည်။

**ဆွစ်, ဂျွန်နသန်** (ခရစ် ၁၆၆၇–၁၇၄၅)။ ။အင်္ဂလိပ်စာရေးဆရာ ဆွစ်သည် သူရေးသော 'ဂါလစ်ဗာ၏ခရီးစဉ်' ဟူသော စာအုပ်ကြောင့်၊ များစွာကျော်စောလေသည်။ အထူးသဖြင့် ဂါလစ်ဗာ၏ စွန့်စားခန်းတို့မှာ ကလေးတို့အဖို့ အံ့ဖွယ်ရာ ထူးဆန်းသဖြင့်၊ ကလေးငယ်တို့သည် ယင်းစာအုပ်ကို ရွှေဟောင်း ဒဏ္ဍာရီအလား ကြိုက်နှစ်သက်ကြသည်။ သို့သော် ယင်းစာအုပ်ကို ဆွစ်ရေးစဉ်က ကလေးတို့ ပျော်ရွှင်ကြစေရန် ရည်စူး၍ ရေးခြင်းမဟုတ်ဘဲ၊ သူ၏

ခေတ်တွင် ဖြစ်ပွားနေသော နိုင်ငံရေးအခြင်းအရာတို့ကို ဆင်ခြင်သုံးသပ်၍၊ လူတို့မဖွယ်မရာ ပြုကျင့်နေသော အပြုအမူများ၏ အပြစ်အနာအဆာတို့ကို ဖော်ပြကာ၊ စောင်းချိတ်ရေးသားခြင်းသာ ဖြစ်လေသည်။

ဆွစ်သည် အင်္ဂလိပ်လူမျိုး မိဘနှစ်ပါးမှ ဒဗ္ဗလင်မြို့တွင် ခရစ် ၁၆၆၇ ခုနှစ် နိုဝင်ဘာလ ၃၀ ရက်နေ့တွင် မွေးဖွားသည်။ ပညာသင်ချိန်အရွယ်၌ ဒဗ္ဗလင်မြို့ ထရင်နီတီကောလိပ်ကျောင်းတွင် ပညာသင်ယူသည်။ အသက် ၂၀ အရွယ်တွင် ဆာ ဝီလျံ တင်ပယ် အမည်ရှိသော နိုင်ငံရေးသုခမိန်တဦး၏ လက်အောက်တွင် အတွင်းရေးမှူး အဖြစ်ဖြင့် ဆောင်ရွက်ခဲ့ဘူးသည်။ ဆာ ဝီလျံ ပိုင်ဆိုင်သော လယ်မြေကိုင်းကျွန်းတို့တွင် ဆယ်နှစ်ခန့်မျှ နေထိုင်ယင်း အားလပ်သောအချိန်တို့တွင် စာများကိုရေးသားခဲ့သည်။ ဤအချက်သည် နောင်သောအခါ ဆွစ်အား စာပေလောက၌ ထင်ရှားကျော်စောစေရန် အထောက်အပံ့ ဖြစ်စေလေသည်။ ဆာ ဝီလျံသည် ဆွစ်၏အကျိုးကို လိုလားသူဖြစ်သောကြောင့် အောက်စဖို့တက္ကသိုလ်တွင် ဆက်လက်ပညာရှာစေသဖြင့်၊ ဆွစ်သည် ၁၆၉၂ ခုနှစ်တွင် မဟာဝိဇ္ဇာဘွဲ့ကို ရရှိခဲ့သည်။

၁၆၉၅ ခုနှစ်တွင် ဆာ ဝီလျံ ကွယ်လွန်သောအခါ၊ ဆွစ်သည် အင်္ဂလန် သာသနာဂိုဏ်းဝင် သိက္ခာတင် ဘုန်းတော်ကြီးဖြစ်လာသည်။ ထို့နောက် အိုင်ရာလန်ရှိ ဘုရားရှိခိုးကျောင်းတွင် သာသနာရေးကိစ္စကို ဆောင်ရွက်ရသည်။ ဤသို့ ဆောင်ရွက်နေခိုက်ဝယ်၊ ပိုက်ဆံကြေးငွေ အတန်ငယ်ချောင်လည်လာသည်နှင့် ဆွစ်သည် လန်ဒန်မြို့သို့ မကြာခဏ သွားရောက်ခဲ့သည်။ ခရစ် ၁၇၀၀ ပြည့်နှစ်၌ကား လန်ဒန်မြို့သို့ ရွှေ့ပြောင်းနေထိုင်လေသည်။



'အထေ့' စာရေးဆရာကြီး ဂျွန်နသန် ဆွစ်

လန်ဒန်မြို့၌ နေထိုင်စဉ်၊ ထိုခေတ်က စာပေအရာ၌နာမည်ကျော်များဖြစ်သော အက်ဒီဆန်နှင့် စတီးတို့နှင့် ရင်းနှီးသော မိတ်ဆွေဖြစ်ခဲ့သည်။ (အက်ဒီဆန်,ဂျိုးဇက်။ စတီး, ဆာ ရစ်ချတ် — ရှု။) ဆွစ်ကိုယ်တိုင်မှာမူကား၊ အင်္ဂလန်နိုင်ငံ၏ နိုင်ငံရေးသမားများ ရပ်ကွက်တွင် နာမည်ထင်ပေါ်လာခဲ့သည်။ ဆွစ်သည် နိုင်ငံရေးတွင် တိုရီအဖွဲ့နှင့် ပူးပေါင်းကာ၊ တိုရီအဖွဲ့၏ ဝါဒနှင့် လုပ်ငန်းစဉ်တို့ကို ထောက်ခံသောအားဖြင့် စာတမ်းများစွာတို့ကို ရေးသားခဲ့ရာ၊ ဆန့်ကျင်ဖက်ဖြစ်သော ဝစ်အဖွဲ့သည် သူ့အားများစွာ ခန့်ညားကြောက်ရွံ့ကြရသည်။ တိုရီအဖွဲ့ကလည်း သူ့အား လက်လွှတ်ရမည်ကိုများစွာစိုးရိမ်လေသည်။ ထို့ကြောင့် နိုင်ငံရေးအဖွဲ့ကြီး နှစ်ရပ်စလုံးကပင် သူ့ကိုဝိုင်းဝန်းမြှောက်စားထားလေရာ၊ သူသည် များစွာ မာနတက်ခဲ့လေသည်။နိုင်ငံရေး အဆက်အသွယ်များကို အကြောင်းပြု၍၊ ဆွစ်သည် ဒဗ္ဗလင်မြို့ စိန်ပက်ထရစ် ကသီဒရယ်ဘုရားရှိခိုးကျောင်းတွင် ဂိုဏ်းထောက်ဘုန်းကြီး ဖြစ်လာလေသည်။

လန်ဒန်မြို့ နိုင်ငံရေးလောကထဲ၌ ကျင်လည်ကျက်စားခဲ့ရာတွင် ဆွစ်သည် နိုင်ငံရေးဆောင်ရွက်သူတို့၏ အဂတိလေးပါးလိုက်စား၍၊ ပျက်စီးယိုယွင်းမှုများ၊ လောက၏ မတရားမှုနှင့် အဆင်မပြေမှုများကို မျက်ဝါးထင်ထင် ကြုံတွေ့ခဲ့လေရာ၊ ထိုချွတ်ချော် လွဲမှားနေသော ကိစ္စတို့ကို အမှန်သို့ရောက်အောင် ပြုပြင်ပေးရန် စေတနာသည် ဆွစ်၏ စာပေ အရေးအသားတို့၌ အရင်းခံ စေတနာဖြစ်လာလေသည်။ ဤကဲ့သို့ လောက၏အဆင်မပြေမှုတို့ကို ကိုယ်တွေ့ကြုံရ၍၊ ဆွစ်၏စိတ်ဓာတ်သည် အမှောင်တွင်းသို့ ရောက်နေရသည့်ပုံမှာ ဖြစ်ခဲ့သော်လည်း၊ အက်စတာ ဂျွန်ဆန်ဟု အမည်ရင်းရှိသူ စတယ်လာခေါ် မိန်းမတဦးနှင့် ခင်မင်ရင်းနှီးသည့်အဖြစ်သို့ ရောက်သောအခါ၌မူ၊ အမှောင်မှ အလင်းသို့ထွက်လာရသကဲ့သို့ရှိလေသည်။ စတယ်လာကို ဆွစ်သိရှိခဲ့သည်မှာ ဆာ ဝီလျံ တင်ပယ်၏အိမ်၌ နေစဉ်ကပင်ဖြစ်၏။ ထိုအချိန်၌ စတယ်လာသည် ရှစ်နှစ်သမီးမျှသာရှိ၍၊သူ့အား ဆွစ်ကိုယ်တိုင်ကပင် စာသင်ပေးခဲ့ရသည်။ ကြီးပြင်းလာကြသောအခါ၊ ဆွစ်သည် စတယ်လာအပေါ်၌ များစွာစွဲလမ်းခဲ့သည်။ ဆွစ်သည် စတယ်လာထံသို့ မှာတမ်းများစွာ ရေးသားပေးပို့ခဲ့သည်။ ယင်း မှာတမ်းများကို ၁၉၄၈ ခုနှစ်ကမှသာ ပုံနှိပ်ထုတ်ဝေခဲ့သည်။ ဆွစ်နှင့် စတယ်လာတို့

လက်ထပ်သည် လက်မထပ်သည်ကို သေချာစွာမသိကြရလေ။ သို့သော် အများအားဖြင့် ၁၇၁၅ ခုနှစ်တွင် လက်ထပ်ကြသည်ဟု ယူဆကြသည်။

ဆွစ်၏ အိမ်ထောင်ရေးသည် လုံးဝ ချမ်းသာသုခ ရှိသော အိမ်ထောင်ရေးဟု ဆိုရန်ခက်သည်။ ဆွစ်သည် မိတ်ဆွေတဦးအနေနှင့် အလွန်ပေါင်းသင်း၍ ကောင်းသူ ဖြစ်လင့်ကစား၊ ချစ်သူတဦးအနေနှင့်မူ မိမိချစ်သူကို ပျော်ရွှင်စွာထားတတ်ဟန်မတူချေ။ စတယ်လာနှင့် အိမ်ထောင်မပြုမီ၊ အခြားမိန်းမတဦးနှင့်လည်း ရင်းနှီးခဲ့ဘူးသည်။ ထိုမိန်းမသည် ဆွစ်ကြောင့်ပင် စိတ်သောကရောက်ကာ ၁၇၂၃ ခုနှစ်တွင် ကွယ်လွန်လေသည်။ စတယ်လာကိုယ်တိုင်ပင်လျှင်၊ ဆွစ်နှင့်စပ်လျဉ်း၍ စိတ်မချမ်းမြေ့ဘဲနှင့် ၁၇၂၈ ခုနှစ်တွင် ကွယ်လွန်ရသည်ဟုဆိုသည်။ သို့သော် ဆွစ်၏ အိမ်ထောင်သည်ဘဝမှာ များသောအားဖြင့် တိမ်မြုပ်လျက်ရှိလေရာ၊ အမှန်ကိုခန့်မှန်းရန် ခဲယဉ်းလှသည်။

သို့ရာတွင် အဆင်မပြေသော လောကတွင် အဆင်မပြေသော အိမ်ထောင်ရေးကိစ္စသည် ဆွစ်၏ စိတ္တဇ အခြေအနေကို မီးလောင်လေပင့်ပြုလုပ်လိုက်လေရာ၊ နောက်ဆုံး၌ ရူးသွပ်သွားရရှာသည်။ ဆွစ်သည် ၁၇၄၅ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့တွင် ကွယ်လွန်ရာ၊ သူ၏ရုပ်ကလာပ်ကို ဒဗ္ဗလင်မြို့ စိန်ပက်ထရစ် ကသီဒရယ်ဘုရားရှိခိုးကျောင်း၌ စတယ်လာ၏ဂူအနီးတွင်ပင် မြှုပ်နှံသင်္ဂြိုဟ်လိုက်ကြသည်။

ဆွစ်သည် အင်္ဂလိပ်စာပေလောက၌ လောကကြီး၏ အချိုးမကျ အဆင်မပြေပုံကို သရော်သော စာပေအရေးအသားတွင် ထိပ်တန်းဟု အသိအမှတ်ပြုခြင်းခံရသည်။ ဆွစ်၏ 'ထေ့' တတ်သော သဘောမှာ သေသည်အထိ ပါခဲ့သည်။ စိတ္တဇရောဂါ ဖိစီးနှိပ်စက်လေသောအခါ၊ ဆွစ်သည် သူပိုင်ပစ္စည်းဘဏ္ဍာအရပ်ရပ်ကို ဒဗ္ဗလင်မြို့၌ စိတ္တဇဆေးရုံ တည်ဆောက်ရန် အလို့ငှာ သေတမ်းစာ ရေးပေးခဲ့သည်။ ဤအကြောင်းအရာကိုရည်စူး၍၊ အင်္ဂလိပ်လူမျိုးတို့အတွက် စိတ္တဇဆေးရုံ ခပ်များများလိုလျက်ရှိကြောင်းဖြင့် ဆွစ်သည် ကဗျာတပုဒ်တွင် ငေါ့၍ရေးခဲ့သေးသည်။ ဆွစ်သည် ကမ္ဘာလောကကြီးကို အလွန်စိတ်နာခဲ့သူဖြစ်၏။ ထို့ကြောင့် လူ့ဘောင်တွင် တွေ့ရတတ်သော စိတ်သဘောထား သေးသိမ်ခြင်း၊ တရားမျှတမှု ကင်းမဲ့ခြင်း၊ သစ္စာစောင့်ထိန်းမှု မရှိခြင်း၊ ဟန်ဆောင်ခြင်း စသည်တို့ကို အလွန်တရာမုန်းတီး၍ရှာသည်။ ဤအချက်တို့ကို ပြင်းပြင်းထန်ထန် ရေရွတ်ရှုတ်ချသောအားဖြင့် 'ဂါလစ်ဗာ၏ခရီးစဉ်' ဟူသော စာအုပ်ကို ရေးသားခဲ့သည်။ ထိုစာအုပ်၌ ကျွန်ုပ်တို့က ကျွန်ုပ်တို့၏ပတ်ဝန်းကျင်လောကကို အတိုင်းမသိ အနန္တဟုထင်မြင်နေကြသည်ကို ပြောင်းပြန်ဆင်ခြင်သုံးသပ်ကြည့်သည်ရှိသော်၊ ဘာမျှ အနှစ်သာရမရှိချေဟူသော အကြောင်းကိုလည်းကောင်း၊ လူတို့၏ သေးသိမ်မှုတို့ကို တိရစ္ဆာန်တို့၏ သဘောထားမြင့်မြတ်မှုတို့နှင့် ယှဉ်ကြည့်အပ်သည်ဟူသော အချက်ကိုလည်းကောင်း၊ ဆွစ်သည် ဖော်ပြခဲ့လေသည်။ တနည်းအားဖြင့်လည်း လူဟူသည် သိမ်ဖျင်းကြစ်ဟုဆိုလျှင် အောက်အဝီစိရောက်အောင် သိမ်ဖျင်းလျှောကျနိုင်စွမ်းရှိ၍၊ မြင့်မြတ်ကြစ်ဟု ဆိုလျှင်လည်း အထက်ဘဝဂ်သို့ ရောက်အောင် တက်လှမ်းနိုင်စွမ်းရှိပုံကို ဆွစ်သည် စာပေအနုပညာဖြင့် ပြဆိုခဲ့ပေသည်။

## ဂါလစ်ဗာ၏ခရီးစဉ်

လင်မျူယယ် ဂါလစ်ဗာသည် ပညာသင်ချိန်၌ ဆရာဝန်အဖြစ်ဖြင့် အသက်မွေးရန်ရည်ရွယ်၍၊ ဆေးအတတ်ကို သင်ယူခဲ့လေသည်။ သို့ရာတွင် ပင်လယ်ရပ်ခြား တိုင်းတပါးသို့ စွန့်စားသွားရောက်လိုသော ဆန္ဒ ပြင်းပြသည်နှင့် 'အင်တီလုပ်' ခေါ် သင်္ဘောတစင်းတွင် ဆရာဝန်အဖြစ်ဖြင့် လိုက်ပါလာခဲ့လေသည်။ လမ်းခရီးတွင် သင်္ဘောပျက်သောအခါ ဂါလစ်ဗာသည် ကံကောင်းထောက်မသဖြင့်၊ ကျွန်းတကျွန်းသို့ အရောက် ကူးခပ် လာနိုင်ခဲ့လေသည်။ ထိုကျွန်းသို့ ရောက်သောအခါ၊ ဂါလစ်ဗာသည် မောပန်း၍ အိပ်ပျော်သွားလေ၏။

## လူပုတိုင်းပြည်

ဂါလစ်ဗာသည် အိပ်ရာမှနိုးသောအခါ၊ ခေါင်းထူ၍ထကြည့်၏။ သို့သော် မရချေ။ တဖန် ကိုယ်လက်တို့ကို လှုပ်ရှားကြည့်၏။ ယခင်နည်းအတိုင်းပင် လှုပ်ရှား၍မရချေ။ အကြောင်းမှာမူကား၊ ဂါလစ်ဗာ၏ ဆံပင်တို့သည် ဦးခေါင်းပတ်လည်ရှိ ငုတ်တိုင်တို့တွင် ချည်နှောင်ပြီးဖြစ်၍၊ သူ၏ တကိုယ်လုံးမှာလည်း သေးငယ်သော ကြိုးမျှင်တို့ဖြင့် ငုတ်တိုင်တွင် ချည်နှောင်ထားပြီးဖြစ်သောကြောင့်တည်း။ ဂါလစ်ဗာသည် ဤသို့ဖမ်းဆီး ချည်နှောင်ထားခြင်းခံရသည့် အကြောင်းရင်းကို တွေးတောဆင်ခြင်ဆဲတွင် သူ၏ကိုယ်ခန္ဓာပေါ်သို့ ခြောက်လက်မမျှသာ အရပ်ရှည်သော လူပုကလေးများသည် လေးမြားစွဲကိုင်လျက် တရွရွနှင့် တက်လာသည်ကို သတိပြုမိလေ၏။ ထိုအခါ ဂါလစ်ဗာသည် ကျယ်လောင်စွာ ဟစ်အော်လိုက်လေသည်။ လူပုကလေးတို့သည်လည်း ကြောက်လန့်၍ သူ၏ကိုယ်ခန္ဓာပေါ်မှ ခုန်ချ၍ ပြေးကြလေသည်။ သို့သော် နောက်ဆုံး၌ ဂါလစ်ဗာကို လူပုကလေးများသည် ဖမ်းဆီးခေါ်ဆောင်သွားလေ၏။

ထိုလူပုကလေးတို့သည်ကား လီလီပွတ်ခေါ် လူပုတိုင်းပြည်သားများ ဖြစ်ကြသတည်း။ လူပုကလေးတို့သည် ဂါလစ်ဗာအား သူတို့၏တိုင်းပြည်သို့ ခေါ်ဆောင်သွားသောအခါ၊ ဂါလစ်ဗာက ရန်တုံ့ပြန်ခြင်းမပြုနိုင်အောင်၊ ဂါလစ်ဗာ၏

မျက်နှာနှင့် လက်တို့ကို မြားဖြင့် အစဉ်မပြတ်ပစ်ခတ်ကြ၏။ ဂါလစ်ဗာကား သူတို့ကို ရန်မမူလိုဘဲ၊ အစာရေစာကိုသာ စားလိုကြောင်းဖြင့် ခြေဟန် လက်ဟန်ပြသည့်အခါမှ၊ အစားအစာတို့ကို ကျွေးမွေးလေသည်။ ဂါလစ်ဗာအတွက် အစားအစာတို့မှာ လီလီပွတ်လူမျိုးတို့အဖို့ဆိုလျှင် တောင်ပုံရာပုံမျှဖြစ်သည်။ လီလီပွတ်တို့ စားနေကျ ပေါင်မုန့်တလုံးသည် ဂါလစ်ဗာအဖို့ ယမ်းတောင့်ကလေးတတောင့်၏ ပမာဏမျှသာရှိသည်။ လီလီပွတ်တို့၏ သိုးပေါင်တပေါင်သည် မိုးစွေငှက်ငယ်၏ တောင်ပံသာသာမျှသာ ရှိသည်။

လီလီပွတ်တို့သည် ဂါလစ်ဗာအား အစာရေစာကျွေးမွေးရာတွင် အိပ်ဆေးခတ်၍ ကျွေးသဖြင့်၊ ဂါလစ်ဗာသည် အိပ်ပျော်သွားလေသည်။ ဤသို့ အိပ်ပျော်သောအခါကျမှ၊ လီလီပွတ်တို့သည် သူတို့၏ဧကရာဇ်ဘုရင်၏ အမိန့်အရ၊ ဂါလစ်ဗာကို မြင်း ၁၅၀၀ ဆွဲရသော လှည်းပေါင်း ၉၀၀ ပေါ်တွင်တင်၍၊ လီလီပွတ်မြို့တော်သို့ ချီတက်ကြလေသည်။ အစောင့်အရှောက်ပေါင်း ၅၀၀ တို့မှာ မြို့တော်သို့ ညတွင်းချင်း ခရီးပေါက်အောင် မသွားနိုင်သည်နှင့် လမ်းတွင်တည အိပ်ခဲ့ကြရသည်။

## လီလီပွတ်မြို့တော်ဝယ်

လီလီပွတ်မြို့တော်သို့ ရောက်သောအခါ၊ ဂါလစ်ဗာကို ကြီးမားသော တန်ဆောင်းကြီးတခုတွင် နေထိုင်စေသည်။ ထိုတန်ဆောင်းထဲတွင် ဂါလစ်ဗာအား မိန်းမတို့၏ဆွဲကြိုးခန့်ရှိသော သံကြိုးများဖြင့် ခြေကျဉ်းခတ်၍ ချည်နှောင်ထားလေသည်။ ဂါလစ်ဗာအိပ်ရန်အတွက် အိပ်ရာကိုမူ လီလီပွတ်လူမျိုးတို့၏ အိပ်ရာပေါင်း ၆၀၀ ကိုဆက်စပ်ပေးရသည်။ အစားအစာမှာမူကား၊ နေ့စဉ်အားဖြင့် နွားခြောက်ကောင်နှင့် သိုးကောင်ရေလေးဆယ်ဖြစ်သည်။ ပေါင်မုန့်ကား များလှစွာ၏။

လီလီပွတ်တိုင်းသူ ပြည်သားတို့သည် တောင်ကြီးတမျှ ကြီးမားလှသော ဂါလစ်ဗာ၏ သတင်းကို ကြားလတ်သောအခါ၊ အထူးအဆန်းအဖြစ်ဖြင့် လာရောက်ကြည့်ရှုကြသည်။ သို့သော် အချို့ လက်ဆော့တတ်သော လူပုကလေးများမှာ ကြည့်ရုံသာမကြည့်ဘဲ၊ ဂါလစ်ဗာကို မြားနှင့်ပစ်၍ အနှောင့်အရှက်ပေးကြလေရာ၊ လီလီပွတ် ဧကရာဇ်ဘုရင်မင်းမြတ်က ယင်းသို့အနှောင့်အရှက်မပြုကြလေရန် ကျပ်တည်းစွာ အမိန့်ထုတ်ရသောဟူ၏။ သို့နှင့်လည်း ဂါလစ်ဗာကို လာ၍ကြည့်ကြသဖြင့်၊ တိုင်းသူပြည်သားတို့ အလုပ်ပျက်ပန်များလတ်သော်၊ ဧကရာဇ်ဘုရင်မင်းမြတ်သည် တိုင်းသူပြည်သားအပေါင်းတို့ အလုပ်ပျက် အကိုင်ပျက် မဖြစ်ရစေရန် ထပ်မံပညတ်ရလေသည်။

ဂါလစ်ဗာကား သူ့ကိုအနှောင့်အရှက်ပြုသူများကိုပင်လျှင် ရန်တုံ့မူခြင်းမပြုဘဲ၊ မိတ်ဆွေကဲ့သို့ ဆက်ဆံပေါင်းသင်းနေထိုင်နိုင်ခဲ့သဖြင့် လီလီပွတ် ဘုရင်မင်းမြတ်နှင့်ပင် ချစ်ကျွမ်းတဝင်ဖြစ်ခဲ့လေသည်။ ထိုကြောင့် လီလီပွတ်နိုင်ငံတွင်းသို့ လှည့်လည်သွားလာခွင့်ကိုပင် ရလာခဲ့သည်။ သို့သော် ဂါလစ်ဗာသည် နိုင်ငံတွင်း၌လှည့်လည်သွားလာသည့်အခါ၊ လူပုကလေးများနှင့် သူတို့၏မြင်းများကိုရင်း၊ မြက်ခင်းနှင့် လယ်ကွက်များကိုရင်း မနင်းမိစေရန်နှင့် လမ်းလျှောက်သည့်အခါ လီလီပွတ်လူပုကလေးများ ကြိုတင်သိထားနိုင်ရန် အချက်ပေးပါမည်ဟု ကတိပြုရလေသည်။

## လီလီပွတ်တို့၏နိုင်ငံရေး

ဂါလစ်ဗာသည် လီလီပွတ်တို့၏ ဘာသာစကားတို့ကို တဖြည်းဖြည်းနှင့် သင်ကြား တတ်မြောက် လာပြီးလျှင်၊ ဘုရင်ဧကရာဇ်မင်း၏အလိုကိုလည်း ကောင်းစွာ သိလာလေသည်။ လီလီပွတ်တို့၏ အတိုင်းအရှည် ပမာဏအတိုင်း၊ အရာခပ်သိမ်းတို့သည် အချိုးကျတည်ရှိဖြစ်ပေါ်နေသည်ကိုလည်း တွေ့ရလေသည်။ ပမာအားဖြင့် ယင်ကောင်ငယ်မျှလောက်သော ကြက်ကိုဖျက်၍၊ ချက်ပြုတ်ရန် ခုတ်ထစ်နေသော ထမင်းချက်၏ စူးရှသောမျက်စိသည်ရင်း၊ အင်္ကျီ ဖာထေးရန်အလို့ငှာ သေးငယ်လှသော အပ်ပေါက်ထဲသို့ နဖားကြိုးထိုးနေသော အိမ်ရှင်မသည်ရင်း ဂါလစ်ဗာအဖို့ များစွာအံ့ဘနန်းဖြစ်ရလေသည်။ ထိုထက် ထူးဆန်းသည့် ကိစ္စတရပ်ကား၊ လီလီပွတ်နိုင်ငံ၏ နိုင်ငံရေးအဖွဲ့အစည်းများဖြစ်သည်။ ရှေးအစဉ်အဆက်မှ အစပြု၍ လီလီပွတ်တို့သည် ကြက်ဥကို မူဖက် (အဝိုင်းဖက်) မှသာ ခွဲ၍စားကြသည်။ သို့ရာတွင် အခါတပါး၌ မင်းသားတပါးသည် ကြက်ဥကို မူဖက်မှခွဲ၍စားရာတွင် လက်ကိုဓားရှသွားခဲ့သည်။ ထိုသည်မှစ၍၊ ဘုရင်မင်းမြတ်က နောက်နောင်တွင် ကြက်ဥကို ရေလယ်ဖက် (ထိပ်ချွန်ဖက်) မှသာ ခွဲစားရမည်ဟု အမိန့်တော်ထုတ်ပြန်လိုက်လေ၏။ ဤဘုရင့်အမိန့်ကို လိုက်နာကြသူများရှိသော်ငြားလည်း၊ ရှေးထုံးကိုမပယ်ရာဟူသောဆိုရိုးစကားအရ ရှေးအစဉ်အလာကို မပစ်ပယ်လိုသူတို့က ဘုရင့်အမိန့်ကို ဖီဆန်ကြလေသည်။ ထိုမှအစပြု၍ အတိုက်အခံဂိုဏ်းဟူ၍ ပေါ်လာလေသည်။ နောင်သောအခါ ဘုရင့်အလိုတော်ကျ ဂိုဏ်းနှင့် အာဏာဖီဆန်ရေး ဂိုဏ်းတို့သည် ပြင်းထန်စွာ တိုက်ပွဲဆင်ကြလေ၏။ ထိုတိုက်ပွဲမှာ မင်းအဆက်ဆက်၌ ဖြစ်ပွားခဲ့သဖြင့်၊ ထောင်သောင်းများစွာသော တိုင်းသူပြည်သားတို့ သေကြေ ပျက်စီးခဲ့ရသည်။ နောက်ဆုံး၌ အာဏာဖီဆန်ရေး ဂိုဏ်းသည် တိုက်ပွဲ၌ ရှုံးသဖြင့်၊ လီလီပွတ်ကျွန်း အရှေ့မြောက် ကိုက်ရှစ်ရာခန့်တွင်ရှိသော ဗလီဖတ်စကူကျွန်းသို့ ထွက်ပြေးတိမ်းရှောင်၍၊ ဗလီဖတ်စကူ ဧကရာဇ်ဘုရင်မင်းမြတ်၏ ဘုန်းတော်ရိပ်ကို

ခိုလှုံကြလေသည်။ ဤသည်မှစ၍၊ စန္ဒမာသအလိုအားဖြင့် သုံးဆယ်ခြောက်လတိုင်တိုင်၊ လီလီပွတ်နိုင်ငံတော်နှင့် ဗလီဖတ်စကူ နိုင်ငံတော်တို့သည် ပြည်ထောင်ချင်းချင်းစစ်ခင်းကြလေသတည်း။

ထိုပြင် ဂါလစ်ဗာသည် လီလီပွတ်မြို့တော်၌ နေထိုင်စဉ်၊ဂိုဏ်းကြီး နှစ်ဂိုဏ်းတို့အပြိုင်အဆိုင် ဖြစ်နေသည်ကို တွေ့ခဲ့ရသည်။ ထိုနှစ်ဂိုဏ်းမှာ 'ခုံမြင့်' ဂိုဏ်းနှင့် 'ခုံနိမ့်' ဂိုဏ်းတို့ ဖြစ်ကြသည်။ ခုံမြင့်ခုံနိမ့်ဟု သတ်မှတ်ခြင်းမှာ၊ လီလီပွတ်လူပုတို့ စီးနင်းသော ဖိနပ်၏ ခုံအမြင့် အနိမ့်ကိုစွဲ၍ သတ်မှတ်ခြင်းဖြစ်သည်။ ဂါလစ်ဗာရှိနေစဉ်က 'ခုံနိမ့်'တို့သည် အာဏာရလျက်ရှိကြသည်။ သို့သော် အိမ်ရှေ့မင်းသား ခုံမြင့်ဖက်သို့ စိတ်ညွတ်လျက်ရှိသည်။ ထိုကြောင့် အိမ်ရှေ့မင်းသည် ခုံတဖက်နိမ့်တဖက်မြင့်ဖိနပ်ကို စီး၍လမ်းလျှောက်သည့်အခါ၊ ယိုင်တိယိုင်ထိုးရှိချေသည်။

လီလီပွတ်နိုင်ငံတွင် ဂါလစ်ဗာ နေထိုင်သည်မှာ လီလီပွတ်တို့အတွက် ဒုက္ခများလှသည်။ ဂါလစ်ဗာကို ကျွေးမွေးပြုစုရသည့် တာဝန်မှာ မသေးလှပေ။ ဂါလစ်ဗာတယောက်စာသည် လူပုကလေး ၁၇၂၄ယောက်စာနှင့် ညီမျှလေရာ၊လီလီပွတ်နိုင်ငံအတွက် ဒုဗ္ဘိက္ခန္တရကပ် ဆိုက်ရောက်အံ့နီးနီးဖြစ်ခဲ့သည်။ ထိုကြောင့် ဂါလစ်ဗာသည် လီလီပွတ်နိုင်ငံမှ လှေဖြင့် ထွက်ခွာသွားရန် ရည်သန်မိ၏။ သို့သော်ဂါလစ်ဗာကို တင်ဆောင်နိုင်လောက်သော လှေ ဖောင်စသည်တို့ တည်ဆောက်ရန်အလို့ငှာ လီလီပွတ်နိုင်ငံရှိ သစ်ပင်ဝါးပင်တို့မှာ များစွာသေးလွန်းလှချေသည်။ ထိုကြောင့် ဂါလစ်ဗာသည် ထိုနိုင်ငံ၌ပင် နေထိုင်၍၊ မိမိကိုယ်ကို မိမိ ထိုနိုင်ငံအတွက်အသုံးကျအောင် ကြံဆောင်ကြိုးစားရလေသည်။



**လီလီပွတ်နိုင်ငံရောက် လူစွမ်းကောင်းကြီး ဂါလစ်ဗာ**

လူပုတိုင်းပြည် လီလီပွတ်နိုင်ငံ၏ရန်သူရေတပ်ကြီးကို ဂါလစ်ဗာသည် ဤသို့ချိပ်မြင့်ချိပ်ဆွဲ၍ လက်ရဘမ်းဆီးကာ အစွမ်းပြခဲ့သည်။

## လီလီပွတ်ရေတပ်တိုက်ပွဲ

တနေ့သောအခါ လီလီပွတ်နိုင်ငံကို ရန်သူဖြစ်သော ဗလီဖတ်စကူနိုင်ငံက ကြီးမားသော ရေတပ်ဖြင့် ကျူးကျော်တိုက်ခိုက်လေသည်။ ထိုရေတပ်ကြီး ချီတက်သည်ကို ဂါလစ်ဗာသည် နေရာကောင်းတခုမှ မှန်ပြောင်းနှင့်ကြည့်၍၊ လီလီပွတ်နိုင်ငံဖက်မှ စစ်ကူရန် အစီအစဉ်ပြုလေသည်။ ဂါလစ်ဗာသည် ချိတ်များ ကြိုးများကို ကိုင်ဆောင်၍ ဗလီဖတ်စကူ ရေတပ် ချီတက်ရာ ပင်လယ်ရေပြင်သို့ ဆင်းသွားသည်။ ထိုအခါ ဗလီဖတ်စကူရေတပ်မတော် လူပုကလေး သုံးသောင်းကျော်တို့သည် သူတို့စီးလာသော လှေသင်္ဘောတို့မှ ကြောက်လန့်တကြားခုန်ချပြီးလျှင်၊ ကမ်းသို့တက်၍၊ ဂါလစ်ဗာအား မြားနှင့်ပစ်ခတ်လေ၏။ ဂါလစ်ဗာ

ကား မျက်စိကိုမြွားမမှန်နိုင်စေရန် မျက်မှန်တပ်ထားသဖြင့်၊ ဘာမျှ အန္တရာယ်မဖြစ်ချေ။ ရန်သူ၏ ရေတပ်မတော်မှ သင်္ဘောတို့ကိုသာ တစင်းမကျန် ချိတ်ဖြင့်ချိတ်ဆွဲ၍၊ လီလီပွတ်နိုင်ငံတော် ဘုရင်ကေရာဇ်မင်းမြတ်ထံ ယူဆောင်လာခဲ့လေသည်။ ဘုရင်မင်းမြတ်လည်း နှစ်ထောင်းအားရရှိသဖြင့်၊ ဂါလစ်ဗာအား မြို့စားကြီးဘွဲ့ထူးကို ပေးသနားတော်မူလေသည်။ သို့ရာတွင် ဤအချက်သည်ပင်လျှင်၊ ဂါလစ်ဗာအား ရန်ပွားစေသော အချက်ဖြစ်လေသည်။ ယခုအခါ ဂါလစ်ဗာ၏ ပတ်ဝန်းကျင်၌ မလိုသူတို့ ဝိုင်းလျက်ရှိပြီဖြစ်သည်။ ဤအထဲတွင် ဂါလစ်ဗာသည် လီလီပွတ်ဘုရင်မင်းမြတ်အတွက် ဗလီဖတ်စကူနိုင်ငံကို လက်အောက်ခံနိုင်ငံ ဖြစ်အောင် သိမ်းပိုက်ပေးရန် ငြင်းဆန်သဖြင့်၊ ဘုရင် မင်းမြတ်လည်း ဂါလစ်ဗာအား ရာဇမာန်ရှတော်မူလေ၏။

### အောင်ပွဲမှရသောဆုလပ်

တနေ့သောအခါ ဂါလစ်ဗာအပေါ်၌ မေတ္တာထားသော မိတ်ဆွေတဦးက လီလီပွတ်ဘုရင်မင်းမြတ်သည် ဂါလစ်ဗာအား မျက်စိထိုးဖောက်၍၊ အစာရေစာ ပြတ်အောင် ထားမည် ဟူသော သတင်းစကားကို ပို့လာသဖြင့်၊ ဂါလစ်ဗာသည် ဗလီဖတ်စကူနိုင်ငံ ဖက်သို့ ထွက်ပြေးခဲ့ရလေသည်။ ထိုနိုင်ငံ၌ ဗလီဖတ်စကူလူမျိုးတို့၏ပြုစုခြင်းကို ခံနေခိုက်၊ သင်္ဘောပျက်တခုမှမျောလာသော လှေငယ်တစင်းကို တွေ့ရှိသဖြင့် ထိုလှေငယ်ဖြင့် ခရီးလွှင့်ခဲ့ရာ ကံအားလျော်စွာ အင်္ဂလန်သို့ ပြန်ရောက်လေသတည်း။



ဘီလူးတို့အလယ် ရယ်ဘွယ်ဖြစ်နေရှာသော ဂါလစ်ဗာ

ဘီလူးတို့မည်မျှကြီးမားသနည်းဆိုမူ ဂါလစ်ဗာကိုလက်ညှိုးနှင့်လက်မကြားညှပ်၍မျက်လုံးနား ကပ်ကြည့်ရာ၌ ဂါလစ်ဗာခမြာ ပေ ၆၀ မျှ မြောက်၍ပါသွားရှာလေသည်။

### ဘီလူးတိုင်းပြည်

သို့သော် ဂါလစ်ဗာသည် အင်္ဂလန်၌ ကြာရှည်စွာမနေဘဲ၊ ဒုတိယအကြိမ် ပင်လယ်ခရီးထွက်ခဲ့ပြန်၏။ ဤအကြိမ်၌ ယခင်ကထက် ထူးဆန်းသော ကျွန်းတကျွန်းသို့ ရောက်ရှိခဲ့လေသည်။ ထိုကျွန်းသူကျွန်းသားတို့မှာ ခန္ဓာကိုယ် အဆမတန်ကြီးမားသော ဘီလူးများဖြစ်ကြသည်။ ထိုကျွန်းသားတို့၏လက်သို့ ရောက်သောအခါ၊ ကျွန်းသားတို့သည် ဂါလစ်ဗာကို လက်ညှိုးနှင့် လက်မကြား၌ညှပ်၍၊ မြေပြင်မှ ကောက်ယူပြီးလျှင်၊ သူတို့၏မျက်လုံးနား၌ကပ်ပြီး ကြည့်ရာ၊ ဂါလစ်ဗာသည် ပေခြောက်ဆယ်မျှ မြောက်၍ ပါသွားလေသည်။ ထိုကျွန်းသူ ကျွန်းသားတို့ မွေးမြူသော ကြောင်တို့သည်ပင်လျှင် သာမန်လူတို့မွေးမြူသော နွားထက် သုံးဆမျှကြီးသောဟူ၏။ အချိုခွေးတို့မှာ သာမန် ဆင်လေးကောင်လောက် ကြီးမား၏။ ထိုကျွန်း၌ ရှိနေစဉ်၊ ဂါလစ်ဗာသည် သူ့အဖို့ကြီးမားသောပြဿနာအရပ်ရပ်တို့မှာ ထိုကျွန်းသားများအဖို့ အသေးအဖွဲမျှသာ ဖြစ်နေသည်ကိုတွေ့ရလေ၏။

## သုခမိန်တိုင်းပြည်

ထိုမှတဆင့် ဂါလစ်ဗာသည် နေလနက္ခတ်တာရာ စသည်တို့ကို စူးစမ်းလေ့လာသမှု ပြုနေကြကုန်သော ပညာရှိ သုခမိန်တို့၏ တိုင်းပြည်ဖြစ်သော လာပျူတာနိုင်ငံသို့ ရောက်သွားလေသည်။ ထိုနိုင်ငံ၌ မှီတင်းနေထိုင်ကြသော သုခမိန်တို့မှာ ဦးခေါင်း တဖက်စောင်းလျက် ရှိသည်ကိုငင်း၊ မျက်စိ တဖက်မှာ နဖူးဖက်သို့လန်၍၊ အခြားတဖက်မှာ နှာခေါင်းဖက်သို့ စွေနေသည်ကိုငင်း ဂါလစ်ဗာတွေ့ရသည်။



သုခမိန်တို့ စံရာ လာပျူတာနိုင်ငံမှ ရှုခင်းတရပ်

ထိုသုခမိန်တို့မှာ လောကဓာတ်ပညာနှင့် နေလနက္ခတ်တာရာကို လေ့လာသူများဖြစ်ကြ၍၊ သူတို့၏ အဝတ်အစားမှာ နေလ နက္ခတ်တာရာတို့၏ ပုံသဏ္ဍာန်ဖြင့် ခြယ်၍ထားလေသည်။ လောကီအလုပ်တို့ကို ဖယ်၍၊ ထိုထိုသော လောကဓာတ်ပညာရပ်များကိုသာ တစူးတစိုက် လိုက်စားနေကြသဖြင့်၊ သုခမိန်တို့သည် တစုံတခုကို အစဉ်အမြဲတွေးတော၍ ငိုင်နေတတ်သည်။ သတိမေ့လျော့တတ်သည်။ ထိုကြောင့် ဥစ္စာကြေးငွေတတ်နိုင်သော သုခမိန်တို့သည် သူတို့ တွေဝေငေးမောနေသည့် အဖြစ်မှ ပြန်၍သတိရလာလေအောင် ကြိုးဖြင့်ဆိုင်းထားသော ကြက်ပေါင်ဘောလုံးငယ်များဖြင့် သုခမိန်တို့၏မျက်နှာကို ရိုက်ပေးကြရသော အခိုင်းအစေများကို ငှားရမ်းထားရသည်။

## မြင်းနိုင်ငံ

နောက်ဆုံး အကြိမ် ခရီးထွက်သောအခါ၊ မြင်းတို့နေထိုင်သောနိုင်ငံသို့ ဂါလစ်ဗာရောက်လာခဲ့လေသည်။ ထိုနိုင်ငံတွင် လူတို့မှာ ယုတ်ညံ့သောအမျိုးဖြစ်သဖြင့် ယင်းတို့ကို ယာဟူးဟုခေါ်ကြ၏။ ထိုယာဟူးတို့ကား လိမ်လည်ကောက်ကျစ်၏။ မနောဆိုး၏။ သစ္စာဖောက်တတ်၏။ ရန်တွေ့ပြန်တတ်၏။ မြင်းနိုင်ငံသို့ ရောက်လာသောအခါ၊ ဂါလစ်ဗာသည်ပင်လျှင် ယာဟူးကဲ့သို့သော လူမျိုးဖြစ်သည်ဟု အထင်ရောက်ဖွယ်ရာဖြစ်လာ၏။ သို့ရာတွင် ဂါလစ်ဗာမှာ ယာဟူးတို့ထက် အဝတ်အစားတောက်ပြောင်သောကြောင့်၊ ယာဟူးများနည်းတူ အစေအပါးအလုပ်ကို လုပ်ကိုင်ရစေကာမူ၊ ကောင်းစွာပြုစုခြင်းကိုခံရသည်။ ဂါလစ်ဗာ၏ အရှင်သခင်မှာ စိတ်ထားမြင့်မြတ်သော မြင်းပုဂ္ဂိုလ်ကြီးတဦးဖြစ်၏။ ထိုပုဂ္ဂိုလ်ကြီးက ယာဟူးတို့၏ဓလေ့ကို ပြောပြသောအခါ၊ ဂါလစ်ဗာ၏စိတ်ထဲ၌ ယာဟူးတို့၏ ဓလေ့သည် အင်္ဂလန် နိုင်ငံသူ နိုင်ငံသားတို့၏ဓလေ့ထက် သာသည်ဟု ယုံမှတ်မိလေသည်။

မြင်းနိုင်ငံရှိ မြင်းတို့သည် တရားမျှတမှု၊ ယဉ်ကျေးမှုစသည်တို့၌ လူထက် သာချေသည်။ ဂါလစ်ဗာသည် မြင်းတို့၏ ဘာသာစကားကို တတ်ကျွမ်းလာသောအခါ၊ ယင်းတို့ကို အင်္ဂလန်နိုင်ငံ၏အကြောင်း ပြောပြလေသည်။ ထိုအခါ မြင်းတို့သည် အင်္ဂလန်နိုင်ငံကဲ့သို့သော လူတို့၏တိုင်းပြည်၌ စစ်မက်အင်္ဂါဖြစ်ပွားသည် ဟူသောအချက်ကို များစွာအံ့အားသင့်ကြကုန်၏။ ကျိုးကြောင်း ဆင်ခြင်တုံတရားကင်းမဲ့သူတို့သာလျှင် စစ်မက်အင်္ဂါတို့၌ မွေ့လျော်ပေလိမ့်မည်ဟု ယူဆကြကုန်၏။ ထိုပြင် မြင်းလောက၌ မုသားဟူ၍မရှိချေ။ စကားဟူသည်မှာ အမှန်တရားကိုပြောဆိုဖို့ရာ တီထွင်ထားရှိခဲ့ခြင်းဖြစ်ရကား မမှန်သည်ကို ဆိုမိသည်နှင့် တပြိုင်နက် မူလရည်ရွယ်ချက်သည် ပျက်ပြီဟု မြင်းတို့က ယူဆကြသည်။ ထိုပြင် မြင်းနိုင်ငံ၌ ငွေကြေးဟူ၍ မရှိချေ။ တစုံတယောက်သောသူသည် ပစ္စည်းတစုံတရာကို အလိုဆန္ဒ မပြည့်ဝရှိအံ့၊ ထိုအလိုဆန္ဒ မပြည့်ဝသူအား အိမ်နီးချင်းတို့သည် လိုအပ်သောပစ္စည်းတို့ဖြင့် ထောက်ပံ့လေ့ရှိကြကုန်သည်။ ဤကဲ့သို့ အထွေထွေ အထူးထူးသော ဒေသတို့၌ ဂါလစ်ဗာသည် လှည့်လည်နေထိုင်ခဲ့ပြီးနောက်၊ အင်္ဂလန်နိုင်ငံသို့ ပြန်ခွင့်ရသည်နှင့် ပြန်လာခဲ့လေသတည်း။

**ဆွစ်ဇာလန်နိုင်ငံ။** ။ဆွစ်ဇာလန်နိုင်ငံသည် ဥရောပတိုက်၏ အလယ်ဗဟိုတွင် တောင်များပတ်လည်ဝိုင်းလျက်တည်ရှိသော သမတနိုင်ငံဖြစ်သည်။ ဂျာမနီ၊ ပြင်သစ်၊ ဣတလီ၊ ဩစတြီးယား စသောနိုင်ငံကြီးများသည် ဆွစ်ဇာလန်နိုင်ငံကို လေးဖက်လေးတန်မှ ခြံရံလျက်ရှိသည်။




ဆွစ်ဇာလန်နိုင်ငံ တည်နေရာပြ မြေပုံ

သို့သော် နိုင်ငံကြီးများသည် သူတို့၏ကိုယ်ကျိုး အတွက် ထောက်မျှော်လျက်၊ ဤနိုင်ငံကို စစ်ရေးစစ်ရာနှင့် စပ်လျဉ်း၍အစဉ်ထာဝရ ကြားနေနိုင်ငံဟု အသိအမှတ်ပြုခဲ့ကြသည်။

ဆွစ်ဇာလန်နိုင်ငံမှာ အကြမ်းအားဖြင့် စက်ဝိုင်းခြမ်း ပုံသဏ္ဌာန်ရှိ၏။ တိုင်းပြည်၏ ၃ ပုံ ၂ ပုံမှာ အဲလပတောင်ကုန်းဒေသဖြစ်သည်။ (အဲလပ တောင်တန်း — ရှု။) ကျန် ၃ ပုံ ၁ ပုံမှာ မြေသြဇာကောင်းမွန် ထက်သန်သော မြေနိမ့် လွင်ပြင်များဖြစ်သည်။ ထိုလွင်ပြင်များသည် ကွန်စတန့်နှင့် ဂျီနီဗားရေအိုင်ကြီးနှစ်ခုအကြားတွင် တည်ရှိသည်။

အဓိကရ မြစ်ကြီးများမှာ ရုန်းမြစ်၊ အားမြစ်၊ ရိုင်းမြစ်၊ တီချီးနိုမြစ်တို့ ဖြစ်၏။ ရာသီဥတုမှာ နေရာကိုလိုက်၍ ကွဲပြားခြားနားလေရာ၊ မြင့်သောသေဒများ၌ နှစ်မတ်လည်ဆီး နှင်း တို့ဖြင့် ဖုံးအုပ်လျက်ရှိ၍၊ နိမ့်ရှိုင်းရာတောင်ကြားများ၌ကား ပူနွေးသည်။

တိုင်းပြည်၏ ၄ ပုံ ၁ ပုံမှာ တောများဖုံးအုပ်နေလျက်၊ ကျန် ၄ ပုံ ၁ ပုံမှာ ထွန်ယက်စိုက်ပျိုးနိုင်၏။ သို့သော် ဆွစ်လူမျိုးများသည် အလွန်အပင်ပန်းခံနိုင်၍၊ ဝီရိယကောင်းသော လူမျိုးများဖြစ်သည့်အတိုင်း၊ တောင်ကျချောင်းများ၊ ရေတံခွန်များမှ အင်အားကို ယူပြီးလျှင် စက်မှု



ဆွစ်ဇာလန်သူ လုပျိုမြူများ

အလုပ်ရုံများကို တည်ထောင်ကြ၏။ သို့ပင်ဖြစ်လင့်ကစား၊ အသီးအနှံလုံလောက်စွာ မထွက်သဖြင့် ဆွစ်ဇာလန်နိုင်ငံသည် အစားအစာအတွက် အခြားနိုင်ငံများကို မှီခိုအားထားရလေသည်။ တောနယ်ရှိ ဆွစ်လူမျိုးများမှာ အလွန်ဝီရိယကောင်း၍၊ ချွေတာ တတ်ကြသည်။ မြေကွက်တခုရှိက၊ ထိုမြေကွက်ကို အမှီပြုကာ၊ သားစဉ်မြေးဆက်အဆက်မပြတ်နေထိုင်တတ်ကြ၏။ ဂျူးရားတောင်တန်းနှင့် အဲလပတောင်တန်းများ၏ နေပူခံတောင်စောင်းများပေါ်တွင် စပျစ်နွယ်ပင်များ၊ သစ်သီးပင်များကို စိုက်ပျိုး၍၊ အရက်ချက်လုပ်၏။ (ဂျူးရားတောင်တန်း—ရှု။) ကျွဲနွားများမွေးမြူ၍၊ နွားနို့ထွက်ပစ္စည်းများကိုလည်း လုပ်ကိုင်ရောင်းချကြသည်။ ဆွစ်ဇာလန်နိုင်ငံမှ ပိုးထည်၊ ခြည်ထည်၊ နာရီနှင့် ကျောက်မျက်ရတနာများ ထွက်၏။ လှပသောသဘာဝရှုမျှော်ခင်းများ ရှိသည့်အပြင် သန့်ရှင်း အေးမြခြောက်သွေ့သောလေကောင်းလေသန့် ရနိုင်သဖြင့် ဆွစ်ဇာလန်ပြည်မှာ ကျန်းမာရေးချို့တဲ့သူများ သွားရောက်နေထိုင်ရာဖြစ်၏။ လူအများ အပျင်းပြေ သွားရောက် လည်ပတ်သော တိုင်းပြည်လည်းဖြစ်၏။ အယ်လပိုင်းတောင်တန်းကို မော်တော်ကားလမ်း၊ မီးရထားလမ်းများဖြင့် ဖြတ်ကျော်ရာ၌ စိန် ဂေါ့တတ်နှင့် ဆင်ပလွန် စသော ထင်ရှားသည့် ဥမင်လိုဏ်ခေါင်းကြီးများကို တွေ့ရှိနိုင်သည်။

ဆင်ပလွန်ဥမင်လိုဏ်ခေါင်းမှာ ၁၂ မိုင်ခွဲမျှရှည်၍၊ ကမ္ဘာပေါ်တွင် အရှည်လျားဆုံးသော လိုဏ်ခေါင်းဖြစ်၏။ ထိုလိုဏ်ခေါင်းအတွင်းရှိ လမ်းများဖြင့် ဣတလီမှ မီးရထားများသည် ဆွစ်ဇာလန်သို့ ဖြတ်သန်းသွားရလေသည်။

ဆွစ်ဇာလန်နိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ စံနစ်မှာ ပြည်ထောင်စုစံနစ်ဖြစ်သည်။ ကန်တန်ခေါ် တောင်ကြားပြည်နယ်များကို စုပေါင်း၍ဖွဲ့စည်းထားခြင်းဖြစ်၏။ ခရစ် ၁၂၉၁ ခုနှစ် ဩဂုတ်လ တရက်နေ့တွင် ဆွစ်ဇာလန်ရှိ ပြည်နယ်သုံးနယ်တို့သည် ဟက်စဗတ်ဘုရင်များ၏ နိုင်လိုမင်းထက်ပြုခြင်းမှ ကာကွယ်ရန်အလို့ငှာ ပူးပေါင်းဖွဲ့စည်းကြသည်။ ၁၃၅၃ ခုနှစ်သို့ ရောက်သော်၊ ယင်းသို့ဖွဲ့စည်းသော ပြည်နယ်တို့မှာ ရှစ်ပြည်နယ်ဖြစ်သည်။ ၁၅၁၃ ခုနှစ်၌တဖန် ၁၃ ပြည်ထောင်တိုး၍လာလေသည်။ ၁၆၄၈ ခုနှစ်တွင် ယင်းသို့ပေါင်းရုံးဖွဲ့စည်းသော ပြည်နယ်ပေါင်းချုပ်အဖွဲ့သည် ရောမသာသနာစောင့် နိုင်ငံတော်လက်အောက်မှ လွတ်မြောက်၍၊ လွတ်လပ်သော နိုင်ငံဖြစ်လာသည်။ ၁၈၀၃ ခုနှစ်၊ နပိုလီယန်ဘုရင်လက်ထက်၌ ပြည်နယ်ပေါင်း ၁၉ ပြည်နယ်တိုးလာပြန်သည်။ ၁၈၁၅ ခုနှစ်တွင် ဆွစ်ဇာလန်နိုင်ငံအား လွတ်လပ်သော ကြားနေနိုင်ငံဟူ၍ ဩစတြီးယား၊ ပြင်သစ်၊ ဗြိတိန်၊ ပေါ်တူဂီ၊ ပရပ်ရှား၊ ရုရှ၊ စပိန်နှင့် ဆွီဒင်နိုင်ငံတို့က အသိအမှတ်ပြုကြလေရာ၊ ထိုနှစ်တွင် နောက်ထပ်ပြည်နယ်



ဆွစ်ဇာလန်နိုင်ငံ အဲလပတောင်တန်း



နိုင်ငံပေါင်းချုပ်အသင်းတည်ရာ ဆွစ်ဇာလန်နိုင်ငံမှ ဂျီနီးဗားမြို့

၃ နယ်တိုးလာ၍၊ အားလုံးပြည်နယ်ပေါင်း ၂၂ နယ်ဖြစ်လာသည်။ ၁၈၄၈ ခုနှစ်တွင် နိုင်ငံခြားမှ အနှောင့်အရှက်ကင်းသော ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို သတ်မှတ်လိုက်သည်။ ၁၈၇၄ ခုနှစ် မေလ ၂၉ ရက်နေ့တွင်မူကား၊ ထိုအခြေခံဥပဒေသစ်တရပ်ကို ပြန်လည် ရေးဆွဲ ပြဋ္ဌာန်းခဲ့ရာ၊ ယနေ့တိုင် ထိုအခြေခံဥပဒေသည် တည်မြဲလျက်ရှိလေသည်။

ဆွစ်ဇာလန်နိုင်ငံတွင် အများအားဖြင့် ပြင်သစ်၊ ဣတလီနှင့် ဂျာမန်စကားတို့ကို ပြောဆိုသုံးစွဲကြ၏။ ၁၉၅၀ ပြည့်နှစ်တွင် လူဦးရေ ၄,၇၁၄,၉၉၂ ယောက်ခန့်ရှိသည်။ တိုင်းပြည်အတွင်း တက္ကသိုလ် ၇ ခုမျှရှိ၏။ မြို့တော်မှာ ဗန်းမြို့ဖြစ်သည်။ အခြားမြို့ကြီးများမှာ ဇူးရစ်၊ ဗားလ၊ ဂျီနီးဗား၊ လိုဇန်း၊ ဖရီးဗူး၊န္ဗျူရှားတဲမြို့များဖြစ်၏။ လူဦးရေ ၁၀,၀၀၀ ကျော်သော မြို့ကြီး ၂၅ မြို့ခန့်ရှိ၏။ ဂျီနီးဗားမြို့မှာ ယခင်က နိုင်ငံပေါင်းချုပ်အသင်းကြီး တည်ရာဌာနဖြစ်ခဲ့၏။ (ဂျီနီးဗားမြို့ — ရှု။)

ဆွစ်ဇာလန်နိုင်ငံမှာ အလှအပ အသုံးအဆောင်ပစ္စည်းများစွာထွက်၍၊ နာရီအမျိုးမျိုး၊ နာရီနှင့်သက်ဆိုင်သော ပစ္စည်း၊ ဓာတ်စက်၊ ခြေချင်း၊ လက်ကောက်များမှစ၍ နို့ဆီ၊ ဒိန်ခဲ၊ ချောကလက်စသော စားစရာများကို လုပ်ကိုင်ရောင်းချ၏။ (နာရီကြီးငယ်များ — ရှု။) ဆွစ်တိုင်းသူပြည်သားများတွင် မိန်းမများက အိမ်မှုကိစ္စနှင့် ရက်လုပ်ခြင်းလုပ်ငန်းများကို လုပ်ကိုင်ကြပြီးလျှင်၊ ယောကျ်ားများက အလုပ်ကြမ်းနှင့် လမ်းပြအလုပ်များကို လုပ်ကိုင်ကြသည်။

**ဆွန်ဂရမ်, လွန် ပီးဗူ** (ခရစ် ၁၈၉၇ ဖွား)။ ။ယိုးဒယားနိုင်ငံ၏ နိုင်ငံရေး ခေါင်းဆောင် တဦး ဖြစ်သော ဝန်ကြီးချုပ် ပီးဗူ ဆွန်ဂရမ်သည် ၁၈၉၇ ခုနှစ် ဇူလိုင်လ ၁၄ ရက်နေ့တွင် ယိုးဒယားနိုင်ငံ ဗန်ကောက်မြို့၌ ဖွားမြင်လေသည်။ အခြေခံပညာကို သင်ကြားတတ်မြောက်ပြီးနောက်၊ ယိုးဒယားနိုင်ငံ၌ပင် စစ်ပညာကို သင်ကြားသည်။ ထိုနောက် ပြင်သစ်နိုင်ငံ ဖောင်တိန်ဗလိုမြို့တွင် စစ်ပညာကို လေးနှစ်တာမျှလေ့လာ ဆည်းပူးခဲ့လေသည်။ သူ၏နာမည်အပြည့်အစုံမှာ လွန် ပီးဗူ ဆွန်ဂရမ်ဖြစ်သည်။ ဆွန်ဂရမ်သည် အသက်ဦးဆံပိုင် ဘုရင်စံနစ်ကို မနှစ်မြို့သည်အလျောက်၊ ယင်းစံနစ် ပပျောက်ရေးကို ကြိုးပမ်းအားထုတ်ခဲ့ရာ ၁၉၃၂ ခုနှစ်တွင် ထမြောက် အောင်မြင်လေသည်။ ထိုနောက် မာရှယ်ခေါ် စစ်သူကြီးအဖြစ် ခန့်ထားခြင်းခံရသဖြင့် စစ်တပ်ကိုလက်ကိုင်ပြုကာ အမျိုးသားစိတ်ဓာတ်လှုံ့ဆော်ရေးလုပ်ငန်းကို လုပ်ကိုင်ခဲ့လေသည်။ ၁၉၃၈ ခုနှစ် ဒီဇင်ဘာလတွင် ယိုးဒယားအစိုးရအဖွဲ့၌ ဝန်ကြီးချုပ်အဖြစ် ရွေးကောက်တင်မြှောက်ခြင်းခံရလေသည်။



၁၉၅၅ ခုနှစ် ဒီဇင်ဘာလအတွင်း မြန်မာနိုင်ငံ၌ ယိုးဒယားဝန်ကြီးချုပ် ဆွန်ဂရမ်ကို နိုင်ငံတော်သမတကြီး ဒေါက်တာ ဘဦးက ဧည့်ခံနေစဉ်

ဒုတိယ ကမ္ဘာစစ်ကြီးအတွင်းက ဆွန်ဂရမ်သည် ဂျပန်နှင့် မဟာမိတ်ပြုခဲ့၏။ ၁၉၄၁ ခုနှစ် ဒီဇင်ဘာလ ၂၀ ရက်နေ့တွင် ဂျပန်တို့နှင့် ဆယ်နှစ် မဟာမိတ်စာချုပ် ချုပ်ဆိုခဲ့သည်။ ၁၉၄၂ ခုနှစ် ဇန်နဝါရီလ ၂၅ ရက်နေ့တွင် အင်္ဂလိပ်နှင့် အမေရိကန်ကို စစ်ကျေညာခဲ့လေသည်။ ၁၉၄၄ ခုနှစ် ဇူလိုင်လတွင်ကား ဝန်ကြီးချုပ်အဖြစ်မှ နုတ်ထွက်လိုက်လေသည်။ ဂျပန်တို့စစ်ရှုံး၍ လက်နက်ချလိုက်ကြရပြီးသည့်နောက်တွင် ဆွန်ဂရမ်သည် နိုင်ငံရေးလောကထဲသို့ ပြန်လည်ဝင်ရောက်ပြီးလျှင်၊ သူခေါင်းဆောင်သော 'ထာမာထိပတ်' ပါတီကို ပြန်၍စည်းရုံးခဲ့လေသည်။ ၁၉၄၇ ခုနှစ် နိုဝင်ဘာလတွင် မာရှယ်ဆွန်ဂရမ် အုပ်ချုပ်သော ယိုးဒယားစစ်တပ်များသည် အစိုးရအဖွဲ့ကို ဖြုတ်ချပြီးလျှင်၊ ဆွန်ဂရမ်၏သူငယ်ချင်းတဦးဖြစ်သော နိုင်ခွအန် ခေါင်းဆောင်သည့် အစိုးရအဖွဲ့သစ်ကိုတင်ခဲ့ကြသည်။ သို့သော် ၁၉၄၈ ခုနှစ် ဧပြီလတွင် မာရှယ် ဆွန်ဂရမ်ကိုယ်တိုင် ခေါင်းဆောင်သော အစိုးရအဖွဲ့သစ် တက်ခဲ့လေသည်။

ဆွန်ဂရမ်သည် ၁၉၄၉ ခုနှစ် ဇွန်လတွင် အစိုးရအဖွဲ့သစ်ကို အသစ်ပြုပြင်ဖွဲ့စည်းခဲ့ရာ၊ သူကိုယ်တိုင်မှာ ဝန်ကြီးချုပ်ရာထူးအပြင် နိုင်ငံခြားရေးဝန်ကြီးရာထူးကိုလည်း ယူထားခဲ့လေသည်။ ထိုနှစ် အောက်တိုဘာလတွင် ဘဏ္ဍာရေးဌာနကိုပါ ကိုင်ခဲ့ပြန်လေသည်။

ယိုးဒယားတွင် ကုန်းတပ်နှင့် ရေတပ်မှာ အချင်းချင်း မသင့်မြတ်ဘဲ၊ မကြာခဏ ခိုက်ရန်ဖြစ်ပွားလျက်ရှိလေသည်။ ၁၉၅၁ ခုနှစ် ဇွန်လတွင် ယိုးဒယားရေတပ်က ဝန်ကြီးချုပ် ဆွန်ဂရမ်ကို လက်ရဖမ်းဆီးသွားရာ၊ ကုန်းတပ်နှင့် ရေတပ် အပြင်းအထန် ပစ်ခတ်တိုက်ခိုက်ကြလေသည်။ ယိုးဒယားနိုင်ငံ၏ မြို့တော်ဖြစ်သော ဗန်ကောက်မြို့ထဲ၌ပင် လမ်းပေါ်တိုက်ပွဲများဖြစ်ပွားခဲ့လေသည်။ သို့သော်လည်း ရက်သတ္တတပတ်ခန့် ကြာသောအခါ၊ အခြေအနေမှာ ပြန်လည်ကောင်းမွန်လာခဲ့ပြီးနောက်၊ ဆွန်ဂရမ်ကိုလည်း ရေတပ်က ပြန်လွှတ်လိုက်လေသည်။

ယိုးဒယားဝန်ကြီးချုပ် ဆွန်ဂရမ်သည် အိမ်နီးချင်းနိုင်ငံဖြစ်သော မြန်မာနိုင်ငံနှင့် ချစ်ကြည်ရေးရရှိရန် မြန်မာနိုင်ငံ ဝန်ကြီးချုပ် ဦးနုနှင့်အတူ ပူးပေါင်းဆောင်ရွက်ခဲ့၏။ ၁၉၅၅ ခုနှစ် မတ်လ ၇ ရက်နေ့တွင် မြန်မာနိုင်ငံ ဝန်ကြီးချုပ် ဦးနုသည် ဗောဓိပင်ပျိုးများကို ဗန်ကောက်မြို့သို့ပင့်ဆောင်လာခဲ့၏။ ထိုအခါ ဝန်ကြီးချုပ် ဆွန်ဂရမ်သည် မြန်မာ ဝန်ကြီးချုပ် ဦးနုနှင့်အတူ ထိုဗောဓိပင်ပျိုးတို့ကို

သီရိမဟာထတ်တန်ဆောင်း၏ဝဲယာ၌ အခမ်းအနားဖြင့် စိုက်ပျိုးခဲ့၏။ ထိုဗောဓိပင်စိုက်ပွဲတွင် မြန်မာဝန်ကြီးချုပ် ဦးနုသည် အယုဒ္ဓယမြို့ဟောင်း၌ ပျက်စီးယိုယွင်းနေသော ဘုရားတန်ဆောင်းများ ပြုပြင်ရန်အလှူတော် မြန်မာငွေ တသိန်းနှင့် ယိုးဒယားနိုင်ငံ သာသနာရေးအတွက်သုံးစွဲရန် အလှူတော် ငွေငါးသောင်းကို ယိုးဒယား ဝန်ကြီးချုပ်၏ လက်သို့ ပေးအပ်ခဲ့လေသည်။ ယိုးဒယားဝန်ကြီးချုပ်ဆွန်



ယိုးဒယားနိုင်ငံဝန်ကြီးချုပ် ပီးဗူ ဆွန်ဂရမ်

ဂရမ်က ထိုအလှူတော်ငွေများကို လက်ခံလျက် နှစ်နိုင်ငံ ချစ်ကြည်ရေးမှာ ဗောဓိပင်ပျိုးစိုက်သည့်အချိန်မှစ၍ ခိုင်ခံ့ တည်မြဲတော့မည်ဖြစ်ကြောင်းကို ပြန်လည်မိန့်ကြားခဲ့၏။

ထိုနောက် များမကြာမီ ယိုးဒယားဝန်ကြီးချုပ် ဆွန်ဂရမ်သည် မြန်မာနိုင်ငံမှ ဖိတ်ကြားချက်အရ ထိုနှစ် ဒီဇင်ဘာလ ၁၄ ရက်နေ့တွင် မြန်မာနိုင်ငံသို့ ဆိုက်ရောက်လာခဲ့၏။ ဆွန်ဂရမ်သည် ရွှေတိဂုံဘုရားအား ရွှေသင်္ကန်း ကပ်လှူရန် ငွေနှစ်သောင်းလှူခဲ့၏။ မြန်မာနိုင်ငံတော်သမတက ဆွန်ဂရမ်အား အဂ္ဂမဟာသီရိသုဓမ္မဘွဲ့ကို ချီးမြှင့်၍၊ ယိုးဒယားဝန်ကြီးချုပ်က ယိုးဒယားတွင် အမြင့်ဆုံးဘွဲ့ဖြစ်သော ဆင်ဖြူတော်ဘွဲ့ကို တုံ့ပြန် ချီးမြှင့်ခဲ့သည်။ ဒီဇင်ဘာလ ၁၆ ရက်နေ့တွင် မြန်မာနိုင်ငံ၌ ကျင်းပဆဲဖြစ်သော ဆဋ္ဌသံဂါယနာ စတုတ္ထသျှာမ (ယိုးဒယား) သန္နိပါတ သဘင်ကို အခမ်းအနားဖြင့် ဖွင့်လှစ်ရာ၌ ဝန်ကြီးချုပ်ပီးဗူ ဆွန်ဂရမ်သည် ယိုးဒယားနိုင်ငံတော်အား ကိုယ်စားပြုလေသည်။

၁၉၅၇ ခုနှစ် စက်တင်ဘာလ ၁၇ ရက်နေ့တွင် ယိုးဒယား တပ်မတော်က မာရှယ် ဆွန်ဂရမ်၏ အစိုးရလက်တွင်းမှ အာဏာကို လက်ရသိမ်းပိုက်လိုက်သည်။ မာရှယ်ဆွန်ဂရမ်လည်း ဗီယက်နမ်တောင်ပိုင်းနိုင်ငံသို့ ထွက်ပြေးခိုလှုံရလေသည်။ ယင်း၏နေရာတွင် ဆီးတိုးစာချုပ်အဖွဲ့ အတွင်းရေးမှူးအဖြစ် ဆောင်ရွက်လျက်ရှိသူ ပုတ်ဆာရာဆင်အား ခန့်ထားလိုက်၏။

**ဆွန်ပရာဘုံ**။ ။မြစ်ကြီးနားမြို့ မြောက်ဖက် ချင်းတွင်းမြစ်ဖျားနှင့် မလိခမြစ်တို့ အကြားတွင်တည်ရှိ၍၊ တောင်တန်းဝန်ထောက်တဦး အုပ်ချုပ်သော မြို့ဖြစ်သည်။မြစ်ကြီးနားမှ မြောက်ဖက် မိုင် ၈၀ ခန့်ကွာဝေးသည်။ အင်္ဂလိပ်အစိုးရလက်ထက်တွင် လွတ်လပ်ရေးကို ခုံမင်သော တောင်ပေါ် ကချင်လူမျိုးများက မကြာခဏဆူပူထကြွလေ့ရှိသဖြင့် နယ်ခြားတပ်ခွဲတခုထား၍၊ နယ်ခြားဝန်ထောက်တဦး အုပ်ချုပ်ရသော စစ်ဖက်မြို့ဖြစ်သည်။ အလွန်အေးချမ်းသည့် အပြင် သစ်တောကြီးများရှိခြင်းကြောင့် အဖျားအနာ ထူထပ်သည်။ စစ်တပ်မှတပါး ကချင်လူမျိုးများသာ နေထိုင်သောမြို့ ဖြစ်လေသည်။ (ကချင်ပြည်နယ် — ရှု။)

**ဆွန်ယတ်ဆင်၊ ဒေါက်တာ** (ခရစ် ၁၈၆၆–၁၉၂၅)။ ။ ၁၇ ရာစုနှစ်မှစ၍ တရုပ်နိုင်ငံကို စိုးမိုးအုပ်ချုပ်လာသော မန်ချူးမင်းဆက်တို့၏ ဇာကရာဇ်စနစ်ကို တော်လှန်ပြီးလျှင်၊ တရုပ်သမတနိုင်ငံကို ရှေးဦးစွာတည်ထောင်ခဲ့သောကြောင့် 'တရုပ်သမတနိုင်ငံ၏ ဖခင်ကြီး'ဟု ဥဒါန်း တွင်သော ဒေါက်တာ ဆွန်ယတ်ဆင်သည် ခရစ် ၁၈၆၆ ခုနှစ် နိုဝင်ဘာလ ၁၂ ရက်နေ့တွင် ကွမ်တန်ပြည်နယ်၊ ယခုအခါ၌ ချုံရှန်ဟုခေါ်၍၊ ရှေးအခါက အီအန်ရှန်ဟု တွင်ခဲ့သောမြို့နယ်၊ စီဟိုင်းရွာ၌ မွေးဖွားသည်။ သူ၏ဖခင်မှာ သာမန်တောင်သူလယ်သမားတဦး ဖြစ်သည်။ မူလက မိရိုးဖလာ အယူဝါဒကို ကိုးကွယ်သူဖြစ်သော်လည်း၊ လန်ဒန်မြို့ သာသနာပြုအသင်း၏ သာသနာပြုလုပ်ငန်းတို့ကြောင့်၊ ဒေါက်တာဆွန်ယတ်ဆင်၏ဖခင်သည် ခရစ်ယန်အယူဝါဒသို့ ကူးပြောင်းခဲ့လေသည်။ ဒေါက်တာဆွန်ယတ်ဆင်သည် ငယ်စဉ်က ဆွန်ဝင်းဟု အမည်တွင်သည်။ တော်လှန်ရေးလုပ်ငန်းများကို စတင်လုပ်ဆောင်ခဲ့စဉ်က မန်ချူးမင်း၏ ရာဇဝတ်ဘေးမှ ရှောင်တိမ်းရန်အလို့ငှာ၊ ဂျပန်နိုင်ငံ၌ နေသောအခါ ချုံရှန်ချီယောင်းဟူသောအမည်ကိုရင်း၊ တရုပ်နိုင်ငံ၌ နေသောအခါ ဆွန်ချုံရှန်ဟူသောအမည်ကိုရင်း ခံယူခဲ့လေသည်။



တရုပ်သမတနိုင်ငံ၏ဖခင်ကြီး ဒေါက်တာ ဆွန်ယတ်ဆင်

## လူငယ်ဘဝ

ဆွန်ယတ်ဆင် ၁၂ နှစ်သားအရွယ်ခန့် ရှိသောအခါ၊ မိခင်နှင့်အတူ ဟိုးနိုလူးလူးကျွန်းသို့လိုက်၍ အတူနေရသည်။ ၁၈၇၈ ခုမှ ၁၈၈၃ ခုအထိ ယင်းသို့ မိခင်နှင့်အတူနေထိုင်ယင်း၊ ခရစ်ယန်သာသနာပြုကျောင်းတွင် စာသင်ကြားခဲ့ရလေသည်။ ၁၈၈၄-၈၅ ခုနှစ်တွင် တရုပ်နိုင်ငံနှင့် ပြင်သစ်နိုင်ငံတို့ အချင်းပွား၍ စစ်ဖြစ်ကြသည်။ ထိုအခါ၌ကား၊ ဆွန်ယတ်ဆင်သည် ဟောင်ကောင်မြို့သို့ရောက်၍၊ ပညာဆက်လက်သင်ကြားလျက် ရှိလေပြီ။ ဒေါက်တာဆွန်ယတ်ဆင်သည် သူ၏အတ္ထုပတ္တိကို သူကိုယ်တိုင် မှတ်တမ်းတင်သောအခါ၊ '၁၈၈၅ ခုနှစ်တွင် တရုပ်နိုင်ငံကို ပြင်သစ်တို့က စစ်အောင်နိုင်လိုက်သောအခါ၊ ကျွန်ုပ်သည် မန်ချူးမင်းဆက်ကို တော်လှန်၍၊ သမတနိုင်ငံ တည်ထောင်ရန် စိတ်တွင် ပြဋ္ဌာန်းလိုက်သည်။' ဟုရေးသားထားခဲ့သည်။ ထိုစဉ်က ဆွန်ယတ်ဆင်မှာ ၁၉ နှစ်သားအရွယ်မျှသာ ရှိသေးသည်။ ထိုအခါကား၊ ကျွန်ုပ်တို့နိုင်ငံတွင် အင်္ဂလိပ် မြန်မာ တတိယစစ်ပွဲ ဖြစ်အံ့ဆဲဆဲသောအချိန်အခါတည်း။

ဆွန်ယတ်ဆင်သည် ၁၈၈၆ ခုနှစ်တွင် ကန်တုန်မြို့သို့ ပြောင်းရွှေ့ကာ၊ ပုတ်ဆိုင်ဆေးရုံတွင် ဆေးပညာသင်ကြားရန် ဝင်ရောက်ခဲ့လေသည်။ နောက်တနှစ်၌ကား ကန်တုန်မှတဖန် ဟောင်ကောင်မြို့သို့ ပြန်လည်ပြောင်းရွှေ့၍၊ အဲလစ်အထိမ်းအမှတ်ဆေးရုံတွင် ဝင်ရောက်ကာ၊ ဆေးပညာကို သင်ယူလေသည်။ ၁၈၉၂ ခုနှစ်၌ ဆေးပညာစာမေးပွဲကို အောင်မြင်၍၊ ဒေါက်တာဟူသောဘွဲ့ကို ခံယူသည်။ ဟောင်ကောင်မြို့တွင် ဒေါက်တာဆွန်ယတ်ဆင်သည် အင်္ဂလိပ်လူမျိုး ဆာဂျိမ်းကန္တလီနှင့် မိတ်ဆွေဖြစ်ခဲ့သည်။ နောင်သောအခါ ဆာဂျိမ်းသည် ဒေါက်တာဆွန်အား မိတ်ဆွေအဖြစ်ဖြင့် များစွာ အကူအညီ ပေးခဲ့လေသည်။ ထိုသို့သောလူငယ်ဘဝ၌ ဒေါက်တာဆွန်သည် အမေရိကန်ပြည်ထောင်စုနိုင်ငံ ထူထောင်ပုံကိုငင်း၊ တရုပ်နိုင်ငံ၌ နိုင်ငံခြားမှနယ်ချဲ့သူတို့ ခြယ်လှယ်နေကြပုံကိုငင်း နှိုင်းရှည့်ကြည့်ပြီးလျှင်၊ တရုပ်နိုင်ငံ လွတ်လပ်စေဖို့အရေး၌ များစွာစိတ်ဝင်စားလာခဲ့လေ၏။

## တော်လှန်ရေးသမား

ထိုကဲ့သို့သော စိတ်ဓာတ်ရှိသူ ဒေါက်တာ ဆွန် ယတ် ဆင်သည် ၁၈၉၃-၉၄ ခုနှစ်အတွင်းတွင် မန်ချူး မင်းဆက်ကို တော်လှန်ရန်အလို့ငှာ လျှို့ဝှက်သောအသင်းများ ကိုစတင်တည်ထောင်လေသည်။ ၁၈၉၄ ခုနှစ်တွင် တရုပ်နိုင်ငံနှင့် ဂျပန်နိုင်ငံတို့ စစ်ဖြစ်ကြလေသည်။ ဤအချိန်မှာဒေါက်တာ ဆွန် ယတ် ဆင် အတွက် အချက်ကောင်း ဖြစ်လေရာ၊ ဒေါက် တာ ဆွန် သည် ဟိုး နို လူး လူး ကျွန်း သို့ ပြန် လည် သွားရောက်ပြီးလျှင်၊ ပင်လယ်ရပ်ခြား တရုပ်အမျိုးသားတို့နှင့် ရှင်ချုံဟွီးခေါ် တရုပ် နိုင်ငံ ပြန် လည် ထွန်း ကား ရေးအသင်းကို တည်ထောင်လေသည်။ ထိုနှစ်အတွင်း ဂျပန်သည် တရုပ်ကို အောင်မြင်လေသည်။ ထို့ကြောင့် ရှီမိုနိုဆေကီ စာချုပ်အရ တရုပ်နိုင်ငံက ဂျပန်နိုင်ငံအား တိုင်းဝမ်ကျွန်းခေါ် ဖေါ်မိုးဆားကျွန်းနှင့် ပင်ဂူကျွန်းတို့ကို ပေးအပ်ရလေသည်။ ၁၈၉၅ ခုနှစ်တွင် ဒေါက်တာဆွန်သည် ကန်တုန်မြို့မှနေ၍ ပဌမဦးစွာ ပုန်ကန် ထကြွလေသည်။ သူနှင့်အတူ ရဲဘော်ရဲဘက်များဖြစ်သော တရုပ်အမျိုးသား ၄၀ ကျော်တို့မှာ အဖမ်းခံရပြီးလျှင်၊ အခြားကြံရာပါတို့မှာ ကွပ်မျက်ခြင်း ခံရသည်။ သူကိုယ်တိုင်မှာ တရုပ်နိုင်ငံမှ ထွက်ပြေးရသည်။ ဤသို့လျှင် ၁၈၉၅ ခုနှစ် ကန်တုန် တော်လှန်ရေးတိုက်ပွဲမှစ၍ ၁၉၁၁ ခုနှစ် ဝူချန် တော်လှန်ရေးတိုက်ပွဲတွင် ပြီးဆုံးသော ၁၆ နှစ်ကြာရှိသည့် တော်လှန်ရေးတိုက်ပွဲများသည် ဒေါက်တာ ဆွန်ယတ်ဆင်၏ ခေါင်းဆောင်မှုဖြင့် ဆက်တိုက် ပေါ်ပေါက်လာခဲ့ရလေသည်။

## စန်မင်းချူအီ

၁၈၉၆ ခုနှစ်၌ ဒေါက်တာဆွန်သည် တရုပ်နိုင်ငံမှ ထွက်ပြေးတိမ်းရှောင်ခဲ့ရာ၊ အင်္ဂလန်ပြည်သို့ ရောက်ရှိလေသည်။ ထိုနှစ်တွင် လန်ဒန်မြို့ရှိ တရုပ်နိုင်ငံ မန်ချူးဘုရင်အစိုးရ၏ သံရုံးအဖွဲ့သားများ၏ လက်တွင်းသို့ ကျဆင်းခဲ့ရသည်။ သို့ရာတွင် ဆာ ဂျိမ်း ကန္တလီ၏ ဆောင်ရွက်ချက်ကြောင့်

ဒေါက်တာဆွန်ယတ်ဆင်သည် လွတ်မြောက်လာခဲ့သည်။ လန်ဒန်မြို့တွင်နေထိုင်သော နှစ်နှစ်အတွင်းတွင် ဒေါက်တာဆွန်ယတ်ဆင်သည် တော်လှန်ရေး သဘောတရားတို့ကို လေ့လာသည်။ ထိုနောက် ဂျပန်နိုင်ငံ၊ တောင်ပင်လယ်ကျွန်းများ၊ အင်ဒိုချိုင်းနားကျွန်းဆွယ်၊ ဥရောပ၊ အမေရိကန်ပြည်ထောင်စုစသော နိုင်ငံတို့သို့ လှည့်လည်၍၊ ထိုနိုင်ငံရှိ ပင်လယ်ရပ်ခြားတရုပ်အမျိုးသားတို့ကိုစည်းရုံးပြီးလျှင်၊ တော်လှန်ရေးစိတ်ဓာတ် မျိုးစေ့တို့ကို ချခဲ့သည်။ ၁၈၉၈ ခုနှစ်တွင် ဒေါက်တာ ဆွန်ယတ်ဆင်သည် အမျိုးသားရေးအခြေခံ၊ ဒီမိုကရေစီ အခြေခံနှင့် ဆိုရှယ်လစ်ဝါဒ အခြေခံတို့ဖြင့် လုပ်ငန်းစဉ်ချမှတ်သော 'ပြည်သူတို့၏ မူသုံးချက်' ကို ကြံစည်တွေးဆ၍၊ ပြဋ္ဌာန်းလိုက်လေသည်။ နောင်သောအခါတွင် ထိုမူသုံးချက်ကို ကျမ်းတစောင်ပြု၍၊ 'စန်မင်းချူအိ' ဟု ခေါ်တွင်စေလေသည်။ ထိုမူသုံးချက်ကား တရုပ်နိုင်ငံကို နိုင်ငံရေးအရ ပြုပြင်ပြောင်းလဲစေသော အခြေခံတရား သုံးပါးဖြစ်၏။

ဒေါက်တာဆွန်ယတ်ဆင်သည် ထိုပြည်သူတို့၏ မူသုံးချက်ကို ၁၉၀၅ ခုနှစ်သို့ရောက်မှပင် အများသိအောင် ကျေညာ၍၊ လုပ်ငန်းစဉ် အနုစိတ်ကို ချမှတ်ခဲ့သည်။ ဤသည်မှစ၍ ဥရောပနှင့် ဂျပန်နိုင်ငံတို့တွင် ချူန်ကို တုန်မင်ဟွီခေါ် တရုပ်တော်လှန်ရေး အသင်းများကို တည်ထောင်ခဲ့လေသည်။ ဤအချက်ကြောင့် မန်ချူးဘုရင်အစိုးရသည် ဒေါက်တာဆွန်ယတ်ဆင်ကို ဖမ်းရန်အတွက် ပေါင်တသိန်းနှင့်ညီမျှသော ဆုငွေအရပ်ရပ်တို့ကို ကျေညာခဲ့၏။

ဒသမလ ဒသမနေ့

ဤအတွင်း တရုပ်နိုင်ငံရှိ ပြည်နယ်အနှံ့အပြား၌ တော်လှန်ရေးတိုက်ပွဲများ ဖြစ်ပွားခဲ့၏။ ၁၉၁၁ ခုနှစ် မတ်လတွင် ဖြစ်ပွားသော ကန်တုန်တိုက်ပွဲ၌ တရုပ်အမျိုးသားတော်လှန်ရေးသမားတို့ မြောက်မြားစွာ ကျဆုံးခဲ့သည်။ ဤသည်ကို ရည်စူး၍၊ ကန်တုန်မြို့မြောက်ဖက် ဟွာကန်အရပ်တွင် အာဇာနည် ၇၂ ဦးတို့၏ အထိမ်းအမှတ်ဗိမာန်ကို တည်ဆောက် ထားလေသည်။ ဤတိုက်ပွဲကား ဆယ်ကြိမ်မြောက်တိုက်ပွဲ ဖြစ်၏။ သို့ရာတွင် မအောင်မြင်ချေ။ တရုပ်လ ၁၀ လမြောက်၊ ၁၀ ရက်နေ့၌ကား ဝူချန်မြို့မှ အစပြု၍ တော်လှန်ရေးတိုက်ပွဲ ဆင်သည်တွင် ပြည်နယ် ၁၅ နယ်တို့သို့ တိုက်ပွဲများ တမုဟုတ်ခြင်း ပျံ့နှံ့သွားပြီးလျှင်၊ နောက်ဆုံး၌ အောင်မြင်လေသည်။ ဤအောင်မြင်သောနေ့ကို တရုပ်အမျိုးသားတို့အခေါ် အဝေါ်အားဖြင့် ဒသမလ ဒသမနေ့၊ တနည်းအားဖြင့်၊ ဆယ်လ ဆယ်ရက်ဟူ၍ ခေါ်ဆိုကြလေသည်။ ထိုဝူချန်တိုက်ပွဲ အပြီးတွင် တော်လှန်ရေးသမားတို့သည် ဒေါက်တာဆွန်ယတ်ဆင်အား တရုပ်သမတနိုင်ငံ၏ယာယီသမတအဖြစ် တင်မြှောက်သည်ဟု ကျေညာလေ၏။ ထိုအချိန်တွင် ဒေါက်တာဆွန်ယတ်ဆင်သည် အင်္ဂလန်ပြည်၌ပင် ရှိနေခဲ့ရာမှ တရုပ်နိုင်ငံသို့ ချက်ခြင်းပြန်လာခဲ့ရ၏။ ထိုနောက် ၁၉၁၂ ခုနှစ် ဇန်နဝါရီလ တရက်နေ့တွင် နန်ကင်းမြို့၌ ဒေါက်တာဆွန်ယတ်ဆင်သည် ယာယီသမတရာထူးကို လက်ခံလိုက်လေသည်။ ထိုအခိုက်တွင် မန်ချူးဘုရင်လည်း နန်းဆင်းပေးမည်ဟု ကတိပြု၍၊ သူ၏စစ်ဗိုလ်ချုပ်တဦးဖြစ်သူ ယွန်ရှီကိုင်အား ဒေါက်တာဆွန်ယတ်ဆင်နှင့် စေ့စပ်ရန် စေလွှတ်လေသည်။ ဒေါက်တာဆွန်ယတ်ဆင်မှာ ထိုယွန်ရှီကိုင်ကို သိမ်းသွင်းနိုင်ရန် အလို့ငှာ စေ့စပ်ချက်ကို လက်ခံသည်။ သို့နှင့်ပင် ၁၉၁၂ ခုနှစ် ဖေဖွာရီလ ၁၂ ရက်နေ့တွင် မန်ချူးမင်းသည် ထီးနန်းစွန့်ပြီဟု ကျေညာပြီးသော်၊ မတ်လ ၁၁ ရက်နေ့၌ တရုပ်ယာယီသမတနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေသည် အတည်ဖြစ်လာ၍၊ ဒေါက်တာဆွန်ယတ်ဆင်လည်း ဧပြီလ ၁ ရက်နေ့တွင် ရာထူးမှ နုတ်ထွက်ပေးကာ၊ ယွန်ရှီကိုင်ကို သမတ တင်မြှောက်လိုက်လေသည်။ ထိုနှစ်၌ပင်လျှင် တရုပ်တော်လှန်ရေးအသင်းသည် အခြားနိုင်ငံရေးအသင်းများနှင့် စုပေါင်းကာ ကူအိုမင်တန်အသင်း အဖြစ်သို့ ပြောင်းလဲ ဖွဲ့စည်းလိုက်လေသည်။

ပြည်တွင်းစစ်

ဆွန်ယတ်ဆင်သည် ယွန်ရှီကိုင်၏ အစိုးရအဖွဲ့ထဲတွင် သယ်ယူပို့ဆောင်ရေး ဌာနကို အုပ်ချုပ်လျက်ပူးပေါင်းဆောင်ရွက်နေသော်ငြားလည်း၊ တုရင် စံနစ်ကို ပြန်လည်ထူထောင်ရန် ဝါဒရှိသော ယွန်ရှီကိုင်နှင့် သဘော ကွဲလွဲလာခဲ့သည်။ မူလက ဖွဲ့စည်းခဲ့သော ကူအိုမင်တန်အဖွဲ့သည်လည်း ဒေါက်တာဆွန်ယတ်ဆင် ချမှတ်ခဲ့သော တော်လှန်ရေးလမ်းစဉ်တို့ကို စွန့်လွှတ်စ ပြုလာသည်။ ထိုကြောင့် ဒေါက်တာ ဆွန်သည် တရုပ်နိုင်ငံတောင်ပိုင်းကို စည်းရုံး၍၊ ယွန်ရှီကိုင် အစိုးရကို တော်လှန်ခဲ့ရပြန်သည်။ ဤသည်တွင် ယွန်ရှီကိုင်၏ ဩဇာညောင်းသော တရုပ်နိုင်ငံမြောက်ပိုင်းနှင့် ဒေါက်တာဆွန်ယတ်ဆင်၏ ဩဇာညောင်းသော တရုပ်နိုင်ငံတောင်ပိုင်းတို့သည် ပြည်တွင်းစစ်ကို ဆင်နွှဲကြလေသည်။ သို့ရာတွင် ဒေါက်တာဆွန်ယတ်ဆင်မှာ အရေးနိမ့်သဖြင့် ရှောင်တိမ်းခဲ့ရသည်။ ၁၉၁၄ ခုနှစ်တွင် ယွန်ရှီကိုင်သည် ကူအိုမင်တန်ကိုရင်း၊ တရုပ်သမတနိုင်ငံ ပါလီမန်ကိုရင်း၊ တရုပ်သမတနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကိုရင်း ဖျက်သိမ်းပစ်လိုက်လေသည်။ ထိုအချိန်တွင် ဒေါက်တာဆွန်ယတ်ဆင်သည် ဂျပန်နိုင်ငံ တိုကျိုမြို့၌ ရှိနေလေရာ၊ ထိုမြို့မှနေ၍ သူ၏ရဲဘော်ရဲဘက်တို့ကို ပြန်လည်စုရုံးကာ၊ ချုံဟွာအာ ကေမင်တန်ခေါ် အမည်သစ်ဖြင့် တရုပ်

တော်လှန်ရေးပါတီကို ၁၈၁၄ ခုနှစ် ဇူလိုင်လ ၈ ရက်နေ့တွင် တည်ထောင်လေသည်။

၁၈၁၇ ခုနှစ်တွင် ယွန်ရှီကိုင် ကွယ်လွန်သည်။ ထိုအခါ တရုပ်နိုင်ငံ မြောက်ပိုင်းနှင့်တောင်ပိုင်းတို့သည် ခေတ္တမျှ ညီညွတ်ပေါင်းစည်းခဲ့ကြ၏။ သို့ရာတွင် ကမ္ဘာ့စစ်ထဲသို့ ဝင်သင့် မဝင်သင့်ဟူသော ပြဿနာပေါ်လာပြီးလျှင်၊ မြောက်ပိုင်းနှင့် တောင်ပိုင်းတို့ ကွဲကြပြန်သည်။ ဒေါက်တာဆွန်ယတ်ဆင်ကား ယွန်ရှီကိုင် ကွယ်လွန်ပြီးသည့်နောက်၊ ကန်တုန်မြို့သို့ ရေတပ်ဖြင့် ချီတက်လာခဲ့ပြီးလျှင်၊ အထူးကွန်ဖရင့်တရုပ်ကို ကျင်းပခဲ့သည်။ ထိုကွန်ဖရင့်က ဒေါက်တာဆွန်ယတ်ဆင်ကို စစ်အုပ်ချုပ်ရေး၌ အထွတ်အထိပ်ဖြစ်သော ဦးစီးဗိုလ်ချုပ်အဖြစ်ဖြင့် တင်မြှောက်လေသည်။ သို့ရာတွင် ထိုအချိန်၌ မြောက်ပိုင်းနှင့် တောင်ပိုင်း အုပ်စုတို့၏ ခေါင်းဆောင်စစ်ဗိုလ်ကြီးများသည် သူတလူ ငါတမင်း အုပ်ချုပ်နေကြလေရာ၊ ဒေါက်တာဆွန်ယတ်ဆင်သည် ၁၈၁၈ ခုနှစ်၌ ကန်တုန်မြို့မှ ရှန်ဟိုင်းမြို့သို့ တဖန်ထွက်ပြေးလာပြီးလျှင်၊ အမျိုးသား ပြန်လည်ထူထောင်ရေး လုပ်ငန်းစဉ်များကို စာဖြင့်သာလျှင် ရေးသားဖြန့်ချီကာ ဝါဒဖြန့်နိုင်လေသည်။

ဤအတွင်း ၁၈၁၉ ခုနှစ်သို့ရောက်သော်၊ နိုင်ငံရေး ကြိုးပမ်းမှုတို့တွင် အလုပ်သမားများသည် ပါဝင်ဆင်နွှဲလာကြလေသည်။ အလုပ်သမားအရေးတော်ပုံကို ဖန်တီးသော မေလ ၄ ရက်နေ့လှုပ်ရှားမှုကို အခြေခံ၍၊ ဒေါက်တာဆွန်ယတ်ဆင်သည် သူ၏ တော်လှန်ရေးလုပ်ငန်းကို ဆက်လက်ဆောင်ရွက်ပြန်လေသည်။ ဒေါက်တာဆွန်ယတ်ဆင်သည် ၁၈၂၀ ပြည့်နှစ်တွင် ကန်တုန်နှင့် ကန်ဆီ ပြည်နယ်နှစ်ခုတို့ကို ညီညွတ်စွာ ပူးပေါင်းလေအောင် ဆောင်ရွက်ရာ၌ အောင်မြင်လေသည်။ ထိုနောက် ထိုနှစ် နိုဝင်ဘာလတွင် ချုံဟူအာ ကေမင်တန်ကို တရုပ်အမျိုးသား ကူအိုမင်တန်ဟူသော အဖွဲ့အစည်းအဖြစ်သို့ ပြောင်းလဲဖွဲ့စည်းလေသည်။ ဤအတောအတွင်း မြောက်ပိုင်းဒေသတို့ကို စည်းရုံးရန်အတွက် စစ်တပ်ဖြင့် ချီတက်ရန် ပြင်ဆင်သောအခါ၊ မူလက ဒေါက်တာဆွန်ယတ်ဆင်ကို ပူးပေါင်း၍ အကူအညီ ပေးခဲ့သောစစ်ဗိုလ် ချင်ချီယုံမင်းသည် ဒေါက်တာဆွန်ယတ်ဆင်ကို ပင်ပြန်၍တော်လှန်လေရာ၊ ဒေါက်တာ ဆွန်ယတ်ဆင်သည် ရှန်ဟိုင်းမြို့သို့ ထွက်ပြေးတိမ်းရှောင်နေရပြန်သည်။

## ပြည်နယ်များစည်းလုံးရေး

ဒေါက်တာ ဆွန်ယတ်ဆင်က တရုပ်ပြည်ရှိ မြောက်ပိုင်းဒေသတို့ကို ချီတက်ရန်ရည်ရွယ်ချက်မှာ စစ်ဗိုလ်ကြီးများ၏ ဗိုလ်လုပွဲတို့ကို ရပ်စဲစေရန်နှင့် နိုင်ငံခြားသားတို့၏ နယ်ချဲ့စနစ်ကို ပြည်နယ်များ၏ စည်းလုံးရေးဖြင့် ခုခံတော်လှန်ရန် ဖြစ်လေသည်။ ထို့ကြောင့် ဒေါက်တာဆွန်သည် ၁၉၂၃ ခုနှစ် ဖေဖွာရီလတွင် ကန်တုန်မြို့ကို သိမ်းပိုက်၍၊ စစ်ဗိုလ်ချင်ချီယုံမင်းကို တိုက်ခိုက်အောင်နိုင်လိုက်လေသည်။ သို့ရာတွင် သူရည်မှန်းထားသော စစ်ချီမှုမှာ အခက်အခဲအမျိုးမျိုးတို့ကြောင့် တော်တော်နှင့် အပြီးသတ် မအောင်မြင်နိုင်ချေ။ ဤအတွင်း ဗြိတိသျှနှင့် အမေရိကန်ရေတပ်တို့ကလည်း ပုလဲမြစ်တွင်း၌ စစ်သင်္ဘောများချကာ ကန်တုန်အစိုးရ အခြေအနေကို အကဲခတ်လျက်ရှိသည်။ ထိုရေတပ်အားကိုးဖြင့် တရုပ်အမျိုးသားစစ်ဗိုလ် အချို့တို့က ကန်တုန်အစိုးရကို တော်လှန်မှုန်ကန်ကြသည်။ ဒေါက်တာဆွန်ယတ်ဆင်ကား စစ်ဗိုလ်ကြီးများ၏ သူတလူငါတမင်း ဝါဒကို ဗြိတိသျှ အမေရိကန်တို့၏ အကူအညီဖြင့် ဖြိုဖျက်ရန် အာသီသထားခဲ့သည်။ သို့ရာတွင် ယင်းတို့ထံမှ အကူအညီ မရသည့်အတွက် ရုရှနိုင်ငံ ဆိုဗီယက်အစိုးရတို့နှင့် မဟာမိတ်အဖြစ် ဆက်သွယ်ခဲ့ရသည်။

## နောက်ဆုံးအချိန်

စင်စစ် ဒေါက်တာဆွန်သည် ရုရှခေါင်းဆောင် လီနင်ကို နိုင်ငံရေး ဩဝါဒါစရိယအဖြစ်ဖြင့် ကြည်ညိုသူတဦး ဖြစ်သည်။ ထို့ကြောင့် ဆိုဗီယက်အစိုးရနှင့် ဆက်သွယ်မိသောအခါ၊ ဆိုဗီယက်စစ်တပ် ဖွဲ့စည်းပုံကို ဆိုဗီယက်ပါရဂူတို့၏ အကူအညီဖြင့် လေ့လာပြီးလျှင်၊ တော်လှန်ရေး စစ်တပ်ကို ဖွဲ့စည်းလေသည်။ နောက်ဆုံး၌ တရုပ်ကွန်မြူနစ်ပါတီနှင့် ပူးပေါင်း၍ တော်လှန်ရေးလုပ်ငန်းကို ဆက်လုပ်ရန် လက်ခံလိုက်ပြီးလျှင်၊ ကူအိုမင်တန်ကို ထပ်မံခိုင်မြဲအောင် ဖွဲ့စည်း၍၊ ၁၉၂၄ ခုနှစ် ဇန်နဝါရီလတွင် တရုပ်အမျိုးသား ကူအိုမင်တန် ပဌမနှစ်ညီလာခံကို ဦးစီးကျင်းပခဲ့လေသည်။ ထိုစဉ်က ဒေါက်တာဆွန်သည် တရုပ်နိုင်ငံ တမျိုးသားလုံးကို ကိုယ်စားပြုသည့် အမျိုးသား ညီလာခံကြီး ဖွဲ့စည်းရန် ဆော်အောခဲ့လေသည်။

၁၉၂၄ ခုနှစ်တွင် တရုပ်ပြည်မြောက်ပိုင်း စစ်ဗိုလ်ကြီးများက ညီညွတ်ရေးအတွက် ဆွေးနွေးရန် ဖိတ်ကြားလေသော်၊ ဒေါက်တာဆွန်သည် ဖိတ်ကြားချက်ကို လက်ခံ၍၊ ပီကင်းမြို့သို့ ဂျပန်နိုင်ငံမှတဆင့် သွားရောက်ခဲ့လေသည်။ ၁၉၂၅ ခုနှစ် မတ်လ ၁၂ ရက်နေ့၌ကား ဒေါက်တာဆွန်သည် သူ၌ကပ်ငြိနေသော ကင်ဆာ ရောဂါဖြင့် ပီကင်းမြို့၌ပင် အနိစ္စရောက်လေသည်။

၁၉၂၉ ခုနှစ်တွင် သူ၏ရုပ်ကလာပ်ကို နန်းကင်းမြို့သို့ ရွှေ့ပြောင်းသင်္ဂြိုဟ်၍၊ ဒေါက်တာ ဆွန်ယတ်ဆင် အထိမ်းအမှတ်ဥယျာဉ်ကို တရုပ်အမျိုးသားအစိုးရနှင့် ပြည်သူတို့က တည်ထောင်ခဲ့လေသည်။ (ချန်ကေရိုက် — ရှ။ဆွန်ယတ်ဆင်၊ မဒမ်၊ — လည်းရှု။)

**ဆွန်ယတ်ဆင်၊ မဒမ်။** ။မဒမ် ဆွန်ယတ်ဆင်သည် တရုပ်အမျိုးသား ခေါင်းဆောင်ကြီး ဒေါက်တာဆွန်ယတ်ဆင်၏ ဇနီးဖြစ်သည်။ ခရစ် ၁၈၉၀ ပြည့်နှစ်တွင်တရုပ်နိုင်ငံ၊ ကျန်ဆူးပြည်နယ် ကွန်ရှန်မြို့၌ ဖွားမြင်၍၊ ငယ်နာမည်မှာ ဆွန်းချင်လင်း ဖြစ်သည်။ ဆွန်းချင်လင်းသည် ပညာသင်ချိန်အရွယ်တွင် အမေရိကန် ပြည်ထောင်စု ဂျော်ဂျီယား ပြည်နယ်၊ ဝက်စလီယန် ကောလိပ်ကျောင်း၌ ပညာသင်ကြားခဲ့၍၊ ဝိဇ္ဇာဘွဲ့ကို ခံယူရရှိခဲ့လေသည်။ ထို့နောက် ဒေါက်တာဆွန်ယတ်ဆင်နှင့်အတူ ဂျပန်နိုင်ငံသို့ လိုက်ပါ၍၊ တော်လှန်ရေး လုပ်ငန်းများကို ဆောင်ရွက်ယင်း၊ ၁၉၁၄ ခုနှစ်တွင် ဒေါက်တာဆွန်နှင့် ထိမ်းမြားလက်ထပ်ခဲ့လေသည်။ ထို့နောက် ဒေါက်တာဆွန်၏ တော်လှန်ရေးကြိုးပမ်းမှု ခရီးစဉ်တလျှောက်၌ မဒမ်ဆွန်ယတ်ဆင်သည် ခင်ပွန်းသည်နှင့်အတူ ပါရမီ ဖြည့်ဖော်ဖြည့်ဖက်အနေဖြင့် ဆောင်ရွက်ခဲ့ရာ၊ ၁၉၂၅ ခုနှစ်၌ ဒေါက်တာဆွန် ကွယ်လွန်ပြီးသည့်နောက်၊ ယနေ့တိုင်ပင်လျှင် တရုပ်နိုင်ငံ၏ နိုင်ငံရေးရာတို့၌ ကိုယ်တိုင်ကိုယ်ကြပ် ပါဝင်ဆောင်ရွက်ဆဲဖြစ်လေသည်။

၁၉၂၆ ခုနှစ်တွင် မဒမ်ဆွန်သည် ဒေါက်တာဆွန်ယတ်ဆင်၏နေရာကို ဆက်ခံလာသူ ချန်ကေရှိတ်၏ ဗဟိုအစိုးရ အမှုဆောင်ကောင်စီ အဖွဲ့ဝင်တဦး အဖြစ်ဖြင့် ဆောင်ရွက်ခဲ့၏။ သို့ရာတွင် ၁၉၂၇ ခုနှစ်၌ ချန်ကေရှိတ်သည် မြောက်ပိုင်းပြည်နယ်တို့သို့ချီတက်ရေးနှင့် စပ်လျဉ်း၍ ကွန်မြူနစ်တို့နှင့် သဘောကွဲလွဲလာခဲ့ပြီးလျှင်၊ အမျိုးသား ညွန့်ပေါင်းအဖွဲ့ထဲမှ ကွန်မြူနစ်တို့ကို နှင်ထုတ်လိုက်သောအခါ၊ မဒမ်ဆွန်သည် ချန်ကေရှိတ်အား ဒေါက်တာဆွန်၏လမ်းစဉ်မှ သွေဖည်ခဲ့ပြီဟု ပြစ်တင်ပြုကာ၊ တရုပ်နိုင်ငံမှ ထွက်ခွာသွားခဲ့၏။ ထို့နောက်၌ကား ဥရောပတိုက်တွင် လှည့်လည်၍၊ မော်စကိုနှင့် ဘာလင်မြို့တော်တို့၌ ခေတ္တနေထိုင်ခဲ့သည်။ ၁၉၂၉ ခုနှစ်၌ကား တရုပ်နိုင်ငံသို့ ပြန်လည်ရောက်ရှိခဲ့ပြီးနောက်၊ ချန်ကေရှိတ်၏ လမ်းစဉ်ကို အမြဲတမ်းဝေဖန်ကာ စက်မှုလက်မှု သမဝါယမလုပ်ငန်း အပါအဝင် လူမှုဝန်ထမ်း လုပ်ငန်းတို့ကို ပြင်ပမှနေ၍ ဆောင်ရွက်ပေးခဲ့သည်။ မဒမ်ဆွန်၏ လူမှုဝန်ထမ်း လုပ်ငန်းများအနက် ယနေ့တိုင် ထင်ရှားတည်ရှိသော လုပ်ငန်းတရပ်မှာ သူကိုယ်တိုင် ကြီးကြပ်သော ကလေးထိန်း ဌာနနှင့် ကင်ဒါဂါတင်ကျောင်း ဖြစ်၏။ ချန်ကေရှိတ်သည် တရုပ်အမျိုးသား၏သမတ အဖြစ်ဖြင့် ဆောင်ရွက်နေစဉ်၊ မဒမ်ဆွန်သည် ပူးပေါင်းဆောင်ရွက်ခြင်းမပြုဘဲ သီးခြားနေခဲ့၏။ ထို့နောက် ၁၉၄၉ ခုနှစ်တွင် မော်စီတုံး ခေါင်းဆောင်သော တရုပ်ပြည်သူ့ သမတနိုင်ငံ တည်ထောင်လာသောအခါ၊ ပြည်သူ့အစိုးရဗဟို ကောင်စီတွင် ဒုတိယဥက္ကဋ္ဌတဦးဖြစ်လာလေသည်။

မဒမ်ဆွန်၌ ဆွန်းအိုင်လင်း၊ ဆွန်းမေလင်းဟူသော ညီအစ်မနှစ်ဦးနှင့် ဆွန်းဇုဝင် ဟူသော မောင်တယောက်ရှိသည်။ ဆွန်း မောင်နှမတစုမှာ ရာထူးဌာနန္တရအားဖြင့်ငင်း၊ ပစ္စည်းဥစ္စာအားဖြင့်ငင်း၊ ထင်ရှား ကျော်ကြားသူချည်းဖြစ်သည်။ ဆွန်းအိုင်လင်းမှာ ကွန်းရှန်းရှီးခေါ် အိပ်ချ၊ အိပ်ချ၊ ကွန်း၏ ဇနီးဖြစ်သည်။ ကွန်းသည် ကမ္ဘာပေါ်တွင် အကြွယ်ဝဆုံးသော သူများအနက် တဦးအပါအဝင်ဖြစ်သည်။ တရုပ်အမျိုးသား အစိုးရ အဖွဲ့တွင် ဘဏ္ဍာရေးဌာနဝန်ကြီး အဖြစ်ဖြင့် ထမ်းရွက်ခဲ့သည်။ ဆွန်း မေလင်းမှာ မဒမ်ချန်ကေရှိတ်ဟု အများသိကြသော ချန်ကေရှိတ်၏ ဇနီးပင်ဖြစ်သည်။ ဆွန်းဇုဝင်မှာမူ တီ၊ ဗွီ၊ ဆွန်းဟု ကျော်ကြားသော ဘဏ်သူဌေးဖြစ်လေသည်။ တီ၊ ဗွီ၊ ဆွန်းသည်လည်း ချန်ကေရှိတ်အစိုးရအဖွဲ့တွင် ဘဏ္ဍာရေးဝန်ကြီး အဖြစ်ဖြင့်ငင်း၊ ဝန်ကြီးချုပ်အဖြစ်ဖြင့်ငင်း ထမ်းရွက်ခဲ့ဘူးသည်။ အိပ်ချ၊ အိပ်ချ၊ ကွန်းနှင့် တီ၊ ဗွီ၊ ဆွန်းတို့အိမ်ထောင်စုများမှာ ယခုအခါ အမေရိကန်ပြည်ထောင်စု၌ နေထိုင်လျက်ရှိကြ၏။

၁၉၅၆ ခုနှစ် ဇန္နဝါရီလ၌ မဒမ် ဆွန်သည် တရုပ်ပြည်သူ့ သမတနိုင်ငံ အမျိုးသား ကွန်ဂရက်၏ အမြဲတမ်း ကော်မီတီ ဒုတိယဥက္ကဋ္ဌအဖြစ်ဖြင့် မြန်မာနိုင်ငံသို့လာရောက်ခဲ့၏။ ဇန္နဝါရီလ ၆ ရက်နေ့တွင် ရန်ကုန်မြို့တော်ခန်းမ၌ ကျင်းပသော လူထုအစည်းအဝေးတွင် သဟဇာတမှုငါးချက်ကို အခြေတည်၍၊ တရုပ်ပြည်သူ့နိုင်ငံနှင့် မြန်မာပြည်ထောင်စုတို့ ပူးပေါင်းဆောင်ရွက်ခဲ့ကြပုံကို ဟောပြောခဲ့သည်။ (ချန်ကေရှိတ်။ ဆွန်ယတ်ဆင်၊ဒေါက်တာ — ရှု။)



မဒမ်ဆွန်ယတ်ဆင်



။မြန်မာဗျည်း ၃၃ လုံးတွင် ဇ သည် ၈ ခုမြောက် အက္ခရာဖြစ်၍ စ၊ ဆ၊ ဇ၊ ဈ၊ ညဟူသော စ ဝဂ်တွင် ပါဝင်သည်။ ဇ အသံ၏ ဖြစ်ရာဌာနမှာ တာလုဌာန် အာစောက်အရပ်ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဌာန်ကိုလိုက်၍ ဇကွဲ ဟု အမည်တွင်သည်။ ဇ အရေးအသား၏ မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့်ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟု ရေးသားသည်ကိုတွေ့ရသည်။

ဗြာဟ္မီအရေးအသား တွင် အပေါ်ထိပ်၌ရှိသော အစကို အောက်ဖက်သို့ ကွေးဝိုက်၍ ရေးဖန်များသောအခါ၊ မြန်မာအက္ခရာ ဇ ဖြစ်ပေါ်လာသည်။ ဇ အက္ခရာ၏ အဆင့်ဆင့် ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။

**ဇနကဇာတ်တော်**။ ။ဇနကဇာတ်တော်ဟု အတိုချုံး၍ ခေါ်ဝေါ်ကြသော မဟာဇနကဇာတ်တော်သည် ဇာတ်ကြီးဆယ်ဖွဲ့တွင် ဒုတိယမြောက်ဇာတ်တော်ဖြစ်၍၊ မူရင်း ပါဠိတော်၌ဂါထာပေါင်း ၁၈၆ ဂါထာဖြင့် ဖွဲ့ဆိုထားသည်။ မြတ်စွာဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးတော်မူစဉ်၊ တနေ့သ၌ တရားသဘင်ဝယ် အစည်းအဝေးဖြစ်ကြလတ်သော်၊ ရဟန်းတို့သည် မြတ်စွာဘုရား၏ နိက္ခမပါရမီ ဖြည့်တော်မူပုံကို ချီးမွမ်းကြလေရာ၊ မြတ်စွာဘုရားသည် ထိုပါရမီကို အကြောင်းပြု၍ မဟာဇနကဇာတ်တော်ကို ဟောကြားတော်မူလေသည်။

ထိုဇာတ်တော်ကြီးကို မင်းဘူးမြို့ အရှင်ဦးဩဘာသသည် လေသာကျောင်း၊ ကျောင်းတကာ မောင်ဝ၏သား ဒါယကာ မောင်ထောက်က တောင်းပန်အပ်၍၊ ၁၁၄၇ ခုနှစ်တွင် ပါဠိတော်မှ မြန်မာသို့ အနက်ပြန်၍ ပြုစုတော်မူသည်။ (ဩဘာသ၊ ဦး — ရှု။)

ဇနကဇာတ်တော်ကား ဤသို့ဖြစ်၏။ လွန်လေပြီးသော အခါ ဝိဒေဟရာဇ်တိုင်း မိထိလာပြည်၌ မဟာဇနကအမည်ရှိသောမင်းသည် မင်းပြု၏။ ထိုမင်း၌အရိဋ္ဌဇနကမင်းသား၊ ပေါလဇနက မင်းသားဟူ၍ သားတော်နှစ်ပါးရှိ၏။ အရိဋ္ဌဇနကမင်းသားအား အိမ်ရှေ့အရာကိုပေး၏။ ပေါလဇနကမင်းသားအား သေနာပတိအရာကိုပေး၏။ မင်းကြီးနတ်ရွာစံသော်၊ အရိဋ္ဌဇနကသည် ခမည်းတော်၏ရိုက်ရာကို ဆက်ခံစိုးစံ၍၊ ပေါလဇနကသည် အိမ်ရှေ့အရာ၌ တည်လေ၏။ ထိုအခါ ပေါလဇနက အိမ်ရှေ့မင်း၏ အတွင်းကျွန်ယုံဖြစ်သော အမတ်တယောက်သည် မိမိအလိုမပြည့်သည်နှင့် မိမိ အရှင်သခင်ပေါ်တွင် အငြိုးထား၍၊ အရိဋ္ဌဇနကမင်းကြီးထံဝင်ပြီးသော်၊ ဂုံးတိုက်ချောစားလေ၏။ အကြိမ်ကြိမ် ဂုံးချောလေသော်၊ မင်းကြီးလည်း ငါ၏ညီသည် ငါ့ကိုမကောင်းကြံရာ၏ဟု အယူရှိ၍၊ အိမ်ရှေ့မင်းကို ဖမ်းဆီးစေပြီးလျှင် အနှောင်အဖွဲ့၌ချထား၏။

ထိုအခါ အိမ်ရှေ့မင်းသည် နောင်တော်အပေါ်၌ မပြစ်မှားမိကြောင်း သစ္စာအဓိဋ္ဌာန်ပြုလေရာ၊ သစ္စာ၏ အာနုဘော်ကြောင့် အနှောင်အဖွဲ့မှလွတ်လေ၏။ ပေါလဇနကလည်း ဤသို့အနှောင်အဖွဲ့မှ လွတ်လေသော်၊ ရွာငယ်များကိုသိမ်းရုံး၍ လက်နက်ပြုပြီးလျှင်၊ နောင်တော်အား ယခင်ကရန်မလုပ်လိုသော်လည်း၊ ယခု ရန်လုပ်ရတော့မည်ဟု ဆို၍ စစ်ထိုးလေ၏။ ဤသို့ မင်းညီနောင်တို့ စစ်ထိုးရာ၊ နောင်တော် အရိဋ္ဌဇနကသည် အရေးရှုံးနိမ့်၍ နတ်ရွာစံလေသော်၊ အရိဋ္ဌဇနကမင်းကြီး၏ မိဖုရားကြီးသည် မိမိဝမ်း၌ ဘုရားလောင်းမဟာဇနကမင်း၏ သန္ဓေဖြင့် ထွက်ပြေးရာ၊ သိကြားမင်း၏ တန်ခိုးဖြင့် ဒိသာပါမောက္ခ ဆရာကြီးထံရောက်လေ၏။ ထို ဒိသာပါမောက္ခဆရာကြီးထံ ရောက်သည်တွင် ဘုန်းသမ္ဘာရှင်ဖြစ်သော အလောင်းတော် မဟာဇနကမင်းသားကို ဖွားမြင်လေသတည်း။

ဇနကမင်းသားလည်း အရွယ်ရောက်လတ်သော်၊ မိမိ၏ မျိုးရိုးကို မိခင်အား မေးမြန်းရာတွင်၊ မိမိ၏ ဖခမည်းတော်သည် မိထိလာပြည့်ရှင် အရိဋ္ဌဇနကမင်းကြီးဖြစ်၍၊ ဦးရီးတော် ပေါလဇနကသည် မိထိလာပြည်၌ စိုးစံနေကြောင်းကို သိရှိလေ၏။ ထိုအခါ ဇနကမင်းသားသည် မိမိခမည်းတော်၏ အရိပ်အရာဖြစ်သော မိထိလာပြည်ကို သိမ်းယူရန် အကြံဖြစ်၏။ ဤသို့သိမ်းယူနိုင်ရန်အလို့ငှာ ပင်လယ်ခရီးဖြင့် သဘော်လွှင့်၍ ကူးသန်းရောင်းဝယ်နိုင်စေရန် မယ်တော်အား ခွင့်အကြိမ်ကြိမ်ပန်၍၊ သဘော်လွှင့်ခဲ့လေသတည်း။

သို့သော် ဇနကမင်းသား၏သင်္ဘောသည် ပင်လယ်ခရီး၌ နစ်လေ၏။ ထိုအခါ သင်္ဘောသား ခုနစ်ရာတို့သည် ယောကျ်ားတို့၏လုံ့လကို တစုံတခုမျှမပြုဘဲ၊ ငိုကြွေးမြည်တမ်းလျက်ပင် ငါး၊ လိပ်၊ မိန်းတို့၏အစာဖြစ်လေကုန်၏။ ဘုရားလောင်းကား ယောကျ်ားတို့၏ လုံ့လဝီရိယကို မလျှော့ဘဲ၊ ခုနစ်ရက်ပတ်လုံး ပင်လယ်၌ ကူးတော်မူ၏။ ထိုအခါ မဏိမေခလာ နတ်သမီးသည် မနီးမဝေးသော ကောင်းကင်က ကိုယ်ထင်ပြကာ ရပ်လျက်၊ ကောင်းမြတ်သောလုံ့လဖြင့်တည်း ကူးသလော၊ မူးရူးသောစိတ်ဖြင့်တည်း ကူးသလောဟု စုံစမ်းရန်အလို့ငှာ၊ 'တဖက်ကမ်း သို့ မရောက်နိုင်ရာသော ဤမဟာသမုဒ္ဒရာ၌ အပင်အပန်းကူးသဖြင့် အဘယ်အကျိုးထူးကို ရ၍၊ ကိုယ်ဆန္ဒပြည့်မည် ထင်မြင်ဖွယ်ရှိသောကြောင့် ကြိုးစားအားထုတ်ခြင်းကို ပြုဘိသလော' ဟုမေး၏။ ထိုအခါ ဘုရားလောင်းသည် 'နတ်သမီး၊ ကောင်းစွာ အားထုတ်အပ်သော ယောကျ်ားတို့၏လုံ့လသည် အကျိုးမဲ့ဖြစ်ဘူးသည်မရှိ။ ဤသမုဒ္ဒရာကမ်းကို မမြင်ကာမျှနှင့် အဘဲ့ကြောင့် ယောကျ်ားတို့၏လုံ့လကို လျှော့ထိုက်အံ့နည်း။ ကမ်းကိုမြင်သည်ဖြစ်စေ၊ မမြင်သည်ဖြစ်စေ၊ အကျိုးကိုမြင်သဖြင့် ငါလုံ့လပြုသည်' ဟုဆို၏။ ထိုအခါ နတ်သမီးသည် ဘုရားလောင်း၏တရားကို နာလိုသောကြောင့်၊ ပြန်၍စောဒနာတက်လေသော်၊ ဘုရားလောင်းသည် လုံ့လပြုခြင်းကြောင့် ယောကျ်ားမှန်လျက်နှင့် အသက်မရှိသော ကျွန်းထင်းကဲ့သို့ လုံ့လမပြုဘဲနေသည်ဟု အများတကာတို့ အပြစ်မတင်နိုင်စေရန် လုံ့လကိုပြုသင့်ကြောင်းပြောပြသည့်အပြင်၊ လုံ့လအကျိုးကို လက်ငင်းခံစားရခြင်းကိုပြလို၍၊ 'ဤသမုဒ္ဒရာ၌ ငါနှင့်အတူ သင်္ဘောပျက်ကျသော ခုနစ်ရာသော သင်္ဘောသားတို့သည် ယောကျ်ားတို့၏လုံ့လ ချို့တဲ့လေခြင်းကြောင့် ငါး၊ လိပ်တို့၏ အစာသာဖြစ်ကြလေကုန်ပြီ။ ငါမူကား ယောကျ်ားတို့၏ လုံ့လကို မလျှော့ခြင်းကြောင့် ငါး၊ လိပ်တို့၏ဘေးမှလွတ်သည့်ပြင်၊ လူသာမန်တို့ မမြင်ရခဲသော သင်နတ်သမီးကို ငါမြင်ရ၏။ သင်သနား၍ ငါ့ကိုကယ်ဆောင်ပါလျှင်၊ ငါ၌ အကျိုးရှိလတ္တံ့။ သင် မဆယ်တင်၍ ဤတွင်ပင် ငါဆုံးရသော်လည်း လုံ့လပြုကျိုး ငါ၌ရှိလေပြီ' ဟူ၍ နတ်သမီး မဆိုသာအောင် ပြန်လှန်ချေပလေ၏။ ထိုစကားကိုကြားလျှင်၊ နတ်သမီးသည် နှစ်သက်သည်ဖြစ်၍၊ ဘုရားလောင်းတော် ဇနကမင်းသားအလိုရှိရာ မိထိလာပြည်သို့ ပို့ဆောင်၍ ကျောက်ဖျာထက်၌ သိပ်ထားလေ၏။

ထိုအခါ မိထိလာပြည်၌ကား ဘထွေးတော် ပေါလဇနကမင်း နတ်ရွာစံ၍၊ ခုနစ်ရက်ရှိနှင့်ပြီးသတည်း။ ပေါလဇနကမင်း၌ သီဝလိဒေဝီဟူသော သမီးတော်သာလျှင် ကျန်ရစ်လေ၏။ ပေါလဇနကမင်းသည် ထီးနန်းဆက်ခံ စိုးစံသည့်ကိစ္စအတွက် နတ်ရွာမစံမီ မှူးကြီးမတ်ရာတို့အား မှာကြားခဲ့သည်ကား၊ ဗိုလ်ခြေတထောင် တင်နိုင် ချနိုင်သော လေးကို တယောက်တည်းဖြင့် တင်နိုင် ချနိုင်သော ကာယဗလရှိသူ၊ တဆယ့်ခြောက်လုံးသော ရွှေအိုးကြီးကို ဖော်ထုတ်နိုင်သော ဉာဏဗလရှိသူ မည်သည့်အမျိုးကိုမဆို၊ သမီးတော် သီဝလိဒေဝီ နှစ်သက်သည်ရှိသော်၊ ထီးနန်း အပ်နှင်းလေဟူ၍ ဖြစ်သတည်း။ ထိုမှာကြားချက်အရ မင်းသမီးနှင့် ထိုက်တန်ရာကို ရှာကြံ၍မရနိုင်လတ်သော်၊ မှူးမတ်တို့သည် မင်း



ဇနကမင်းသားစက်တော်ခေါ် ရာ မင်္ဂလာကျောက်ဖျာ၌ ဖုတ်သွန်းရထား တန်ရပ်ဟန်ကို မြန်မာပန်းပုဖြင့် သရုပ်ဖော်ထားပုံ

လောင်းရှိရာသို့ အစိဋ္ဌာန်ဖြင့် ဖုတ်သွင်းရထားလွှတ်လေ၏။ ထိုအခါ ရထားသည် ဘုရားလောင်း ဇနကမင်းသား စက်တော်ခေါ်ရာ မင်္ဂလာကျောက်ဖျာ၌ ရပ်တန့်လေ၏။ ထို့ကြောင့် မှူးကြီးမတ်ရာ သေနာပတိတို့သည် ပုရောဟိတ်ပုဏ္ဏားအ၏ အကြံပေးချက်အရ၊ ဘုန်းရှင် သမ္ဘာရှင် ဖြစ်မဖြစ်ကိုင်း၊ ပေါလဇနကမင်း မိန့်မှာခဲ့သည့်အတိုင်း ကာယဗလ ဥာဏဗလ ရှိမရှိကိုင်း စမ်းသပ်ပြီးသော်၊ အလောင်းတော် ဇနကမင်းသားအား မိထိလာပြည်၏ ထီးနန်းကို သီဝလိဒေဝီမင်းသမီးနှင့်တကွ အပ်နှင်းလေ၏။

ဤသို့လျှင် မဟာဇနကမင်းနှင့် သီဝလိဒေဝီ မိဖုရားတို့သည် မင်း၏စည်းစိမ်ဖြင့် တင့်တယ်စွာ စံနေတော်မူကြလေသတည်း။ °တနေ့သောအခါ ဥယျာဉ်တော်သို့ ထွက်တော်မူသည်တွင် မဟာဇနကမင်းသည် သရက်ပင် နှစ်ပင်၏ ဥပမာကိုကြည့်၍၊ ဤအပင်ကား အသီး မသီးသောကြောင့် စိမ်းစိမ်း လတ်လတ် ညိုဖတ်သော ခက်ရွက်ဖြင့် နှစ်သက်ဖွယ်ပြကတေ့အတိုင်းရှိ၏။ ဤအပင်ကား အသီး သီးခြင်းကြောင့် ဖျက်ဆီးတတ်သော သူနှင့် ဆက်ဆံသည်ဖြစ်၍ ပြကတေ့အတိုင်း မတည်ရ။ ဤပြည်စည်းစိမ်သည်လည်း ရန်သူနှင့် ဆက်ဆံခြင်းကြောင့် အသီး သီးသောသရက်ပင်နှင့်တူ၏။ ရန်သူ မဆက်ဆံသော စည်းစိမ်ကိုရှာလျှင်၊ ရသေ့ရဟန်း၏အဖြစ်သည်သာ ရန်သူနှင့်မဆက်ဆံသောကြောင့်၊ အသီး မသီးသော သရက်ပင်နှင့်တူ၏ဟူ၍ နေကွမ္ဘဝိတက်ဖြင့် အကြံတော်ရှိပြီးလျှင်၊ ရဟန်းအဖြစ်ကို တောင့်တ၍၊ တောထွက်တော်မူလေ၏။ ထိုအခါ သီဝလိဒေဝီနှင့်တကွ မိဖုရား ခုနစ်ရာတို့သည် မဟာဇနကမင်း၏ နောက်သို့ လိုက်ပါလျက်၊ တောမထွက်ရလေအောင် အမျိုးမျိုးသော ပရိယာယ်တို့ဖြင့် တားမြစ်ကြကုန်၏။ ထိုအခါ ဘုရားလောင်းအား နာရဒရှင်ရသေ့နှင့် မိဂါဇိန်ရှင်ရသေ့တို့က ငါးပါးအာရုံ ကာမဂုဏ်တို့ကိုဖြတ်၍၊ တယောက်တည်းချင်းကမ္မဋ္ဌာန်းကို ရှေးရှုရသော ရဟန်းတို့၏ဘဝကို ညွှန်ပြဩဝါဒပေးတော်မူ၏။ သို့သော် သီဝလိဒေဝီနှင့်တကွ မိဖုရားမောင်းမ မိဿံတို့သည် အလောင်းတော် ဇနကမင်း၏ နောက်သို့ လိုက်ပါမြဲ လိုက်ပါလျက်ရှိရာ၊ လက်ကောက်နှစ်ဆင့်ဝတ်ရာ၌ အသံဖြစ်၍၊ လက်ကောက်တဆင့်ဝတ်ရာ၌ အသံမဖြစ်သည့် ဥပမာကိုင်း၊ မျက်စိ တဖက်ကိုမှိတ်လျက် တဖက်ဖြင့်ကြည့်၍သာ မြားကို ဖြောင့်၍ရသော ဥပမာကိုင်း၊ ဖြတ်အပ်ပြီးသော ဖြူဆံမြက်ပင်မှ မြက်ညွန့်ကို ထိုအပင်၌ တဖန် ပြန်ဆက်၍ မရကောင်းသော ဥပမာကိုင်း၊ အလောင်းတော် ဇနကမင်းသည် သီဝလိဒေဝီမိဖုရားအား ပြလေသည်တွင်မှ၊ မိဖုရားနှင့်တကွသော အမတ်တို့သည် ဘုရားလောင်းထံသို့ ဆက်၍ မလိုက်တော့ဘဲ၊ ပြည်တော်သို့ ပြန်ကြလေကုန်၏။ ထိုနောက် မိဖုရားကြီးသည်လည်း သားတော် ဒီဃာဝုမင်းသားအား ထီးနန်းအပ်၍၊ မိမိကိုယ်တိုင် ရဟန်းပြုလေသတည်း။

ဤမဟာဇနကဇာတ်တော်၌ နိက္ခမပါရမီကို အဓိကထား၍ မြတ်စွာဘုရား ဟောကြားတော်မူသည်ဖြစ်သော်လည်း၊ ဝီရိယပါရမီ ဖြည့်တင်းပုံကိုလည်းပြဆိုလေသည်။

**ဇရက်**။ ။ဆက်ရက် — ရှု။

**ဇလွန်မြို့**။ ။ဟင်္သာတခရိုင် ဇလွန်မြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ ခရိုင်၏ အရှေ့တောင်ဖက်ရှိ မြို့နယ်ဖြစ်၍၊ ဧရာဝတီမြစ်၏ လက်ျာဖက်ကမ်းတွင် တည်ရှိသည်။ ဟင်္သာတမြို့၏ အရှေ့တောင်တူရူ ၁၆ မိုင်ခန့် အကွာတွင် ရှိ၏။ ဇလွန်မြို့စည်ပင်ရေးအတွက် မျူနီစီပယ်အဖွဲ့ကို ၁၈၈၆ ခုနှစ်တွင် စတင် ဖွဲ့စည်းခဲ့၍၊ နောင်အခါ၌ ဒေသန္တရအုပ်ချုပ်ရေးတွင် ထည့်သွင်းသည်။ ဇလွန်မြို့သည် သင်္ဘောဆိပ်ကမ်းမြို့ ဖြစ်သဖြင့် ဟင်္သာတမှလာသော သင်္ဘောများနှင့် ရန်ကုန်မှလာသော သင်္ဘောများ ဆိုက်ကပ်ရာ ဒေသဖြစ်လေသည်။ အရေးကြီးသော ထွက်ကုန်မှာ ဆန်စပါးဖြစ်၏။

မြစ်ရေတိုးခြင်းဒဏ်ကြောင့် ကမ်းပြို ပျက်စီးသဖြင့် ဇလွန်မြို့ကို ကုန်းတွင်းသို့ အကြိမ်ကြိမ်ပြောင်းရွှေ့ခဲ့ရသည်။ မြို့ပေါ်ရှိ ထင်ရှားသော ဘုရားများမှာ ရုပ်ပွားတော် ပြည်တော်ပြန် ဘုရားကြီးနှင့် ရွှေရင်စေတီတော်တို့ဖြစ်သည်။ မြို့နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၂၇၆ မျှရှိ၍၊ မြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်းကောင်စာရင်းအရ ၇၉၇၈ ယောက်ခန့် ဖြစ်လေသည်။



ဇလွန်မြို့ ပြည်တော်ပြန် မာန်အောင်မြင်ဘုရား

**ဇဝက်သာ**။ ။ဇဝက်သာကို ဓာတုသင်္ကေတ အဖြစ်ဖြင့် $NH_4Cl$ ဟုရေး၏။ ဇဝက်သာသည် အဖြူရောင် ခရစ္စတယ် ဒြပ်ပေါင်းဖြစ်သည်။ ယင်း၌ နိုက်ထရိုဂျင်၊ ဟိုက်ဒရိုဂျင်၊ ကလိုရင်းတို့ပါရှိသည်။ ဓာတုဗေဒ အလိုအားဖြင့်၊ ဇဝက်သာကို အမ်မိုးနီးယမ်း ကလိုရိုက်ဟု ခေါ်သည်။ ဇဝက်သာသည် ရေထဲ၌ ကောင်းစွာ ပျော်ဝင်နိုင်သည်။ ရေတွင် စူးရှသောအနံ့ကို ဖြစ်စေနိုင်သည့်ပြင်၊ ဆားကဲ့သို့လည်း ငန်စေနိုင်သည်။ ရိုးရိုးကျောက်မီးသွေးမှ ကုတ်မီးသွေးနှင့် ကျောက်မီးသွေးဓာတ်ငွေ့တို့ကို ထုတ်ယူသောအခါ၊ အမ်မိုးနီးယားရေသည် ဘေးတွက်ပစ္စည်း အဖြစ်ထွက်လာသည်။ ထိုအမ်မိုးနီးယားရေကို ဟိုက်ဒရိုကလောရစ် အက်ဆစ်နှင့် ပေါင်းစပ်စေလျှင် အမ်မိုးနီးယမ်းကလိုရိုက်ဖြစ်သည်။ ထိုဒြပ်ပေါင်းကို အငွေ့ပျံစေပြီးလျှင် စင်ကြယ်အောင် ပြုလုပ်ယူလျှင် ဇဝက်သာသန့်သန့်ကိုရ၏။ တခါတရံ ဇဝက်သာကို မီးတောင်များမှ ထွက်လာသော ချော်ရည်များတွင် တွင်းထွက်ပစ္စည်းတခု အဖြစ်ဖြင့် တွေ့ရှိရလေသည်။

ဇဝက်သာသည် စက်မှုလက်မှု လုပ်ငန်းများ၌ အထူးအရေးကြီးသည့်ပြင် ဆေးဖက်၌လည်း အသုံးဝင်သည်။ ဓာတ်ခဲများပြုလုပ်ရာတွင်လည်း ဇဝက်သာကို အသုံးပြု၏။ ထိုအပြင် ဂဟေဆက်လုပ်ငန်း၊ ရွှေကို ချေးချွတ်သောလုပ်ငန်း၊ အထည်လုပ်ငန်းများတွင် အသုံးပြုကြသည်။ ဆေးဝါးတခုအဖြစ်ဖြင့် ဗရွန်ကိုက်တစ် ရင်ကျပ်နာ၊ အဆုတ်ရောင်နာ၊ အစာအိမ်ရောဂါများကို ကုသရာတွင် ဇဝက်သာကို အသုံးပြုကြလေသည်။

မြန်မာဆေးဆရာများကလည်း ဆေးဖက်ပစ္စည်းတခု အဖြစ် ဇဝက်သာကို အသုံးပြုကြသည်။

**ဇာ**။ ။အဝတ်အစားတို့ကို လှပအောင် မွမ်းမံပေးသော ပစ္စည်းတို့တွင် ဇာသည် အပါအဝင်ဖြစ်၏။ ဇာသည် လက်ထိုးဇာ၊ စက်ပန်းဇာဟူ၍ နှစ်မျိုးနှစ်စားရှိသည်။ လက်ထိုးဇာ၌ လွန်းဇာ၊ ရက်ဖောက် သို့မဟုတ် ရစ်တံဖြင့်ပြုလုပ်သော ဇာ၊ အပ်ဖျားဇာ၊ အပ်ဖြင့်ထိုးဖောက်ချုပ်လုပ်သော ဇာဟူ၍ အစားစားရှိလေသည်။ လွန်းဇာသည် လွန်းငယ်ဖြင့် လက်တွင်ရစ်၍ ထိုးရသောဇာဖြစ်သည်။ အလွန်လှပ၍ သေသပ်ကျစ်လစ်သည့်အပြင် ခိုင်ခံ့သည်။ ယင်းကို တက်တင်းဟုလည်း ခေါ်သည်။ မြန်မာအမျိုးသမီးများ၏ အပေါ်အင်္ကျီလက်ဖျားနှင့် ကိုယ်ထည်အနားတို့၌ တက်တင်းဇာကို လှပစွာတပ်ဆင်လေ့ရှိသည်။ အတွင်းခံ အင်္ကျီ၊ ခေါင်းအုံးစွပ်၊ စားပွဲခင်း အစရှိသည်တို့၌လည်း တပ်ဆင်ကြသည်။ စက်ပန်းဇာများ ပေါ်သောအချိန်၌ကား၊ တက်တင်းဇာကို များစွာအသုံးမပြုကြတော့ချေ။ အပ်ဖျားဇာသည် ကရိုရှေးခေါ် တချောင်းထိုးဇာဖြစ်၍၊ အထက်ပါအတိုင်းပင် အသုံးပြုကြသည်။ (ကရိုရှေးဇာထိုးနည်း — ရှု။) အပ်သည် သံအပ်ဖြစ်၍ ထိပ်၌ချိတ်တွယ်ရန်ကောက်ထား၏။ အပ်ဖြင့် ထိုးဖောက်ချုပ်လုပ်သောဇာသည်ကား အပ်ချည်တမျှင်တည်းဖြင့် ပြုလုပ်ထားသောဇာနုတမျိုးဖြစ်သည်။ ဇာဖျင် သို့မဟုတ် ပိုက်ဇာကို အောက်ခံထားပြီးလျှင်၊ နှစ်သက်ရာ ပုံစံများကို ချုပ်အပ်ရိုးရိုးဖြင့် ထိုးဖောက်ချုပ်လုပ်ယူရ၏။ အချို့ဇာများကို ပိတ်သားပေါ်၌ ထိုးထားသဖြင့် ပိတ်ဇာဟုလည်းခေါ်၏။ တဖန် အပ်ရှည်ရှည်နှစ်ချောင်းဖြင့် ထိုးရသော နှစ်ချောင်းထိုးဇာဟူ၍လည်း ရှိသေးသည်။ ယင်းတို့ကို များသောအားဖြင့် ခေါင်းအုံးစွပ်၊ အိပ်ရာခင်းအစရှိသည်တို့၌ အသုံးပြုကြ၏။ သိုးမွေးချည်မျှင်ဖြင့် ထိုးသော နှစ်ချောင်းထိုးဇာကိုကား ‘နှစ်တင်း’ ဟုခေါ်သည်။ ပိုးချည်ဖြင့် ပိုးဇာဖျင်ပေါ်တွင် ရက်လုပ်သော ဇာများလည်းရှိ၏။ ပိုးဇာအနက်ကို များသောအားဖြင့် အနောက်နိုင်ငံများတွင် (အထူးသဖြင့် စပိန်နိုင်ငံတွင်) အသုံးပြုကြသည်။



ပုံစံအမျိုးမျိုးဖြင့် ဆန်းပြားလှပသော စက်ထိုးဇာများ

ရစ်တံ သို့မဟုတ် ရက်ဖောက်ဖြင့် ပြုလုပ်သောဇာကို အင်္ဂလန်၊ ပြင်သစ်၊ ဣတလီ အစရှိသော နိုင်ငံများတွင် ရက်လုပ်ကြသည်။ လုပ်နည်းမှာ ခေါင်းအုံးပေါ်၌ ဇာပုံစံစက္ကူကိုတင်လျက် အပ်များဖြင့် လိုရာပုံစံကွက်ကို ချိတ်တွယ်၍၊ ရစ်တံမှအပ်ချည်ဖြင့် အကွက်ဖော်ရက်လုပ်သွားရသော နည်းဖြစ်လေသည်။ ယင်းဇာကို ‘ခေါင်းအုံးဇာ’ ဟူ၍ခေါ်၏။ ရစ်တံတွင် ရစ် သို့မဟုတ် ချားဖြင့် အပ်ချည်များကို ရစ်ထည့်ပေးရသည်။ ရစ်တံဖြင့်ပြုလုပ်သည့် ဇာထိုးအတတ်သည် လွန်ခဲ့သော နှစ်ပေါင်း ၂၀၀၊ ၃၀၀ ကျော်ကပင် ထွန်းကားခဲ့ရာ၊ ယခုတိုင်အောင် ရှေးဇာပုံစံများကို

အသုံးပြုလျက်ရှိကြသည်။ ထိုဇာကိုပြုလုပ်ရာ၌ အထူးလက်ဝင်၍ ကျွမ်းကျင်မှု လိုသည့်အပြင် အချိန် များစွာကုန်သည်။ ထို့ကြောင့် ထိုဇာများကို တန်ဖိုးထားကြ၏။ ၁၈၆၇ ခုနှစ် ပြင်သစ်နိုင်ငံ ပြပွဲကြီးတွင် တင်ပြထားသော ပါးလွှာနုနယ်လှသည့် ဇာအင်္ကျီတထည်မှာ စတာလင်ပေါင် ၃,၅၀၀ မျှ အဖိုးတန်လေသည်။ ယင်းကို အမျိုးသမီး ၄၀ တို့သည် နေ့ရောညပါ ခုနှစ်နှစ်တိုင်တိုင် ကြာမြင့်အောင် ပြုလုပ်ခဲ့ကြရသည်။

ဇာလုပ်ငန်းသည် ရှေးအခါက အချိန်ကြာမြင့်စွာ လုပ်ကိုင်ရသော လုပ်ငန်းတရပ်ဖြစ်သော်လည်း၊ စက်မှုပညာထွန်းကားလာသော အချိန်၌ကား စက်ဖြင့်ရက်လုပ်နိုင်ခဲ့ရာ၊ အချိန် အနည်းငယ်အတွင်း ဇာကိုက်ပေါင်းများစွာကို ထုတ်လုပ်နိုင်သည်။ ယင်းစက်ဇာများမှာ ပိုမို၍ နူးပြီးလျှင် လှပသေသပ်သဖြင့် လက်ထိုးဇာထက်ပင် လူကြိုက်များပေသည်။ ယခင်က လက်ထိုးဇာပုံစံများအတိုင်းလည်း စက်ဖြင့်ရက်လုပ်ပေးနိုင်၏။ အင်္ဂလန်ပြည် နော့တင်ဂမ်နယ်သည် ဇာလုပ်ငန်းတွင် ကျော်ကြားသည်။ အမေရိကန်ပြည်ထောင်စုမှလည်း စက်ဇာ အမြောက်အမြား ထုတ်လုပ်သည်။ ဥရောပတိုက်တွင် စက်ဇာလုပ်ငန်းကို ပါရစ်၊ လိုင်းယွန်း၊ ကဲလေး၊ ပျူအီ၊ စိန့်ဂေါ၊ နော့တင်ဂမ်နှင့် ပလောင်ယင်မြို့တို့၌ အကြီးအကျယ်ပြုလုပ်ကြ၏။ လက်ထိုးဇာကိုကား ကမ္ဘာ့အရပ်ရပ်တွင်ပြုလုပ်ကြ၏။ သို့သော် ထုတ်လုပ်ရောင်းချနိုင်အောင် တွင်ကျယ်စွာရက်လုပ်နိုင်သည့် အရပ်ဒေသများကား ပြင်သစ်၊ ဗဲလဂျီယမ်၊ စပိန်၊ အိုင်ယာလန်၊ ဣတလီနှင့် အင်္ဂလန်တို့ဖြစ်ကြသည်။

ဇာအမည်များကို ထုတ်လုပ်သော နိုင်ငံကိုစွဲ၍သော်၎င်း၊ မြို့ရွာအရပ်ဒေသကို စွဲ၍သော်၎င်း မှည့်ခေါ်ထားကြ၏။ ပမာအားဖြင့် ပြင်သစ်ဇာ၊ ဆွစ်ဇာလန်ဇာ၊ ဗိလတ်ဇာဟူ၍ ဖြစ်လေသည်။

ဇာရက်လုပ်ခြင်းအတတ်မှာ ၁၅ ရာစုနှစ်ကပင် စတင်ပေါ်ပေါက်လာခဲ့၏။ ၁၆ ရာစုနှစ်နှင့် ၁၇ ရာစုနှစ်များတွင် မိန်းမများထက် ယောကျ်ားများသည် ဇာကိုပိုမိုအသုံးပြုခဲ့ကြသည်။ ထိုစဉ်အခါက ဥရောပတိုက်သားတို့၏ ကော်လာ၊ လက်စည်း၊ လည်စည်းများမှာ ဇာနှတပ်ဆင်ထားသည်ကိုတွေ့မြင်ရ၏။ ယင်းအချိန်ကာလ၌ ဇာရက်လုပ်ခြင်းအတတ်တွင် အကျော်ကြားဆုံး အရပ်ဒေသမှာ ဣတလီနိုင်ငံ ဗင်းနစ်၊ မီလန်၊ ဂျီနိုးဝါးမြို့များဖြစ်ကြသည်။ အလေဒ်စွန်ဇာနှင့် ဗရပ်ဆဲဇာတို့မှာလည်း အထူးကျော်ကြားသော ဇာများဖြစ်ကြသည်။

**ဇာကိုးနီးယမ်**။ ။သက္ကရာဇ် ၁၇၈၉ ခုနှစ်တွင် ဂျာမန်လူမျိုး ဓါတုဗေဒဆရာ ကလပ်ပရုတ်ဆိုသူသည် သီဟိုဠ်ကျွန်းမှရသည့် ဂေါ်မိတ်တွင် ဇာကိုးနီးယမ်ပါဝင်သော ဒြပ်ပေါင်းတခုကို အောက်ဆိုက်အဖြစ်ဖြင့် တွေ့ခဲ့သည်။ သို့သော် ဇာကိုးနီးယမ်ကိုမူ ဗာဇီးလီယပ်ဆိုသူကသာ ပဌမဆုံး ထုတ်ယူရရှိခဲ့သည်။ ဇာကိုးနီးယမ်ပါဝင်သည့် အဓိကတွင်းထွက်နှစ်မျိုးမှာ ဇာကိုးနီးယမ် ဆီလီကိတ်ဖြစ်သော ဇာကွန် (ဂေါ်မိတ်) နှင့် ဇာကိုးနီးယမ် အောက်ဆိုက် ဖြစ်သော ဗက်ဒဲလီယိုက်ဖြစ်သည်။ ဇာကိုးနီးယမ်ကို မီးစာကျောက်သဲတွင်လည်း တွေ့ရသေးသည်။ ဇာကွန်ကို ဩစတြေးလီးယား၊ အိန္ဒိယနှင့် ဗရာဇီးနိုင်ငံများ၌၎င်း၊ ဗက်ဒဲလီယိုက်ကို သီဟိုဠ်ကျွန်းနှင့် ဗရာဇီးနိုင်ငံ၌၎င်း တွေ့ရသည်။ ဇာကွန်အမြောက်အမြားကို နယူးဆောက်သဝေးမှလည်း ရသေးသည်။ ထိုပြင် ဂေါ်မိတ်ကသစ်ရေ သို့မဟုတ် ဂေါ်မိတ်နီကဲ့သို့သော ကျောက်မျက်မျိုးတွင်လည်း တွေ့ရသေးသည်။

ဇာကိုးနီးယမ်သည် အောက်ဆီဂျင်၊ နိုက်ထရိုဂျင်၊ ဟိုက်ဒရိုဂျင်၊ ကာဗွန်၊ ဆီလီကွန်ကဲ့သို့သော ဒြပ်စင်များနှင့် တွေ့ထိလျှင် အလွန်ဓါတ်ပြောင်းလွယ်သည်။ ထို့ကြောင့် အခြားသတ္တုများကို ဇာကိုးနီးယမ်သတ္တုကျောက်ရိုင်းမှ ဖယ်ရှားပစ်လိုက်သည့်တိုင်အောင် ဇာကိုးနီးယမ်သတ္တုသန့်သန့်ကို လွယ်ကူစွာထုတ်ယူ၍ မရနိုင်သေးပေ။ သတ္တုမှုန့်ကို ရလိုသောအခါ သတ္တုဖလူအိုရိုက်ကို ဆိုဒီယမ်နှင့် ရောလျက် အလွန်ခိုင်ခံ့၍ အလုံပိတ်ထားသည့် လုံကြီးများတွင်ထည့်ကာ အပူတိုက်ပေးရသည်။ သို့သော် ပလာနယ်တွင်ရှိသော တန်စတင် အမျှင်သေးပေါ်သို့ လျှပ်စစ်ဓါတ်ဖြင့် အပူတိုက်၍ ဇာကိုးနီးယမ် အိုင်အိုဒိုက်အငွေ့ကို လွှတ်ပေးသောအခါတွင် အိုင်အိုဒင်သည် ပြိုကွဲသွားကာ တန်စတင်အမျှင်သေးပေါ်တွင် ဇာကိုးနီးယမ်လာရောက်စွဲကပ်နိုင်၏။

ဇာကိုးနီးယမ်သည် အလှည့်မှန်ဇယားတွင် တိုင်တေးနီယမ်နှင့် ဆီလီကွန် ရှိသည့်အစု၌ ပါဝင်သည်။ ထိုဒြပ်စင်၏ အက်တမ်အမှတ်စဉ်နှင့် အက်တမ်အလေးဆများမှာ ၄၀ နှင့် ၉၁.၂ အသီးသီးဖြစ်၍၊ သင်္ကေတမှာ (Zr) ဖြစ်၏။ ယင်းသည် ဟိုက်ဒရိုကလောရစ် အက်ဆစ် သို့မဟုတ် ဆာလဖျူရစ် အက်ဆစ်တွင် အနည်းငယ်သာ ပျော်ဝင်နိုင်သော်လည်း၊ အက်ကွာရီးဂျီးယား၌သော်၎င်း၊ ဟိုက်ဒရိုဖလူအိုရစ် အက်ဆစ်၌သော်၎င်း လွယ်ကူစွာ ပျော်ဝင်နိုင်သည်။ ဇာကိုးနီးယမ် အမှုန့်ကို စိုထိုင်းအောင်ပြုလုပ်၍ မထားလျှင် မီးစွဲလောင်တတ်သည်။ သတ္တုခဲတွင် ဓါတ်သိပ်သည်းဆ ၉.၅ ရှိ၍၊ စင်တီဂရိတ် ၂၀၀၀° ခန့်တွင် အရည်ပျော်သည်။ ဇာကိုးနီးယမ်ကို အက်ဆစ်နှင့် အယ်လကာလီအမြောက်အမြားက ဓါတ်ပြောင်းလဲမပေးနိုင်ချေ။ ဇာကိုးနီးယမ် သတ္တုမှုန့်များကို ခဲယမ်းမီးကျောက် လုပ်ရာတွင် အသုံးပြုသည်။ ယင်းကို မက်ဂနီဇီယမ်နှင့်ရောလိုက်သော အခါတွင်၊ မီးခိုးမထွက်သည့် ဝင်းကနဲလင်းသော ပေါင်ဒါမှုန့်

များဖြစ်လာသည်။ ထိုသတ္တု ရောထားသော သံမဏိသတ္တုစပ်သည် အလွန်တောင့်တင်းသဖြင့် ယင်းကို သံချပ်ကာများပြုလုပ်ရာတွင် အသုံးပြုသည်။ ဇာကိုးနိုးယမ် အောက်ဆိုက်ကို အိုးခွက်များ စဥ့်သုတ်ရာတွင် အသုံးပြုကြသည်။ ဇာကိုးနိုးယမ်သည် အပူပြင်းကို ခံနိုင်ရည်ရှိသဖြင့် အပူပြင်းခံမီးဖိုများ၏ အတွင်းခံများ ပြုလုပ်ရာတွင်လည်း အသုံးပြုကြသည်။

**ဇာတာ။** ။ဇာတာမှာ မြန်မာလူမျိုးများတွင် ရှေးအစဥ်အလာကစ၍ လောကီဗေဒင်ကျမ်းများအရ မွေးဖွားသော နှစ်၊ လ၊ နေ့၊ ရက်၊ အချိန်နာရီများနှင့် ထိုအချိန်တွင် ဂြိုဟ်ခွင်တည်နေပုံကို မှတ်သားထားသော အမှတ်အသားပင်ဖြစ်သည်။

ထိုအမှတ်အသားမျိုးကို ထန်းဖူးလွှာ၊ ပေဖူးလွှာများပေါ်တွင် ဖြစ်စေ၊ ဆင်စွယ်ပြား၊ ရွှေပြား၊ ငွေပြား၊ ကြေးပြားစသည်တို့ အပေါ်တွင်ဖြစ်စေ ရေးမှတ်စွဲဆောင် ထားလေ့ရှိသည်။ အများအားဖြင့် ထန်းဖူးများပေါ်တွင် ရေးသားသည်က များသည်။ ဇာတာကို နက္ခတ်ဗေဒင်ပညာ တတ်ကျွမ်းသူများကသာ ရေးသားနိုင်စွမ်းသည်။

ဇာတာကို ပြုလုပ်စီမံရာတွင် လိုက်နာအပ်သော သတ်မှတ်ချက်များလည်းရှိသည်။ ထန်းဖူးလွှာများကို ခိုင်ခံ့အောင်အလွှာများထပ်၍ချုပ်ရာ၌ အလွှာအရေအတွက်သည် ၇ လွှာ၊ (မအရေအတွက်ရှိရသည်။) မလျော့မပိုရချေ။ အများနှစ်ဖက်တွင် တုံးတိမဖြတ်ရဘဲ၊ မူလ ထန်းဖူးထွက်စကဲ့သို့ အလယ်တွင် စုချွန်းစေလျက် အညွန့် အတက် လူစေသော မင်္ဂလာနိမိတ်ကိုယူ၍ ပုံပြုရသည်။ အဖျားနှစ်ဖက်တွင် ကြိုးဖြင့် အတို တကြောင်း၊ အရှည် တကြောင်း နှစ်ကြောင်းစီ ဖိစပ်ချုပ်ထားရသည်။

ဇာတာ၏ အပေါ်ဖက်လွှာတွင် ဂြိုဟ်ခွင်နှင့် အချိန်ဇယားကို ရေးမှတ်၍ အောက်ဖက်လွှာတွင် စာဖြင့် အချိန်နာရီနှင့် အမည်တို့ကို ရေးမှတ်ရသည်။

ဇာတာ၏ အပေါ်ဖက်လွှာတွင် လက်ဝဲဖက်၌ စက်ဝိုင်းစည်း သုံးရစ်ဝိုင်း၍ ဖွားချိန် ဂြိုဟ်ခွင်များကို ဇယားချ၍ရေးရသည်။ စက်ဝိုင်း တထပ် တထပ်အကြားတွင် နတ်ကြီး ၄ ပါး၊ မြတ်စွာဘုရားဖြစ်တော်ပေါင်း စသော အမှတ်သင်္ချာဂဏန်းများကို ရေးသွင်းနိုင်သည်။ စည်းသုံးရစ်၏ အပြင်တွင် ဇယားကွက်များချ၍၊ ဇာတာရှင်၏ မွေးနေ့၊ မွေးနံနှင့် မိတ်ဖက်ဖြစ်သော မွေးနံဂဏန်းများကို မိတ်သင်္ဂဟပေါ်များစေရန် နိမိတ်အလို့ငှာ ထည့်သွင်းရေးသားရသည်။

အလယ်တွင် အဓိပတိတိုင်ဟူ၍ ပြာသာဒ်သဏ္ဌာန် တိုင်ကိုရေးသွင်းရသည်။ တိုင်၏ပတ်လည်တွင် လှပသော ပန်းများ ရေးခြယ်နိုင်သည်။ တိုင်အောက်ခြေကွက်လပ်၌ကား၊ မွေးနံသင့်ဂြိုဟ်စီးအရုပ်၊ တနင်္ဂနွေ ဂဠုန်၊ တနင်္လာ ကျားစသည်တို့ကိုဖြစ်စေ၊ သာမန် ပန်းခက်ကိုဖြစ်စေ ရေးသွင်းနိုင်သည်။

လက်ျာဖက်တွင်မူ၊ တိုင်ဆယ်ပါးနက္ခတ်စဥ်နှင့် ရာသီ



ထန်းဖူးလွှာဖြင့် ပြုလုပ်ထားသော ဇာတာတစောင်၏ ရှေ့ဖက် (အထက်ပုံ) နှင့် ကျောဖက်တို့ပုံ

များကို ဇယားများဖြင့် ၃ဆင့်ရေးသွင်းရသည်။ ပဌမ အထက်ဆုံး အဆင့်တွင် တိုင်ဆယ်ပါးကို အစဉ်အတိုင်း ရေးသွင်း၍ ထိုတိုင်များအလိုက် အရ နက္ခတ်၊ ပါဒ်၊ ဃဋီ၊ ဝိဃဋီ၊ အနုဃဋီတို့ကို ယင်းတို့ အသီးအသီး၏အောက်၌ ရေးသွင်းရသည်။ တိုင်ဆယ်ပါးကို အတိုကောက် ပု၊ ဣ၊ ဋ္ဌီ၊ ထီး၊ ပ၊ သိ၊ ဆင်၊ မိ၊ ပုံ၊ ထွန်း စသည်ဖြင့်ရေးသည်။ ယင်းတို့မှာ ပုညတိုင်၊ ဣသျှတိုင်၊ ပဋ္ဌိသန္ဓေတိုင်၊ ထီးဖြူတိုင်၊ ပဝတ္တိတိုင်၊ သိရီတိုင်၊ ဆင်ဖြူတိုင်၊ မိတ္တူတိုင်၊ ရတနာပုံတိုင်၊ အထွန်းတိုင်ဟူ၍ဖြစ်သည်။

အလယ်ဆင့်တွင် တနင်္ဂနွေ၊ တနင်္လာ၊ အင်္ဂါ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာ၊ စနေ၊ ရာဟု၊ ကိတ်ဂြိုဟ်များနှင့် လင်္ဂတို့၏ ရာသီ၊ အံသာ၊ လိတ္တာ၊ ဝိလိတ္တာ၊ အနုလိတ္တာ တို့ကို အသီးအသီးရေးသွင်းရသည်။

အောက်ဆုံး အဆင့်တွင် တိထိနက္ခတ်၊ မြင်နက္ခတ်၊ စဉ် နက္ခတ်၊ တိုင်ဦးနက္ခတ်၊ ဓါတ်တိုင်နက္ခတ်၊ ဆည်တိုင်နက္ခတ်၊ သုဝဏ္ဏတိုင်နက္ခတ်၊ ရဇတတိုင်နက္ခတ်စသည်တို့၏ နက္ခတ်၊ ပါဒ်၊ ဃဋီ၊ ဝိဃဋီ၊ အနုဃဋီတို့ကို အသီးအသီးရေးသွင်း ရသည်။

ကျန်ဇာတာ၏ အောက်ဖက်လွှာ သို့မဟုတ် ဝမ်းဖက်တွင် ဇေယျာတု သဗ္ဗ မင်္ဂလံ အစချီလျက်၊ ဖွားသက္ကရာဇ် လ ရက် နေ့ တို့နှင့် အမည်ကို စာ ၇ ကြောင်းဖြင့် ရေးသွင်းရသည်။ ၅ ကြောင်း သို့မဟုတ် ၉ ကြောင်းစသည်ဖြင့် မ အရေ အတွက်အားဖြင့်လည်း ရေးသွင်းနိုင်သည်။ စုံအရေအတွက် မရှိစေရပေ။ စာကြောင်းများ အကူးအဆက်ကိုလည်း မင်္ဂလာရှိရန်နှင့် အဆက်အစပ်လွယ်ကူရန်အလို့ငှာ ကူးစပ် လျက်ရေးရသည်။

**ဇာတိပ္ဖိုလ်။** ။ဇာတိပ္ဖိုလ်ပင်သည် 'မိုင်ရစ္စတီကေစီအီး' မျိုးရင်းဝင်ဖြစ်သည်။ ရုက္ခဗေဒအမည်မှာ 'မိုင်ရစ္စတစ်ကာ ဖရက်ဂရင်း' ဟူ၍ဖြစ်သည်။ ထိုအပင်၏ ပင်စည်သည် ဖြောင့်၍၊ အကိုင်းများသည် အပင်၏ အောက်ခြေလောက် ဆီမှစ၍ထွက်သည်။ မလ္လာယုကျွန်းဆွယ်သည် ထိုအပင်၏ မူလပေါက်ရာ ဒေသဖြစ်သည်။ ဇာတိပ္ဖိုလ်ပင်ကို အရှေ့နှင့် အနောက်အိန္ဒိယကျွန်းစု၊ ဗရာဇီး၊ သီဟိုဠ်၊ အိန္ဒိယနိုင်ငံ တို့တွင် အောင်မြင်စွာ စိုက်ပျိုးလျက်ရှိကြသည်။ အလေ့ကျ ပေါက်သည့် ဇာတိပ္ဖိုလ်ပင်၏ အမြင့်သည် ပေ ၆၀ရှိသည်။ စိုက်ပျိုးယူသည့် ဇာတိပ္ဖိုလ်ပင်သည် ပေ ၃၀ အထိမြင့်၍၊ သားရေကဲ့သို့ မာကျော ပျဉ်းတွဲလျက် မွေးကြိုင်သော အမြဲစိမ်းရွက်လွှဲများရှိသည်။ အရွက်များသည် ရှည်၍ ချွန်သည်။ အကြောများကိုလည်း ထင်ရှားစွာ မြင်နိုင်၏။ အပင်အသက် ၈ နှစ်တွင် အသီးစ၍သီးသည်။ အသက် ၂၅ နှစ်တွင် အသီးအများဆုံးသီးပြီးနောက် အသက် ၃၅ နှစ် မျှတိုင်အောင် အသီးနှင့် အပွင့်များ ဆက်၍သီးပွင့်သည်။ အသီးများ မှည့်သောအခါ၊ ရွှေဝါရောင်ပေါက်၍ တောက် ပသည်။ အဝါဖျော့ရောင် အပွင့်ငယ်များသည်လည်း အခိုင်လိုက် ငိုက်လျက်ပွင့်ကြသည်။ အသီးမှည့်သောအခါ၊ အသားများသည့်အပိုင်းသည် အတော်မာလာ၏။ နောက် ဆုံး၌ ထိပ်ပိုင်းမှ ကွဲလာပြီးလျှင် တောက်ပသည့်ကြက်သွေး ရောင် အမြွှေးများကိုမြင်ရသည်။ ထိုအမြွှေးများသည် ရာဇမတ်ကွက်ကဲ့သို့ ဖြစ်နေသည်။ ဇာတိပ္ဖိုလ်ပင်သည် တနှစ် တနှစ်လျှင် အသီးပေါင်း ၁,၅၀၀ မှ ၂,၀၀၀ ထိ သီးလေ့ရှိသည်။

အသီးများကို စုဆောင်းပြီးသောအခါ၊ အသားများသည့် အခွံကို ခွာလိုက်ရသည်။ ထိုနောက် အကာကိုခွာယူ၍၊ အခြောက်လှန်းသည်။ ထိုအကာကိုပင် ဇာတိပ္ဖိုလ်ပွင့်ဟု ခေါ်မှတ်မှားတတ်ကြသည်။ အစေ့၏အခွံကို ခွဲလိုက် သောအခါ မာသည့်အဆန်ကိုရသည်။ ဇာတိပ္ဖိုလ်သီးသည် ဘဲဥပုံရှိ၍ တလက်မခန့်ရှည်သည်။ ယင်း၌ မညီညာသော မြောင်းများလည်းရှိသည်။ ဇာတိပ္ဖိုလ်သီးငယ်များမှ အဆီကိုထုတ်ယူကြသည်။ စက်ဘုမ္ပြိုသည် ဇာတိပ္ဖိုလ်သီး အများဆုံးထုတ်ဝေရောင်းချသော မြို့ဖြစ်သည်။ ဇာတိပ္ဖိုလ် ပင်များကို မြန်မာနိုင်ငံတွင် မြိတ်နှင့် မော်လမြိုင်မြို့များ၌ အောင်မြင်စွာစိုက်ပျိုးနိုင်ကြသည်။ သို့သော် နိုင်ငံခြားမှ တင်သွင်းသည့် ဇာတိပ္ဖိုလ်သီးများကို ဈေးပေါပေါနှင့် ရောင်းချနိုင်သဖြင့် ဇာတိပ္ဖိုလ်ပင်စိုက်ပျိုးခြင်းသည် အောင် မြင်ပုံမပေါ်ချေ။ ဇာတိပ္ဖိုလ်သီးကို ဟင်းခတ် အမွှေး အကြိုင်အဖြစ်၎င်း၊ သောက်ဆေး ဖော်စပ်ရာတွင်၎င်း အသုံး ပြုနိုင်သည်။ (ဟင်းခတ်အမွှေးအကြိုင် — ရှု။)

**ဇာထိုးပန်းထိုး။** ။ရှေးနှစ်ပေါင်း များစွာကစ၍ ယနေ့ တိုင်အောင်ပင် ဇာထည်၊ ပန်းထိုးထည်များကို လူတို့ အမြတ်တနိုးအသုံးပြုလျက်ရှိကြသည်။ လူသည် စိတ်ကူး ဉာဏ်ဆန်းကြယ်၍ အလှအပကို မြတ်နိုးတတ်သည့်အတိုင်း ထိုးထွင်းဉာဏ်ဖြင့် တီထွင်၍ ဇာထိုးပန်းထည်များကို ရက်လုပ်သုံးစွဲလာခဲ့ကြလေသည်။ ရိုးရိုး ပင့်ကူအိမ်ကဲ့သို့ သော ခြည်မျှင်တန်း အကွက်များမှ အတွန့်အလိမ် အချိတ် အဆက် အကောက်အကွေ့ အမျိုးမျိုးအထိ လုပအောင်တီ ထွင်ရက်လုပ်ကြသည်။ ရှေးနှစ်ပေါင်း ၃,၅၀၀ ခန့်က အီဂျစ် ပြည်တွင် ဇာထိုးပန်းထိုး အထည်များ ပေါ်ပေါက်ခဲ့သည်။ ယခုခေတ်၌ တွေ့မြင်ရသော ဇာထည်မျိုးမှာမူ ခရစ်တော် ပေါ်ပြီးနောက်မှသာ အီဂျစ်ပြည်၌ ပေါ်ထွန်းလာသည် ဟုဆိုသည်။ ရှေးဂရိလူမျိုးတို့သည် ဇာထည်များကို ရက် လုပ်သုံးစွဲခဲ့ကြသည်။ ရောမလူမျိုးများ ထွန်းကားချိန်၌ ဇာထည်များမှာ အထူးခေတ်စားသည်။

## ဇာထိုးပန်းထိုး

အရှေ့တိုင်းနိုင်ငံများ၌ ရှေးနှစ်ပေါင်းများစွာကပင် ဇာထိုးပန်းထိုး အတတ်ကို တတ်မြောက်ခဲ့ကြသည်။ တရုပ်နိုင်ငံနှင့် အိန္ဒိယနိုင်ငံ ကသ္မီရနယ် ဇာထည်များ၏ လက်ရာမှာ ယနေ့တိုင် ရှေးဟောင်းမှုအတိုင်းပင်ရှိနေသည်။ တရုပ်ဇာပန်းများမှာ နုခြင်း၊ အရောင်အသွေး အဆင် ပြေပြစ်ခြင်းတို့ကြောင့် အလွန်လှပကောင်းမွန်လေသည်။ ပါးရှင်းလူမျိုးများကမူ အလှအပဆွဲထားရန်နှင့် ဘုရားရှိခိုးရာ၌ အသုံးပြုသော ကော်ဇောများတွင် ဇာပန်းများကို အသုံးပြုကြသည်။ (ကော်ဇော — လည်းရှု။)

ခေတ်ဇာပန်းထည်များသည် ဣတလီပြည် ဗင်းနစ်မြို့တွင် ပဥ္စမဦးစွာစတင်ပေါ်ပေါက်ခဲ့လေသည်။ ထိုစဉ်က ဣတလီ အမျိုးသမီးတိုင်း ဆင်းရဲချမ်းသာမရွေး ဇာပန်းကို အထူးစိတ်ပါစွာ ထိုးလုပ်ခဲ့ကြသည်။ သီလရှင်များ ပြုလုပ်ကြသော ဇာပန်းထည်တို့မှာ အလှပဆုံးဖြစ်သည်။ ဘုရားရှိခိုးကျောင်းများရှိ ပလ္လင်များအတွက်နှင့် ဂိုဏ်းချုပ် ဂိုဏ်းအုပ်စသော ဘုန်းတော်ကြီးများ ဝတ်ရုံရန်အတွက် သီလရှင်များ ထိုးလုပ်ခဲ့သော အချို့ဇာထည်များသည် အထူးပင်လှပခြင်းကြောင့် ရှေးဟောင်း လက်မှုပညာတရပ်အဖြစ်ဖြင့် ယင်းတို့ကို သေတ္တာတွင် သော့ခတ်သိမ်းဆည်းထားပြီးလျှင်၊ အခါကြီး ရက်ကြီးများ၌သာ ထုတ်၍ပြသကြလေသည်။

ပဥ္စမအစတွင်မူ ပင့်ကူအိမ်ပမာ ခြည်မျှင်ကို လေးထောင့်ကွက်များဖြင့် စတင်ပြုလုပ်သုံးစွဲခဲ့ကြသည်။ ထိုမှတဖြည်းဖြည်း တိုးတက်လာပြီးလျှင်၊ တချောင်းထိုးအပ် တခုတည်းဖြင့် သစ်ရွက် ပန်းပွင့် ပန်းခက် စသည့် ပုံကြွ ဇာပန်းများကို အံ့သြလောက်အောင် အဆင့်ဆင့် တိုးတက် တီထွင်လာကြသည်။ ရှေးက သာသနာရေး အဆောက်အအုံများတွင်သာ ဇာပန်းများကို သုံးစွဲခဲ့ရာမှ၊ နောင်အခါတွင် စားပွဲခင်း၊ လက်သုတ်ပုဝါ၊ အိပ်ရာခင်းနှင့် ယောကျ်ား မိန်းမတို့၏ အင်္ကျီလက်ဖျား၊ လည်ပတ်၊ လက်ကိုင်ပုဝါများ၌ပင် ဇာပန်းကို သုံးစွဲလာခဲ့ကြလေသည်။ အေဒီ ၁၅၅၀ ပြည့်နှစ်မှ ၁၇၅၀ ပြည့်နှစ်ထိ ခေတ်သည်ကား ဇာပန်းခေတ်ပင်ဖြစ်တော့သည်။ ထိုခေတ်က အထက်တန်းစား အမျိုးသမီးများသည် အားလပ်ချိန်များတွင် ဇာထိုးခြင်းဖြင့် အချိန်ကုန်ခဲ့ကြသည်။ အင်္ဂလိပ်ဇာထည်များသည် ၁၃ ရာစုနှစ်မှစ၍ ဥရောပတိုက် အနောက်ပိုင်းတွင် ကျော်ကြားခဲ့ပေသည်။ တျူဒါမင်းဆက်များလက်ထက်၌ ဝတ်စားတန်ဆာတွင် ဇာပန်းများကို ပိုးထည်နှင့် ရွှေခြည်ထိုးထည်တို့၌ ရောနှော၍ သုံးစွဲခဲ့ကြလေသည်။

ဥရောပတိုက် အလယ်ပိုင်း ဟန်ဂေရီ၊ ရူမေးနီးယားနှင့် ဆွစ်ဇာလန် ပြည်သူ ပြည်သားတို့၏ တောက်ပသော ရောင်စုံ ဇာပန်းထည်များမှာ အလွန်လှပ၍ နှစ်သက်ဖွယ်ရာဖြစ်ပေသည်။ ခရစ်တော်ပေါ်ပြီးနောက်၊ ဥရောပတိုက်ရှိ ဇာပန်းထည်များသည် သာသနာရေးဆိုင်ရာ ရုပ်ပုံများရက်လုပ်ရာတွင် ခေတ်စားလာလေသည်။ အချို့ဇာပန်းရှိ ရုပ်ပုံများမှာ ထိုခေတ်က သမိုင်းကို ဖော်ပြထားသဖြင့် အထူးပင် အဖိုးတန်လေသည်။ ၁၃ ရာစု၊ ၁၄ ရာစုနှစ်များအတွင်း ဂျာမနီပြည်တွင် သူတော်စင်တို့၏ပုံများကို ဇာပန်းဖြင့်ဖော်ခဲ့ကြရာ၊ ထိုသူတော်စင်တို့၏ ဝတ်ရုံထည်များမှာ အထူးဆန်းကြယ်လှပေသည်။ ထိုခေတ်နောက်တွင် ဂျာမန်ဇာပန်းများသည် ပန်းအုံပန်းကြွများဖြင့် တမျိုးပင်ခမ်းနားလာသည်။ ဂျာမန် တောသူ တောင်သားများ၏ အဝတ်အစားမှာ အံ့သြလောက်အောင် လှပကောင်းမွန်၏။ ယင်းတို့ကို နေ့ထူး နေ့မြတ်များ၌သာ ဝတ်ဆင်လေ့ရှိကြ၏။

၁၇ ရာစု၊ ၁၈ ရာစုနှစ်များတွင်လည်း ဖလန်းဒါးနယ်များ၌ ဇာပန်းထည်သည် ခေတ်စားလာခဲ့သည်။ ၁၇ ရာစုနှစ် အလယ်ခန့်တွင် ပြင်သစ်လူမျိုးတို့သည် ကမ္ဘာ့ဇာပန်းထည် ရက်လုပ်သော နိုင်ငံများနှင့် ယှဉ်ပေါင်တန်းလိုက်ခဲ့လေသည်။ ၁၆၄၃ ခုနှစ်မှ ၁၇၁၅ ခုနှစ်ထိ အုပ်စိုးခဲ့သော ပြင်သစ်နိုင်ငံ၊ ၁၄ ဆက်မြောက် လူဝီဘုရင်ကြီးသည် ဗင်းနစ်မြို့မှ ဇာပန်းထိုးတတ်သူ များစွာကို ပြင်သစ်ပြည်သို့ ခေါ်ယူ၍၊ ဇာထိုး ပန်းထိုးအတတ်ကို အားပေးခဲ့သည်။ ၁၆၆၇ ခုနှစ်တွင် ပြင်သစ်ပြည်၌ ဣတလီဇာပန်းထည်များကို အသုံးမပြုရန် ကျပ်တည်းစွာ တားမြစ်ထားလေသည်။

စပိန်နိုင်ငံဖြစ် ဇာထည်များလည်း အထူးကျော်ကြားပေသည်။ စပိန်နိုင်ငံသူတို့သည် ပြင်သစ်တို့ထက်ဦးစွာကပင် ဇာပန်းထိုးအတတ်ကို တတ်မြောက်ခဲ့ကြ၍၊ အထူးသဖြင့် စပိန်လူမျိုးတို့၏ ရွှေခြည် ငွေခြည်နှင့် ရောင်စုံခြည်များမှာ အလွန်လှပပေသည်။

အထင်ရှားဆုံး အင်္ဂလိပ်ဇာမှာ တောင်ပိုင်း ဒက်ဗွန်ရှိုင်ယာနယ်မှလာသော ဟွန်နီတွန်ဇာပင်ဖြစ်သည်။ အယ်လဗာမြို့စားကြီး၏ နှိပ်စက်မှုကြောင့် ထိုအရပ်သို့ ထွက်ပြေးလာသော ဖလန်းဒါးနယ်သား ဇာပန်းပညာသည်များက ဇာလုပ်ငန်းကို ၁၅၇၀ ပြည့်နှစ်တွင် စတင် တည်ထောင်ခဲ့သည်ဟု ဆိုစမှတ်ပြုကြလေသည်။

အိုင်ယာလန်ပြည်တွင်ကား ဗရင်ဂျီဂိုဏ်းထွန်းကားသည့်အတိုင်း သီလရှင်ကျောင်းများရှိ သီလရှင်များသည် ဇာပန်းကိုပို၍ သဘာဝကျအောင်ထိုးနိုင်ကြသည်။ ထိုဇာပန်းများများမှာ အကောင်းဆုံးမဟုတ်ချေ။ သို့ရာတွင် ဇာပန်းများမှာ လှပ၍၊ နိုင်ငံခြားမှ အဝယ်များသဖြင့်၊ တိုင်းပြည်၏ ငွေဝင်အားကို ဖြည့်စွမ်းနိုင်ခဲ့လေသည်။ လန်ဒန်မြို့ ကင်စင်တန်ရပ်ကွက်ရှိ ဘုရင့်အပ်ချုပ်ပညာသင် ကျောင်းသည် ယခုအခါ ဇာထည်များကို ပြန်လည် ခေတ်စားလာအောင် လုပ်ကိုင်နိုင်ခဲ့လေပြီ။ အယ်လစ်ဇဗက်မိဖုရားကြီးနှင့် မေရီမိဖုရားကြီးတို့မှာ ဇာပန်းထိုးတွင် အထူးဝါသနာထုံကြသည်။

**ဇာရီမှု။** ။တရားမမှုများတွင် တရားရုံးတော်က အမှုကို စီရင်ဆုံးဖြတ်၍ အမိန့်ချမှတ်ခြင်းကို ဒီကရီ ချပေးသည်ဟု ခေါ်သည်။ ယင်းဝေါဟာရမှာ အင်္ဂလိပ်စကားမှလာသည်။ တရားလို၊ တရားခံဟု တရားတွေ့သူ နှစ်ဦး နှစ်ဖက်ရှိရာ၌၊ တဖက်ဖက်ကို အနိုင်ပေး၍ ဒီကရီအမိန့် ချမှတ်သည်ဖြစ်ရာ၊ တရားနိုင်သူက ဒီကရီ ရသည်ဟု သုံးနှုန်းလေ့ရှိ၏။ ဤသို့ တရားနိုင်ကြောင်း အမိန့် ဒီကရီရရှိသော်လည်း၊ ယင်း အမိန့်ကို အကောင်အထည်ဖော်ရန် အမိန့်အရဆောင် ရွက်မှု၊ ပေးအပ်မှု၊ ရရှိမှုရှိရန် တရားနိုင်က တဆင့်ထပ် လောင်း၍ပြုလုပ်စရာရှိသေး၏။ ဒီကရီရရှိထားသူ တရား နိုင်က ထိုဒီကရီကိုချပေးသည့် တရားရုံးတော်အား ဒီကရီကို အတည်ပြုပေးရန် လျှောက်ထားမှုကို ဇာရီမှုဟုခေါ်သည်။ ကျေညာချက်သဘောမျိုး သက်သက်မျှသာဖြစ်သော ဒီကရီများအတွက် ဇာရီလုပ်ရန်မလိုချေ။

ဒီကရီရသူ (ဝါ) တရားနိုင်သူက ဇာရီမှုဖွင့်၍ တရားရုံး တော်သို့ လျှောက်ထားသောအခါ စည်းကမ်းသတ်ချက် များအရ၊ တရားရုံးတော်က ဒီကရီအမိန့်ကို ဆောင်ရွက် စေရန် (ဝါ) အကောင်အထည်ဖော်ရန် ဇာရီအမိန့်ချမှတ် ပေးနိုင်၏။ ဆောင်ရွက်နည်းမှာ (၁) ဒီကရီအမိန့်တွင် အတိအကျ ဖော်ပြပါရှိသော ပစ္စည်းကို ပေးအပ်စေခြင်း၊ (၂) ပစ္စည်းဝါရမ်းကပ်၍ဖြစ်စေ၊ မကပ်ဘဲဖြစ်စေ ပစ္စည်း ကိုရောင်းချစေခြင်း၊ (၃) တရားရှုံးသူအား ဖမ်းဆီးချုပ် နှောင်ခြင်း၊ (၄) ပစ္စည်းထိန်းခန့်အပ်ခြင်း၊ (၅) ဒီကရီ အမိန့်တွင် ပေးအပ်သော အခွင့်အရေးကို တရားနိုင်ကပြည့် စုံစွာ ရရှိစေရန် အခြားနည်းဖြင့် ဆောင်ရွက်ခြင်းတို့ဖြစ်၏။ ဆောင်ရွက်ရသူမှာ တရားရုံးတော်၏ အမှုထမ်းဖြစ်သော ဘီးလစ်အရာရှိဖြစ်၏။

ဇာရီလုပ်နိုင်သည့် ဒီကရီများမှာ (၁) အယူခံသည် အထိ ပဌမတရားစွဲဆိုရာ ရုံးတော်၏ ဒီကရီ (ဝါ) နောက်ဆုံး တရားစွဲဆိုရာ ရုံးတော်၏ ဒီကရီ၊ (၂) မပျက်မပြယ်တည် နေသေးသော ဒီကရီနှင့် (၃) စည်းကမ်းသတ် ကာလ မကျော်လွန်သေးသည့် ဒီကရီတို့ဖြစ်သည်။

စည်းကမ်းသတ် အက်ဥပဒေအရ ဇာရီလုပ်ပေးရန် အတွက် ပဌမဆုံး လျှောက်လွှာကို ဒီကရီချမှတ်ပေးသည့် နေ့မှ သုံးနှစ်အတွင်း တင်သွင်းရမည်ဖြစ်၏။ အကယ်၍ အတည်မပြုသေးသဖြင့် နောက်ထပ်လျှောက်လွှာတင်ရန်လို အပ်လျှင်၊ နောက်ဆုံးလျှောက်လွှာ တင်သွင်းခဲ့သည့်နေ့မှ သုံးနှစ်အတွင်း လျှောက်လွှာများ အသီးအသီး တင်သွင်း နိုင်သည်။ သို့သော်လည်း၊ နောက်ဆုံးလျှောက်လွှာသည် တရားမကျင့်ထုံးဥပဒေနှင့် ညီညွတ်ရမည်ဖြစ်သည်။တရားမ ကျင့်ထုံးဥပဒေတွင် ဒီကရီချမှတ်သည့်နေ့မှ တဆယ့်နှစ်နှစ် သောအချိန်ကာလအတွက်သာစည်းကမ်းသတ်ပေးထား၏။

ဇာရီလုပ်ပေးရန် လျှောက်လွှာများကို မှန်ကန်ကြောင်း ထောက်ခံချက်ပါ ဒီကရီမိတ္တူ တစောင်စီနှင့်အတူ ပူးတွဲတင် သွင်းရသည်။ လျှောက်လွှာများတွင် အမှုနံပတ်၊ အမှုသည် တို့အမည်၊ ဒီကရီကျနေ့စွဲ၊ ဒီကရီကို အယူခံသည် မခံသည်၊ တစုံတရာပေးဆပ်ခြင်း သို့မဟုတ် ရှင်းလင်းပြေငြိမ်းခြင်းရှိ မရှိ၊ အထက်က လျှောက်ထားချက်ရှိလျှင် နေ့စွဲနှင့် မည် သို့ဖြစ်ကြောင်း၊ ဒီကရီပေါ်တွင်ဖြစ်စေ၊ အခြားခွင့်ပြုသည့် သက်သာခွင့်ပေါ်တွင်ဖြစ်စေ ပေးဆပ်ရန်ရှိသော အတိုးနှင့် တကွ ငွေပေါင်း၊ အပြန်အလှန် ဒီကရီ တစုံတရာရှိလျှင် အကြောင်းအရာ၊ တရားစရိတ်ချပေးလျှင် ငွေပေါင်း၊ မည်သူ့အပေါ်တွင် အတည်ပြုရန်နှင့် ရုံးတော်က မည်သို့ ကူညီပြုလုပ်ပေးစေလိုကြောင်းတို့ကို ဇယားအင်းစောက်ပြု လုပ် ဖော်ပြရလေသည်။ သို့သော် ဒီကရီသည် ငွေပေးရန် အတွက်ဖြစ်လျှင် ထိုဒီကရီကို ချပေးခဲ့စဉ်က၊ တရားရှုံးသည် ရုံးတော်ဥပဒေအတွင်းရှိနေသော်၊ ထိုဒီကရီကို ချပေးချိန် မှာပင် တပါတည်း၊ ဇာရီလုပ်ပေးရန် နှုတ်ဖြင့် ဦးတိုက် လျှောက်ထားနိုင်၏။ လျှောက်လွှာသည် အထက်ပါစည်း ကမ်းချက်များနှင့် ညီညွတ်လျှင် ဒီကရီတွင် ခွဲခြား၍ပါရှိ သည့် ပစ္စည်းကို ပေးအပ်စေလိုသည်။ သို့မဟုတ် လျှောက် လွှာတွင် အမည်ပါလူကိုဖမ်းဆီး၍၊ တရားမထောင်၌ချလို သည်။ သို့မဟုတ် ပစ္စည်းကိုဝါးရမ်းကပ်၍ လေလံတင် ရောင်းချစေလိုသည်။ သို့မဟုတ် ပစ္စည်းထိန်းခန့်စေလို သည်။ သို့မဟုတ်အခြားမည်သည့်သက်သာခွင့်မျိုးရလိုသည် စသည်ဖြင့် ကူညီပြုလုပ်ပေးရန် တောင်းဆိုချက်အတိုင်း၊ ရုံးတော်က အတည်ပြုအမိန့်ထုတ်ပေး၏။ အကယ်၍မညီ ညွတ်လျှင် ပယ်နိုင်သည်။ သို့မဟုတ် ပြင်ဆင်ခိုင်းနိုင်သည်။ အကယ်၍ အပယ်ခံရလျှင် စည်းကမ်းချက်များနှင့် ညီညွတ် စေလျက် နောက်ထပ်လျှောက်လွှာအသစ် တင်သွင်းနိုင် လေသည်။

လျှောက်လွှာများကို ဒီကရီရထားသူ တရားနိုင်ကသာ မက၊ ဒီကရီရထားသူက စာဖြင့်ရေးသား လွှဲပြောင်းပေး ထားသူကရင်း၊ တရားဥပဒေအကျိုးသက်ရောက်မှုကြောင့် လွှဲပြောင်းပေးသူအဖြစ်သို့ ရောက်ရသော ကွယ်လွန်သူ ဒီကရီရ တရားနိုင်၏ တရားဝင် အမွေစား အမွေခံများ၊ လူမွဲစာခံထားသည့် ဒီကရီရသူဖြစ်လျှင် ပစ္စည်းထိန်းမင်းကြီး စသည်တို့ တဦးဦးကရင်း၊ အကယ်၍ တဦးထက်ပိုသူများ အတွက် ဒီကရီချမှတ်ပေးခဲ့လျှင် ယင်းတို့အနက် တယောက် ယောက်ကသော်ရင်း၊ လျှောက်ထားနိုင်၏။

ဇာရီလုပ်ပေးရန် လျှောက်လွှာများကို အကယ်၍ တရား ရှုံး အသက်ထင်ရှားရှိနေသေးလျှင်၊ ယင်းအပေါ် လျှောက် ထားနိုင်ပြီး၊ ကွယ်လွန်သွားခဲ့သော်၊ ယင်း၏ အမွေစား အမွေခံများအပေါ် လျှောက်ထားနိုင်၏။ အမွေစား အ

အမွေခံများအပေါ် လျော့ကျထားသည့်အခါ၊ လူအပေါ်တွင် အတည်ပြုပေးရန်လျော့ကျထားခြင်းမပြုနိုင်သည့်ပြင်၊ ယင်းတို့ အမွေရရှိခဲ့၍၊ ထုခွဲခြင်းမပြုရသေးသော ကွယ်လွန်သူ တရားရုံး၏ပစ္စည်းများ အပေါ်တွင်သာ လျော့ကျထားနိုင်လေသည်။ ထိုသို့ အမွေစား အမွေခံများအပေါ်တွင် လျော့ကျထားသည့်အခါတွင်၎င်း၊ ဇာရိုလုပ်ပေးရန် လျှောက်လွှာကို ဒီကရီအတည်ပြုသည့်နေ့မှ တနှစ်ထက်ကျော်လွန်သောအခါတွင်ဖြစ်စေ၊ ယခင် ဇာရိုလုပ်ပေးရန် လျှောက်လွှာ တခုခုအပေါ်တွင် ချမှတ်ပေးသည့် နောက်ဆုံးအမိန့်ချမှတ်သည့် နေ့မှ တနှစ်ထက်ကျော်လွန်သောအခါတွင်ဖြစ်စေ၊ တင်သွင်းသည့်အခါတွင်၎င်း၊ တဖက်အမှုသည်များသို့ နို့တစ်ပေးအကြောင်းကြားရလေသည်။

ဒီကရီချပေးခဲ့သည့် တရားရုံးတော်ကပင် ထိုဒီကရီကို အတည်ပြုပေးနိုင်၏။ ယင်းသည့် တရားရုံးတော်က ဒီကရီကိုအတည်ပြုပေးရန် လွှဲပြောင်းပေးခဲ့သောတရားရုံးတော်ကလည်း အတည်ပြုပေးနိုင်သည်။ ထို့ပြင်မကသေး၊ တရားမကျင့်ထုံး ဥပဒေ ပုဒ်မ ၂၄ (၁) အရ လွှဲပြောင်းပေးခြင်းခံရသော တရားရုံးတော်ကလည်း အတည်ပြုပေးနိုင်လေသည်။

**ဇီးကွက်**။ ။ဇီးကွက်သည် မျိုးစဉ် 'စတြစ်ဂျီဖောမီး' တွင်၎င်း၊ မျိုးရင်း 'တိုက်တွန်းနိဒီး' တွင်၎င်း ပါဝင်၏။ ဇီးကွက်အမျိုးပေါင်း ၂၅၀ ခန့်ရှိသည်။ ဇီးကွက်ကို သမပိုင်း၊ အပူပိုင်းနှင့် အအေးလျော့ အာတိတ်ဒေသကဲ့သို့သော နေရာများတွင်သာမက၊ ကုန်းပြင်နှင့် အဆက်အသွယ်မရှိသော ပင်လယ်ကျွန်းများတွင်လည်းတွေ့ရသည်။ ၆ လက်မမျှပင်မရှိတတ်သော ဇီးကွက်အငယ်ဆုံးကို အမေရိကန်ပြည်ထောင်စု၏ အနောက်တောင်ပိုင်းနှင့် မက္ကဆီကို အနောက်ပိုင်းတို့တွင် တွေ့ရသည်။ အကြီးဆုံး ဇီးကွက်ကိုမူ ကနေဒါနှင့် အလာစကာကျွန်းဆွယ်ရှိ တောနက်များတွင် တွေ့ရ၏။ ထိုဇီးကွက်သည် အလျား လက်မ ၃၀ ရှိ၍၊ အတောင်ကိုဖြန့်လိုက်သောအခါတွင် တစွန်းမှတစွန်းသို့ ၅၄ လက်မမှ လက်မ ၆၀ ထိရှိသည်။ ဇီးကွက်တွင် ကြီး၍ ကျယ်ပြန့်သော ဦးခေါင်းနှင့် မျက်လုံးပတ်လည်တွင် ဖြာထွက်နေသော အမွေးများရှိခြင်းကြောင့် ယင်းကိုလွယ်ကူစွာ မှတ်မိနိုင်သည်။ ထိုအမွေးများသည် နားတွင်လည်းရှိသည်။ ဇီးကွက်၌ အလွန်ကြီးသည့် မျက်လုံးများလည်းရှိသည်။ ထိုမျက်လုံးများသည် အခြားငှက်များ၏ မျက်လုံးများကဲ့သို့ မဟုတ်ဘဲ၊ ရှေ့သို့သာ စိုက်ကြည့်နေတတ်သည်။ ဇီးကွက်၏မျက်စိသည် လူ၏မျက်စိကဲ့သို့ မျက်တွင်း၌ မလှုပ်ရှားနိုင်ချေ။ ထိုကြောင့် ရွေ့ရှားနေသည့် အရာတခုကို ကြည့်လိုသောအခါတွင် ခေါင်းကိုပါ ရွှေ့ပေးရသည်။ ဇီးကွက်မျက်စိ၌ မျက်တောင်ရှည်များရှိသည်။ မျက်ခွံများသည် မျက်လုံးများကိုအုပ်ထားနိုင်သည်။ ဇီးကွက်၏ကိုယ်သည် တို၍တုတ်သည်။ နုတ်သီးကောက်သည်။ ခြေထောက်သန်၏။ ခြေသည်းထက်သည်။ အချို့ဇီးကွက်၏ဦးခေါင်းပေါ်တွင် အမွေးများစု၍နေတတ်သည်။ ဇီးကွက်၌ ထူထပ်သော အမွေးအတောင်များရှိသည်။ ထိုကြောင့် ဇီးကွက်သည် ကိုယ်ကြီးပုံရလေသည်။ ဇီးကွက်သည် မြန်မြန်ပျံသန်းနိုင်သော်လည်း၊ အမွေးနုများ ထူထပ်စွာရှိသဖြင့် အခြားငှက်များကဲ့သို့ ပျံသန်းသောအခါတွင် အသံမမြည်ချေ။ သားကောင်ကို အသံမကြားစေဘဲ၊ ထိုးသုတ်နိုင်သည်။ များစွာသောဇီးကွက်မျိုးတို့သည် နေ့အချိန်၌ မြင်နိုင်သော်လည်း၊ အမြင်မသန်ချေ။ သို့သော် နေ့အချိန်တွင် ကောင်းစွာမြင်နိုင်သော ဇီးကွက်မျိုးလည်းရှိသည်။ ဇီးကွက်၏လည်ပင်းသည်တို၍တုတ်၏။ ခြေထောက်များသည် ကိုယ်၏နောက်ပိုင်းခပ်ကျကျတွင် ရောက်နေသဖြင့် နားနေသည့်အခါ မတ်တတ်ရပ်နေသည်ဟုထင်ရသည်။



ညအချိန်တွင် အစာရှာထွက်လေ့ရှိသော ဇီးကွက်ငှက်

ဇီးကွက်သည် ကိုက်ဖြတ်သတ္တဝါများ၊ ဖားများ၊ တီများ၊ အင်းဆက်ပိုးများကို စားသည်။ အများအားဖြင့် အစာကို အရှင်လိုက်ဖမ်းလေ့ရှိသည်။ တခါတရံ လတ်ဆတ်သော အသေကောင်များတွေ့လျှင်လည်း ကောက်ယူလေ့ရှိသည်။ အချို့ဇီးကွက်တို့သည် ရေတိမ်၌ရှိသောငါးများကို ဖမ်းယူတတ်သည်။ ဇီးကွက်သည် သိမ်းငှက်ကဲ့သို့ အစာကိုမစားမီ ကိုက်ဖဲ့လေ့ရှိသည်။ သားကောင်ငယ်ငယ်ကိုသာ တကောင်လုံး မျိုချတတ်သည်။ ထို့နောက်မှ မကြေနိုင်သည့်အရိုး၊ အကြေးခွံ၊ အမွေးအတောင်များကို ပြန်ထုတ်ပစ်သည်။

ဇီကွက်သည် အသိုက်လုပ်ရာ၌ မကျွမ်းကျင်ချေ။ အများအားဖြင့် သစ်ခေါင်းများ၌ဖြစ်စေ၊ လိုဏ်ခေါင်းများ၌ဖြစ်စေ၊ မြေအောက်တွင်းများ၌ဖြစ်စေ၊ လူမနေဘဲ စွန့်ပစ်ထားသော အိမ်များ၌ဖြစ်စေ၊ ကျီများ၌ဖြစ်စေ၊ သိမ်းနှင့်ကျီးတို့၏အသိုက်ဟောင်းများ၌ဖြစ်စေ အသိုက်ကို ဖြစ်ကတတ်ဆန်းလုပ်လေ့ရှိသည်။ ဇီကွက်ဥသည် အဖြူရောင်တွင် အဝါရောင် သော်၎င်း၊ အပြာရောင် သော်၎င်း သန်းနေတတ်သည်။ အများအားဖြင့် ၃ ဥ၊ ၄ ဥ အုတတ်သော်လည်း၊ အချို့ဇီကွက်တို့သည် ၁၂ ဥထိ အုတတ်သည်။ အသိုက်ကို အဖိုနှင့် အမ နှစ်ဦးလုံးကစောင့်ရှောက်သည်။ ဇီကွက်ကြီးသည် အသိုက်ကိုလာ၍ နှောင့်ရှက်သော ရန်သူများအား ရဲရင့်စွာကာကွယ်သည်။ ဇီကွက်ကလေးများသည် ထူထဲသော မွေးနုဖြူများ ရှိ၍၊ ချစ်စဖွယ် ကောင်း သည်။ ထိုအကောင်ကလေးများသည် အခြားငှက်ငယ်များထက် ပို၍ကြာရှည်စွာ အသိုက်တွင်း၌နေကြသည်။

မြန်မာနိုင်ငံရှိ ဇီကွက်သည် ဂ လက်မခန့် ရှိသည်။ ထိုဇီကွက်မျိုး၏ နားရွက်၌ အမွေးစုများမရှိချေ။ မြန်မာနိုင်ငံအလယ်ပိုင်း၌ ဇီကွက်ကိုအတွေ့ရများသည်။ ရေဝတီမြစ်ဝှမ်း၊ စစ်တောင်းမြစ်ဝှမ်း၊ ဟင်္သာတမြို့၊ ပဲခူးမြို့တို့တွင်လည်း အတွေ့ရများသည်။ ခင်ပုပ် သို့မဟုတ် မြီးဝန်၊ တောလုံး၊ တီးတုတ် (ဒီးဒုတ်)၊ ကုပ်ကလူ၊ လင်ကောင်ပိုး (ဝါ) ငှက်ဆိုးတို့သည် ဇီကွက်မျိုးတွင်ပါဝင်ကြသည်။ (ခင်ပုပ်ငှက်။ တီးတုတ်ငှက်။ ကုပ်ကလူငှက်။ လင်ကောင်ပိုးငှက်များ — ရှု။)



သုဇာတာ ဆက်ကပ်လှူဒါန်းသော ယနာနို့ ဆွမ်းကို ရွှေခွက်နှင့် တကွ ဘုရားရှင်ခံယူတော်မူစဉ်

**ဇိနတ္ထပကာသနီကျမ်း။** ။ဇိနတ္ထပကာသနီကျမ်း မှာ ပြည်ခရိုင် ရွှေတောင်မြို့ ကျီးသဲလေးထပ်ကျောင်းဆရာတော် အရှင် မုနိန္ဒာဘိဓဇထေရ် (မြန်မာ ၁၁၇၉-၁၂၅၆) စီရင်ရေးသား အပ်သောကျမ်းဖြစ်သည်။ (ကျီးသဲလေးထပ်ဆရာတော် — ရှု။)

ရေးသားပုံမှာ ပဌမတွဲမှ ဒသမတွဲအထိ အတွဲကြီးဆယ်တွဲ၊ အခန်းငယ်ပေါင်း ကိုးဆယ်ကျော်တို့ဖြင့် တန်ဆာဆင်ကာ မြန်မာစကားပြေဖြင့် ရေးသားထားသည်။

ထိုကျမ်းတွင် ပါဝင်သော အကြောင်းအရာ အကျဉ်းချုပ်မှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) ဂေါတမမြတ်စွာဘုရား အလောင်းတော် ဘုရားဆုကို ပန်ဆင်သည်မှစ၍၊ ဘုရားအဖြစ်သို့ ရောက်ပြီးလျှင် ပရိနိဗ္ဗာန် စံလွန်သည်အထိ ထင်ရှားသော အကြောင်း အရာများ နှင့် ဗုဒ္ဓဘာသာဝင် လူရှင်ရဟန်းတို့ ကြည်ညိုဖွယ်ရာ မှတ်သားဖွယ်ရာ နည်းယူဖွယ်ရာ ကောင်းသည့်အကြောင်းအရာများ ပါရှိသည်။

(၂) သာသနာတော်တွင် ထင်ရှား ကျော်စောသော လက်ျာတော်ရံ အရှင်သာရိပုတ္တရာထေရ်၊ လက်ဝဲတော်ရံ အရှင်မဟာမောဂ္ဂလာန်ထေရ်၊ အရှင်ဥ

ပါလိထေရ်၊ အရှင်အာနန္ဒာထေရ်စသော ရဟန္တာ ယောကျ်ားမြတ်တို့ အကြောင်းအရာများလည်း ပါရှိသည်။

(၃) မိထွေးတော် ဂေါတမီထေရီမ၊ ခေမာထေရီမနှင့် ဥပ္ပလဝဏ်ထေရီမ စသော ရဟန္တာမိန်းမမြတ်တို့ အကြောင်းအရာများလည်းပါရှိသည်။

(၄) ကောသလမင်း၊ ဗိမ္ဗိသာရမင်း၊ အဇာတသတ်မင်း စသော သာသနဒါယကာမင်းတို့နှင့် မလ္လိကာ မိဖုရား၊ ခေမာမိဖုရားစသော သာသနဒါယိကာမ မိဖုရားတို့အကြောင်းအရာများလည်းပါရှိသည်။

(၅) အနာထပိဏ်သဌေး၊ ဇောတိကသဌေး၊ ဇဋိလသ ဌေး၊ စိတ္တာသူကြွယ် စသော သာသနဒါယကာသ ဌေးသူကြွယ်တို့နှင့် ဝိသာခါ ဒါယိကာမ၊ သုပ္ပိယဒါ ယိကာမစသော သာသနဒါယိကာမတို့အကြောင်း အရာများလည်းပါရှိသည်။

(၆) အယူလွဲနေသောဗကဗြဟ္မာကြီးကို တရားပြ၍ဆုံး မတော်မူသောအခန်း၊ ကြမ်းတမ်းခက်ထန်သော သုစိလောမဘီလူး၊ ခရလောမဘီလူး၊ အာဠဝက ဘီလူးတို့ကို ဆုံးမတော်မူသော အခန်း၊ အယူဝါ ဒဖြင့် မာန ထောင်လွှားကာ ဝါဒပြိုင်မည်ဟု ကြုံး ဝါးနေသော သစ္စကပရိဗိုဇ်၊ လူတို့ကိုသတ်ဖြတ်ညှဉ်း ဆဲနေသော အင်္ဂုလိမာလခိုးသူကြီးတို့ကို ဆုံးမတော် မူသော အခန်းနှင့် ကြမ်းတမ်းခက်ထန်သော နန္ဒော ပနန္ဒနဂါးမင်း၊ နာဠာဂိရိဆင်မင်းတို့ကို ဆုံးမတော် မူသော အခန်းများလည်းပါရှိသည်။

(၇) ပဌမသင်္ဂါယနာတင်ပုံ၊ ဒုတိယသင်္ဂါယနာတင်ပုံ၊ တတိယ သင်္ဂါယနာတင်ပုံအကြောင်းစုံများလည်း ပါရှိသည်။

အထက်ဖော်ပြပါ သာသနာတော်နှင့် စပ်သောအ ကြောင်းအရာ စုံလင်စွာတို့ဖြင့် စီရင်ရေးသားအပ်သော ဇိနတ္ထပကာသနီကျမ်းကား သာသနာတော်အတွင်း၌ လူသိများ၍ ထင်ရှားသော ကျမ်းတစောင်ဖြစ်သည်။ ဗုဒ္ဓအယူဝါဒကိုခံယူသော သူတော်စင် အပေါင်းတို့ နှစ် ထောင်းအားရ၊ အမြဲလက်သုံးပြုကြသော ကျမ်းတစောင် ဖြစ်သည်။ ဗုဒ္ဓအယူဝါဒဆိုင်ရာကို ပြဆိုသော ကျမ်းများ အနက် ဤဇိနတ္ထပကာသနီကျမ်းသည် ထူးခြားသောကျမ်း ဖြစ်၏။ ယင်းထူးခြားချက်မှာ ရေးသားပုံထူးခြားချက်ပင် ဖြစ်၏။ အရေးအသားတွင် ဝါကျပင်ရှည်သော်လည်း၊ စကားအသုံးအနှုန်း အထုံးအဖွဲ့မှာ ပြေပြစ်၏။ အချို့သော နေရာများတွင် ကာရန်အချိတ်အဆက်ရှိ၏။ ထို့ကြောင့် ဇိနတ္ထပကာသနီကို ဖတ်ရှုနာယူသူတို့အတွက် သာယာနာ ပျော်ဖွယ်ရှိ၏။ အဓိပ္ပါယ်လည်းသိလွယ်၏။ ဦးကြီးဖေ

**ဇီဇဝါပင်**။ ။ဇီဇဝါပင်သည် ပန်းပင်ဖြစ်၏။ ဇီဇဝါပန်း သည် အနံ့မွှေး၍ အဖြူ သို့မဟုတ် လိမ်မော်ရောင်ရှိသည်။ ပွင့်ဖတ်များသည် နူးညံ့၍ အရောင်တောက်ပ၏။ အပွင့်၌ အထပ်နှစ်ထပ်ရှိတတ်သည်။ ဇီဇဝါပင်သည် အပူပိုင်း သို့မဟုတ် အပူလျော့ပိုင်းများတွင် ပေါက်ရောက်လေ့ရှိ၏။



ရနံ့သင်း၍ဖြူဝင်းနူးညံ့သော ဇီဇဝါပန်း

ရုက္ခဗေဒအရ 'ရူဗီအေစီအီး' မျိုးရင်းတွင်ပါဝင်သည်။ ထိုပန်းပင်သည် တရုပ်ပြည်တွင် မူလပေါက်ရောက်ရာမှ တဖြည်းဖြည်းပြန့်ပွားသွားလေသည်။ ဇီဇဝါပန်းအနံ့သည် စပယ်ပန်းအနံ့နှင့်တူ၏။ အဝါရောင် ဇီဇဝါသီးများကို တရုပ်နိုင်ငံနှင့် ဂျပန်ပြည်တို့တွင် ဆေးဆိုးရာ၌အသုံး ပြုကြသည်။ နှစ်ထပ်ပန်းပွင့်ကြီးများ ပွင့်သောဇီဇဝါပင် မျိုးများသည် အကောင်းဆုံးဖြစ်သည်။ ထိုအပင်မျိုး များကို 'မစ်ဇထရီ' နှင့် 'ဗဲလမွန့်' ဟုခေါ်သည်။

**ဇီနွန်**။ ။ဆာ ဝီလျံ ရမ္မဆေးနှင့် မောရစ် ထရဲဗား နှစ်ဦး တို့သည် လေရည်ကို အဆင့်ဆင့်ပေါင်းခံယူကြသည်။ ထိုအခါ လေထုတွင်ပါရှိသော အစွမ်းမဲ့ ဓာတ်ငွေ့များတွင် အလေးဆုံးဖြစ်သော ဓာတ်ငွေ့တမျိုးကိုတွေ့ကြလေသည်။ ထိုဓာတ်ငွေ့သည် လေထု၏ထုထယ် အပုံ ဆယ်သန်းတွင် တ ပုံသာပါ၍၊ အရှားဆုံး ဓာတ်ငွေ့လည်းဖြစ်၏။ ယင်းကို ဇီနွန်ဟုအမည်ပေးကြသည်။ လေထုတွင်ပါရှိသော ဟီလီ



ဇီနွန်ဓာတ်ငွေ့ကို ရှာဖွေတွေ့ရှိသူ ဆာ ဝီလျံ ရမ့်ဆေး

ယမ်၊ နီယွန်၊ အားဂွန်၊ ကရစ်ပတွန်နှင့် ဇီနွန်ခေါ် အစွမ်းမဲ့ဓာတ်ငွေ့များသည် အလှည့်မှန်ဇယားတွင် သုညအစု၌ ပါဝင်သည်။ ထိုအစုတွင် နောက်ဆုံး၌ ပါဝင်သည့် ရေဒွန်ကိုမူ လေထုထဲတွင်မတွေ့ရဘဲ၊ ရေဒီယိုသတ္တိကြောင့် ပြောင်းလဲမှုများဖြစ်ရာ၌သာ တွေ့ရသည်။ (ရေဒီယမ်နှင့် ရေဒီယမ်သတ္တိကြွခြင်း — ရှု။)

ဇီနွန်သည် အရောင်နှင့် အနံ့မရှိသော ဓာတ်ငွေ့ဖြစ်၍ နိုက်ထရိုဂျင်ထက် ၅ ဆ သိပ်သည်းသည်။ သင်္ကေတမှာ (Xe သို့မဟုတ် X) ဖြစ်သည်။ အက်တမ် နံပတ်စဉ်နှင့် အက်တမ်အလေးဆများမှာ ၅၄ နှင့် ၁၃၁.၃ အသီးသီးဖြစ်သည်။ အခြား အစွမ်းမဲ့ဓာတ်ငွေ့များကဲ့သို့ပင် ဇီနွန်သည် ဒြပ်ပေါင်းများ မဖြစ်ချေ။ ရောင်စဉ်ဖြင့် ဓာတ်ခွဲရာတွင် အားဂွန်နှင့် အနည်းငယ်တူသည်။

**ဇီယာ။** ။ဇီယာပင်သည် တနှစ်ခံ သစ်နုပင်မျိုးဖြစ်၍၊ 'အမ်ဗဲလစ်ဖရီ' မျိုးရင်းဝင် ဖြစ်သည်။ ထိုအပင် မူလပေါက်ရောက်ရာ ဒေသများမှာ ဥရောပတိုက် တောင်ပိုင်းနှင့် အာဖရိကတိုက် မြောက်ပိုင်းတို့ဖြစ်သည်။ ရှေးအခါက အာရေဗျ၊ အိန္ဒိယ၊ တရုပ်နိုင်ငံတို့အပြင် မြေထဲပင်လယ်ကမ်းခြေရှိ ဒေသများတွင်လည်း ဇီယာပင်ကိုစိုက်ပျိုးခဲ့ကြသည်။ ယခုအခါ မြေထဲပင်လယ်ထဲရှိ စစ္စလီကျွန်း၊ မော်လတာကျွန်း၊ မြောက်အာဖရိကတိုက်၊ အိန္ဒိယ၊ ဆီးရီးယား၊ မက္ကဆီကိုနိုင်ငံတို့တွင် အမြောက်အမြား စိုက်ပျိုးကြသည်။

ဇီယာ၏ ယေဘုယျ ပုံသဏ္ဌာန်သည် စမုန်စပါးနှင့်တူ၏။ (စမုန်စပါး — ရှု။) ပင်စည်သည် သေးသွယ်၍ ဖြာထွက်နေ၏။ အပင်၏အမြင့်မှာ တပေခန့်ရှိသည်။ အပွင့်သည် သေးငယ်၍ အဖြူရောင်ရှိသည်။ အရွက်များသည် ခြည်မျှင်များသဖွယ် အစိတ်စိတ်ပြတ်လျက်ရှိကြ၏။ ဇီယာပင်မှ အစေ့ဟုခေါ်သော အသီးသည် ဘဲဥပုံရှိသည်။ ထိုအသီး၏အနံ့သည် မွှေး၍ အရသာမှာခါးသည်။ ဇီယာစေ့များကို ရေနှင့်ရော၍ ပေါင်းခံယူလျှင် ဇီယာဆီခေါ် ဆီတမျိုးကိုရ၏။ ထိုဆီ၏အရောင်မှာ အဝါနုရောင်ဖြစ်၍၊ အနံ့စူးရှ၏။ တကမ္ဘာလုံးမှ နှစ်စဉ်ထွက်သော ဇီယာတန်ချိန်ပေါင်းမှာ ၂,၀၀၀ ခန့်ရှိသည်။ အထူးသဖြင့် ဇီယာကို ဟင်းခတ်အမွှေးအကြိုင်ပြုလုပ်ရာတွင် အသုံးပြုကြသည်။ (ဟင်းခတ်အမွှေးအကြိုင်များ — ရှု။) ဇီယာနှင့် စိမ်ထားသော ဆေးဝါးများကို တိရစ္ဆာန်များအား ဆေးကုရာတွင်အသုံးပြုကြသည်။

မြန်မာလူမျိုးတို့သည် ဇီယာစေ့ကို ထောင်းပြီးလျှင် လတ်ဆတ်သော သားငါးတို့၏အနံ့အသက်များ လျော့ပါးစေရန် အမှုန့်ကိုဖြူးပေးလေ့ရှိကြသည်။

**ဇီဝက။** ။ဇီဝကသည် ဂေါတမမြတ်စွာဘုရားသခင် လက်ထက် ထင်ရှားကျော်စောသော သမားတော်ကြီးဖြစ်သည်။ ရာဇဂြိုဟ်ပြည်တွင် တိုင်းပြည်သာယာစေရန် သာလဝတီမည်သော အဆင်းအင်္ဂါနှင့် ပြည့်စုံသည့် အမျိုးသမီးကို ပြည့်တန်ဆာပြု၍ထား၏။ ဇီဝကသည် ထိုပြည့်တန်ဆာမ၏ သားဖြစ်၏။ ပြည့်တန်ဆာမ သာလဝတီထံဗိမ္ဗိသာရမင်းကြီး၏ သားတော် အဘယမင်းသား ဝင်ထွက်ပျော်ပါးရာမှ ဇီဝကကို သန္ဓေတည်သည်ဟု ဇိနတ္ထပကာသနီကျမ်းကဆိုသည်။ ဖွားမြင်သောအခါ အမိပြည့်တန်ဆာမသည် သားငယ်ကို မြို့ပြင်တွင်စွန့်ပစ်၏။ ယင်းသို့စွန့်ပစ်ခံရသော သူငယ်ကို အဘယမင်းသားပင်တွေ့ရှိ၍ ကောက်ယူကျွေးမွေး၏။ တွေ့ရှိစဉ်က၊ 'အသက်ရှိသေးသလော' ဟုမေးဘူးသည်ကိုစွဲ၍၊ 'ဇီဝက' ဟု အမည်တွင်၏။ အဘယမင်းသားက ကောက်ယူကျွေးမွေးခြင်းကြောင့်လည်း 'ကောမာရဘစ္စ' ဟု တွင်သေးသည်။

ဇီဝကသည် အရွယ်သို့ရောက်သော် မိမိ၏အဖြစ်မှန်ကို သိရှိ၍၊ အဘယမင်းသားထံ ခွင့်မပန်ဘဲ၊ တက္ကသိုလ်ပြည်သို့သွားရောက်၍ ဆေးအတတ်ကိုသင်ယူသည်။ ဇီဝကသည် နောင်အခါတွင် ဘုရားရှင်၏ အလုပ်အကျွေး ဖြစ်အံ့သည် သိ၍၊ သိကြားမင်းသည် ဒိသာပါမောက္ခဆရာ၏ကိုယ်တွင် ကပ်မှီ၍ အတတ်ကိုသင်လာ၏။ သူတပါးတို့ ၁၆ နှစ်တိုင်

တိုင် သင်ရသောအတတ်ကို ဇီဝကသည် ၇ လဖြင့် ကုန်စင်အောင်တတ်၏။ ဆေးအတတ်ပညာကို သင်ကြားတတ်မြောက်ပြီးသောအခါ၊ ဇီဝကသည် ကံကုန်သောအနာမှတပါး ကြွင်းသမျှသော အနာရောဂါတို့ကို တကြိမ်ဆေးပေးကာမျှဖြင့် ပျောက်ကင်းစေနိုင်သည်။ ထို့အတွက် ဒိသာပါမောက္ခဆရာ၏ခွင့်ပြုချက်အရ ရာဇဂြိုဟ်ပြည်သို့ပြန်လာရာ၊ လမ်းခရီးတွင် ဇီဝကသည် သာကေတပြည် သဌေးကတော်တဦး၏ ဦးယဉ်းခေါင်းခဲနာကို ကုသ၍ ပျောက်ကင်းစေသဖြင့် ဆုလပ်များစွာရ၏။ ရာဇဂြိုဟ်ပြည် ရောက်သည်တွင် အဘယမင်းသားထံတွင်ပင်နေ၏။ ထိုအချိန်တွင် ဗိမ္ဗိသာရမင်းကြီးတွင် စွဲကပ်လျက်ရှိသော မြင်းသရိုက်နာကို တကြိမ်ဆေးပေးကာမျှနှင့် ပျောက်ကင်းစေ၏။ မင်းကြီးက ဆေးဖိုးအဖြစ် ဆုလပ်များစွာပေးရာ၊ ဇီဝက က ငြင်းပယ်သည်။ မင်းကြီးသည် 'ဇီဝက၊ ငါ့ကိုင်င်း၊ မောင်းမမိဿံတို့ကိုင်င်း၊ ဘုရားအမှူးရှိသော သံဃာတော်တို့ကိုင်င်း ဆေးဖြင့်ကုသလုပ်ကျွေးလော့' ဟုအမိန့်ရှိသည်။ ဇီဝကလည်း ကောင်းပြီဟုဝန်ခံသည်။

ရာဇဂြိုဟ်ပြည်၏ မြောက်မျက်နှာနေ မဟာ သာလ သဌေးသည် ၇ နှစ်တိုင်တိုင် ဦးယဉ်းခေါင်းခဲနာစွဲကပ်လျက်ရှိရာ၊ ဆရာဇီဝကသည် သဌေးကြီးအား နှာဖြင့်အိပ်ပျော်စေပြီးလျှင် ဦးခေါင်းကိုခွဲဖြင့်ခွဲ၍၊ ဦးနှောက်ကို စားလျက်ရှိသော ပိုး ၂ ကောင်ကို ထုတ်ယူခြင်းဖြင့် ပျောက်ကင်းစေ၏။ ထိုနောက် ဗရာဏသီပြည်ရှိ သဌေးသားတယောက်၏ အူထုံးသောရောဂါကို ဇီဝကသည် မူးမေ့စေသောဆေးကိုပေးပြီးမှ ဝမ်းကို ဖောက်ခွဲ၍ အူထုံးကို ဖြေလေသည်။

ထို့ပြင် စမ္ပာနဂိုရ်ပြည်ကိုအစိုးရသော စန္ဒပဇ္ဇောတမင်းသည် မစားမသောက်နိုင်၊ ဖျော့တော့သောဝေဒနာ စွဲကပ်လေရာ၊ ဇီဝကပင်ကုသ၍ ပျောက်ကင်း၏။ ထိုမင်းက သိဝိရာဇ်တိုင်းဖြစ် အဖိုးများစွာထိုက်တန်သော ပုဆိုးတစုံကို ဇီဝကအားပေး၏။ ဇီဝကလည်း ကောင်းစွာသိမ်းဆည်းထား၏။

တခါသော်၊ ဘုရားရှင်သည် ကိုယ်တော်၌ ခက်တရော်ထူပြောသော ဒေါသရှိရကား၊ အာနန္ဒာကိုခေါ်၍ ဝမ်းလျှောဆေး သုံးတော်မူလိုကြောင်းမိန့်၏။ ရှင်အာနန္ဒာလည်း ဇီဝကထံသို့ကြွ၍ 'အချင်းဇီဝက လောကသနင်းသည် စမြင်းဒေါသထူပြောသည်ဖြစ်၍ ဝမ်းလျှောဆေး သုံးတော်မူလိုသည်' ဟုဆိုသည်တွင် ဇီဝကလည်း ကြာသုံးလက်တွင် အထူးထူးသော ဆေးကို ထုံစေပြီးလျှင်၊ ဘုရားရှင်အား ကပ်၏။ ထိုကြာသုံးလက်ကို နမ်းတော်မူခြင်းဖြင့် ဝမ်းလျှောစေ၏။

ဘုရားရှင်သည် ဝေဒနာမှသက်သာသောအခါ၊ သောဏ သဌေး၏ ဆွမ်းကို ဘုဉ်းပေးတော်မူ၏။ ဘုရားရှင် ဆွမ်းဘုဉ်းပေးပြီးသောအခါ၊ ဇီဝကသည် သိဝိရာဇ်တိုင်းဖြစ်ပုဆိုးတစုံကို ဘုရားရှင်အား ကပ်ပြီးလျှင် 'အရှင်ဘုရား၊ ဤပုဆိုးစုံကား စန္ဒပဇ္ဇောတ မင်းသည် ဆောင်နှင်းအပ်သော ပုဆိုးအစုံပါတည်း။ ဤပုဆိုးအစုံကိုလည်း ဝတ်ရုံသုံးဆောင်ရန် အလှူခံတော်မူပါ။ တပည့်သံဃာတို့မှာလည်း ပံ့သကူသင်္ကန်းကိုသာ ဆောင်ကြရ၍ နွမ်းနယ်လှပါသည်။ ဒါယကာတို့ ကုသိုလ်ဖြစ်စိမ့်သောငှာ လှူလာသောသင်္ကန်းကို သံဃာတော်တို့ သုံးဆောင်ခြင်းငှာ ခွင့်ပြုတော်မူပါ' ဟုလျှောက်၏။ ဘုရားရှင်သည် ဇီဝကလှူသော ပုဆိုးအစုံကိုလည်းခံတော်မူ၏။ တပည့်သား သံဃာတော်တို့အားလည်း ဇီဝကလျှောက်ထားချက်အတိုင်း ဂဟပတိစီဝရကို ခွင့်ပြုတော်မူလေသည်။

ဆရာဇီဝကသည် ဆေးကုခြင်းအရာ၌ အလွန်ကျော်စောသဖြင့် မအားမလပ်နိုင်အောင်ရှိသည်။ သို့သော် ဘုရားရှင်နှင့် သံဃာတော်တို့အား ပြုမြဲသောဝတ်ကို မပျက်ခဲ့ချေ။ ဆရာဇီဝကထံ ဆေးဝါးကုသလိုသော်လည်း၊ ဆေးဖိုးကြေးငွေမတတ်နိုင်သော သူတို့သည် ဆေးကုသခံလိုမှုကြောင့် သာသနာ့ဘောင်သို့ဝင်၍ ရဟန်းပြုကြသည်။ ထိုသို့ဆေးကုသခံလိုမှု သက်သက်ကြောင့် သာသနာ့ဘောင်သို့ ဝင်ကြသည်ကို ဇီဝကသိရှိသည်တွင် အနာကြီးငါးမျိုးစွဲကပ်သူတို့အား ရဟန်းပြုခြင်းမှတားမြစ်ပေးရန် ဘုရားရှင်အား လျှောက်ထား၏။ ဘုရားရှင်လည်း ပညတ်တော်မူ၏။

ဘုရားရှင်၏တပည့်သားအပေါင်းတွင် ဇီဝကသည် လူချစ်လူခင်အပေါ်များဆုံး၊ ကြည်ညိုသူ အများဆုံးဖြစ်သဖြင့် 'ကုလပ္ပသာဒက' တည်းဟူသော ဧတဒဂ်ဘွဲ့ထူးကို ဆင်မြန်းရလေသည်။

**ဇီဝဒိုးငှက်**၊ ။ဇီဝဒိုးငှက်သည် မျိုးစဉ်အားဖြင့် 'အပေါ့ဒီဖေါမီး' တွင်၎င်း၊ မျိုးရင်းအားဖြင့် 'အပေါ့ဒီဒီး' တွင်၎င်း၊ မျိုးရင်းခွဲအားဖြင့် 'ခက်တူးရီနီး' တွင်၎င်း ပါဝင်၍ ယင်းကို သိပ္ပံအမည်အားဖြင့် 'ကော လို ကေး လီ ယား ဂျာမယ်နီ' ဟုခေါ်သည်။ ဇီဝဒိုးငှက်သည် ပြင်ပန်း ပုံသဏ္ဌာန်အားဖြင့် ပျံလွှားငှက်နှင့် အနည်းငယ်တူသော်လည်း၊ မျိုးစဉ်အားဖြင့် ကွဲပြားသည်။ ဇီဝဒိုးငှက်ကို အဝေးမှတွေ့မြင်ရလျှင် ပျံလွှားငှက်နှင့် ရုတ်တရက်ခွဲခြား၍မရနိုင်ချေ။ သို့သော် အမွေးထူသော ခြေမျက်စိုးကိုင်င်း၊ အရွယ်ပို၍ကြီးသော တောင်ပံကိုင်င်း ကြည့်ရှုခြင်းဖြင့် ဇီဝဒိုးငှက်ကို ပျံလွှားငှက်နှင့် ခွဲခြား၍ သိရှိနိုင်သည်။ (ပျံလွှားငှက် — ရှု။)

ဇီဝဒိုးငှက်သည် အသိုက်ကို မိမိအန်ဖတ်ဖြင့် ပြုလုပ်လေ့ရှိသည်။ ထိုအသိုက်ကို ငှက်သိုက်ဟုခေါ်ကြသည်။

(ငှက်သိုက် — ရှု။) ဇီဝဇိုးငှက်သည် အသိုက်ကို ဂူနံရံများ၊ ကျောက်ဆောင်မြင့်များတွင် ဆောက်တတ်သည်။ အသိုက်၏အရွယ်မှာ ကန့်လန့်ဖြတ်အားဖြင့် ၂ လက်မမှ ၃ လက်မထိရှိ၍၊ စောက် ၁ လက်မရှိသည်။ ဥအချိန်မှာ ဧပြီလ လယ်လောက်တွင်ဖြစ်သည်။ တမြုလျှင် ဥနှစ်လုံးစီရှိသည်။

ဇီဝဇိုးငှက်ကို အပူပိုင်းဒေသများတွင် အထူးသဖြင့် ကျွန်းစုနှင့် ပင်လယ်ကမ်းရိုးတန်းများ၌ အနှံ့အပြား တွေ့ရသည်။ ဆေးရှဲကျွန်းစုနှင့် မေရဂစ်ရှုကျွန်းစုမှ ကွင်းစလန် အထိ ပျံ့နှံ့စွာနေသည်။ ပုသိမ်အနောက်ဖက် ကမ်းခြေအလွန်ရှိ ကျွန်းများတွင်၎င်း၊ တနင်္သာရီကမ်းခြေနှင့် မြိတ်ကျွန်းစုတို့တွင်၎င်း ဇီဝဇိုးငှက်တို့ကို တွေ့ရသည်။

ဇီဝဗေဒ။ ။ဗိုင်ဩလိုဂျီဟူသော ဝေါဟာရသည် ဂရိဘာသာစကားမှ ဆင်းသက်လာ၍၊ အဓိပ္ပါယ်မှာ အသက် သို့မဟုတ် ဇီဝအကြောင်း လေ့လာဆွေးနွေးချက်ဖြစ်သည်။ ဤဝေါဟာရကို တီထွင်ခဲ့သူကား ထင်ရှားကျော်စောသော သဘာဝပညာရှင် ပြင်သစ်လူမျိုး လမတ် (၁၇၄၄–၁၈၂၉) ဖြစ်သည်။

ဗိုင်ဩလိုဂျီသည် သက်ရှိအရာ သို့မဟုတ် သဇီဝတို့နှင့် ပတ်သက်သော အကြောင်းအကျိုးတို့ကို လေ့လာသော သိပ္ပံပညာရပ် ဖြစ်သည်။ ဤနေရာတွင် သဇီဝ ဆိုရာ၌ အသက်ရှင်နေသောအရာမှန်သမျှ ပါဝင်သည်။ ကျွန်ုပ်တို့၏ ပတ်ဝန်းကျင်တွင် အသက်ရှင်နေသော သဇီဝများ ဝန်းရံလျက်ရှိကြသည်။ အပင်နှင့် သတ္တဝါတို့သည် သဇီဝများ ဖြစ်ကြသည်။ ထိုကြောင့် အပင်နှင့် သတ္တဝါတို့တွင် တွေ့မြင်နိုင်သော အခြင်းအရာတို့ကို မှတည်၍လေ့လာခြင်းဖြင့် အသက်ရှင်ခြင်းနှင့် ပတ်သက်သောအချက်အလက်များကို နားလည်နိုင်မည်။

ဇီဝ (အသက်) ဆိုသည်မှာ မည်သည့်အရာဖြစ်သည်ဟူ၍ကား တိကျစွာမပြောနိုင်ချေ။ သို့ရာတွင် ကျွန်ုပ်တို့ အကြားအမြင် အတွေ့အကြုံတို့ကို အခြေပြု၍ ပြောရသော်၊ ဇီဝ (အသက်) ဟူသည် သဇီဝခန္ဓာကိုယ်ကို ဖွဲ့စည်းထားသောအရာများနှင့် အစဉ်သဖြင့် ဆက်စပ်နေသည်။ ဇီဝကင်းမဲ့သော ရုပ်ကို အနှံ့အပြား များစွာတွေ့နိုင်သော်လည်း၊ ရုပ်ကင်းမဲ့သောဇီဝကိုမူ သိပ္ပံလောကတွင် ရှာ၍မတွေ့ချေ။ ထိုကြောင့် ကျွန်ုပ်တို့နားလည်သော ဇီဝဆိုသည်မှာ ရုပ်နှင့် ခွဲခွာ၍မရအောင် ဆက်စပ်လျက်ရှိသောအရာဖြစ်သည်။ ကျွန်ုပ်တို့ စွမ်းဆောင်နိုင်သမျှ ဇီဝ၏ အဓိပ္ပါယ်ဖော်ပြရသော်၊ အပင်နှင့် သတ္တဝါတို့တွင် တွေ့မြင်ရသော လုပ်ငန်းဆောင်တာတို့ကို ချုပ်ကိုင်ထားသောအရာမှာ ဇီဝဖြစ်သည်။ သို့ရာတွင် ရွေ့ရှားခြင်း၊ ကြီးခြင်း၊ မျိုးပွားခြင်း စသည့်အခြင်းအရာများသည် သဇီဝတို့ အသက်ရှင်စဉ် တွေ့မြင်ရသည့် လက္ခဏာများပင် ဖြစ်လင့်ကစား၊ ယင်းလက္ခဏာတို့ပေါ်တွင် မူတည်၍ အကြွင်းမဲ့ပြည့်စုံသော ဇီဝ၏အဓိပ္ပါယ်ကို မပေးနိုင်သေးချေ။ အဘယ်ကြောင့်ဆိုသော်၊ ယင်းလက္ခဏာ တစိတ်တဒေသကို နိဇီဝ (သက်မဲ့) များတွင်လည်း တွေ့မြင်နိုင်သောကြောင့်ဖြစ်သည်။ သာဓကအဖြစ်ပြရသော်၊ မြစ်များလည်း ကြီးထွားခြင်းရှိကြ၏။ မြစ်မှ မြစ်ငယ်များထပ်ပွားနိုင်ကြသည်။ ပရုတ်စိမ်းကို ရေမျက်နှာပြင်ပေါ်၌ တင်ကြည့်လျှင် ဟိုဟို သည်သည် လှုပ်ရှားကြောင်း တွေ့ရသည်။ ရွှံ့စေးကိုလည်း ရေနှင့်ဖျော်ကြည့်လျှင် ရွှံ့စေးမှုန်များ လှုပ်ရှားကြောင်းကို တွေ့ရသည်။ သို့ရာတွင် ဇီဝကြောင့်ဖြစ်ပေါ်သော အခြင်းအရာများကို သေချာစွာစိစစ်၍ လေ့လာသော်၊ အောက်ပါ ဝိသေသလက္ခဏာကြီးငါးချက်ကိုတွေ့ရမည်။

### ၁။ ပရိုတိုပလက်ဇမ်ခေါ် မူလဩဇာ

သဇီဝနှင့် နိဇီဝတို့ကို ခွဲခြား၍သိရှိစေသော ဝိသေသလက္ခဏာကား သဇီဝ၌ မူမှန်အဖွဲ့အစည်းရှိခြင်းဖြစ်သည်။ သဇီဝဖြစ်သော သစ်ပင်နှင့် သတ္တဝါတို့၏ ခန္ဓာကိုယ်တို့သည် ဆဲများဖြင့်ပြည့်နှက်နေသည်။ ထိုဆဲများ၏ အတွင်း၌ ရှင်သန်နေသော ပရိုတိုပလက်ဇမ် ရှိသည်။ ဤ ပရိုတိုပလက်ဇမ် မပါဘဲနှင့် ဇီဝမဖြစ်နိုင်ချေ။ သစ်ပင်နှင့် သတ္တဝါတို့၌သာလျှင် ဆဲများဖြင့်ဖွဲ့စည်းထားသော အင်္ဂါများရှိသည်။ နိဇီဝတို့တွင် ဆဲနှင့် ပရိုတိုပလက်ဇမ်မရှိချေ။

သစ်ပင်နှင့် သတ္တဝါတို့၏ အချို့အင်္ဂါအစိတ်အပိုင်း၌ရှိသော ပရိုတိုပလက်ဇမ်သည် ယယ်မူပြန်နိုင်စွမ်းရှိသည်။ ပုံစံအားဖြင့်ဆိုသော်၊ လူ၏လက်မောင်းအရေပြား စုတ်ပြတ်ပွန်းပဲ့သွားလျှင် အရေပြားသစ် တဖန်ပြန်ဖြစ်နိုင်သည်။ သစ်ပင်နှင့် သတ္တဝါတို့၌ တွေ့မြင်ရသော အနာကျက်ခြင်း၊ ကျိုးသွားသောအရိုးများ ပြန်ဆက်ခြင်း၊ သွေးသစ်ဖြစ်ခြင်း၊ ရေဘဝပင်၊ ထန်းပင်တို့၌ကဲ့သို့ သစ်ရည်သစ်ဖြစ်ခြင်း၊ သစ်ခေါက် ထပ်တလဲလဲဖြစ်ခြင်းစသည်တို့မှာ ပရိုတိုပလက်ဇမ်၏ ယယ်မူပြန်စွမ်းရည်ကြောင့် ဖြစ်သည်။ (ပရိုတိုပလက်ဇမ် — ရှု။)

### ၂။ မျိုးပွားခြင်း

သဇီဝတို့၌ မျိုးပွားနိုင်သော သတ္တိရှိသည်။ မျိုးပွားခြင်းဆိုရာ၌ မိဖမှပေါက်ပွားသော သားသမီးတို့သည် မိဖ၏ အမျိုးနှင့် တသမတ်တည်းတူစွာ ပေါက်ပွားကြခြင်းကို ဆိုလိုသည်။ ပုံစံအားဖြင့် ဆင်က ဆိတ်မမွေး၊ အမျိုးတူဆင်ကလေးများကိုသာ မွေးခြင်း၊ သရက်ပင်က ဩဇာသီးမသီး၊ အမျိုးတူ သရက်သီးသာ သီးခြင်းကို ဆိုလိုသည်။ သဇီဝတို့တွင် အချိန်ရာသီအလိုက် မျိုးပွားမှုရှိမြဲဖြစ်သော်

လည်း၊ နိဇီဝတို့တွင်မူ ဤအဖြစ်မျိုးမရှိချေ။ ထိုကြောင့် သဇီဝတို့တွင် မဖေါက်ပြန်သော ဇီဝစက်ရှိခြင်းဖြစ်သည်။

## ၃။ ရွေ့ရှားခြင်း

သဇီဝတို့တွင် အသက်ရှင်နေသော အဖြစ်ကို ပြသော လက္ခဏာကား ရွေ့ရှားနိုင်သော သတ္တိဖြစ်သည်ဟု ယူဆနိုင်သည်။ ကျွန်ုပ်တို့ တွေ့မြင်နေကြရသော သစ်ပင်တို့မှာ မြေ၌ စွဲမြဲနေကြသည့် အရာများ ဖြစ်ကြသောကြောင့် သတ္တဝါများမှာကဲ့သို့ ရွေ့ရှားနိုင်သော သတ္တိကို ထင်ထင်ရှားရှားအမြဲတမ်း မတွေ့ရချေ။ အပင်နှင့် သတ္တဝါတို့၏ ရွေ့ရှားခြင်းကို နှစ်မျိုးခွဲခြားနိုင်သည်။ ယင်းတို့မှာ (က) အလိုအလျောက်ရွေ့ရှားခြင်းနှင့် (ခ) ဆွဲဆောင်၍ရွေ့ရှားခြင်း သို့မဟုတ် တုံ့ပြန်သတ္တိတို့ဖြစ်ကြသည်။

(က) အလိုအလျောက်ရွေ့ရှားခြင်းကို သတ္တဝါတို့တွင် ထင်ရှားစွာတွေ့နိုင်သည်။ အပင်တို့တွင်မူ အယ်လဂျေပင်များဖြစ်သော ယူဂလီနားနှင့် ဩစီလေတိုရီးယား၌တွေ့ရသည်။ ထိုအပင်တို့၏အတွင်း၌ ပရိုတိုပလက်ဇမ်သည် အလိုအလျောက်ရွေ့ရှားနေသည်။

(ခ) သဇီဝတို့တွင် ဆွဲဆောင်၍ရွေ့ရှားခြင်း သို့မဟုတ် တုံ့ပြန်သတ္တိရှိသည်။ ပုံစံပြရသော်၊ သတ္တဝါတကောင်သည် လက်ခြေစသည်ကို မီးလောင်လျှင် မီးနှင့် ဝေးရာသို့ ရွှေ့သွားလိမ့်မည်။ ကလိုရိုဖီပါသော သစ်ပင်တို့သည် အမှောင်ဖက်မှ အလင်းဖက်သို့ဦးတည်၍ ပေါက်မြဲဖြစ်သည်။ ဤနေရာ၌ မီးနှင့် အလင်းရောင်သည် သတ္တဝါနှင့် အပင်တို့အား ဆွဲဆောင်သော အလှုံ့ဓာတ်များ ဖြစ်ကြ၍၊ သတ္တဝါနှင့် အပင်တို့၏ တုံ့ပြန်ခြင်းမှာလည်း ပရိုတိုပလက်ဇမ်ကြောင့် ဖြစ်ပေါ်လာသော တုံ့ပြန်သတ္တိကြောင့်ပင်ဖြစ်သည်။ ထိကရုန်းပင်ကို ထိလျှင် ရုန်းသွားသည်။ သားစားပင်များ၌ရှိသော အထူးအင်္ဂါများသည် သားကောင်နှင့် တွေ့ထိသည်နှင့်တပြိုင်နက် အမိဖမ်းတတ်သော ယန္တရားများဖြစ်လာကြသည်။ ကုက္ကိုရွက်သည် ညတွင် အိပ်သည်။ နံနက်တွင် တဖန်ပြန့်ကားလာလေသည်။ နေကြာပွင့်သည် နေသွားရာဖက်သို့ လှည့်၍လိုက်နိုင်စွမ်းရှိသည်။ သတ္တဝါတို့၌မူကား သစ်ပင်များမှာထက် ပိုမိုထင်ရှားသော တုံ့ပြန်သတ္တိရှိသည်။

## ၄။ ဇီဝရုပ်အဖြစ်အပျက်

သဇီဝမှန်သမျှတွင် ဇီဝရုပ်အဖြစ်အပျက် (မက်တာဗော်လစ်ဇင်) ပြုနိုင်စွမ်းရှိသည်။ မက်တာဗော်လစ်ဇင်ဆိုသည်မှာ ဇီဝကိစ္စဗေဒ (ဖီဇီဩလိုဂျီ) လုပ်ငန်းဆောင်တာနှင့် စပ်လျဉ်း၍ သဇီဝတို့၏ဆဲအတွင်း၌ ဓာတ်များ အဆက်မပြတ် ပြုပြင်ပြောင်းလဲနေပုံကို ခြုံ၍ ခေါ်ခြင်းဖြစ်သည်။ မက်တာဗော်လစ်ဇင်ကြောင့် ရရှိသောအကျိုးကျေးဇူးတို့မှာ သဇီဝတို့၏အသက်ရှင်ရေးဖြစ်သော ပရိုတို



### သရုပ်ပြကမ္ဘာငယ်

ပြထားသောပုံစံအတိုင်း လေးဂါလံခန့်ဝင်သောပုလင်းကြီးထဲသို့ မြေဆီလွှာ နှစ်လက်မခွဲခန့်အထူ ထည့်ပြီးလျှင်၊ ရေကိုပုလင်းထက်ဝက်ခန့်ထည့်ပါ။ အယ်လဂျီ၊ အီလိုဒီယာ၊ ဟိုက်ဒြစ်လာစသော ရေများကြိုက်ပင်တို့ကိုလည်းထည့်စိုက်ပြီးသော်၊ ငါး၊ ဗုဇုန်၊ ခရု၊ တကောင်စီထည့်၍ ပုလင်းကို လေလုံစွာပိတ်ထားပါ။ ထိုအခါ ပုလင်းသည် သက်ရှိသတ္တဝါတို့တည်ရှိပုံ သရုပ်ဖော်ပြသော ကမ္ဘာငယ် တခု ပုံပမာ ဖြစ်လေသည်။ အကယ်၍ ထိုပုလင်းအတွင်းမှအပင်များကို ဖယ်ထုတ်သော်၊ ပုလင်းထဲရှိ သတ္တဝါတို့သည် တာရှည်စွာ အသက်ရှင်နိုင်ကြမည် မဟုတ်ချေ။ အဘယ်ကြောင့်ဆိုသော်၊ ပုလင်းအတွင်း၌ အောက်စီဂျင်ကုန်ဆုံးသွားလျှင်၊ နောက်ထပ် အောက်စီဂျင်ဖြည့်ပေးမည့် အပင်များ မရှိတော့သဖြင့် သတ္တဝါများသေမည်။ သတ္တဝါတို့သည် ယင်းအပင်တို့ကို အစာအတွက်လည်း မှီခိုနေရသည်ဖြစ်သောကြောင့် အပင်များ မရှိလျှင် သတ္တဝါများသည် အစာငတ်၍လည်း သေလိမ့်မည်။ ကမ္ဘာပေါ်၌ ရှိသမျှ သက်ရှိ (သဇီဝ) တို့တွင်စိမ်းသောအပင်များသာလျှင်အလင်းဖြင့် ဖွဲ့စည်းကာ၊ မိမိတို့အလိုအလျောက် အစာကို ဖန်တီးနိုင်စွမ်းရှိသည်။ စိမ်းရောင်မရှိသော အပင်နှင့်သတ္တဝါတို့သည် စိမ်းရောင်ရှိသော အပင်တို့ကို တိုက်ရိုက်ဖြစ်စေ သွယ်ဝိုက်၍ ဖြစ်စေ အမှီသဟဲပြု၍နေရမြဲ ဖြစ်သည်။

ပလက်ဇမ်များ ဖြစ်ပေါ်ခြင်း၊ မချက်ယှင်းအောင် ဖန်တီးခြင်းနှင့် ချွတ်ယွင်းသွားသော ပရိုတိုပလက်ဇမ်များကို အသစ်ဖြစ်အောင် တဖန်ပြုပြင်နိုင်ခြင်းတို့ဖြစ်ကြသည်။ သဇီဝကိုအသုံးပြုရန်အတွက် ဩဂဲနစ်ပစ္စည်းပြုလုပ်ခြင်းနှင့် ဆိုင်သော မတ်တာဗော်လစ်ဇင်ကို ဇီဝရုပ်ဖြစ်ခြင်း (အနာဗော်လစ်ဇင်) ဟုခေါ်သည်။ သဇီဝတို့စွမ်းအင်ရမှုအတွက် ပြုလုပ်ပြီး ဩဂဲနစ်ပစ္စည်းများကို ချေဖျက်ခြင်းနှင့်ရင်း၊ အသုံးမကျသော ပစ္စည်းများကို ဖျက်ဆီးခြင်းနှင့်ရင်း ဆိုင်သော မက်တာဗော်လစ်ဇင်ကိုမူ ဇီဝရုပ်ပျက်ခြင်း (ကက်တာဗော်လစ်ဇင်) ဟုခေါ်သည်။

### ၅။ ကြီးခြင်း

ဇီဝဗေဒတွင် သုံးစွဲသော ကြီးခြင်းဆိုသော ဝေါဟာရသည် အရွယ်ပမာဏကြီးမားခြင်းထက် ပိုမိုနက်နဲသော အဓိပ္ပါယ်ကိုဆောင်သည်။ ဤဝေါဟာရကို သုံးလိုက်သည်နှင့် တပြိုင်နက် မက်တာဗော်လစ်ဇင်၏အကျိုးကြောင့် (က) မိတိုဆစ် သို့မဟုတ် ဒွိဂုဏ်ပွားခြင်းဖြင့် ဆဲအသစ်များဖြစ်ပေါ်ခြင်း၊ (ခ) ထိုဆဲအသစ်များ ပမာဏကြီးမားလာခြင်းနှင့် (ဂ) ယင်းကဲ့သို့ကြီးမားလာသောဆဲများ ကြီးရင့်လာပြီးလျှင် ရင့်သော တစ်ရှူးအသီးသီးအဖြစ်သို့ ရောက်လာခြင်းတည်းဟူသော အဆင့်သုံးဆင့် တဆက်တည်း ဖြစ်ပေါ်ကြောင်းကို သိနားလည်ထားရမည်။ ပမာဏကြီးမားခြင်းသည် ကြီးခြင်း၏အဆင့် တဆင့်မျှသာဖြစ်သည်။ ဖီဇီဩလိုဂျီဆိုင်ရာ လုပ်ငန်းတာဝန်များကို ခွဲဝေခြင်း၊ ယင်းတာဝန်အသီးသီးကို ညီညွတ်စွာဖြစ်စေရန် ညှိထိန်း၍ပေးခြင်း၊ သဇီဝ၏မျိုးရိုး ရုပ်သွင်ပေါ်အောင် ဖွံ့ဖြိုးခြင်းတို့သည်လည်း ကြီးခြင်းဆိုသောဝေါဟာရ၌ အကျုံးဝင်ပြီးဖြစ်ကြသည်။ အချုပ်ကိုရှင်းလင်းစွာဆိုရသော်၊ သဇီဝတို့၏ကြီးခြင်းသည် အတွင်းဖက်ရှိ ပရိုတိုပလက်ဇမ်ကိုအရင်းခံ၍ စတင်ဖြစ်ပေါ်သည်။ နိဇီဝတို့၏ကြီးမားခြင်းမှာ ပြင်ပ၌စတင်ဖြစ်ပေါ်သည်။ ပုံဆောင်ခဲများ ကြီးမားလာပုံကို သာဓကပြုရလျှင်၊ ရုပ်တူ ဓာတ်တူ ဖြစ်ကြသော မော်လီကျူးများသည် ပုံဆောင်ခဲ၏ ပြင်ပ မျက်နှာပြင်ပေါ်တွင် ထပ်တလဲလဲ စွဲကပ်သောကြောင့် ပမာဏ ကြီးလာခြင်းဖြစ်သည်။

### အပင်နှင့်သတ္တဝါ

အီဗော်လျူရှင်ဖြစ်စဉ်၏ အတိတ်ကာလတွင် အပင်နှင့်သတ္တဝါတို့သည် တမျိုးနှင့်တမျိုး ကွဲပြားခြားနားစွာ ဖြစ်ပေါ်ခဲ့ကြဟန်တူပေသည်။ ထိုသို့ကွဲပြားခြားနားစွာ ဖြစ်ပေါ်လာခြင်းမှာ တချိန်တည်း၌ရင်း၊ တနေရာတည်း၌ရင်း ဖြစ်ဟန်မတူချေ။ အီဗော်လျူရှင် သမိုင်းတလျှောက်၌ အခြေအနေချင်း ခြားနားသော နေရာဒေသအမျိုးမျိုး၌ရင်း၊ ခေတ်ကာလအမျိုးမျိုး၌ရင်း ဖြစ်ပေါ်ခဲ့ဟန်တူပေသည်။ အီဗော်လျူရှင် သမိုင်းစသည့်အချိန်နှင့် ယှဉ်၍ ဇီဝ သို့မဟုတ် သဇီဝလည်း ဖြစ်ပေါ်ခဲ့ရပေလိမ့်မည်။ သို့သော် ထိုသဇီဝသည် အပင်ပင် ဖြစ်မည်၊ သတ္တဝါပင် ဖြစ်မည်ကိုမူ တိကျစွာခွဲခြား၍မပြောနိုင်ချေ။ ထိုနည်းတူစွာ အပင်လောကသည် သတ္တဝါလောကမှ ဆင်းသက်သည် သို့မဟုတ် သတ္တဝါလောကသည် အပင်လောကမှဆင်းသက်သည် ဟူသည်ကိုလည်း တိကျမှန်ကန်စွာမပြောနိုင်ချေ။ သို့ရာတွင် ကမ္ဘာပေါ်စ၌ ပဌမဦးဆုံးဖြစ်သော သဇီဝသည် အလိုအလျောက်အစာပြုလုပ်နိုင်စွမ်း ရှိရမည်ဟူသောယူဆချက် မှန်ကန်ပါမူကား အပင်သည် သတ္တဝါထက်ဦးစွာပေါ်သော သဇီဝဖြစ်ရပေမည်။ အီဗော်လျူရှင် သမိုင်းတလျှောက်၌ အချို့သောသဇီဝတို့သည် အပင်၏အသွင်ကိုဆောင်ကြသည်။ ကျန်သဇီဝတို့မူ အပင်လည်းမမည်၊ သတ္တဝါလည်းမမည်သော အပင်သတ္တဝါများ ဖြစ်ခဲ့ကြမည်။ ဤကား အီဗော်လျူရှင်၏ အဓိပ္ပါယ်ကို အနည်းငယ်ရှင်းပြခြင်းဖြစ်သည်။

အီဗော်လျူရှင်ဩဝါဒအရ တိုးတက်သော (ဝါ) အမြင့်တန်းစား သဇီဝနှင့် ရှေးကျသော (ဝါ) အနိမ့်တန်းစား သဇီဝဟူ၍ ခွဲခြားထားသည်။ အမြင့်တန်းစားသဇီဝသည် အနိမ့်တန်းစား သဇီဝမှ စံနစ်တကျပြောင်းလဲတိုးတက် ဖြစ်ပေါ်လာခြင်းဖြစ်သည်ဟု ယူဆသည်။ အမြင့်တန်းစား သဇီဝ၏ အင်္ဂါဖွဲ့စည်းပုံမှာ အနိမ့်တန်းစားသဇီဝ၏အင်္ဂါဖွဲ့စည်းပုံထက် ပိုမိုရှုပ်ထွေးဆန်းကြယ်သည်။ အနိမ့်တန်းစားသဇီဝ၏ အင်္ဂါဖွဲ့စည်းပုံမှာ ရှုပ်ထွေးဆန်းကြယ်ခြင်းမရှိ၊ ရှင်းလင်းသော အခြေခံရုပ်အသွင်မျိုးဖြစ်သည်။

ဗိုင်ဩလိုဂျီပညာရှင်တို့၏ ယူဆချက်အရ အပင်လောကနှင့် သတ္တဝါလောကသည် မျိုးရင်းပင်မတခုမှ ဖြာထွက်လာသော အကိုင်းကြီးနှစ်ကိုင်းဖြစ်ကြသည်။ ဤနေရာ၌ အီဗော်လျူရှင်၏အဓိပ္ပါယ်ကို ပိုမိုထင်ရှားစေရန် သစ်ပင်၏ ပင်ပိုင်းဖြင့် တင်စားနိုင်းရှည့်၍ပြထားခြင်းဖြစ်သည်။ သစ်မြစ်ပိုင်းသည် မြေကြီးအတွင်း၌ နစ်မြုပ်နေသဖြင့် ကျွန်ုပ်တို့ သေချာစွာမြင်နိုင်ခြင်းမရှိချေ။ မြေကြီးထက်၌ပေါ်နေသည့် ပင်စည်မကြီးမှ ဖြာထွက်သော အကိုင်းကြီး နှစ်ကိုင်းကို အပင်လောကနှင့် နှိုင်းထားသည်။ ထိုအကိုင်းကြီးများမှတဖန် အခက်အလက် အသစ်များ အမြဲမပြတ် အဆင့်ဆင့် ဖြာထွက်ဖြစ်ပေါ်နေကြသည်။ အိုမင်းရင့်ယော်ကုန်သော အခက်အလက်များလည်း ပျက်စီးကြွေကျလျက်ရှိကြသည်။ အကိုင်း အခက် အလက်တို့၏ ရုပ်အသွင်တည်ခြင်းမရှိ၊ ခဏခဏ ပြောင်းလဲလျက်နေပေသည်။ အပင်လောကနှင့် သတ္တဝါလောကတို့သည်လည်း ထိုသစ်ပင်

ဥပမာအတိုင်းပင် အီဗော်လျူရှင် ဖြစ်နေကြသည်။ ကျွန်ုပ်တို့တွင် အပင်နှင့် သတ္တဝါကို ယေဘုယျအားဖြင့် ခွဲခြားနိုင်သောအသိဉာဏ်ရှိသည်။ အထူးသဖြင့် အမြင့်တန်းစား အပင်နှင့် သတ္တဝါကို အလွယ်တကူခွဲခြား၍ သိနိုင်ကြသည်။ အဘယ်ကြောင့်ဆိုသော် အပင်၌တွေ့မြင်ရသော အင်္ဂါဖွဲ့စည်းပုံ ရုပ်အသွင်စသည်တို့မှာ သတ္တဝါတို့၏ အင်္ဂါဖွဲ့စည်းပုံ ရုပ်အသွင်စသည်တို့နှင့် ကွဲပြားခြားနားသောကြောင့်ဖြစ်သည်။ သို့ရာတွင် ထိုသို့စိတ်ထဲ၌ခွဲခြား၍ သိနေသော အပင်နှင့် သတ္တဝါကို ရေးသား၍ရုပ်လုံးဖော်ကြည့်လျှင် မည်မျှခက်ခဲကြောင်း လက်တွေ့သိနိုင်မည်။ အီဗော်လျူရှင် သမိုင်းကိုပြန်၍ကြည့်သော် အကိုင်းအခက်အလက်များဖြင့် တင်စားထားသော ယခုခေတ် အမြင့်တန်းစားအပင်နှင့် သတ္တဝါတို့ကို ခွဲခြား၍သိရန်လွယ်သည်။ (အီဗော်လျူရှင် — ရှု။) အ ကိုင်း ကြီး များ မှ ပင်စည်မကြီးအထိ လျှောဆင်း၍ကြည့်သော်၊ အတိတ်ခေတ်တွင် ရှေးကျသော (ဝါ) အနိမ့်တန်းစားအပင်နှင့် သတ္တဝါ သို့မဟုတ် အပင်လော သတ္တဝါလောဟု ခွဲခြား၍မရသောအရာကို တွေ့မည်။ အထူးသဖြင့် ဆဲ တခုတည်းသာ ပါရှိသည့် အနိမ့်တန်းစား အပင်နှင့် သတ္တဝါကို ခွဲခြား၍ သိရန်မှာ အခက်ဆုံးဖြစ်သည်။ ရုက္ခဗေဒပညာရှင်တို့က အပင်ဟုယူဆသော်လည်း၊ သတ္တဗေဒ ပညာရှင်တို့က သတ္တဝါဟုမှတ်ယူထားသော အပင်သတ္တဝါ သဇီဝများ ယခုခေတ်တိုင်အောင်ပင်ရှိနေကြသည်။ (ပုံစံ — ယူဂလီနာ)။ ထိုသို့ဖြစ်ခြင်းကြောင့် အပင်နှင့် သတ္တဝါတို့ကို ခွဲခြားရာတွင် စည်းမျဉ်းကို လှေနံထားထစ်ချထား၍မရချေ။ ယေဘုယျအားဖြင့် အောက်ပါထူးခြားချက်များနှင့် ခြွင်းချက်များကို ထောက် ထား လျက် သစ်ပင်နှင့် သတ္တဝါကို ခွဲခြား၍ သိရသည်။

### ၁။ ကြီးခြင်း

အပင်တွင် ကြီးရာအပိုင်း (ဝါ) ကြီးနယ်များသည် သူ့နေရာနှင့်သူ တိကျစွာသတ်မှတ်လျက်ရှိသည်။ များသောအားဖြင့် ပင်စည် ထိပ်ဖျားနှင့် အမြစ် ထိပ်ဖျားတို့သည် ကြီးနယ်များဖြစ်ကြသည်။ အစေ့ရွက်ထီးပင်နှင့် အချို့သောအပင်မျိုးတို့တွင် ကြီးနယ်များသည် ဆစ်ကြား၊ ဆစ်ကြားရင်းနှင့် ရွက်ရင်းတို့၌ရှိတတ်ကြသည်။ သတ္တဝါတို့ကား သစ်ပင်ကဲ့သို့မဟုတ်ချေ။ သတ္တဝါတို့၏ အင်္ဂါအစိတ်အပိုင်းတို့သည် ထက်ဝန်းကျင် တပြိုင်နက် ကြီးနိုင်သည်။ သို့ရာတွင် ထိုကြီးနိုင်သည့်စွမ်းရည်သည် သတ္တဝါတို့ အရွယ်ရောက်သည်အထိသာဖြစ်သည်။ အရွယ်ရောက်ပြီး နောက် အဖို့၌ကား ကြီးမှုနောက်ထပ်မဖြစ်တော့ချေ။ အပင်တို့မူကား တသက်လုံးကြီးနိုင်စွမ်းရှိသည်။

### ၂။ ကလိုရိုဖီ

အကျီးဖျက် ကပွါးပင်နှင့် ဖန်းဂပ်မှိုပင်တို့မှလွဲ၍ အစိမ်းရောင်သန်းလျက်ရှိသော အပင်မှန်သမျှတွင် ကလိုရိုဖီပါဝင်လေသည်။ ယင်းသို့ ကလိုရိုဖီ ပါရှိခြင်းကြောင့် အပင်သည် အလိုအလျောက် အစာ လုပ်နိုင်လေသည်။ သတ္တဝါတို့တွင်မူကား ကလိုရိုဖီမရှိကြချေ။ ထို့ကြောင့် အလိုအလျောက် အစာလုပ်နိုင်စွမ်းမရှိချေ။ (ခြွင်းချက်။ ။ကလိုရိုဖီ မပါသောဖန်းဂပ်မှိုနှင့် ဗက်တီးရီးယားတို့သည်လည်း သတ္တဝါများကဲ့သို့ပင် အလိုအလျောက် အစာလုပ်နိုင်စွမ်း မရှိကြချေ။)

### ၃။ ဆဲနံရံ

သဇီဝမှန်သမျှတို့၏ ခန္ဓာကိုယ်သည် သေးငယ်သော ဆဲများဖြင့် ပြည့်နှက်နေသည်။ ဆဲတို့ကို ပတ်လည် ကာရံထားသော ဆဲနံရံကိုမူကား အပင်၌သာ ထင်ရှားတွေ့မြင်ရသည်။ သတ္တဝါတို့၏ဆဲ၌ နံရံကင်းမဲ့သည်။ (ခြွင်းချက်။ ချကျိမှိုတွင် ဆဲနံရံမပါချေ။)

### ၄။ ဆဲလျူလို

ဖန်းဂပ်မှိုမှတပါး အားလုံးသောအပင်တို့၏ ဆဲနံရံတို့သည် ဆဲလျူလိုဖြင့်ပြီးသည်။ သတ္တဝါတို့၏ဆဲနံရံတွင်မူ ဆဲလျူလို မပါချေ။ (ခြွင်းချက်။ ။ကျူနီကိတ်သတ္တဝါ၏ဆဲနံရံသည်လည်း ဆဲလျူလိုဖြင့်ပြီးသည်။)

### ၅။ ရွှေ့ရှားခြင်း

အမြင့်တန်းစား အပင်တို့သည် မြေတွင်စွဲမြဲလျက်တည်သောကြောင့် တနေရာမှတနေရာသို့ ရွှေ့ရှား သွားလာနိုင်ခြင်းမရှိကြချေ။ အနိမ့်တန်းစားအပင်များသာလျှင် ယင်းသို့ ရွှေ့ရှားသွားလာနိုင်ကြသည်။ အနိမ့်တန်းစားသတ္တဝါ အချို့မှု တနေရာမှတနေရာသို့ ရွှေ့ရှားနိုင်ခြင်းမရှိကြချေ။ သာဂရမျိုးများမှာ အိုဗီလီယားနှင့် သန္တာကျောက်တန်းတို့ဖြစ်ကြသည်။ အမြင့်တန်းစား သတ္တဝါတို့မှာမူကား ခြေလက်အပြည့်အစုံပါသောကြောင့် တနေရာမှတနေရာသို့ ရွှေ့ရှားသွားလာနိုင်ကြသည်။

### ၆။ ရုပ်တည်သြဇာစုခြင်း

သတ္တဝါတို့သည် အစိုင်အခဲဖြစ်သော အစာများကို စားမျိုနိုင်ကြလေသည်။ အပင်တို့မှာမူကား ယင်းတို့၏ ပြင်ပပတ်ဝန်းကျင်၌ ပျော်ဝင်လျက်ရှိသော အရည်များကိုသာ အခြေအနေအရ စုတ်ယူနိုင်စွမ်းရှိကြလေသည်။ (ခြွင်းချက်။ ။ချကျိမှိုသည် သေးငယ်သော အစာအစိုင်အခဲများကို မျိုနိုင်၏။)



ရန်ကုန်တက္ကသိုလ် ဇီဝဗေဒကျောင်းသားတို့ အပင်အမျိုးအစားကို မိုက်ကရိုစကုပ်ဖြင့် ကြည့်ရှုစမ်းသပ်နေကြပုံ

၇။ အင်္ဂါများ

သတ္တဝါတို့တွင် ရွေ့ရှားရန်၊ ရက်စပ်ရေးရှင်း ပြုလုပ်ရန်၊ အညစ်အကြေး စွန့်ပစ်ရန် အစရှိသော တာဝန်များကို ဆောင်ရွက်နိုင်သော အင်္ဂါများရှိကြသည်။ ထိုအင်္ဂါများ၏ဖွဲ့စည်းပုံသည်လည်း ယင်းတို့ဆောင်ရွက်ရန်ဖြစ်သော တာဝန်တို့အတွက် အသင့်တော်ဆုံးသော အဆင့်အတန်းအထိ တိုးတက်ကောင်းမွန်ကြသည်။ အပင်တို့တွင်မူကား၊ ထိုအင်္ဂါများအကယ်၍ပါရှိပါမူ သတ္တဝါအင်္ဂါများမှာကဲ့သို့ ဖွဲ့စည်းပုံရှုပ်ထွေးဆန်းကြယ်ခြင်းမရှိချေ။ အင်္ဂါမည်ကာမျှသာ ရှိတတ်သည်။ သို့မဟုတ် အင်္ဂါလုံးဝမပါရှိဘဲလည်း ရှိတတ်သည်။

ဇီဝဗေဒမှ ဖြာထွက်သော ခက်မများ

ဇီဝဗေဒမှ အဓိကအားဖြင့် ရုက္ခဗေဒနှင့် ပါဏဗေဒဟူ၍ ခက်မနှစ်သွယ်ခွဲထွက်သည်။ (ရုက္ခဗေဒ။ ပါဏဗေဒ — ရှု။) ဇီဝဗေဒမှဖြာထွက်သော အခြားသိပ္ပံပညာရပ်များမှာ ဇီဝဓာတုဗေဒ၊ ဇီဝရူပဗေဒ၊ ဆေးပညာရပ် စသည်တို့ဖြစ်ကြသည်။ ရုက္ခဗေဒနှင့် ပါဏဗေဒကို လွယ်ကူစိမ့်သောငှာ အောက်ပါအတိုင်း ကဏ္ဍများခွဲ၍လေ့လာရသည်။

၁။ ရုပ်သွင်ပညာ

ဤပညာသည် သစ်ပင်နှင့် သတ္တဝါတို့၏အင်္ဂါများကို ပြင်ပမှမြင်ရသည့် ရုပ်အသွင်အတိုင်း လေ့လာသောပညာရပ် ဖြစ်သည်။

၂။ တစ်ရှူးပညာ

ဤပညာသည် သစ်ပင်နှင့် သတ္တဝါတို့၏အင်္ဂါတို့ကို ပြင်ပမှမြင်ရသော ရုပ်အသွင်ပေါ်ရန် အတွင်းဖက်၌ ဖွဲ့စည်းလျက်ရှိသော ဆဲနှင့် တစ်ရှူးများကို လေ့လာသောပညာ ဖြစ်သည်။

၃။ ဖိဇီဩလိုဂျီ

ဤပညာသည် သဇီဝတို့၏အင်္ဂါများနှင့် တစ်ရှူးအစိတ်အပိုင်းတို့၏ လုပ်ငန်းတာဝန်များကိုငှင်း၊ အသက်ရှင်ခြင်း၏အကြောင်းနှင့်ပတ်သက်သမျှကိုငှင်း လေ့လာသောပညာ ဖြစ်သည်။

၄။ အီကောလိုဂျီ

ဤပညာသည် အပင် သို့မဟုတ် သတ္တဝါ သို့မဟုတ် သဇီဝ

နှင့် ပတ်ဝန်းကျင်သပ္ပါယဖြစ်ပုံ အလုံးစုံကို လေ့လာသော ပညာဖြစ်သည်။

### ၅။ အပင် သို့မဟုတ် သတ္တဝါပထဝီ

ဤပညာသည် အပင်နှင့် သတ္တဝါများ ကမ္ဘာပေါ်ပျံ့နှံ့ခြင်းနှင့် ယင်းကဲ့သို့ပျံ့နှံ့စေသော ပယောဂများအကြောင်းကို လေ့လာသောပညာဖြစ်သည်။

### ၆။ အမျိုးအစားခွဲနည်းပညာ

ဤပညာသည် အပင်နှင့် သတ္တဝါတို့၏ ရုပ်အသွင်ကို အသေးစိတ်လေ့လာ၍ ရုပ်လုံးဖော်ခြင်း၊ မျိုးမည်သတ်မှတ်ခြင်းနှင့် စံနစ်တကျ အမျိုးအစားခွဲခြားခြင်းတို့ကို ပြုသော ပညာဖြစ်သည်။ ရုက္ခဗေဒပညာရှင်တို့ တွေ့ရှိလေ့လာမှတ်သားထားသော အပင်မျိုးစိတ်ပေါင်းမှာ သုံးသိန်းနှစ်သောင်းမျှရှိသည်။ ပါဏဗေဒပညာရှင်တို့လေ့လာပြီးသော သတ္တဝါမျိုးစိတ်ပေါင်းထက် အရေအတွက်အားဖြင့် သုံးဆပိုမိုလျက်ရှိသည်။ တောတောင် အထပ်ထပ်နှင့် တက္ကလူသူအရောက်အပေါက်မရှိသေးသော (ဝါ) လူနေနည်းပါးသော အရပ်ရပ်တို့၌ ပေါက်နေသည့်အပင်တို့ကို ရှာဖွေလေ့လာနိုင်လျှင် အပင်မျိုးစိတ်အရေအတွက်ပိုမိုများပြားစွာတွေ့ရှိဦးမည်မှာ သေချာပေသည်။

### ၇။ ရုပ်ကြွင်းကျောက် ရုက္ခဗေဒနှင့် ရုပ်ကြွင်းကျောက် ပါဏဗေဒ

အတိတ်ခေတ်၌ပေါ်ထွန်းခဲ့ကြသော အပင်နှင့် သတ္တဝါတို့၏ရုပ်အကြွင်းများသည် မြေလွှာအထပ်ထပ်၌ ကျောက်ဖြစ်၍ကျန်ရစ်နေတတ်ကြသည်။ ထိုရုပ်ကြွင်းကျောက်တို့၏ အသွင်လက္ခဏာကို စူးစမ်းလေ့လာခြင်းခြင့် အတိတ်ခေတ်တွင် ပေါ်ထွန်းခဲ့ကြသော အပင်နှင့် သတ္တဝါတို့အကြောင်းကိုသိနိုင်သည်။ အပင်နှင့် သတ္တဝါများ၏ရုပ်ကြွင်းကျောက်ကို ယခုခေတ်၌ တွေ့မြင်နေကြရသော အပင်၊ သတ္တဝါတို့နှင့် နှိုင်းရှည့်၍လည်း လေ့လာနိုင်သည်။

အမျိုးအစားခွဲခြားခြင်းသည် ဇီဝဗေဒပညာရပ်တွင် အလွန်အသုံးဝင်သည်။ ဇီဝဗေဒပညာရှင်တို့သည် သတ္တဝါ



ရန်ကုန်တက္ကသိုလ် ဇီဝဗေဒဌာန၌ ဖားအင်္ဂါများကို လက်တွေ့စမ်းသတ်ခွဲစိတ်လေ့လာနေပုံ

များကို (၁) ကျောရိုးရှိသတ္တဝါနှင့် (၂) ကျောရိုးမဲ့သတ္တဝါ ဟု နှစ်မျိုးခွဲခြားသည်။ ထိုအစု နှစ်ခုကို တဖန် အောက်ပါအတိုင်း ခွဲခြားပြန်သည်။

### ၁။ ။ကျောရိုးရှိသတ္တဝါ

(က) ငါး။ ပုံစံ–ငရှဉ့်၊ ငရံ့၊ ငမန်း။
(ခ) ကုန်းနေရေသတ္တဝါ။ ပုံစံ–ဖား၊ ချုကောင်။
(ဂ) တွားသွားကောင်။ ပုံစံ–မြွေ၊ ပုတ်သင်၊ လိပ်။
(ဃ) ငှက်။ ပုံစံ–လင်းယုန်ငှက်၊ စာကလေး၊ ခို၊ ကြက်၊ ချိုး၊ ဥဩ။
(င) နို့တိုက်သတ္တဝါ။ ပုံစံ–မျောက်၊ နွား၊ မြင်း၊ ခွေး၊ သိုး၊ ဆိတ်၊ ယုန်။

### ၂။ ။ကျောရိုးမဲ့သတ္တဝါ

(က) အားသရော့ပိုဒါ။ ပုံစံ–အင်းဆက်ပိုး၊ ပင့်ကူ၊ ကနန်း၊ ဗုဇွန်ထုပ်။
(ခ) မိုလတ်စကာ။ ပုံစံ–ကမာ၊ ခရု။
(ဂ) အန်နီလစ်ဒါ။ ပုံစံ–တီကောင်၊ မြှေ့။
(ဃ) ပရိုတိုဇိုဝါ။ ပုံစံ–အမီးဗား။

ဇီဝဗေဒပညာရှင်တို့သည် အပင်များကို အပွင့်ပွင့်သော အပင်နှင့် အပွင့်မပွင့်သောအပင်ဟူ၍ အစုကြီးနှစ်စုခွဲထားသည်။ တဖန် အပွင့်ပွင့်သောအပင်များကို (က) အန်ဂျီအိုစပမ်းခေါ် မျိုးစေ့ဝှက်ပင်မျိုး၊ ပုံစံ၊ သရက်၊ ဩဇာ၊ မာလကာနှင့် (ခ) ဂျင်မနိုစပမ်းခေါ် မျိုးစေ့ဖော်ပင်မျိုး ပုံစံ၊ ထင်းရှူး၊ ဖားထင်းရှူးဟူ၍ ခွဲခြားထားပြန်သည်။

အပွင့်မပွင့်သောအပင်များမှာမူ ကျောက်ခက်ပင်မျိုး၊ ရေညှိ၊ လစ်ဗာဝတ်ပင်၊ ဖန်ဂျိုင်း၊ မှို၊ အယ်လဂျေပင် (ကျောက်ပွင့်) တို့ ဖြစ်ကြသည်။

အထက်တွင် ဖော်ပြခဲ့သည့်အတိုင်း သက်ရှိအမျိုးအစား ဇယားအခြေခံကိုရေးဆွဲလိုက်လျှင် အောက်ပါအတိုင်း ဖြစ်လေသည်။

### ဇီဝဗေဒပညာသမိုင်း

ဘီစီ ၆၀၀ အထက်က ဂရိပညာရှိ အနက်ဆီမန်ဒါသည် ‘သတ္တဝါတို့မှာ ရေမှဖြစ်ပေါ်လာ၏’ ဟူသောအယူအဆကို ကြံဆခဲ့ဘူး၏။ ထိုနောက် နှစ်ပေါင်းတရာခန့်ကြာသော အခါ၊ ဆေးပညာ၏ဖခင်ဟုခေါ်ဆိုသမုတ်အပ်သော ဂရိပညာရှိ ဟစ်ပေါ့ကရာတီသည် ဇီဝဗေဒပညာကို များစွာအထောက်အပံ့ပြုခဲ့သည်။ ဂရိလူမျိုး အယ်ရစ္စတိုတယ်နှင့် ရောမလူမျိုး ပလင်နီတို့သည် သတ္တဝါနှင့် အပင်အကြောင်းကို များစွာသုတေသနပြုခဲ့ကြသည်။

သို့ရာတွင် ဇီဝဗေဒပညာသည် အလယ်ခေတ်ရောက်မှသာ ပို၍ထွန်းကားလာခဲ့သည်။ ၁၅၁၄ ခုနှစ်တွင် ဗီဆေးလီယပ်ခေါ် ဗဲလဂျီယန်အမျိုးသားတဦးသည် လူ့ရုပ်ကလာပ်ကို ခွဲစိတ်ကြည့်ရှုခဲ့သည်တွင် အနာတမီပညာသည် ပေါ်ထွန်းလာလေသည်။ အင်္ဂလန်နိုင်ငံ၌မူကား ၁၅၇၈ ခုနှစ်တွင် ဝီလျံ ဟားဗေးသည် လူ့ခန္ဓာကိုယ်၌ သွေးကြောများဖြင့် သွေးလှည့်ပုံကို သုတေသနပြုခြင်းအားဖြင့် ခန္ဓာကိစ္စဗေဒပညာသည် စတင်ပေါ်ထွန်းလာလေသည်။ ၁၆၀၀ ပြည့်နှစ်တဝိုက်၌ထင်ရှားခဲ့သော ဒပ်ချလူမျိုး လေးဗင်ဟုသည် မိုက်ကရိုစကုပ်ကို တီထွင်ယင်းမှ သာမန်မျက်စိဖြင့်မမြင်နိုင်လောက်အောင် သေးငယ်သော အပင်နှင့်အကောင်များကို လေ့လာနိုင်ခဲ့သည်။ ထိုခေတ်တွင်ပင် အင်္ဂလိပ်လူမျိုး ရောဗတ် ဟွတ်သည် အပင်နှင့် အကောင်ငယ်များတွင်ရှိသော ဆဲများကို မိုက်ကရိုစကုပ်ဖြင့်တွေ့မြင်ခဲ့ရသည်။

ခရစ် ၁၇၀၀ ပြည့်နှစ်အတွင်း၌ ဆွီဒင်အမျိုးသား သိပ္ပံပညာရှင် လင်းနီးယပ်သည် အပင်နှင့် သတ္တဝါတို့ကို သိပ္ပံပညာနည်းစံနစ်ဖြင့်လျော်ညီအောင် အမျိုးအစားခွဲခြား၍ ပေးခဲ့လေသည်။ ထို့ပြင်၊ ပြင်သစ်အမျိုးသား ကူးဗီယေသည် လူနှင့် တိရစ္ဆာန်တို့၏ ကိုယ်ခန္ဓာဖွဲ့စည်းပုံကိုလေ့လာ၍ အနာတမီပညာရပ်ကို စတင်ပြုစုပေးခဲ့လေသည်။ ခရစ် ၁၈၀၀ ပြည့်နှစ်၌ ရှလိုင်ဒင်နှင့်ရှဗန်း နှစ်ဦးတို့သည် သက်ရှိရုပ်ဟူသမျှမှာ ဆဲများဖြင့်သာဖွဲ့စည်းထားကြောင်း သီအိုရီ



ကို ကြုံဆခဲ့ကြလေသည်။ ထိုခေတ်တွင် ဒါဝင်သည် ဝေါလေ့နှင့်အတူ သုတေသနပြုရာမှ ယခုအခါ အလွန်ကျော်စောထင်ရှားသော အီဗောလျူရှင်ဆိုင်ရာ သီအိုရီတခုကို ကြုံဆခဲ့လေသည်။ ယင်းသီအိုရီမှာ သတ္တဝါတို့သည် အနိမ့်တန်းစားသတ္တဝါမျိုးမှ တဆင့်ထက် တဆင့်တက်၍ အမြင့်တန်းစားသတ္တဝါမျိုးအဖြစ်သို့ ကူးပြောင်းလာတတ်သည်ဟူသော အခြေခံသဘောတရားပင်ဖြစ်လေသည်။ ဩစတြီးယန်းလူမျိုး ခရစ်ယန်ဘုန်းတော်ကြီး မင်းဒဲမှာမူ ဂျင်နစ်တစ်ပညာရပ်ဆိုင်ရာ အခြေခံနိယာမတရားတို့ကို ရှာဖွေတွေ့ရှိခဲ့လေသည်။ ၂၀ ရာစုနှစ်ဦးတွင် ဂျာမန်လူမျိုး ဇီဝဗေဒပညာရှင် ဗိုက်စမန်းသည် သတ္တဝါတို့၏ဗီဇဆဲများကို အခြားဆဲများမှ ခွဲခြား၍ပြဆိုခဲ့လေသည်။ ထိုပြင် လူဝီပါးစတားနှင့် ရောဗတ် ကော့တို့သည် ဗက်တီးရီးယားပိုးပညာကို ထွန်းကားလာအောင် အထောက်အပံ့ပြုခဲ့လေ၏။

ဦးကိုကိုကြီး

**ဇီးကုန်းမြို့။** ။သာယာဝတီခရိုင်ကို မြောက်ပိုင်းနယ်နှင့် တောင်ပိုင်းနယ်ဟူ၍ နှစ်နယ်ခွဲထားရာ၊ ဇီးကုန်းမြို့သည် မြောက်ပိုင်းနယ်တွင် နယ်ပိုင်ရုံးစိုက်ရာမြို့ဖြစ်သည်။ ကြို့ပင်ကောက်၊ မိုးညို၊ နတ္တလင်းဟူသောမြို့နယ်များသည် ဇီးကုန်းနယ်အပိုင်ဖြစ်သည်။ ဇီးကုန်းမြို့သည် ရန်ကုန် ပြည် မီးရထားလမ်းပေါ်၌တည်ရှိ၍၊ ရန်ကုန်မြို့မှ ၁၁၆ မိုင်၊ ပြည်မြို့မှ ၄၅ မိုင်ကွာဝေးသည်။

ဇီးကုန်းမြို့၌ ဒေသန္တရအုပ်ချုပ်ရေးကို မျူနီစီပယ်ဖွဲ့၍ အုပ်ချုပ်သည်။ လူဦးရေမှာ ၁၉၅၃ ခုနှစ်သန်ကောင်စာရင်းအရ ၇၆၅၂ ယောက်ခန့်မျှဖြစ်သည်။

ဇီးကုန်းမြို့နယ်မှာ ဆန်စပါး စိုက်ပျိုးသောနယ် ဖြစ်၍ ဆန်စပါးလုပ်ငန်းသည် အဓိကဖြစ်လေသည်။

**ဇုနတ်မင်း။** ။ဂရိနတ်များ – ရှု။

**ဇူးကော့, ဂျီ၊ ကေ (ခရစ် ၁၈၉၅ ဖွား)။** ။ဂျော်ဂျီကန်စတန်တီနိုပ်ဗျစ် ဇူးကော့သည် ဒုတိယကမ္ဘာစစ်အတွင်းက နာမည်ကျော်ခဲ့သော ဆိုဗီယက်စစ်သူကြီးတဦးဖြစ်သည်။ ရုရှနိုင်ငံအလယ်ပိုင်း စထရယ်ကိုဗါးအမည်ရှိသော ရွာကလေးတွင် ၁၈၉၅ ခုနှစ်ကဖွားမြင်၍၊ မိဖများမှာ တောင်သူလယ်သမားမျိုးရိုးဖြစ်၏။ ငယ်စဉ်က ကျောင်းတွင် အခြေခံပညာရပ်များကို သင်ကြားခဲ့ပြီးနောက်၊ ၁၉၁၅ ခုနှစ်တွင် ဇာဘုရင်၏စစ်တပ်ထဲသို့ သာမန်စစ်သားတဦးအဖြစ်ဖြင့် ဝင်ရောက်အမှုထမ်းခဲ့လေသည်။

၁၉၁၇ ခုနှစ်၌ တော်လှန်ရေးကြီးဖြစ်ပွားသောအခါ ဇူးကော့သည် တပ်နီတော်တွင် ဗိုလ်အဆင့်အတန်းကိုရရှိခဲ့ပြီးလျှင် ပိုလန်ကိုတိုက်ခိုက်ခဲ့ရလေသည်။ ၁၉၂၂ ခုနှစ်တွင် ဖရွန်းဇေးစစ်တက္ကသိုလ်သို့ဝင်ရောက်၍ စစ်ပညာကိုဆည်းပူးလေ့လာခဲ့ရာတွင် ယန္တရားတပ်များအား ပြန်လည်ခုခံတိုက်ခိုက်နည်း၌ အထူးကျွမ်းကျင်စွာတတ်မြောက်ခဲ့သူဟုဆိုလေသည်။ ၁၉၃၉ ခုနှစ်၌ မွန်ဂိုးလီးယားပြည်ထဲတွင် ဂျပန်တပ်မတော်အမှတ် ၆ ကို တိုက်ခိုက်ချေမှုန်းခဲ့သည်။ ၁၉၄၁ ခုနှစ် ဖေဖွာရီလထဲတွင် ဇူးကော့သည် ဗိုလ်ချုပ်ရာထူးသို့ တိုးမြှင့်ခန့်ထားခြင်းခံရ၍၊ စစ်ဦးစီးချုပ် အဖြစ်ရှင်း၊ ကာကွယ်ရေးဌာန လက်ထောက်ဝန်ကြီးအဖြစ်ရှင်း ခန့်အပ်ခြင်းခံရသည်။ ထိုနှစ် အောက်တိုဘာလတွင် ဇူးကော့မှာ မော်စကိုမြို့တော်ကာကွယ်ရေးအတွက် လုံးဝတာဝန်ယူကာ ဆောင်ရွက်ခဲ့ရလေသည်။ ထိုနှစ် ဒီဇင်ဘာလတွင် ဇူးကော့ကွပ်ကဲအုပ်ချုပ်သော ဆိုဗီယက်တပ်များသည် ဂျာမန်တပ်များကို တိုက်ခိုက်တွန်းလှန်နိုင်ခဲ့လေသည်။ စတာလင်ဂရက်တိုက်ပွဲတွင် ဇူးကော့၏ တန်ပြန်ထိုးစစ်ဆင်မှုကြောင့် အောင်ပွဲရလိုက်ရပြီးလျှင် သူ၏ စွမ်းရည်သတ္တိကြောင့်ပင် ၁၉၄၃ ခုနှစ် ဇန္နဝါရီလထဲတွင် လင်နင်ဂရက်မြို့ကို ဝန်းရံထားသော ဂျာမန်တပ်များကို တိုက်ခိုက်မောင်းထုတ်နိုင်ခဲ့လေသည်။ (ကမ္ဘာစစ်၊ ဒုတိယ။ စတာလင်ဂရက်မြို့ — ရှု)။



ဆိုဗီယက်သေနာပတိချုပ် ဇူးကော့

ထိုအတွင်း ဇူးကော့မှာ မာရှယ်ခေါ် စစ်သူကြီးအဆင့်

အတန်းသို့ တိုးမြှင့်ခန့်အပ်ခြင်းခံရလေသည်။ မာရှယ်ဇူးကော့ ကွပ်ကဲအုပ်ချုပ်သော ဆိုဗီယက်တပ်များသည် ပိုလန်နိုင်ငံနှင့် ဂျာမန်နိုင်ငံအရှေ့ပိုင်းကို ဖြတ်သန်းချီတက်တိုက်ခိုက်ခဲ့ပြီးလျှင်၊ ၁၉၄၅ ခုနှစ် မေလ ၇ ရက်နေ့တွင် ဗါလင်မြို့တော်ကို တိုက်ခိုက်သိမ်းပိုက်လိုက်ကြလေသည်။ မေလ ၈ ရက်နေ့တွင် ဂျာမန်တို့လက်နက်ချရသည်။ မာရှယ်ဇူးကော့သည် မဟာမိတ် အုပ်ထိန်းရေး ကော်မစ်ရှင်အဖွဲ့တွင် ဆိုဗီယက်ကိုယ်စားလှယ်အဖြစ် ပါဝင်ခဲ့ရ၍၊ ၁၉၄၆ ခုနှစ် ဖေဖွာရီလအထိ ဂျာမနီတွင်ရှိခဲ့သည်။ ဧပြီလတွင် မာရှယ်ဇူးကော့အား မော်စကိုမြို့တော်သို့ ပြန်လည်ခေါ်ယူ၍၊ ဆိုဗီယက် ကြည်းတပ် အားလုံး၏ သေနာပတိချုပ် အဖြစ်ရင်း၊ ကာကွယ်ရေးဌာန လက်ထောက်ဝန်ကြီးအဖြစ်ရင်း ခန့်ထားခြင်းခံရလေသည်။ သို့သော် ထိုနှစ် နွေရာသီတွင် အိုဒက်ဆာရှိ တပ်များကိုကွပ်ကဲရန် စေလွှတ်ခြင်းခံရပြန်လေရာ၊ အချို့က ရာထူးလျှော့သွားခြင်းဖြစ်သည်ဟုယူဆကြသည်။ အချို့ကမူ ပင်လယ်နက်တဝိုက်နှင့် ဗော်လကန်ရှိ ဆိုဗီယက်တပ်များကို အင်အားဖြည့်တင်းရေးအတွက် သွားရောက်ခြင်းဖြစ်၍ ရာထူးလျှော့သည်ဟုမဆိုသာဟု ပြောဆိုကြလေသည်။

၁၉၅၃ ခုနှစ် မတ်လတွင် မာရှယ်စတာလင်သေဆုံးသောအခါ၊ ဝန်ကြီးချုပ်သစ် မာလျင်ကော့အစိုးရအဖွဲ့သစ်တွင် ဒုတိယကာကွယ်ရေးဝန်ကြီးဖြစ်လာသည်။ ၁၉၅၅ ခုနှစ် ဖေဖွာရီလအတွင်း ဆိုဗီယက်အစိုးရအဖွဲ့ အပြောင်းအလဲတွင် ဝန်ကြီးချုပ်ဖြစ်သွားသော မာရှယ်ဗူလဂါနင်၏နေရာတွင် ကာကွယ်ရေးဝန်ကြီးအဖြစ် ဖေဖွာရီလ ၉ ရက်နေ့မှစ၍ ခန့်အပ်ခြင်းခံရလေသည်။

၁၉၅၇ ခုနှစ် ဖေဖွာရီလ ၁၀ ရက်နေ့တွင် မာရှယ်ဇူးကော့သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ ဖိတ်ကြားချက်အရ၊ မြန်မာနိုင်ငံတွင် ၅ ရက်မျှ ချစ်ကြည်ရေးမိတ်ဆက်အဖြစ် လည်ပတ်မိတ်ဆက်ရန် ရန်ကုန်မြို့သို့ဆိုက်ရောက်ခဲ့သည်။ ၁၉၅၇ခုနှစ် အောက်တိုဘာလ အတွင်း၊ မာရှယ်ဇူးကော့သည် ယူဂိုဆလားဗီးယားနှင့် ဗူလဂေးရီးယားနိုင်ငံများသို့ ၁၈ ရက်ကြာ ချစ်ကြည်ရေးမိတ်ဆက်သွားရောက်လည်ပတ်ခဲ့ရာမှ၊ အောက်တိုဘာလ ၂၆ ရက်နေ့၌ မော်စကိုမြို့တော်သို့ ပြန်အရောက်တွင်၊ ယင်းအားဆိုဗီယက်ပါလီမန်သဘာပတိအဖွဲ့က ကာကွယ်ရေးဝန်ကြီးရာထူးမှထုတ်ပယ်လိုက်ပြီးလျှင်၊ မာရှယ် မာလင်နော့စကီးအား ယင်း၏နေရာတွင် ခန့်ထားလိုက်လေသည်။



ဆွစ်ဇာလန်နိုင်ငံတွင် ထင်ရှားလှသည့် ဇူးရစ်မြို့

ဇူးရစ်မြို့။ ။ဇူးရစ်မြို့သည် ဆွစ်ဇာလန်နိုင်ငံတွင် လူဦးရေအများဆုံးနှင့် အရောင်းအဝယ်ဖက်တွင် အရေးအပါဆုံးမြို့ကြီးဖြစ်သည်။ (ဆွစ်ဇာလန်နိုင်ငံ — ရှု။ )ဇူးရစ်အိုင်မြောက်ဖက်ထိပ်တွင် တည်ရှိသည်။ ၁၁ ရာစုနှစ်မှစ၍ အလွန်ထင်ရှားခဲ့သည်။ ကြီးကျယ်သော ပိုးထည်လုပ်ငန်းနှင့် စက်မှုလုပ်ငန်းများရှိ၏။ မြို့ထဲတွင် လူမျိုးပေါင်းစုံနေထိုင်ကြရာ၊ ဂျာမန်တို့မှာ အများဆုံးဖြစ်၏။ သာယာကြည်နူးဖွယ်ကောင်းသော ရာသီဥတုရှိခြင်းကြောင့် အမေရိကန်၊ ဗြိတိသျှစသော နိုင်ငံခြားသားလူမျိုးများ သွားရောက်လည်ပတ်လေ့ရှိကြသည်။ နိုင်ငံရေးကြောင့် ပြည်နှင်ဒဏ်ခံရသူများလည်း ဇူးရစ်မြို့တွင် ခိုလှုံနေထိုင်ကြသည်။

လူဦးရေမှာ ၁၉၅၀ ပြည့်နှစ်တွင် ၃၉၀,၀၂၀ ယောက်မျှ

ရှိသည်။ ဆွစ်အမျိုးသားပြတိုက်၌ အဖိုးတန်ရှေးဟောင်းပစ္စည်းများရှိ၍၊ ငူးရစ်မြို့စာကြည့်တိုက်မှာ ဆွစ်ဇာလန်ပြည်တွင် အကြီးဆုံးဖြစ်သည်။ ၁၇၃၃ ခုနှစ်တွင် တည်ထောင်ခဲ့သော ငူးရစ်တက္ကသိုလ်သည် ဂျာမန်စကားပြောသောဆွစ်လူမျိုးတို့အဖို့ ပညာရှာမှီးရာ ဗဟိုဌာနကြီးဖြစ်ပေသည်။

**ငူးလူးလူမျိုး။** ။ငူးလူးလူမျိုးတို့သည် တောင်အာဖရိကတိုက်ရှိ ငူးလူးလန်းနယ်၌နေထိုင်ကြသော လူမျိုးများဖြစ်သည်။ ယင်းတို့သည် ဗန်တူအနွယ်ဝင် ကပ္ပလီများဖြစ်ကြ၏။ အရပ်ရှည်၍ ကိုယ်လုံးကိုယ်ထည် တောင့်တင်းသည်။ သူတို့သည် ရွာငယ်များတည်၍ နေထိုင်ကြရာ၊ ရွာတရွာတွင် သူကြီးတယောက်စီရှိ၏။ ထိုရွာသူကြီးမှာ တောင်အာဖရိက ပြည်ထောင်စုအစိုးရအား တာဝန်ခံရသူဖြစ်သည်။ ငူးလူးလူမျိုးတို့သည် တဲကလေးများဖြင့် နေထိုင်ကြ၏။ သူတို့၏တဲမှာ ပျားအုံသဏ္ဍာန်ရှိ၍၊ သူတို့ကိုယ်တိုင် သက်ငယ်၊ ဝါး၊ သစ်ကိုင်းခြောက်စသည်တို့ဖြင့် ဆောက်လုပ်နေထိုင်ကြ၏။ ထိုတဲစုဖြင့်တည်ထားသော ရွာဝိုင်းကလေးများကို ကရားဟုခေါ်သည်။ တဲဝင်ပေါက်မှာ အလွန်ပင်နိမ့်သဖြင့် ကုန်း၍ဝင်ရသည်။ ငူးလူးလူမျိုးတို့သည် သူတို့၏ကျွဲနွားတိရစ္ဆာန်များကို ထိုကရားခေါ်



ဗုံတီးနေသည့် ငူးလူးအမျိုးသားတဦး

တဲစုရွာထဲ၌ပင်ထားကြ၏။ လယ်ယာ စိုက်ပျိုးခြင်းနှင့် ကျွဲနွားမွေးမြူခြင်းမှာ ငူးလူးလူမျိုးတို့၏ အဓိကလုပ်ငန်းဖြစ်သည်။

ငူးလူးတို့သည် ခေါင်းဆောင် 'ချာက' ၏ကြိုးပမ်းမှုကြောင့် ၁၉ ရာစုခေတ်ဦးလောက်ကစ၍ တောင်အာဖရိကတိုက် ဇန်ဇီဗါနှင့် ဂွတ်ဒဟုပ်အငူတွင် တန်ခိုးကြီးမားလာကြလေသည်။ ၁၈၇၉ ခုနှစ်တွင် ဥလန်ဒီနယ်၌ ငူးလူးဘုရင် 'စက်တီဝေးယို' ခေါင်းဆောင်၍ ဗြိတိသျှတို့နှင့်တိုက်ခိုက်ခဲ့သည်။ သို့ရာတွင် အရေးနိမ့်သဖြင့် ၁၈၈၇ ခုနှစ်တွင် ဗြိတိသျှတို့က ငူးလူးလန်းကိုသိမ်းပိုက်လိုက်လေသည်။ ၁၀ နှစ်မျှ ကြာသောအခါ၊ ထိုနယ်သည် ဗြိတိသျှကိုလိုနီဖြစ်သော နာတဲနယ်တွင် တစိတ်တဒေသ ပါဝင်လာလေ၏။ (နာတဲပြည်နယ် — ရှု။) ၁၉၀၆ ခုနှစ်တွင် ငူးလူးတို့သည် ဥရောပလူဖြူများကို ခုခံပုန်ကန်ကြပြန်၏။ သို့သော်လည်း မအောင်မြင်ချေ။ ထိုအချိန်မှစ၍ ငူးလူးတို့သည် ငြိမ်ဝပ်ပိပြားစွာနေထိုင်ကြလေသည်။ ငူး လူး လူ မျိုး များ ၏ နောက်ဆုံးဘုရင်မှာ စက်တီဝေးယို၏မြေးဖြစ်၍၊ ၁၉၃၉ ခုနှစ်ကစ၍ ဘုရင်အဖြစ်စိုးစံခဲ့သူဖြစ်သည်။



ငူးလူးတဲအိမ် အတွင်းခန်းနှင့်လုံမပျို

**ငူးလူးလန်းနယ်။** ။ငူးလူးလန်း နယ်သည် တောင်အာဖရိကတိုက် ပြည်ထောင်စုတွင်ပါဝင်သော နာတဲပြည်နယ်၏ အရှေ့မြောက်ပိုင်း ကမ်းမြောင်ဒေသဖြစ်သည်။ ထိုကမ်းမြောင်ဒေသ၏ အရှေ့ဖက်နှင့် တောင်ဖက် ကမ်းရိုးတန်းတို့သည် အိန္ဒိယသမုဒ္ဒရာရေပြင်နှင့် ဆက်စပ်လျက်တည်နေသည်။ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၁၀,၃၆၂ မိုင်ဖြစ်၏။ လေဗောင်းပိုးတောင်တန်းကြီးသည် တောင်နှင့်မြောက်တန်းကာ ငူးလူးလန်းနယ်ကို ၂ ပိုင်း ပိုင်းလျက်




ဇူးလူးလန်းနယ် တည်နေရာပြ မြေပုံ

လေးအား ကျွဲနွားအစရှိသော တိရစ္ဆာန်များကို လက်ဆောင်ပေးလေ့ရှိ၏။ လက်ထပ်မင်္ဂလာပွဲကျင်းပသည့်အခါ၌ကား သတို့သား သတို့သမီးနှစ်ဦးစလုံးတို့က ထိုလက်ဆောင်မျိုးကိုပင် အပြန်အလှန်ပေးကမ်းကြသည်။

ဇူးလူးများသည် ၁၉ ရာစုအစပိုင်း၌ အာဖရိကတိုက်တောင်ပိုင်းတွင် တန်ခိုးအကြီးမားဆုံး လူမျိုးဖြစ်ခဲ့သည်။ ၁၇၈၃ ခုနှစ်မှ ၁၈၂၈ ခုနှစ်အတွင်း 'ချာက' ဆိုသောခေါင်းဆောင်ကြီး၏ ခေါင်းဆောင်မှုဖြင့် ဇူးလူးတို့တန်ခိုးကြီးခဲ့ရာ၊ ဇမ်ဗီဇီ မြစ်မှ ဂွတ်ဒဟုပ် အငူအထိ အာဏာစက် ပျံ့ခဲ့သည်။ ဇူးလူးဘုရင် စက်တီဝေးယိုလက်ထက်၌ အင်္ဂလိပ်တို့နှင့် အချင်းများခဲ့သည်။ ဇူးလူးတို့ အရေးရှုံးနိမ့်သဖြင့် ၁၈၈၇ ခုနှစ်တွင် ဇူးလူးလန်းကို ဗြိတိသျှတို့က သိမ်းယူလိုက်၍၊ ၁၈၉၇ ခုနှစ်သို့ရောက်သော်၊ နာတဲနယ်ထဲသို့ သွတ်သွင်းခဲ့လေသည်။ ၁၉၀၆ ခုနှစ်တွင် ဇူးလူးတို့ အနည်းငယ် ဆူပူလှုပ်ရှားခဲ့သေးသည်။ သို့ရာတွင် အလွယ်တကူဖြင့် ထိုဆူပူမှုကိုနှိမ်နင်းလိုက်သည်။ ထိုနောက်၌ကား ဆူပူမှုများမရှိတော့ချေ။ စက်တီဝေးယို၏မြေးသည် ၁၉၃၉ ခုနှစ်မှစ၍ ဇူးလူးလူမျိုးတို့၏အကြီးအကဲအဖြစ် အုပ်ချုပ်လျက်ရှိသည်။

တည်ရှိသည်။ ယင်းတောင်တန်းနှင့် ပင်လယ်စပ်ကြားရှိ အပိုင်းသည် မြေသြဇာကောင်းမွန်၍၊ ကျွဲနွားများမွေးမြူရာဒေသဖြစ်သည်။ အတွင်းဖက်ဒေသမှာ တောင်ကုန်းမြင့်များနှင့်ပြည့်နှက်နေသည်။ အချို့ကုန်းမြင့်များသည် ပေ ၅၀၀၀ အထိမြင့်မား၏။

ဇူးလူးလန်းနယ်တွင် ဇူးလူးလူမျိုးများ နေထိုင်သည်။ ယင်းတို့သည် ဗန်တူနွယ်ဝင် နီးဂရိုးများဖြစ်ကြသည်။ ဇူးလူးလန်းနယ်၌ ၁၉၃၆ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၃၆၀,၀၀၀ ယောက်ခန့်ရှိရာ၊ မျက်နှာဖြူလူမျိုးပေါင်း ၆၀၀၀ ခန့်ပါဝင်သည်။ လယ်ယာစိုက်ပျိုးခြင်းနှင့် ကျွဲနွားမွေးမြူခြင်း အလုပ်အကိုင်များသည် ဇူးလူးလန်းနယ်၏ အဓိကလုပ်ငန်းများဖြစ်သည်။ ပင်လယ်ကမ်းခြေနှင့်နီးသော ဒေသများတွင် ကြံပင်များကိုစိုက်ပျိုးကြသည်။ ကြံခင်းများစွာတို့ကို အနောက်တိုင်းသားများက ပိုင်ဆိုင်ကြ၏။

ဇူးလူးလန်းနယ်၏ရုံးစိုက်ရာမြို့မှာ အက်ရှိဝေမြို့ဖြစ်သည်။ ထိုမြို့၏မြောက်ဖက် ၁၅ မိုင်ခန့်အကွာတွင် ဂေါမိတ်ကျောက်ကို တူးဖော်ရရှိသည်။ ဇူးလူးလန်းနယ်မှ ရွှေ၊ ငွေ၊ ခဲ၊ ကြေးနီနှင့် ဒန်ဖြူတို့လည်း အသင့်အတင့် ထွက်သည်။ ဇူးလူးတို့သည် အရပ်အမောင်းထွားကျိုင်း၍၊ ကျန်းမာသန်စွမ်း၏။ စစ်တိုက် ဝါသနာပါကြ၏။ သူတို့၏အိမ်များမှာ ပျားအုံသဏ္ဌာန်တဲဝိုင်းများဖြစ်သည်။ ရွာများမှာလည်း ရွာဝိုင်းကြီးများဖြစ်သည်။ ရွာအလယ်၌ ကျွဲနွားများကို ထားတတ်ကြသည်။

ဇူးလူးလူမျိုးတို့၌ တလင်တမယားစံနစ် မရှိချေ။ ယောကျ်ားများက မိန်းမတဦးထက်ပို၍ လက်ထပ်ယူလေ့ရှိကြသည်။ ဇူးလူးယောကျ်ားကလေးနှင့် မိန်းကလေးတို့ ချစ်ရေးဆိုကြသည့်အခါ၌ ယောကျ်ားကလေးက မိန်းက

**ဇေးမန်တွေ့ချက်။** ။အလင်းရောင်ထုတ်လွှတ်သည့် ပစ္စည်းတခုကို အားကောင်းသော သံလိုက်စက်ကွင်းတွင်ချထားလျှင် ရောင်စဉ်ကြောင်းများသည် နှစ်ကြောင်းသော်၎င်း၊ နှစ်ကြောင်းထက်ပို၍သော်၎င်း ခွဲထွက်သွားတတ်ကြသည်။ ယင်းသို့ခွဲထွက်သော အခြင်းအရာကို ရူပဗေဒပညာရပ်တွင် ဇေးမန်တွေ့ချက်ဟု ခေါ်သည်။ ဤအချက်ကို ၁၈၉၆ ခုနှစ်တွင် အမ္မစတာဒမ်တက္ကသိုလ်မှ ဒပ်ချအမျိုးသား ရူပဗေဒပညာရှင် ဒေါက်တာ ပီတာ ဇေးမန်ဆိုသူတွေ့ရှိခဲ့သည်။ ထိုပုဂ္ဂိုလ်၏အမည်ကို အစွဲပြု၍ ဤတွေ့ရှိချက်ကို ဇေးမန်တွေ့ချက်ဟုခေါ် ဆိုခြင်းဖြစ်သည်။ (အလင်း။ စပက်ထရမ်နှင့် စပက်ထရိုစကုပ်။ သံလိုက်ဓာတ် — ရှု။)

ဇေးမန်တွေ့ချက်ကို အောက်ပါအတိုင်း ပုံစံပြနိုင်သည်။ ကျွန်ုပ်တို့ စမ်းသပ်လိုက်သော အရောင်တန်းတခုသည် သံလိုက်စက်ကွင်းထဲတွင် သံလိုက်အားလမ်းနှင့် မျဉ်းပြိုင်ယှဉ်တန်းလျက်ရှိသည်ဟု ဆိုကြပါစို့။ ဤသို့သောအခါမျိုး

တွင် ရောင်စဉ်ကြောင်း အသီးသီးတို့သည် နှစ်ကြောင်းစီ ခွဲထွက်သွားကြလိမ့်မည်။ ဤသို့ခွဲထွက်လာသော နှစ်ကြောင်းကွဲ ရောင်စဉ်များအားလုံးကို တစုတပေါင်းတည်းအားဖြင့် 'မဂ္ဂနက်တစ် ဒဗ္ဗလက်' ဟုခေါ်ကြသည်။ယင်း 'မဂ္ဂနက်တစ် ဒဗ္ဗလက်' တွင် ပါဝင်သည့် ရောင်စဉ်ကြောင်း နှစ်ကြောင်းမှာ ယေဘုယျအားဖြင့် အားချင်းတူညီသည်။ ယင်း 'မဂ္ဂနက်တစ် ဒဗ္ဗလက်' တွင် ရောင်စဉ်ကြောင်း နှစ်ကြောင်းသန့်သန့်ထွက်လာသည်။ ဤအခြင်းအရာသည် အရောင်သန့်သန့်ထွက်ခြင်းပင်ဖြစ်၏။ ယင်းသို့ရောင်စဉ်သန့်သန့်ထွက်ရာ၌ ရောင်စဉ်ကြောင်းနှစ်ကြောင်း၏ သွားရာလမ်းကြောင်းသည် တခုနှင့်တခု ဆန့်ကျင်၍ စက်ဝိုင်းပုံသဏ္ဌာန်ကဲ့သို့ ခွဲထွက်ကြသည်။ ဇေးမန်တွေ့ချက်ကို လက်တွေ့စမ်းသပ်ရာ၌ ထင်ရှားစွာမြင်လိုပါလျှင်၊ သံလိုက်စက်ကွင်းသည် တသမတ်တည်း အားကောင်းနေရမည့်အပြင်၊ စပက်ထရိုစကုပ်မှရောင်စဉ်တို့သည် ကောင်းစွာဖြာထွက်ရပေမည်။

ဤကား အလင်းရောင်တန်းနှင့် သံလိုက်အားလမ်းမျဉ်းပြိုင်ယှဉ်လျက်ရှိသောအခါတွေ့ရချက်ဖြစ်၏။ သံလိုက်စက်ကွင်းမှထွက်လာသော အလင်းရောင်တန်းသည် သံလိုက်အားလမ်းနှင့်ထောင့်မှန်ကျ၍ထွက်သောအခါ တွေ့ရသောအချက်များမှာ ပို၍ရှုပ်ထွေးလာပေသည်။ အများအားဖြင့် ရောင်စဉ်ကြောင်းတကြောင်းမှ သုံးကြောင်းထိ ခွဲထွက်လာသည်ကိုတွေ့ရပေသည်။ တခါတရံ ရောင်စဉ်ကြောင်းလေးကြောင်း၊ တခါတရံ ထိုထက်ပင်များသော ရောင်စဉ်ကြောင်းတို့ကို ရှုပ်ထွေးစွာ တွေ့ရပေသည်။ ယင်းသို့တွေ့ရှိချက်များ ကွဲပြားလင့်ကစား၊ အသွင်ပြောင်းသော ရောင်စဉ်ကြောင်းအားလုံးသည် အရောင်သန့်သန့်ချည်း ကွဲထွက်ကြသည်ကိုတွေ့ရသည်။ သို့ရာတွင် ကွဲထွက်သော ပုံသဏ္ဌာန်မှာမူ ယခင်ကလို စက်ဝိုင်းပုံသဏ္ဌာန်မျိုးမဟုတ်တော့ပေ။ ဤသို့လျှင် မူလရောင်စဉ်ကြောင်းအသီးသီးမှခွဲထွက်လာသော ရောင်စဉ်ကြောင်းကွဲများကို နှစ်စုခွဲခြားနိုင်ပေသည်။ ပဌမအစုမှာ သံလိုက်အားလမ်းနှင့် ပြိုင်လျက် အရောင်သန့်သန့်ဖြာထွက်သော ရောင်စဉ်ကြောင်းများဖြစ်သည်။ ဒုတိယအစုမှာ သံလိုက်အားလမ်းနှင့် ထောင့်မှန်ကျ အရောင်သန့်သန့်ဖြာထွက်သော ရောင်စဉ်ကြောင်းများဖြစ်သည်။

သာမန်အလင်းသီအိုရီများတွင် အလင်းလှိုင်းတို့သည် စတင်ရာပစ္စည်းမှထွက်လာကြပြီးနောက်၊ ဒြပ်နှင့် အီသာတို့ကိုဖြတ်၍သွားကြသည်ဟုဆိုသည်။ (အလင်း။ အီသာ — ရှု။) ပစ္စည်းအတွင်းရှိ အက်တမ်တို့မှအလင်းလှိုင်းများမည်သို့ စတင် ပေါ်ထွက်လာပုံကို အနည်းအကျဉ်းလောက်သာ ဖော်ပြနိုင်၏။ သို့ရာတွင် ဒေါက်တာဇေးမန်တွေ့ချက်သည် အလင်းရောင် စတင်ရာ ပစ္စည်းအတွင်း၌ ဖြစ်ပေါ်သောအခြေအနေကို လက်တွေ့နည်းအားဖြင့် ကျွန်ုပ်တို့အား သိမြင်စေသည်။ ထို့ကြောင့် ကျွန်ုပ်တို့သည် ဒြပ်တို့ဖွဲ့စည်းပုံ၊ အီသာ၏သဘော၊ အီသာ၏ရွေ့ရှားမှုတို့နှင့်သက်ဆိုင်သော အရေးကြီးဆုံးအချက်များကို သိမြင်ကောင်း သိမြင်လာနိုင်ကြပေလိမ့်မည်။ ယခုခေတ် ရူပဗေဒပညာရှင်တို့ ယုံကြည်ကြသည်မှာ ဒြပ်ကိုဖွဲ့စည်းထားသည့် အက်တမ်တို့တွင် အက်တမ်ထက်သေးငယ်၍၊ လျှပ်စစ်ဓာတ်ပါရှိသော အီလက်ထရွန်များ ပါဝင်လျက် ရှိသည်။ အီလက်ထရွန်များသည် အက်တမ်အတွင်း၌ လှုပ်ရှားနေသည့်အတွက် အလင်းရောင်ဖြစ်ပေါ်လာသည်။ (အီလက်ထရွန် — ရှု။) အီလက်ထရွန်လှုပ်ရှားမှုကို သံလိုက်စက်ကွင်းကလွှမ်းမိုးထားခြင်းကြောင့် ဇေးမန်တွေ့ချက်ဖြစ်ပေါ်လာသည်ဟုယုံကြည်ကြလေသည်။

**ဇော်ဂနီ။** ။စုန်းကဝေအတတ် — ရှု။

**ဇော်ဂျီ။** ။ဇော်ဂျီကို စာဟောင်းတို့တွင် ဇော်ဂီဟုအတွေ့ရများသည်။ ပါဠိသက္ကတနွယ် ဟိန္ဒီစကားလုံး ဇောဂီ (ယောဂီ) မှဆင်းသက်လာပုံရသည်။ ဓမ္မပါလပျို့ (*၉) တွင် 'ဖြဟ္မာနွယ်ရိုး၊ ဇော်ဂီမျိုးတို့' ဟူ၍၎င်း၊ သံဝရပျို့ (*၁၆၉) တွင် 'ရပ်ရှစ်ပါးမှ၊ ပုဏ္ဏားဇော်ဂီ၊ ခိုမှီရှေးက' ဟူ၍၎င်း၊ ရွှေဟသ်ာမင်းပျို့ (*၉၃) တွင် 'ပုဏ္ဏားဇော်ဂီ၊ တပသီနိုက်' ဟူ၍၎င်း ဖွဲ့ဆိုထားသည်တို့ကိုထောက်သော် သျှင်သီလဝံသ၊ သျှင်ရဋ္ဌသာရ၊ သျှင်တေဇောသာရတို့၏ အလိုမှာ ဇော်ဂီသည် ပုဏ္ဏားဖြဟ္မဏဂိုဏ်းဝင်ဖြစ်ပေသည်။

ထို့ပြင် ထိုဆရာတော်တို့၏ပျို့ဟောင်းများအရ ဇော်ဂီတို့သည် အလှျူခံတကျိပ်လေးတွင်ပါဝင်ကြ၍ ရပ်ကြီးပြည်မတို့တွင် ရဟန်း၊ ပုဏ္ဏားတို့နည်းတူ မှီတင်းနေထိုင်တတ်ကြောင်းကိုသိရသည်။ ထို့ကြောင့်လည်း ဓမ္မပါလပျို့ (*၄၄) ၌ 'ဘိက္ခုသင်္ဃာ၊ အရိယာနှင့်၊ ဆရာပုဏ္ဏား၊ ဇော်ဂီအားလည်း၊ စွန့်စားလှူဒါ၊ မိုးသို့ရွာ၏' ဟူ၍ သျှင်သီလဝံသ၏ တပည့်များက ဖွဲ့ဆိုထားခဲ့ကြခြင်းဖြစ်၏။

ဇော်ဂီတို့၏လုပ်ငန်းသည် တစိတ်တဝက်အားဖြင့် ပုဏ္ဏားတို့၏လုပ်ငန်းနှင့်တူပေသည်။ ဆုတောင်းခန်းပျို့ (*၂၈) တွင်လာရှိသည့်စကားတို့အရ ဇော်ဂီတို့သည် ဗေဒင်ဟောကြသည်။ လက္ခဏာဖတ်ကြသည်။ မြေကြန်အတတ်ကို နားလည်ကြသည်။ နေသွား လသွား၊ နေကြတ်လကြတ်၊ ဂြိုဟ်နေ ဂြိုဟ်ရပ်၊ အတိတ် နိမိတ်၊ တံဘောင်စံနည်းတို့ကိုလည်း လေ့လာကျမ်းကျင်ကြသည်။ ထို့ပြင်လည်း သုဝဏ္ဏသျှံသစ္စာခန်းပျို့ (*၁၃၇) တွင် 'သဏ္ဌာန်ရွှေလျော်၊ ရှင်လှကျော်ကို၊ သက်တော်ဝင်ကြောင်း၊ နတ်



မြန်မာ့ရုပ်စုံသဘင်တွင် မပါလျှင်မပြီးသော ဇော်ဂျီရုပ်

များပေါင်း၍၊ နှုတ်ကောင်းတညီ၊ ဇော်ဂျီအတတ်၊ နတ်မန္တရား၊ နတ်ဆေးပါးဖြင့်၊ ယောကျ်ားအိပ်ပျော်၊ နိုးဘိသော်သို့၊ နုဘော်ပြင်းဝှန်၊ တန်ခိုးထန်တိ' ဟုစပ်ထားသည့် အရဆိုသော် ဇော်ဂျီတို့သည် အသက်သွင်းသောအတတ်ကို တတ်သည်ဟူ၏။

ဇော်ဂျီတို့၏အဆင်းသဏ္ဍာန်ကိုသော်ကား ပန်းချီ ပန်းပုလက်ရာတို့တွင်၎င်း၊ ဇာတ်စင် ရုပ်သေးစင်တို့တွင်၎င်း ယနေ့တိုင်တွေ့ရပေသေးသည်။ ထိုအဆင်းသဏ္ဍာန်တို့မှုမှန်ပုံကိုလည်း ဇော်ဂျီဦးထုပ်ပင်၊ ဇော်ဂျီမုတ်ဆိတ်ပင်၊ ဇော်ဂျီတောင်ဝှေးပင်၊ ဇော်ဂျီရောင် ဇော်ဂျီသွေးဆိုသော ဝေါဟာရတို့က ထောက်ခံထားကြပေသည်။ ဇော်ဂျီတောင်ဝှေးဆိုရာ၌ ဆုတောင်းခန်းပျို (*၆၆) တွင် 'တရိသူလီ၊ ဇော်ဂီပုဏ္ဏား၊ သုံးစွဲထားသား၊ သစ်သားသုံးခွ၊ တိဒဏ္ဍနှင့်' ဟုစပ်ထားသည်ကိုထောက်သော်၊ တခါတရံ ဇော်ဂီတို့သည် တရိသူလီခေါ် အသွားသုံးခွလှံတံကိုလည်း ကိုင်စွဲတတ်ကြောင်း သိရပေသည်။ 'တပသီတို့မှာ ဇော်ဂီအဝင်ဖြစ်သည်။ မိမိတို့စွဲသော တိဒဏ္ဍသစ်ကို ရေဖြင့်စိမ်၍ သစ္စာမူစေ' ဟူသော မနုကျယ်ဓမ္မသတ်လာ စကားကိုထောက်၍လည်း သိရပေသေးသည်။

နှောင်းစာတို့တွင်ကား ဇော်ဂျီကို ဝိဇ္ဇာဓိုရ်နှင့် မကွဲမပြားရေးကြလေသည်။ သထုံပြည်တွင် သူရဲကောင်းကုလားညီနောင်တို့ ဖုတ်ကင်စားသည်မှာ 'ဝိဇ္ဇာဓိုရ် ဇော်ဂျီကောင်' ဖြစ်ကြောင်းကို ဦးကုလားရာဇဝင်တွင် ဆိုထားလေသည်။ ထိုဇော်ဂျီတို့သည် ဃောရမည်သော မန္တန်၊ ဂန္ဓာရီ မည်သောမန္တန်၊ ထိုနှင့်လျော်သော ဂုဠိကာမည်သောဆေး၊ ဤမန္တန်ဆေးနှစ်ပါးစုံတတ်မှ ဝိဇ္ဇာဓိုရ်အဖြစ်ပြီးမြောက်ခြင်းသို့ရောက်သည်။ ဝိဇ္ဇာဓိုရ်ဖြစ်လျှင် များစွာသော တန်ခိုးဖန်ဆင်းခြင်းကိုဖြစ်စေအပ်၏။ တယောက်တည်းလျက်လည်း များစွာသောကိုယ်ကို ဖြစ်စေတတ်၏။ အများဖြစ်လျက်လည်း တယောက်တည်း ဖြစ်စေနိုင်၏။ ထင်ရှားသောကိုယ်ရှိသောအဖြစ်ကို၎င်း၊ ကွယ်ပျောက်သောကိုယ်ရှိသောအဖြစ်ကို၎င်း၊ တိုက်ခြားရာအရပ်သို့၎င်း၊ တံတိုင်းခြားရာအရပ်သို့၎င်း၊ တောင်ခြားဆီးရာအရပ်သို့၎င်း ကောင်းကင်ပြင်ကဲ့သို့ မငြိမရှောက်သွားနိုင်၏။ မြေအပြင်၌လည်း ရေ၌ကဲ့သို့ ငုပ်ခြင်း ပေါ်ခြင်းကိုပြုနိုင်၏။ ရေ၌သော်လည်း မြေအပြင်၌ကဲ့သို့ မပျက်စေဘဲ သွားနိုင်၏။ ကောင်းကင်ပြင်၌လည်း ထက်ဝယ်ပလ္လင်ဖြင့် အတောင်ရှိသော ငှက်ကဲ့သို့ ပျံနိုင်၏။ တန်ခိုးအာနုဘော်ကြီးသော လဝန်းကို၎င်း၊ နေဝန်းကို၎င်း လက်ဖြင့်သုံးသပ်နိုင်၏။ ဆုပ်နယ်နိုင်၏။ ဗြဟ္မာပြည်တိုင်အောင်သော်လည်း ကိုယ်ဖြင့်အလိုသို့ပါစေနိုင်၏စသည်ဖြင့် ဝိဇ္ဇာဓိုရ်ဇော်ဂျီတို့သတ္တိကို သမန္တစက္ခုဒီပနီကျမ်းတွင် ဖော်ပြထားလျက်ရှိပေသည်။

မြန်မာရာဇဝင်တလျှောက်တွင် ဝိဇ္ဇာဓိုရ်ဇော်ဂျီတို့ အကြောင်းကို မကြာခဏဖတ်ရသည်။ သရေခေတ္တရာပြည်တွင် ဒွတ္တပေါင်မင်းကြီးထံ၌ ဝိဇ္ဇာဓိုရ်နှစ်ယောက်ခစားဘူးကြောင်း၊ သထုံပြည်တွင် ဝိဇ္ဇာဓိုရ်အသေကောင်ကို ဆရာတော် တောမှရခဲ့ဘူးကြောင်း၊ ရခိုင်ပြည် တောင်ကြီးတခုတွင် ဝိဇ္ဇာဓိုရ်တဦးသည် ရေဗူးကိုမြစ်သို့အလိုလိုသွားစေ၍ ရေယူစေဘူးကြောင်း၊ အင်းဝဘုရင် တရဖျားမင်းသည် ဝိဇ္ဇာဓိုရ်လုလင်ကိုမြင်ဘူးကြောင်း၊ ဘုရင့်နောင်မင်းတရားကြီးလက်ထက် ဟံသာဝတီ ကျုံးတူးသောကာလ မြေထဲ၌အောင်းနေသော ဝိဇ္ဇာဓိုရ်ကိုတွေ့ရဘူးကြောင်းတို့မှာ ထင်ရှားသောအတ္ထုပ္ပတ်တို့ ဖြစ်ကြပေသည်။

ဇော်ဂျီအကြောင်းကို ကုန်းဘောင်ခေတ်ပြဇာတ်ဆရာများကလည်း ဖွဲ့ဆိုခဲ့သေးသည်။ ဦးကြင်ဥက 'ငါဖော်ဂျီသနစ်ကို၊ ဋီကာဖြစ် လောင်းတော့မည်။ သက်ပြောင်းသက်ခွာ၊ ဂါထာမန္တန်၊ မှော်ပြန်စုန်းနတ်၊ ဆယ့်နှစ်ရပ်ကို၊ ပတ်ပတ်နှောက်မွှေ၊ အရှင့်ဖုန်းနှင့်၊ ထုံးလိုချေ၊ ကဝေသာရ၊ လက္ခဏာဒီပ၊ ဘေသဇ္ဇပါရဂူ၊ သရဖူပိဋ္ဌော၊ ဉာဏ်နှင့်တေဇော၊ ဝါယောဓာတု၊ ဓာတ်ဆေးကုမှာလည်း၊ သုထက်ဆယ်ဆ၊ ကျူးလို့ပဲကျသေး။ သုတလောဟာ၊ ဘင်နာခဲချိုး၊ သံသေလည်းထိုး၊ တန်ခိုးစွမ်းအင်၊ စိန်သေနတ်

အမြောက်နှင့်၊ လေးသစ်ပေါက်အဝင်၊ အရှင်သိ ရဲစာမြို၊ ငါနန်းပေါက်ဇော်ဂျီ ' စသည်ဖြင့်ရေးခဲ့သည်။

ရုပ်သေးစင်တွင် ဇော်ဂျီထွက်ရိုးရှိသည်။ ထွက်လာသောအခါ 'လွမ်းလေးစေရ၊ ဟိုမြိုင်လယ်မှာ သည်မြိုင်လယ်မှာ၊ စပယ်လေးကို ထားဝယ်ခတယ်၊ ဒေါနကသင်း။ ဇော်ဆိုဇော်ချင်း၊ ဇော်ချင်းမှိုကြောက်ဖက်ကွာ။ ဇော်တကာတွင် ခေါင်ကချုပ်တယ်၊ ဂျီတကာတွင် ခေါင်ကချုပ်တယ်၊ ဂိုဏ်းအုပ်မဲ့လာ။ ဇော်ရောင်ဂျီရောင်၊ ဆေးကြိတ်တဲ့တောင်၊ ကိုင်ဆောင်တောင်ဝှေး၊ လိုလိုရာသွေး နုဆေး၊ ဆေးကြိတ်တဲ့တောင် ' ဟု ဆိုင်းကဆိုတီးပေး၍ ကရသည်။ ထိုနောက် ဆေးကြိတ်သည်။ ထိုနောက် ဆေးအောင်၍လေးခင်းဆိုင်းနှင့်ကသည်။ ထိုနောက်ထွက်ရပ်ပေါက်၍လက်တန်းကိုခုန်ကျော်ကာ ဝင်လေတော့သည်။ ဇော်ကသည်အလွန်ရှင်သောမြန်မာအကတမျိုးပေတည်း။ ဦးဝန်

**ဇော်ဂျီမြစ်**။ ။ယင်းမြစ်သည် ရှမ်းပြည်တောင်ပိုင်း၊ ပင်းတယမြို့မှ သုံးမိုင်ခန့်ဝေးကွာသော ရေဖြူရွာအနီးရှိ တောင်ခြေတွင် မြစ်ဖျားခံသည်။ ထိုမြစ်ဖျားခံရာနေရာကို ဇော်ဂျီရေထွက်ဟုခေါ်ကြသည်။ ထိုနောက် ဇော်ဂျီမြစ်သည် ပင်းတယနှင့် လောက်ဆောက်နယ်တို့ကိုဖြတ်၍၊ ဆုန်တန်းရွာအထိ အရှေ့မြောက်သို့ တူရူစီးဆင်းလာလေသည်။ ဆုန်တန်းသို့ရောက်သောအခါ၊ အနောက်ဖက်သို့ တဆစ်ချိုးကွေ့ပြီးသော်၊ တောင်မင်းကြီး၏မြောက်ဖက်တလျှောက်သို့ စီးဆင်းပြန်သည်။ ထိုနောက် မောနယ်ရှိ မြို့ကြီးကျေးရွာနယ်မြေ ချိုင့်ဝှမ်းဒေသတို့ကို ဖြတ်သန်းကာ၊ ကျောက်ဆည်ခရိုင် မြေပြန့်ဒေသမှနေ၍၊ မြစ်ငယ်မြစ်ထဲသို့စီးဆင်းလေသည်။ မြစ်၏အရှည်အလျားမှာ မိုင်ပေါင်း ၁၅၀ ဖြစ်၏။ ရှမ်းအမျိုးသားတို့က ယင်းမြစ်ကို နမ်းစောကြည်မြစ်ဟု ခေါ်ကြသည်။

ဇော်ဂျီမြစ် ဖြတ်သန်းစီးဆင်းရာ ကျောက်ဆည်ခရိုင်ဒေသ၌ ဇော်ဂျီမြစ်အပြင် ပန်းလောင်မြစ်၊ စမုန်မြစ်တို့ပါစီးဆင်းလျက်ရှိရကား၊ ထိုမြစ်တို့သည် လယ်ယာစိုက်ပျိုးရေးကို အထူး ကျေးဇူးပြုကြပေသည်။ မြန်မာမင်းတို့ လက်ထက်တွင် ထိုဒေသမှာ လယ်တွင်းကိုးခရိုင်၌အပါအဝင်ဖြစ်သည်။ လယ်တွင်းကိုးခရိုင်သည် စစ်ကိုင်း၊ ပင်းယ၊ အင်းဝ၊ မကွေးရာ၊ ပင်လယ်စသော ရှေးမြန်မာမြို့ကြီးများ၏ ကျောထောက်နောက်ခံဒေသ ဖြစ်ခဲ့သည်။ ယနေ့တိုင်အောင်လည်း မြန်မာမင်းများလက်ထက်က တည်ဆောက်ထားသော ဆည်ကြီးများ၏ကျေးဇူးကြောင့် ဆန်စပါးစိုက်ပျိုးရေးလုပ်ငန်းမှာ ဖွံ့ဖြိုးလျက်ပင်ရှိနေသည်။ ဇော်ဂျီမြစ်ဝှမ်းတွင် နွားတက်တူးမြောင်း၊ ငပြောင်တူးမြောင်း၊ သင်းတွဲတူးမြောင်း၊ မင်းရဲတူးမြောင်း၊ တမုတ်တူးမြောင်းနှင့် ဆည်တော်တူးမြောင်းတို့မှာ မြန်မာမင်းအဆက်ဆက်ကစ၍ ယနေ့တိုင် အသုံးဝင်လျက်ရှိသော တူးမြောင်းများ ဖြစ်ကြသည်။ ဗြိတိသျှတို့ အထက်မြန်မာနိုင်ငံကိုသိမ်းပိုက်ပြီးသည့်နောက်၊ ခရစ် ၁၉ ရာစုနှစ်နောက်ပိုင်းတွင် ယင်းဇော်ဂျီမြစ်ဝှမ်း၌ ဆည်မြောင်းတို့ကို ခေတ်နှင့်လျော်စွာ အုတ်အင်္ဂတေတို့နှင့်ပြန်လည်မွမ်းမံရာ၊ ငွေ ၂၃,၇၇,၀၀၀ ကျပ်ကုန်ကျသည်ဟု အမှတ်အသား ရှိလေသည်။ (ရေသွယ်ခြင်း — ရှု။)



ကျောက်ဆည်ခရိုင်၌ ဇော်ဂျီမြစ်ကို ဤသို့ဆည်ဖို့ကာ လယ်ယာအတွက် အသုံးကျစေခဲ့၏။

**ဇော်မွှားကြီးပင်**။ ။ဇော်မွှားပန်း — ရှု။

**ဇော်မွှားပန်း**။ ။မြန်မာ့ဝေါဟာရတွင် ဇော်မွှားဟုတွင်သောပန်းမျိုးကို ရုက္ခဗေဒနည်းအရခွဲခြားကြည့်လျှင်၊ မျိုးရင်းအားဖြင့် သုံးမျိုးရှိသည်ကိုတွေ့ရသည်။ ပဌမမျိုးရင်းမှာ 'ဒိုင်အင်းသပ် ကယ်ရီယိုဖစ်လပ်' ဖြစ်သည်။ အင်္ဂလိပ်လို 'ကာနေးရှင်း' ဟုခေါ်သည်။ မြန်မာတို့ကမူ ဇော်မွှားကြီးပန်းဟု ခေါ်ကြသည်။ ဒုတိယ မျိုးရင်းမှာ 'ဒိုင်အင်းသပ် ပလူမားရိယပ်' ဖြစ်၍၊ အင်္ဂလိပ်လို 'ပင့်ခ' ဟုခေါ်သည်။ ဤမျိုးရင်းဝင်ဇော်မွှားပန်း၏အရွယ်မှာ သွယ်သည်ဖြစ်၍၊ မြန်မာလို ဇော်မွှားရွက်သွယ်ဟု ရုက္ခဗေဒပညာရှင်တို့က အမည်ပေးကြသည်။ တတိယမျိုးရင်းမှာ 'ဒိုင်အင်းသပ် ဗာဗတပ်' ဖြစ်သည်။ ယင်းကို အင်္ဂလိပ်လို 'ဆွိ ဝီလျံ' ဟုခေါ်သည်။ ဤအမျိုးမှာ ရွက်ကားမျိုးဖြစ်၍၊ ရုက္ခဗေဒပညာရှင်တို့က ဇော်မွှားရွက်ကားဟု အမည်ပေးကြသည်။ မြန်မာနိုင်ငံ၌ ဤရွက်ကားမျိုးကို အများဆုံးစိုက်ပျိုးကြသည်။

ဇော်မွှားကြီးပင်သည် ၁ ပေမှ ၃ ပေထိမြင့်သော နှစ်ကြာခံပင်မျိုးဖြစ်သည်။ အပွင့်များစွာပွင့်သည်။ အပင်၌ မျက်နှာချင်းဆိုင် အရွက်ပြားကလေးများရှိသည်။ ဥရောပတိုက်တောင်ပိုင်းသည် ထိုပန်းပင်၏ မူလပေါက်ရာ အရပ်ဖြစ်သည်။ ပန်းပွင့်၌ ပန်းရောင်၊ ခရမ်းရောင်နု၊ အနီ၊ အဖြူ သို့မဟုတ် အဝါရောင်များရှိတတ်သည်။ ပင်စည်မှ အတက်နုကလေးများကို ပျိုးယူခြင်းဖြင့် ဖြစ်စေ၊ ပင်စည်တခုကိုမြေကြီးသို့ကိုင်းယူ၍ အမြစ်သစ်များထွက်စေခြင်းဖြင့် ဖြစ်စေ မျိုးပွားယူနိုင်သည်။ ပန်းပွင့်ကြီးစေရန် အဖူးတခုတည်းကိုသာ ချန်၍၊ ကျန်အဖူးများကို ခြွေချရသည်။ ထိုပန်းပင်မျိုးကိုစိုက်ပျိုးကြခြင်းမှာ ပန်းပွင့်ကြီးခြင်း၊ အရောင်လှခြင်း၊ အနံ့မွှေးခြင်းတို့ကြောင့်ဖြစ်သည်။ သို့သော် တပင်တည်းတွင် ထိုဂုဏ်များနှင့်ပြည့်စုံသောပန်းပွင့်ကိုရခဲသည်။ ဇော်မွှားကြီးပန်းပင်သည် မွှေးကြိုင်သော အရွယ်သင့်ပန်းများ ပွင့်သည်ဟုဆိုလျှင်ပင်၊ ယင်းကို အကောင်းဆုံးဟု ခေါ်ရသည်။

ဇော်မွှားကြီးပင်သည် သဲများများနှင့်ရောထားသော နုံးမြေတွင် ဖြစ်ထွန်းသည်။ ထိုအပင်ကိုဖျက်ဆီးတတ်သော အဆိုးဆုံးရန်သူမှာ 'ဝိုင်ယာဝမ်း' ခေါ် ပိုးတမျိုးဖြစ်သည်။ ကာကွယ်ရန်နည်းမှာ လတ်ဆတ်သည့်အာလူး၊ ခါဥဖြူကဲ့သို့သော ဥတမျိုးမျိုးကို ပါးပါးလှီးပြီးနောက် မြေကြီးအတွင်း အမြစ်၏အနီး၌ ညနေပိုင်းတွင်မြှုပ်ထားရသည်။ နောက်တနေ့နံနက်တွင် ပါးပါးလှီး၍ထည့်ထားသောဥအလွှာတွင် ထိုပိုးများ တွယ်ကပ်၍နေသည်ကိုတွေ့ရပေမည်။ ထိုအခါ ပိုးများကို ဖျက်ဆီးပစ်နိုင်သည်။ ဇော်မွှားကြီးပင် ကို



ရုန့်ထုံးသော ဇော်မွှားပန်း

မြန်မာနိုင်ငံ၌ အနံ့အပြားစိုက်နိုင်သည်။ ရှမ်းကုန်းပြင်မြင့်တွင် အလွယ်တကူစိုက်၍ရသည်။

ဇော်မွှားရွက်သွယ်ပင်ကို မြန်မာနိုင်ငံ၌စိုက်၍ရသော်လည်း၊ အစိုက်နည်းကြသည်။ ထိုအပင်မှာ နှစ်ကြာခံပင်ပျော့မျိုးဖြစ်သည်။ ဥရောပတိုက်အလယ်ပိုင်း၊ အရှေ့ပိုင်းနှင့် အထူးသဖြင့် မြေထဲပင်လယ်ဒေသတဝိုက်သည် ထိုအပင်၏မူလပေါက်ရာဒေသ ဖြစ်သည်။ ထိုအပင်မျိုးသည် ၁၆၂၉ ခုနှစ်က ဗြိတိန်နိုင်ငံသို့ပျံ့နှံ့လာသည်။ များသောအားဖြင့် နေရာအနှံ့အပြားတွင် နံရံအိုကြီးများကိုအမှီပြု၍၊ သဘာဝအလျောက်ပေါက်တတ်သည်။ ထိုအပင်မျိုး၌ တပေမြင့်သော ပင်စည်သေးကလေးရှိတတ်သည်။ ထိုပင်စည်ကလေးမှ အကိုင်းများဖြာထွက်သည်။ အရွက်သည် မြက်ပုံသဏ္ဌာန်ရှိ၍ စုံထွက်တတ်သည်။ အစေ့ကိုပျိုးယူခြင်းဖြင့်ဖြစ်စေ၊ အကိုင်းကိုဖြတ်၍ ပျိုးယူခြင်းဖြင့်ဖြစ်စေ မျိုးပွားယူနိုင်သည်။ ဥယျာဉ်အတွင်း၌ စိုက်ပျိုးရန် လွယ်ကူသဖြင့် ထိုအပင်ကို လူကြိုက်များသည်။ ပန်းပွင့်၌ ပန်းရောင်၊ အဖြူရောင်၊ အနီရောင်တို့ ရောလျက်ရှိသည်။ ပွင့်ဖတ်တို့၏အနားသည် တွန့်လျက်ရှိသည်။ အနံ့မှာ မွှေးကြိုင်သည်။

**ဇောတိက**။ ။ဂေါတမမြတ်စွာဘုရားသခင် လက်ထက် ရာဇဂြိုဟ်ပြည်၌ ဇောတိက၊ ဇဋိလ၊ မေဏ္ဍက၊ ကာက

ဝလိယ၊ ပုဏ္ဏကဟူ၍ သဌေးကြီးငါးဦးထင်ရှားသည်။ ယင်းတို့အနက် ဇောတိကသဌေးသည် ဘုန်းသမ္ဘာအကြီးဆုံးဖြစ်သည်။

ဇောတိကသတို့သားကိုဖွားမြင်သောနေ့၌ ရာဇဂြိုဟ်ပြည်အလုံး၌ရှိသော လက်နက်အသုံးအဆောင်တို့သည်၎င်း၊ အလုံးစုံသောယောကျ်ား မိန်းမတို့၏ကိုယ်တွင်ဆင်အပ်သည့် တန်ဆာရတနာတို့သည်၎င်း လွန်စွာအရောင်တောက်ပကုန်သည်ဖြစ်၍၊ အမည်မှည့်သောအခါတွင် ယင်းပဝတ္တနိမိတ်ကိုအစွဲပြု၍ ဇောတိကဟုမှည့်ခေါ် လေသည်။

မိဖနှစ်ပါးတို့သည် ဇောတိကသတို့သား အရွယ်ရောက်လတ်သောအခါ နေထိုင်ရန်အတွက် အိမ်ရာကိုပြုပြင်ဆောက်လုပ်ခြင်းငှာ ကြိုးပမ်းလတ်သော်၊ ရှေးရှေးဘဝကပြုခဲ့ဘူးသော ကောင်းမှုတို့ကြောင့် ရတနာခုနစ်ပါးအတိပြီးသော ဘုံခုနစ်ဆင့်ရှိ ပြာသာဒ်သည်၎င်း၊ ယင်းကိုပတ်ပတ်လည်ဝန်းရံကာ၊ တံခါးလေးမျက်နှာနှင့်တကွ တဂါဝုတ်စီ ကျယ်လျက် ရတနာခုနစ်ပါးအတိ ပြီး၍၊ နတ်ဘီလူးတို့စောင့်ရှောက်အပ်သော တံတိုင်းခုနစ်ထပ်တို့သည်၎င်း၊ ထိုတံတိုင်းများ၏ အကြား၌လည်း လိုအင်ရှိသမျှသီးသော ပရိက္ခရာ ပဒေသာပင်ကြီးများနှင့် ရှေးကောင်းမှုအင်အားကိုထင်ရှားပြခြင်းငှာ ထန်းလုံးပမာဏရှိသော ကြပဒေသာပင်များသည်၎င်း၊ ပြာသာဒ်လေးထောင့်၏ အနီး၌လည်း တဂါဝုတ်၊ နှစ်ဂါဝုတ်၊ သုံးဂါဝုတ်၊ တယူဇနာစီ အသီးအသီးကြီးသော ရွှေအိုးကြီးလေးလုံးတို့သည်၎င်း မြေမှပေါက်လာလတ်လေ၏။

ဤအခြင်းအရာတို့ကို ဗိမ္ဗိသာရမင်းကြီးကြားလတ်သော်၊ ဇောတိက သတို့သားအား အဆက်ဆက်သောသဌေးကြီးတို့၏ဆောင်းမြဲဖြစ်သည့် ထီးဖြူကိုဆောင်နှင်းလျက် သဌေးအရာမြှောက်စားချီးမြှင့်ခဲ့လေသည်။ ဇောတိက၏နတ်ဖက်သောဖူးစာရှင်ကား မြောက်ကျွန်းသူ တူလကာယီ ပင်တည်း။ အကြိမ်တရာဖတ်အပ်သော လဲဝါဂွမ်းစုကဲ့သို့နူးညံ့သိမ်မွေ့လှသဖြင့် တူလကာယီဟူသော အမည်ကိုခံယူခဲ့သူဖြစ်သည်ဟု အဆိုရှိ၏။

ဇောတိကသဌေးမောင်နှံတို့သည် မိမိတို့ထံသို့လာရောက်လည်ပတ်ကြသောလူတိုင်းအား မြောက်ကျွန်းမှပါလာသည့် ဇောတိပါသာဏမည်သော မြခနောက်သုံးလုံးပေါ်တွင်ရွှေအိုးဖြင့်တင်၍ချက်သည့် ဆန်တကွမ်းစားဖြင့်သာ ကျွေးမွေးညှေ့ခံရာ အဘယ်ခါမှ ကုန်ခန်းခြင်းမရှိခဲ့ဟုဆိုလေသည်။ ထို့ပြင် ပြန်သောအခါတွင်လည်း ရွှေအိုးကြီးတို့မှ ရွှေများကို၎င်း၊ ပဒေသာပင်များ၌ဆင်ယင်ထားအပ်သော အဝတ်တန်ဆာများကို၎င်း အလိုရှိသမျှ ဆောင်ယူ၍ ပြန်စေ၏။ ယူလေရာရာ ရွှေအိုး ပဒေသာပင်များသည် ယူရာမထင်ပြကတေ့အတိုင်းပင်ဖြစ်၍ တည်၏ဟူသတည်း။

ယင်းသို့ ဇောတိက သဌေးသည် ပေးမကုန်လှူမခန်းအောင် ချမ်းသာကြီးရခြင်းမှာ ရှေးလွန်လေပြီးသောကမ္ဘာ၌ ဗာရာဏသီ ပြည်ဝယ် သူကြွယ်ဖြစ်စဉ်ကာလ ဂန္ဓမာဒနတောင်၌နေသော ပစ္စေကဗုဒ္ဓါတို့အား ဩဇာရသ လေးနက်ချိုမြိန်လှသော ကြံနှစ်ချောင်းမှ ကြံရည်ကိုကပ်လှူကာလှူ့ဘုံ နတ်ရွာ ဖြစ်လေရာဘဝတို့၌ တောင့်တတိုင်း ပြီးမြောက်စေသောဟူသည့် ဆုတောင်းနှင့် ပြည့်ဝခဲ့သောကြောင့် တကြောင်း၊ ဝိပဿီဘုရား ထင်ရှားပွင့်တော်မူစဉ်အခါ၌လည်း ဗန္ဓုမတီပြည်ဝယ် အပရာဇိသူကြွယ်အဖြစ်ရှင်တော်ဘုရားအလို့ငှာ ရတနာခုနစ်ပါးအတိ ပြီးသောဂန္ဓကုဋိ ကျောင်းတော်ကြီးကို ဆောက်လုပ်လှူဒါန်းခဲ့ဘူးသည့် ပုညစေတနာဟုန်ကြောင့်တကြောင်း ဖြစ်ပေသည်။

ဗိမ္ဗိသာရမင်းကြီးနတ်ရွာစံ၍၊ မာနခက်ထန် လောဘဇောသန်လှသော သားတော် အဇာတသတ်မင်း၏ လက်ထက်သို့ရောက်သောအခါတွင် ဇောတိကသဌေးလည်းလောကီစည်းစိမ် ဉစ္စာရတနာတို့၌ စက်ဆုပ်ခြင်း ပြင်းစွာဖြစ်လျက် သံဝေဂအကျွတ်တရားရရှိကာ မြတ်စွာဘုရားအထံတော်၌ ရဟန်းပြုခဲ့လေသည်။ ရဟန်းဖြစ်၍မကြာမြင့်မီပင်အရဟတ္တဖိုလ်ကိုရ၍၊ ဇောတိက မထေရ်ဟု ထင်ရှားစွာဖြစ်ခဲ့လေသည်။ ယင်းသို့ ဇောတိကရဟန်း အရဟတ္တဖိုလ်ကိုရသောနေ့၌ပင် အလုံးစုံသော ရွှေအိုး၊ ရွှေအိမ်၊ ပဒေသာပင်တို့သည် ကွယ်လေကုန်၏။ ထိုအခါ နတ်တို့သည် မြောက်ကျွန်းသူ သဌေးမ တူလကာယီအား ဥတ္တရကုရုကျွန်းသို့ပြန်လည်ပို့ဆောင်ပေးလေသည်။

**ဇိုတန်းလူမျိုး။** ။ဇိုတန်းလူမျိုးကား ချင်းလူမျိုးစုတွင်ပါဝင်သော မြန်မာနိုင်ငံပြည်ထောင်စုသားများပင်တည်း။ ချင်းဝိသေသတိုင်းတွင် ချင်းလူမျိုးစုပေါင်းများစွာနေထိုင်ကြရာ၊ ဇိုတန်းတို့သည် တောင်ပိုင်းချင်းအမျိုးစုတွင်ပါဝင်သည်။ ယင်းလူမျိုးတို့သည် ဟားခါးချင်းများနှင့် အသွင်အပြင်၊ စိတ်နေသဘောထားများ အလွန်တူညီသော်လည်း၊ ဝတ်ဆင်ပုံနှင့် စကားအပြောအဆိုတို့၌ကွာခြားသည်။ (ဟားခါးလူမျိုး — ရှု။) ဇိုတန်းတို့သည် အနီရောင်ပေါ်တွင် အစိမ်းအဝါများဖေါက်၍ရက်လုပ်ထားသော အင်္ကျီလက်ပြတ်များကိုဝတ်ဆင်ကြသည်။ အင်္ကျီများတွင် လှိုင်းချိတ်တို့ဖြင့် အနားကွပ်ထားလေ့ရှိသည်။ ယောကျ်ားများသည် ခြေမျက်စိအထိရှည်သော လုံချည်ကို ဝတ်ဆင်လေ့ရှိကြသည်။ ဇိုတန်းတို့၏ ဝတ်စားဆင်ယင်မှု၌ ထူးခြားချက်တရပ်မှာ ယောကျ်ား မိန်းမမရွေး ဧောင်ခြုံသောအလေ့အထပင်ဖြစ်သည်။

ဇိုတန်းတို့သည် တောင်ပိုင်းချင်းများဖြစ်သည့်အလျောက် တောင်ပိုင်းချင်းဝိသေသတိုင်း၊ မတူပီမြို့အနီး၌ အများ

အပြားနေထိုင်ကြသည်။ သို့ရာတွင် မြောက်ပိုင်းနှင့် ရခိုင်တောင်တန်းဒေသများ၌လည်း ဇိုတန်းတို့ကို အနည်းငယ်တွေ့ရလေသည်။ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ဇိုတန်းလူမျိုး ၆၅၀၀ ကျော်ရှိသည်ဟုတွေ့ရသည်။ ဇိုတန်းတို့သည် နတ်ကိုကိုးကွယ်ယုံကြည်ကြသည်။ အခြားချင်းလူမျိုးများ နည်းတူ၊ အသုဘများ၌ရင်း၊ မင်္ဂလာဆောင်များ၌ရင်း ကျွဲနွားများကို သတ်ဖြတ်၍ ကျွေးမွေးညှော်ခံလေ့ရှိသည်။ သေသူကို မြေမြှုပ်သင်္ဂြိုဟ်လေ့ရှိသည်။ ပိုက်ဆံတတ်နိုင်သူများကမူ၊ ဂူများပင်ပြုလုပ်ကြသည်။ ဇိုတန်းအမျိုးသမီးများသည် ပါးရဲ ထိုးလေ့ မရှိချေ။ (ချင်းလူမျိုး — ရှု။)

**ဇိုရိုအက်စတာ**။ ။ပါးရှင်းရှေးသူဟောင်းတို့ ယုံကြည်ကိုးကွယ်သော အယူဝါဒတရပ်ကို တီထွင်ပေးခဲ့သူမှာ ဇိုရိုအက်စတာဖြစ်သည်။ ထိုအယူဝါဒသည် တီထွင်သူ၏အမည်ကိုလိုက်၍ ဇိုရိုအက်စတာဝါဒဟုတွင်သည်။ ဇိုရိုအက်စတာဟူသော အမည်မှာ ဇရသုသျတြာ ဟူသော မူလအမည်ကို အိုင်ရေးနီယန်ဘာသာဖြင့် ပြောင်းလဲခေါ်ဝေါ်သောအမည်ဖြစ်၏။ ဇိုရိုအက်စတာသည် ဘီစီ ၆၀၀ ခန့်လောက်တွင် ပေါ်ပေါက်ခဲ့သည်။ သူ၏ ဝါဒမှာ လူ့ဘဝဟူသည် ဒုစရိုက်အင်အားစုနှင့် သုစရိုက်အင်အားစုတို့ တိုက်ခိုက်နေကြသော အခြင်းအရာဖြစ်သည် ဟူသောဝါဒဖြစ်၏။ ဒုစရိုက်အင်အားစုကို အာရိမန်ခေါ် နတ်ဘုရားက ခေါင်းဆောင်၍၊ သုစရိုက်အင်အားစုကို အောမတ်ခေါ် နတ်ဘုရားက ခေါင်းဆောင်သည်။ အောမတ်သည် အလင်းရောင်နတ်လည်းဖြစ်သည်။ အောမတ်သည် သူ့အားကူညီရန် လူသားကို ဖန်တီးခဲ့သည်။ သုစရိုက် အင်အားစုတို့သည် နောက်ဆုံးတွင် အောင်မြင်ရမည်ဖြစ်သည်။ သို့သော် လူတိုင်းလူတိုင်းမှာမူ အကောင်းနှင့် အဆိုး နှစ်ဖက်တွင် တဖက်ဖက်မှနေ၍ တိုက်ပွဲတွင်ပါဝင်ဆင်နွှဲကြရမည်ဖြစ်သည်။ သုစရိုက်နှင့် ဒုစရိုက်တို့ကိုလိုက်၍ ကောင်းကျိုးဆိုးကျိုးဟူသော အကျိုးပေးသည် ဖြစ်ပေါ်လာသည်။ ဇိုရိုအက်စတာဝါဒ၌မီးသည်လူ့ဝိညာဉ်၏အထိမ်းအမှတ်ဖြစ်သောကြောင့်၊ မီးကို အလေးအမြတ်ပြုရသည်။ ဤသည်ကိုအစွဲပြု၍ ဇိုရိုအက်စတာဝါဒီတို့ကို မီးကိုးကွယ်သူဟူ၍ ခေါ်ဝေါ်ကြသည်။ ထိုဝါဒကို အီရန်နိုင်ငံရှိ ပါးရှင်းလူမျိုးများ အစ္စလမ်အယူဝါဒသို့ ပြောင်းလဲမကိုးကွယ်ခင်က ကိုးကွယ်ခဲ့သည်။ ယခုအခါ အီရန်နိုင်ငံသား ပါရစီများနှင့် အိန္ဒိယနိုင်ငံရှိ ပါရစီလူမျိုးများက ထိုဝါဒကို အနည်းငယ်မူပြောင်း၍ကိုးကွယ်ကြ၏။ ဇိုရိုအက်စတာဝါဒတွင် အမြတ်တနိုးထားသည့်ကျမ်းမှာ အဗက်စတာအမည်ရှိ၍၊ ယင်း၏အဖွင့်ဋီကာကျမ်းမှာ ဇင်းဟုခေါ်သည်။ ကျမ်းနှစ်စုံတွဲ၍ ဇင်းအဗက်စတာဟူ၍လည်းခေါ်ဝေါ်သည်။ (ဘာသာအယူဝါဒများ — ရှု။)

**ဇိုလာ, အေမီး** (ခရစ် ၁၈၄၀–၁၉၀၂)။ ။ပြင်သစ်စာရေးဆရာကြီး အေမီးဇိုလာ၏ဖခင်မှာ ဣတာလျံလူမျိုး အင်ဂျင်နီယာ ဖရန်ဆွာဇိုလာဖြစ်၍၊ မိခင်မှာ ပြင်သစ်လူမျိုးဖြစ်သည်။ ပါရစ်မြို့၌မွေးဖွား၍၊ မာဆေးမြို့နှင့် ပါရစ်မြို့၌ပညာသင်ခဲ့၏။ ငယ်ရွယ်စဉ်က အလုပ်အကိုင်အခြေမကျသဖြင့် ဆင်းရဲသည်။ အလုပ်ရှာဖွေနေစဉ်ပင် ဝတ္ထုများကိုရေးခဲ့သည်။ ၁၈၆၄ ခုနှစ်တွင် ပဌမဦးဆုံး သူရေးသားသောစာအုပ်ကိုထုတ်ဝေရာ၊ ကောင်းစွာမအောင်မြင်ချေ။ နှစ်နှစ်မျှ စာရေးအလုပ်ဖြင့် အသက်ဝမ်းကျောင်းပြီးလျှင် ထိုအလုပ်ကိုစွန့်လွှတ်လိုက်ပြီးသော်၊ စာရေးဆရာလုပ်ရန်ဆုံးဖြတ်လိုက်၏။ နောက်တနှစ်တွင် ဒေါသ၏အကြောင်းကိုသရုပ်ဖော်၍ ဝတ္ထုတပုဒ်ရေးသားရာ၊ ထိုဝတ္ထုတအုပ်နှင့်ပင် နာမည်ထင်ရှားလာခဲ့လေသည်။

အေမီး ဇိုလာသည် စိတ်ကူးယဉ်ဝတ္ထုရေးဆရာမဟုတ်ဘဲ၊ အဖြစ်သနစ်အမှန်သဘာဝကို မထောက်မညှာဖော်ပြတတ်သောသူဖြစ်၏။ ဝတ္ထုပေါင်းနှစ်ဆယ်မျှကို ၁၈၇၁ ခုနှစ်မှ ၁၈၉၃ ခုနှစ်အထိ ရေးသားပြီးလျှင်၊ ထိုဝတ္ထုများမှာ အဆက်အစပ်ရှိသဖြင့် ‘လာ ရူဂွန် မတ်ကွား’ အမည်တပ်သော ဝတ္ထုရှည်ကြီးတပုဒ်အနေဖြင့်ထုတ်ဝေခဲ့၏။ ယင်း



ပြင်သစ်ဝတ္ထုရေးဆရာကြီး အေမီး ဇိုလာ

ဝတ္ထုရှည်ကြီးတွင် လူတို့၏ရိုးရာ ထုံးစံဓလေ့များနှင့် မျိုးရိုးကိုလိုက်၍ အဆင့်ဆင့်ဖြစ်ပေါ်လာသော လူ့စိတ်ဓာတ်များအကြောင်းကို အသေးစိတ်ရေးထားလေသည်။ ထိုဝတ္ထုများတွင် ဇိုလာသည် လူတယောက်၏စိတ်သဘာဝဆောက်တည်လာပုံ၊ တဆင့်မှတဆင့်ရင့်သန်လာပုံ၊ အကောင်းဖက်၌တိုးတက်ခြင်း၊ အဆိုးဖက်သို့ယိမ်းယိုင်ခြင်းတို့မှာ ပတ်ဝန်းကျင်အခြေအနေနှင့် မိမိ၌ဗီဇပါလာသော စိတ်ဓာတ်များကြောင့် ဖြစ်ရပုံတို့ကို သရုပ်ဖော်ပြခဲ့လေသည်။

ဇိုလာ၏နာမည်မှာ ပြင်သစ်တနိုင်ငံလုံးတွင် မသိသူ မရှိသလောက်ဖြစ်လာသည်။ သို့ရာတွင် ဇိုလာသည် ဝတ္ထုရေးနေရရုံမျှနှင့် သူ့ကိုယ်သူမကျေနပ်နိုင်ဘဲ၊ လောကကြီးတွင် တရားသဖြင့်ဖြစ်ရမည့်အမှုကိစ္စများကို သူကိုယ်တိုင် စွမ်းလွန်းတမံဆောင်ရွက်လို၏။ ထို့ကြောင့် အဲလဖရက် ဒရေးဖပ်အမှု၌ သူပါဝင်ခဲ့၏။ (ဒရေးဖပ်,အေ — ရှု။) ဒရေးဖပ်မှာ ပြင်သစ်စစ်ဖက်ဌာနက မှားယွင်း၍အပြစ်ပေးခြင်းခံရသူဖြစ်၏။ ထိုကိစ္စတွင် မတရားမှုကိုမရှုနိုင်သော ဇိုလာသည် ပြင်သစ်စစ်ဖက်အရာရှိများကို သတင်းစာမှ နေ၍အတိုက်အခံရေးသားခဲ့၏။ ထိုသို့ ဒရေးဖပ်ဖက်မှလိုက်၍ရေးသားသဖြင့် ထောင်ဒဏ်နှင့် ငွေဒဏ်အပေးခံရလေသည်။ ထို့ကြောင့် ဇိုလာသည် အင်္ဂလန်ပြည်သို့ ထွက်ပြေး တိမ်းရှောင်နေခဲ့၏။ ဒရေးဖပ်အမှုကို ထပ်မံစစ်ဆေးသောအခါ၊ တရားခံအပေါ်တွင် အပြစ်မရှိကြောင်း ထင်ရှားလာလေသည်။ ထိုအခါ၌ ဇိုလာသည် ပါရစ်မြို့သို့ပြန်လာ၍ စာရေးဆရာအဖြစ်ဖြင့်ပင် အသက်မွေးလေသည်။

ဇိုလာ၏ဝတ္ထုများတွင် နာမည်ကျော်သော ဝတ္ထုမှာ ၁၈၈၀ ပြည့်နှစ်၌ထုတ်ဝေသော ပြည့်တန်ဆာမကလေး၏ဘဝကိုသရုပ်ဖော်သည့် 'နာနာ' ခေါ် ဝတ္ထုပင်ဖြစ်သည်။ ဇိုလာသည် လူ့လောက၏ ယုတ်မာဆိုးသွမ်းပုံတို့ကို သရုပ်ဖော်တတ်သဖြင့် စိတ်ကူးယဉ်စွာရေးထားသော အချစ်ဇာတ်လမ်းများနှင့် တဖက်တလမ်း ကွာခြားလေသည်။ ပါရစ်မြို့သို့ပြန်ရောက်လာ၍ သုံးနှစ်ကြာပြီးနောက်၊ ၁၉၀၂ ခုနှစ်တွင် ဇိုလာကွယ်လွန်လေသည်။ သူ၏ရုပ်ကြွင်းကို ပြည်သူ့ရုပ်ကြွင်းအခမ်းအနားဖြင့် ဂုဏ်ပြုခဲ့သည်။ (ပြင်သစ်ဘာသာနှင့် စာပေ — ရှု။)

**ဒိုးဂုဘုရင်၊ ပဋ္ဌမ** (ခရစ် ၁၈၉၃ ဖွား)။ ။၁၉၂၈ ခုနှစ်တွင် အယ်လဗေးနီးယားနိုင်ငံ ပဋ္ဌမဇိုးဂုဘုရင်ဘွဲ့ကိုခံယူသူ အာမက်ဇိုးဂုသည် မင်းမျိုးမင်းနွယ်ထဲမှဖြစ်သောမင်းမဟုတ်ချေ။ သူ၏မျိုးရိုးမှာ အယ်လဗေးနီးယားနိုင်ငံ တောင်တန်းသားစော်ဘွားစော်ကန်မျိုးရိုးဖြစ်သည်။ ခရစ် ၁၈၉၃ ခုနှစ်တွင်ဖွားမြင်သည်။ ကွန်စတန်တီနိုပယ်မြို့တွင် ပညာသင်ကြားခဲ့သည့် မွတ်စလင်တဦးဖြစ်သည်။ ပဋ္ဌမ



အယ်လဗေးနီးယားနိုင်ငံ ပဋ္ဌမ ဇိုးဂုဘုရင်

ကမ္ဘာ့စစ်ကြီးတွင် သြစတြီးယားစစ်တပ်ထဲ၌ စစ်မှုထမ်းခဲ့သည်။ ၁၉၁၂ ခုနှစ်တွင် တူရကီလက်အောက်မှ လွတ်လပ်လာခဲ့သော အယ်လဗေးနီးယား နိုင်ငံရေး၌ စစ်ကြီးပြီးသည့်နောက် ဝင်ရောက်ခေါင်းဆောင်ခဲ့ရာ၊ ၁၉၂၀ ပြည့်နှစ်တွင် ပြည်ထဲရေးဝန်ကြီးဖြစ်လာသည်။ ကာကွယ်ရေးဝန်ကြီးအဖြစ်ဖြင့်လည်း ဆောင်ရွက်ရသေးသည်။ ၁၉၂၂ ခုနှစ်မှ ၁၉၂၄ ခုနှစ်အထိ ဝန်ကြီးချုပ်အဖြစ်ဖြင့် ဆောင်ရွက်သည်။ ၁၉၂၅ ခုနှစ်တွင် အယ်လဗေးနီးယားနိုင်ငံ၏ သမတဖြစ်လာလေသည်။ ၁၉၂၈ ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင် သမတဇိုးဂုသည် သူ့ကိုယ်သူ အယ်လဗေးနီးယားနိုင်ငံ ဇိုးဂုဘုရင်ဟူ၍ ကြေညာလိုက်လေရာ၊ ယူဂိုဆလားဗီးယားနိုင်ငံနှင့် မသင့်မမြတ် ဖြစ်သွားလေသည်။ သို့သော် ဣတလီနိုင်ငံကိုအားကိုးတခုပြု၍၊ ထိုနိုင်ငံနှင့်ပူးပေါင်းခဲ့သည်။ ၁၉၃၈ ခုနှစ်တွင် ဇိုးဂုဘုရင်သည် မျိုးမတ်မျိုးရိုးဖြစ်သော ဟင်ဂေရီဂိုဏ်းဝင် ဟန်ဂေရီအမျိုးသမီးတဦးနှင့်ထိမ်းမြားသည်။ ၁၉၃၉ ခုနှစ်၌ ဣတလီက အယ်လဗေးနီးယားကို ဝင်ရောက် တိုက်ခိုက်သောအခါ၊ ဇိုးဂုဘုရင်ထွက်ပြေးရလေသည်။ ၁၉၄၄ ခုနှစ် ဂျာမန်တို့စစ်ရှုံးသောအခါ၊ တိုင်းပြည်ကိုပြန်ရသော်လည်း၊ ၁၉၄၆ ခုနှစ်သို့ရောက်သော်၊ အယ်လဗေးနီးယားနိုင်ငံမှာ သမတနိုင်ငံဖြစ်သွားပြီးလျှင်၊ ဇိုးဂုဘုရင်နန်းကျသွားသည်။ (အယ်လဗေးနီးယားနိုင်ငံ — လည်းရှု။)



ပဌမကမ္ဘာစစ်ကြီးအတွင်း အသုံးပြုခဲ့သည့် ဂျာမန်ဇက်ပလင်လေသင်္ဘော

**ဇက်ပလင်, ကောင့် ဖွန်** (ခရစ် ၁၈၃၈ – ၁၉၁၇)။ ပဌမကမ္ဘာစစ်ကြီး ဖြစ်ပွား၍ တနှစ်မျှ မရှိသေးမီ ၁၉၁၅ ခုနှစ် ဇန္နဝါရီလ ညတညဉ့်၌ အင်္ဂလန်ပြည်ရှိမြို့ရွာပေါင်းများစွာတို့သည် ရုတ်တရက် ရန်သူ၏ဗုံးကြဲခြင်းကိုခံရလေသည်။ ထိုအချိန်က ကောင်းကင်မှလာ၍ ဗုံးကြဲခြင်းကို မကြုံဘူးသေးသဖြင့် အင်္ဂလန်ပြည်သူပြည်သားတို့သည် အလွန်အံ့ဩ ထိတ်လန့်ကြသည်။ ထိုသို့အင်္ဂလိပ်လူမျိုးတို့အား စိတ်ဓာတ်ချောက်ချားသွားအောင်ဖန်တီးနိုင်ခဲ့သူမှာ ဇက်ပလင်ဆိုသူဖြစ်၏။ အင်္ဂလန်ပြည်ရှိမြို့ရွာများပျက်စီးရခြင်းမှာ ဇက်ပလင်တီထွင်သော လေသင်္ဘောလာရောက်ဗုံးကြဲခြင်းကြောင့် ဖြစ်သည်။ ဇက်ပလင်ကိုအစွဲပြု၍၊ ထိုလေသင်္ဘောကို 'ဇက်ပလင်' ဟူ၍အမည်ပေးထားလေသည်။

ကောင့် ဇက်ပလင်သည် ၁၈၃၈ ခုနှစ် ဇူလိုင်လ ၈ ရက်နေ့၌ ဂျာမနီနိုင်ငံ ဗါးဒင်နယ်၊ ကွန်စတန့်မြို့တွင်ဖွားမြင်၏။ ငယ်စဉ်ကပင် စစ်ပညာကို သင်ကြားခဲ့၍၊ အသက် ၂၀ အရွယ်၌ ဂျာမန်စစ်တပ်တွင် စစ်ဗိုလ်အဖြစ်အမှုထမ်းခဲ့၏။ အမေရိကန် ပြည်တွင်းစစ်ကြီး ဖြစ်ပွားသောအခါ၊ သူသည် အမေရိကန်ပြည်ထောင်စုသို့ သွားရောက်၍ ပြည်ထောင်စုသားများဖက်မှ အပျော်တမ်းတပ်တွင် ပါဝင် တိုက်ခိုက်ခဲ့သည်။ သူသည် လေကြောင်းပညာတွင် လွန်စွာဝါသနာပါသောကြောင့် အမေရိကန်ပြည်ထောင်စု၌ရှိနေစဉ် မီးပုံးပျံတွင် ပဌမဆုံး အကြိမ် စီးနင်း လိုက်ပါခဲ့ဘူးလေသည်။ ဂျာမနီသို့ပြန်ရောက်သောအခါ၊ ၁၈၆၆ ခုနှစ်တွင် ဩစတြီးယန်းစစ်ပွဲ၌၎င်း၊ ၁၈၇၀ ပြည့်နှစ်တွင် ပြင်သစ်ဂျာမန်စစ်ပွဲ၌၎င်း ဝင်ရောက်ဆင်နွှဲခဲ့၍၊ ဗိုလ်ချုပ်မှူးအဆင့်အတန်းအထိ ရာထူးတိုးမြှင့်ခြင်းကို ခံခဲ့ရလေသည်။ ၁၈၉၁ ခုနှစ်တွင် စစ်တပ်မှအငြိမ်းစားယူခဲ့ပြီးနောက်၊ လေကြောင်းခရီးလှိုင့်ပညာတွင် စိတ်အားထက်သန်စွာ စူးစိုက်လေ့လာခဲ့သည်။

၁၉၀၀ ပြည့်နှစ်တွင် သူပဌမဦးဆုံး ဆောက်လုပ်သောလေသင်္ဘောမှာ လေထဲ၌မိနစ် ၂၀ ကြာမျှပျံဝဲနေနိုင်ခဲ့သော်လည်း၊ မြေပြင်ပေါ်သို့ သက်ဆင်းသောအခါတွင် ပျက်စီးသွား၏။ သို့သော် သူသည် အားမလျှော့ဘဲ ဆက်လက်ကြိုးစားလာခဲ့ရာ ၁၉၀၆ ခုနှစ်တွင် သူ၏လေသင်္ဘောများသည် တနာရီလျှင်မိုင် ၃၀ နှုန်းနှင့်ပျံသန်းနိုင်၍၊ နောက်တနှစ်တွင် ၃၅ မိုင်နှုန်းအထိတိုးတက်၍ပျံသန်းလာနိုင်၏။ (လေသင်္ဘောနှင့် မီးပုံးပျံများ။ လေယာဉ်ပျံ — ရှု။) ထို့နောက် ဇက်ပလင်တို့သည် တဖြည်းဖြည်းတိုးတက်ကောင်းမွန်လာ၍၊ ပဌမကမ္ဘာစစ်ကြီးအတွင်းက အင်္ဂလန်ပြည်ပေါ်သို့ အကြိမ်ပေါင်းများစွာပျံသန်းဝင်ရောက်ကာ ဗုံးကြဲနိုင်ခဲ့ကြလေသည်။ (ကမ္ဘာစစ်၊ ပဌမ — ရှု။)

ကောင့် ဖါဒီနန် ဖွန် ဇက်ပလင်သည် ၁၈၃၇ ခုနှစ် မတ်လ ၈ ရက်နေ့တွင် ရှားလော့တင်ဗတ်မြို့၌ ကွယ်လွန်သည်။ သူကွယ်လွန်သည့် အချိန်ခန့်တွင် အသစ်ပေါ်လာသော လေယာဉ်ပျံများကြောင့် လေသင်္ဘောတို့သည် ပျောက်ကွယ်သွားကြလေသည်။ သို့ရာတွင် ဇက်ပလင်သည် လေ



ကောင့်ဇက်ပလင် (ဝဲ) ကို ဂျာမန်ဘုရင် ကိုင်ဇာနှင့်အတူ တွေ့မြင်ရပုံ

ကြောင်းပညာကို စတင်လမ်းထွင်ပေးခဲ့သည့် ပုဂ္ဂိုလ်တဦးဖြစ်သဖြင့် ဂျာမန်တို့၏ လေးစားခြင်းကိုသာမက ကမ္ဘာတဝှန်းလုံး၏လေးစားခြင်းကိုလည်း ခံရပေသည်။

**ဇင်္ဂလိန်ခန္တီး။** ။ယခုအခါ ဇင်္ဂလိန်ခန္တီးမှာ နဂါ တောင်တန်းခရိုင် ရုံးစိုက်ရာမြို့ဖြစ်သည်။ သို့သော် မြန်မာမင်းအဆက်ဆက်မှစ၍၊ ဗြိတိသျှအုပ်ချုပ်ရေးခေတ်အထိ ဇင်္ဂလိန်ခန္တီးမှာ ဇင်္ဂလိန်ခန္တီးစော်ဘွားနယ်၏ အုပ်ချုပ်ရေးဗဟိုဌာနဖြစ်ခဲ့သည်။ ထိုစော်ဘွားနယ်သည် ဟုမ္မလင်းမြို့အနီး၊ ချင်းတွင်းမြစ်နှင့်ဥယုမြစ်တို့ဆုံရာမြစ်ခွမှ မြောက်ဖက်သို့ မိုင် ၆၀ ခန့်အကွာတွင်တည်ရှိ၏။ ယင်းနေရာမှ ချင်းတွင်းမြစ်ဖျား၏မြစ်ဝှမ်းတလျှောက်မြောက်ဖက် ဟူးကောင်းတောင်ကြားနယ်စပ် ရေတံခွန်အထိ ကျယ်ဝန်း၏။ ထိုနယ်အတွင်း မှီတင်းနေထိုင်ကြသူများမှာ အများအားဖြင့် ရှမ်းကဒူးများဖြစ်ကြ၍၊ ကချင်ရွာနှင့် ချင်းရွာအနည်းငယ်ရှိသည်။ ဇင်္ဂလိန်ခန္တီးနယ်မှာ မူလကဇင်္ဂလိန်ဟုခေါ်သော နာဂလူမျိုးတို့၏ လူမျိုးစုတစုတို့နေထိုင်ရာဒေသဖြစ်သည်။

ခရစ် ၁၇၄၉ ခုနှစ်အထက်တွင် ခန္တီးရှမ်းတို့သည် အာသံနယ်ထဲသို့ ရွှေ့ပြောင်းလာကြပြီးလျှင်၊ ဆာဒီးယားနယ်၌ နေထိုင်ကြသည်။ ၁၈၃၉ ခုနှစ်သို့ရောက်သော်၊ အာသံနယ်ထဲသို့ဗြိတိသျှတို့ချင်းနင်းဝင်ရောက်၍၊ အာသံနယ်ကိုသိမ်းပိုက်စပြုလာလေသည်။ ထိုအခါ ဆာဒီးယားနယ်ရှိ ခန္တီးရှမ်းတို့သည် ဗြိတိသျှတို့အား ပုန်ကန်ထကြွကြလေသည်။ ဗြိတိသျှတို့လည်း ထိုပုန်ကန်မှုကြီးကို နှိမ်နင်းပြီးနောက်၊ ဆာဒီးယားခန္တီးရှမ်းတို့ကို အာသံပြည် အခြားဒေသတို့သို့ ရွှေ့ပြောင်းပေးလေရာ၊ ခန္တီးရှမ်းတို့လည်း ချင်းတွင်းမြစ်ဝှမ်းဒေသသို့ ရောက်ရှိလာခဲ့ကြဟန်တူလေသည်။ ထို့ပြင် အဆိုပါနှစ်တဝိုက်လောက်တွင် ခန္တီးကြီးခေါ် ခန္တီးလုံနယ်မှ ခန္တီးရှမ်းများသည် ဟူးကောင်းမြစ်ဝှမ်း၊ ပယင်းတွင်းဒေသ၊ ချင်းတွင်းမြစ်ဝှမ်းတို့သို့ ရွှေ့ပြောင်းလာခဲ့ကြသည်ဟုလည်း သိရှိရသည်။ ဤကဲ့သို့ ဇင်္ဂလိန်အရပ်သို့ ခန္တီးရှမ်းများဝင်ရောက်နေထိုင်လာသည်ကိုအကြောင်းပြု၍၊ ထိုအရပ်သည် ဇင်္ဂလိန်ခန္တီးဟုတွင်လေသည်။ သို့သော် မြန်မာတို့ကမူ ခန္တီးကြီးနှင့် ကွဲပြားခြားနားလေအောင် ယင်းနယ်ကို ခန္တီးဟူ၍ ၎င်း၊ ခန္တီးကလေးဟူ၍၎င်း ခေါ်ဝေါ်ကြသည်။ (ခန္တီးရှမ်း — ရှု။)

မြန်မာမင်းများလက်ထက်တွင် ဇင်္ဂလိန်ခန္တီးနယ်ကို တမူးနှင့် ခန်းပတ်ဝန်တို့က နယ်ရှင်စော်ဘွားမှတဆင့် အုပ်ချုပ်သည်။ ထိုနယ်မှနှစ်စဉ် ပျားဖယောင်း ပိဿာချိန်တထောင်နှင့် ဆင်စွယ်ပိဿာချိန်တရာကို မြန်မာဘုရင်တို့အား ပဏ္ဏာတော်ဆက်သရမြဲဖြစ်သည်။ ဗြိတိသျှခေတ်၌၊ ဦးစွာတနှစ်လျှင် ငွေငါးဆယ်မျှသာ ပဏ္ဏာဆက်သရန် သတ်မှတ်သည်။ ၁၈၉၂ ခုနှစ်တွင် ငွေတော်တရာသတ်မှတ်သည်။ ထိုနောက်မှ အခွန်တော်တဖြည်းဖြည်းတိုးလာသည်။ မင်းတုန်းမင်းတရားကြီးလက်ထက်တွင် ဇင်္ဂလိန်ခန္တီးမြို့သည် အမြောက်လေးလက်၊ သေနတ်တရာတပ်ဆင်ပေးထားသော ခံမြို့တမြို့ဖြစ်သည်။

ခရစ် ၁၈၈၃ ခုနှစ်တွင် ဟူးကောင်းတောင်ကြားနယ်မှ ကချင်လူမျိုးတို့သည် ဇင်္ဂလိန်ခန္တီးနယ်ကို တိုက်ခိုက်သဖြင့်၊ သက်ဆိုင်ရာဝန်နှင့် စော်ဘွားတို့မှာ ထွက်ပြေးတိမ်းရှောင်ရသည်။ ၁၈၈၆ ခုနှစ်တွင် ဗြိတိသျှတို့အထက်မြန်မာနိုင်ငံကို သိမ်းပိုက်သောအခါ၊ ဗြိတိသျှအစိုးရ ကိုယ်စားလှယ်ဖြစ်သူ မေဂျာအက် (ဖ)၊ ဒီ၊ ရိတ်သည် ထိုစဉ်က ဇင်္ဂလိန်ခန္တီးနယ်တွင် အကြီးဆုံးဖြစ်သော မုန်းတုန်းရွာသို့ လာရောက်ပြီးလျှင်၊ စောနီတောင်းဆိုသူအား ရွာအုပ်အဖြစ်ဖြင့်ခန့်အပ်လေသည်။ ၁၈၈၇ ခုနှစ်သို့ရောက်သောအခါ၊ ဗြိတိသျှအစိုးရသည် မြောက်ပိုင်းရှမ်းပြည်၊ တောင်ပိုင်းရှမ်းပြည်၊

မြေလတ်၊ သောင်ထွတ်နှင့် ဇက်လိန်ခန္တီးစော်ဘွားနယ်များကို မြန်မာပြည်မအုပ်ချုပ်ရေးမှ ပယ်ထုတ်၍၊ ရှမ်းပြည်နယ်ဟုသတ်မှတ်ပြီးလျှင်၊ ဇက်လိန်ခန္တီးစော်ဘွားနယ်ကို အထက်ချင်းတွင်းခရိုင်အရေးပိုင်၏လက်အောက်၌ထား၍ အုပ်ချုပ်စေလေသည်။ ထိုစဉ်က အထက်ချင်းတွင်းခရိုင်သည် ယခုထက် မြောက်ဖက်သို့ ရှည်လျားကျယ်ဝန်းစွာ နယ်ပယ်သတ်မှတ်ထားသဖြင့် ဇက်လိန်ခန္တီးစော်ဘွားနယ်သည် အနေအထားအားဖြင့် ယင်းခရိုင်မြောက်ပိုင်းအတွင်း၌တည်ရှိခဲ့သည်။ ဇက်လိန်ခန္တီးနယ်ကို အခြားစော်ဘွားနယ်များနည်းတူ ဆာနဒ်ခေါ် အမိန့်စာချွန်ဖြင့် သတ်မှတ်ဖွဲ့စည်းပေးလေသည်။ (ရှမ်းပြည်နယ် — ရှု။) ထိုစဉ်က ထိုနယ်၏ နယ်နိမိတ်မှာ မြောက်ဖက်၌ ဟူးကောင်းတောင်ကြားနယ်၊ အနောက်ဖက်၌ စာရာမေတိတောင် အပါအဝင်ဖြစ်သောတောင်တန်းကြီးများ၊ တောင်ဖက်၌ အထက်ချင်းတွင်းခရိုင်အပိုင် ဟုမ္မလင်းမြို့နယ်၊ အရှေ့ဖက်၌ အထက်ချင်းတွင်းခရိုင်အပိုင် ဥယုမြို့နယ်နှင့် မြစ်ကြီးနားခရိုင် ဟူ၍ဖြစ်၏။ ဥယုမြို့နယ်မှာ ဥယုမြစ်ဝှမ်းတလျှောက်ရှိ ကျေးရွာနယ်မြေတို့ကို စုပေါင်း၍ ရှေးက ဖွဲ့စည်းခဲ့သော မြို့နယ်ဖြစ်၏။ ယခုခေတ်၌ကား၊ ဥယုမြို့နယ်ဟူ၍မရှိတော့ပြီ။ ထိုစဉ်က နယ်နိမိတ်အတိုင်း ဆိုလျှင်၊ ဟုမ္မလင်းမြို့နယ်၏ နယ်နိမိတ်သည် ဇက်လိန်ခန္တီးနယ်ထဲသို့ ထွင်းဖောက်ဝင်ရောက်လျက်ရှိသဖြင့်၊ ဇက်လိန်ခန္တီးစော်ဘွားနယ်မှာ နှစ်ပိုင်းကွဲလျက်ရှိသည်။ မြောက်ဖက်ပိုင်းသည် အရှေ့လောင်ဂျီတွဒ် ၉၅° ၂၀′ နှင့် ၉၆° တို့၏အကြား၊ မြောက်လတ္တီတွဒ် ၂၆° ၁၀′ နှင့် ၂၅° ၄၅′ အကြားလောက်တွင်၎င်း၊ တောင်ဖက်ပိုင်းမှာ အရှေ့လောင်ဂျီတွဒ် ၉၅° ၂၀′ နှင့် ၉၅° ၃၀′ အကြား၊ မြောက်လတ္တီတွဒ် ၂၅° ၃၀′ နှင့် ၂၅° ၄၀′ အကြားလောက်တွင်၎င်း၊ အသီးသီးတည်ရှိကြသည်။ မြောက်ဖက်ပိုင်း၏ အကျယ်အဝန်းမှာ ၁၄၂၅ စတုရန်းမိုင်ရှိ၍၊ တောင်ဖက်ပိုင်း၏အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၅၀၀ ခန့်ရှိသည်။ ဇက်လိန်ခန္တီးနယ်တွင် ၁၈၉၇ ခုနှစ်က လူဦးရေ ၁၃၃၁ ယောက် ရှိခဲ့သည်။

မြန်မာနိုင်ငံလွတ်လပ်ရေးအတွက် ပြင်ဆင်မှုများကိုပြုကြသောအခါ၊ ၁၉၄၇ ခုနှစ် တောင်တန်းဒေသ စုံစမ်းရေးကော်မီတီသည် သောင်ထွတ်နှင့်ဇက်လိန်ခန္တီးစော်ဘွားနယ်တို့ကို မြန်မာပြည်မအုပ်ချုပ်ရေးထဲသို့ သွတ်သွင်း၍၊ လွှတ်တော်သို့ ကိုယ်စားလှယ်စေလွှတ်နိုင်ခွင့်နှင့် အခြားအခွင့်အရေးများကို ပေးအပ်စေရန် အကြံပေးလေသည်။ ဤအကြံပေးချက်ကို တိုင်းပြည်ပြုလွှတ်တော်ကလက်ခံသဖြင့်၊ မြန်မာနိုင်ငံဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ အတည်ဖြစ်လာသောအခါ၊ ဇက်လိန်ခန္တီးစော်ဘွားနယ်သည် မြန်မာပြည်မအုပ်ချုပ်ရေးတွင် ပါဝင်သော နာဂတောင်တန်းခရိုင်၌ ပါဝင်လာခဲ့သည့်ပြင်၊ ဇက်လိန်ခန္တီးမြို့သည်လည်း နာဂတောင်တန်းခရိုင်ရုံးစိုက်ရာမြို့ဖြစ်လာလေသည်။ (နာဂတောင်တန်းခရိုင် — ရှု။) ဇက်လိန်ခန္တီးစော်ဘွား သီရိပျံချီ စဝ်မြစိန်သည် နာဂတောင်တန်းခရိုင် လဟယ်တိုင်းခွဲတွင် တောင်တန်းဝန်ထောက်အဖြစ်ဖြင့် ပြည်ထောင်စုနိုင်ငံ၏တာဝန်ကို ထမ်းဆောင်လျက်ရှိသည်။ ပြည်သူ့လွှတ်တော်သို့ ကိုယ်စားလှယ်ရွေးချယ်စေလွှတ်ခွင့်နှင့်စပ်လျဉ်း၍ ဇက်လိန်ခန္တီးနယ်ရှိ အချို့ကျေးရွာနယ်မြေတို့သည် အစပဌမ၌ အထက်ချင်းတွင်းမြောက်ပိုင်း မဲဆန္ဒနယ်ထဲ၌ပါဝင်နေခဲ့၍၊ အချို့မှာ နာဂတောင်တန်းနယ်ထဲ၌ပါဝင်နေခဲ့သည်။ ၁၉၅၅ ခုနှစ်တွင် မဲဆန္ဒနယ်များကို ပြန်လည်ပြုပြင် သတ်မှတ်လိုက်သောအခါ၊ ဇက်လိန်ခန္တီးနယ်သည် နာဂတောင်ပိုင်း မဲဆန္ဒနယ်ထဲတွင်ပါဝင်လာခဲ့သည်။

ဇက်လိန်ခန္တီးနယ်တွင် ရှမ်းကဒူးများ၊ ကချင်များလည်း နေထိုင်ကြသည်။ ဇက်လိန်ခန္တီးမြို့ကိုဗဟိုပြု၍ တောင်ပေါ်သားတို့အတွက် ဘဝသစ် ဖန်တီးပေးရန်လုပ်ငန်းများကို လုပ်ဆောင်ပေးနေလေရာ၊ နာဂလူမျိုးအတွက် များစွာအကျိုးဖြစ်ထွန်းလာဖွယ်ရာရှိသည်။ ပျားဖယောင်း၊ ကြိမ်၊ သနပ်ဖက်စသည်တို့ကို ချင်းတောင်များမှထုတ်နုတ် သယ်ယူရောင်းချခြင်းမှာ ထိုနယ်၏ အဓိကလုပ်ငန်း ဖြစ်သည်။ သို့သော် ရှေးအစဉ်အဆက်ကပင် အဖိုးတန်ခဲ့သောလုပ်ငန်းတရပ်မှာ ပယင်းထုတ်လုပ်ရေးပင်ဖြစ်သည်။ ယခုခေတ်၌မူ ထိုလုပ်ငန်းသည် မြန်မာနိုင်ငံ၏ကူးသန်းရောင်းဝယ်မှုတွင် အထောက်အပံ့ ဖြစ်နိုင်လောက်အောင် အရေးကြီးသည့်လုပ်ငန်းမဟုတ်တော့သဖြင့်၊ မရှိသလောက် ဖြစ်နေသည်။ ယခင်က ထိုနယ်မှကျောက်စိမ်းများထွက်ခဲ့ဘူးသည်။ ချင်းတွင်းမြစ်ကြောင်းတွင် ဇက်လိန်ခန္တီးမြို့အထက် ရေတံခွန်အထိ လှေသမ္ဗန်များ၊ မော်တော်ဘုတ်ငယ်များသွားလာနိုင်သည်။ ဇက်လိန်ခန္တီးမြို့အနီးတွင် လေယာဉ်ပျံကွင်းရှိ၍၊ နွေနှင့် ဆောင်းအခါတွင် ရန်ကုန်မြို့နှင့် လေကြောင်း အဆက်အသွယ်ရှိသည်။

**ဇင်ယော်**။ ။ 'မြစ်တွေး၊ မြစ်တွေး၊ ဇင်ယော်၊ ကျူးတည့်ကျူးသံကျော်' ဆိုသည့်သီချင်းကို ကြားဘူးသူများပေမည်။ ဇင်ယော်ကို ကမ္ဘာပေါ်တွင် အနှံ့အပြား တွေ့ရသည်။ မြန်မာနိုင်ငံတွင်လည်း အများအပြားတွေ့ရသဖြင့် ဇင်ယော်ကို မမြင်ဘူးသူနည်းသည်။

ဇင်ယော်သည် 'ကာရက်ဒြီအိဖောမီး' မျိုးစဉ်တွင်၎င်း၊ 'လယ်ရီဒီ' မျိုးရင်းတွင်၎င်း ပါဝင်သည်။ ဇင်ယော်ငှက်အမျိုးမျိုးရှိရာတွင် တမျိုးနှင့်တမျိုးသည် လွန်စွာဆင်တူသဖြင့် ခွဲခြားနိုင်ရန်ခဲယဉ်းသည်။ ငှက်အဖိုနှင့်အမသည် ရုပ်ဆင်းသဏ္ဍာန်ချင်း အတူတူပင်ဖြစ်သည်။ ဇင်ယော်တို့



ဇင်ယော် ပျံဟန်

အနက် ဇင်ယော်ခေါင်းမဲကို လူသိများသည်။ ဇင်ယော်ခေါင်းမဲ၏အလျားသည် ၁၆ လက်မရှိ၏။ ဦးခေါင်းရှိအညိုရောင်သည် ဆောင်းရာသီ၌ပျောက်သွားပြီးလျှင်၊ မျက်လုံးနားရှိအမွေးများသာညိုနေသည်။ ငှက်ယပ်များ၏အပေါ်ပိုင်းသည် ညို၍၊ အတောင်စွန်းများ၏ အရောင်သည် မွဲခြောက်ခြောက်ဖြစ်လျက် အစက်အပြောက်များပေါ် နေ၏။ အမြီးမှာ ဖြူ၍၊ အဖျားတွင် အညိုရောင်ပြန့်နေသည်။

ဇင်ယော်ခေါင်းမဲသည် 'ဂစ်' 'ဂစ်' ဟုငင်း၊ 'ကျစ်' 'ကျစ်' ဟုငင်း၊ စူးရှသောအသံနှစ်မျိုးဖြင့် အော်တတ်သည်။ အခြား စူးရှသောအသံမျိုးကိုလည်း ပြုလုပ်တတ်သေးသည်။

ဇင်ယော်ခေါင်းမဲကို ရန်ကုန်မြစ်ထဲတွင် အများဆုံးတွေ့နိုင်သည်။ ပင်လယ်ဝမှ မြစ်ထဲသို့သင်္ဘောဝင်လာလျှင် ဇင်ယော်များသည် သင်္ဘောဘေးမှလိုက်ပါလာတတ်သည်။ သင်္ဘောပေါ်မှပစ်ချလိုက်သော ပေါင်မုံ့အစအနကလေးများကို ရေသို့မကျမီ ကျွမ်းကျင်စွာ ထိုးသုတ်ယူနိုင်သည်။ ဇင်ယော်သည် ရေကူးနိုင်သော်လည်း၊ ရေမငုပ်နိုင်ချေ။ အစာမစားသည့်အချိန်တွင် ပင်လယ်ပေါ်တွင်ဖြစ်စေ၊ သဲပြင်နှင့် လဟာပြင်ပေါ်တွင်ဖြစ်စေ နားနေလေ့ရှိသည်။ မန္တလေးမြို့အနီးရှိ ရေအိုင်ကြီးများတွင် ဇင်ယော်တို့ ပိုးမွှားများ ဖမ်းဆီးစားသောက်နေကြသည်ကို မကြာခဏတွေ့ရလေသည်။ ဇင်ယော်ငှက်မျိုးသည် အာရှတိုက်အလယ်ပိုင်း၊ တာကီစတန်နယ်နှင့် တိဗက်နိုင်ငံအကြား၌ ရှိသောရေအိုင်



ရေကြောင်းသွားတို့၏ ပျော်တော်ဆက် ဇင်ယော်ငှက်

ကြီးများတွင် သားပေါက်ကြသည်။ မြန်မာနိုင်ငံသို့ ဆောင်းရာသီတွင် လာရောက်သည်။ အများအားဖြင့် စက်တင်ဘာလတွင် ရောက်လာကြပြီးလျှင် ဧပြီလ၊ မေလ လောက်တွင် ထွက်ခွာသွားကြသည်။

**ဇင်းနိုဖန်** (ဘီစီ ၄၃၀-၃၅၅ ခန့်)။ ။ဇင်းနိုဖန်သည် ဘီစီ ၄၃၀-၃၅၅ ခုနှစ်ခန့်ကာလအတွင်းတွင်ထင်ရှားခဲ့သော ဂရိ သမိုင်းပညာရှိတဦး ဖြစ်သည်။ ဂရိပညာရှိ ဆိုကရေတီး၏ တပည့်တဦးလည်းဖြစ်သည်။ (ဆိုကရေးတီး — ရှု။) ဆိုင်းရပ်မင်းသားသည် သူ၏နောင်တော် ပါးရှားဘုရင်ဖြစ်သူ ဒုတိယ အားတက်ဇားဇီးကို တော်လှန်တိုက်ခိုက်ရာတွင် ဇင်းနိုဖန်သည် ပါဝင်ခဲ့သည်။ ဆိုင်းရပ်မင်းသားကျဆုံးသော အခါ၊ ဇင်းနိုဖန်သည် ကျန်ရစ်သော ဂရိစစ်သည်တော် ၁၀၀၀၀ ကိုကြပ်မကွပ်ကဲ၍၊ ပင်လယ်နက်သို့အရောက်ဆုတ်ခွာခဲ့သည်။ ဤစစ်ဆုတ်ခြင်းကို မှတ်တမ်းတင်သောအားဖြင့် 'အနက်ဗဆစ်' ဟူသော သမိုင်းကျမ်းတစောင်ကိုဖွဲ့ ခဲ့သည်။ ဇင်းနိုဖန်သည် ထိုစစ်ပွဲမှအပြန်တွင် သူ၏ဆရာ ဆိုကရေတီးအား အက်သင်မြို့အာဏာပိုင်တို့က ကွပ်မျက်လိုက်သည်ကို သိရသောအခါ၊ စပါးတန်းလူမျိုးတို့နှင့် ပူးပေါင်း၍ ဘီစီ ၃၉၄ ခုနှစ်တွင် အက်သင်မြို့နယ်သားတို့အား တိုက်ခိုက်လေသည်။ ထိုနောက် အက်သင်မြို့မှ ပြည်နှင်ဒဏ်ကိုခံရ၍၊ အီးလစ်မြို့၌ စပါးတန်းလူမျိုးတို့နှင့်အတူ နေထိုင်လေသည်။ သို့သော် သူကွယ်လွန်သောအခါ ကော်ရင့်မြို့၌ကွယ်လွန်သည်ဟု ယူဆကြရသည်။ သူရေးသားခဲ့သော အခြားကျမ်းတို့မှာ 'ဆိုကရေးတီး၏အတ္ထုပ္ပတ္တိနှင့် သူ၏ အယူဝါဒ အကြောင်း'၊ 'ဆိုကရေးတီး မိန့်ကြားသောဩဝါဒကထာများ'၊ 'ဆိုင်းရပ်မင်းသား၏အတ္ထုပ္ပတ္တိ'၊ 'ဂရိတို့၏သမိုင်း' ဟူ၍ဖြစ်သည်။



စစ်သည်တသောင်းနှင့် ပင်လယ်နက်သို့ဆုတ်ခွာနိုင်ခဲ့သဖြင့် နတ်များဂုဏ်ကျေးဇူးကို ဒူးကျိုးနေသည့် ဇင်းနိုဖန်

## ရှေးမြန်မာတို့အရေးထားဆက်သွယ်ခဲ့သောမြို့

မြန်မာအမျိုးသမီးများ တန်ဖိုးထား၍ ဝတ်ဆင်လေ့ရှိသော ဇင်းမယ်လုံချည်ထုတ်လုပ်ရာဌာနမှာ ရှေးက မြန်မာနိုင်ငံခြားရေးရာတွင် အလေးတမူ အရေးယူခဲ့ရသော ဒေသလည်း ဖြစ်ခဲ့သည်။

**ဇင်းမယ်**။ ။ဇင်းမယ်သည် ထိုင်း (ယိုးဒယား) နိုင်ငံ မြောက်ပိုင်းရှိ မြို့ကြီးတမြို့ဖြစ်၍၊ မြန်မာနိုင်ငံ ပြည်မြို့ အရှေ့စူးစူး လောင်ဂျီတွဒ် ၉၉° ၌မျဉ်းတပြေးတည်းတည်ရှိသည်။ မြန်မာနိုင်ငံနယ်စပ်အရှေ့ဖက် မိုင် ၈၀ အကွာတွင် တည်ရှိ၍၊ ထိုင်းအခေါ်ဖြင့် ချီအန်းမိုင်းဟု တွင်လေသည်။ ဇင်းမယ်သည် ယခုအခါ ထိုင်း (ယိုးဒယား) နိုင်ငံ၏ မြို့ကြီးတမြို့ဖြစ်နေသော်လည်း၊ ရှေးအခါကမူ ကိုယ့်မင်းကိုယ့်ချင်းနှင့် လွတ်လပ်သောပြည်နယ်ကလေးတခုဖြစ်၍၊

လာအိုလူမျိုးတို့၏ဒေသဖြစ်၏။ ဇင်းမယ်ကို ခရစ် ၁၂၉၆ ခုနှစ်တွင် ဘုရင်မိုင်းရဲက စတင်တည်ထောင်ခဲ့သည်။ မြန်မာဘုရင်များ လက်ထက်က ဇင်းမယ်ကို တိုက်ခိုက်သိမ်းသွင်း၍၊ လက်အောက်ခံ ပြည်နယ်အဖြစ် ထားခဲ့ဘူးသည်။ ဇင်းမယ် ပုန်ကန်သဖြင့် သွားရောက်နှိမ်နင်းခဲ့ရသည်လည်း ရှိသည်။ ထိုပြင် ဇင်းမယ်သည် ယိုးဒယားမင်းလက်အောက်သို့ကျရောက်ခဲ့သည့်အခါလည်း ရှိခဲ့လေသည်။

ဇင်းမယ်မြို့ဟောင်းသည် စတုရန်းမိုင် ၄ မိုင်မျှကျယ်ဝန်း၏။ ပျက်စီးယိုယွင်းနေသော မြို့ရိုးကြီးများရံလျက်ယနေ့တိုင်တွေ့နိုင်သေးသည်။ သို့သော်ယခုအခါ ဇင်းမယ်မြို့သည် မြို့ရိုးအပြင်ဖက်သို့ရောက်အောင် တိုးတက်စည်ကားလာခဲ့ရာ၊ စီးပွားရေးရပ်ကွက်ပင် မြို့ရိုး အပြင်ဖက်တွင် ရောက်ရှိနေပေတော့သည်။ ဇင်းမယ်မြို့သည် ကျွန်းသစ်ကုန်ကူးရာဌာနအဖြစ်ဖြင့်လည်း အရေးပါသည်။ ဇင်းမယ်မြို့မှ လမ်းကြီးလမ်းငယ်အသွယ်သွယ်တို့ ဖြာထွက်လျက်ရှိသဖြင့် ရှေးအခါကစ၍ တရုပ်၊ မြန်မာ၊ ယိုးဒယား၊ ရှမ်းကုန်သည်တို့ဆုံရာ ဗဟိုဌာနဖြစ်ခဲ့သည်။ ဇင်းမယ်မြို့သည် မဲနမ်မြစ်၏ မြစ်လက်တက်လေးခုအနက် တခုဖြစ်သော မဲပင်မြစ်ပေါ်တွင်တည်ရှိသည်။ ဗန်ကောက်မြို့တော်မှလာသော ၄၆၇ မိုင်ရှည်သည့်မီးရထားလမ်းဆုံးမြို့ဖြစ်၍၊ ရှမ်းပြည်နယ်ကို ယိုးဒယားနိုင်ငံမြောက်ပိုင်းနှင့် ဆက်သွယ်သော ကုန်းလမ်းများဆုံရာဌာနလည်းဖြစ်သည်။ ဇင်းမယ်မြို့သည် ထိုင်းနိုင်ငံ၏ အနောက်မြောက်ပိုင်းဖြစ်သော ဇင်းမယ်ပြည်နယ်၏ တိုင်းမင်းကြီး ရုံးစိုက်ရာမြို့ ဖြစ်သည်။ ဇင်းမယ်ပြည်နယ်သည် စတုရန်းမိုင်ပေါင်း ၈၈၃၉ မိုင်ရှိ၍၊ လူဦးရေ ၅၅၀,၀၀၀ ယောက်ခန့်ရှိသည်။

သစ်တောထူထပ်သော တောင်ကြီးများဖြင့် ဝန်းရံလျက်ရှိသည့် ဇင်းမယ်မြို့တည်ရာ ချိုင့်ဝှမ်းဒေသမှာ မြေသြဇာအတန်ကောင်း၏။ ဆန်စပါးသည် အဓိကသီးနှံဖြစ်၍၊ အခြားသီးနှံများမှာ ပဲ၊ ဆေးနှင့် ဝါဂွမ်းဖြစ်သည်။ ဇင်းမယ်တွင်နေထိုင်သူများမှာ လာအို၊ ယိုးဒယား၊ တရုပ်နှင့် ရှမ်းတို့ဖြစ်သည်။ ယခုအခါ လာအိုနှင့် ယိုးဒယားတို့မှာ ကွဲပြားခြားနားမှု မရှိသလောက်ပင်ဖြစ်၏။ ဥရောပတိုက်သားအချို့တို့သည်လည်း သစ်လုပ်ငန်း၊ သာသနာပြုလုပ်ငန်း၊ သံအဖွဲ့ ဥပဒေဆိုင်ရာလုပ်ငန်း စသည်တို့အတွက်နေထိုင်လျက်ရှိကြသည်။

ဇင်းမယ်နှင့် မြန်မာနိုင်ငံ ဆက်သွယ်ခဲ့ပုံကား ပုဂံခေတ်အနော်ရထာမင်းစောသည် ဇင်းမယ်တဝိုက်ကို တိုက်ခိုက်သိမ်းယူခဲ့ဘူးသည်ဆို၏။ ထိုနောက် ဟံသာဝတီဆင်ဖြူများရှင် ဘုရင့်နောင်လက်ထက် ဒုတိယမြန်မာနိုင်ငံတော်ကိုစည်းရုံးရာ၌ ဇင်းမယ်ကိုအောင်မြင်၍ မြန်မာတပ်များအားအစောင့်အနေထားခဲ့ဘူးသည်။ ဇင်းမယ်မှ ပညာသည်တို့ကိုခေါ်ယူခဲ့၍၊ ဟံသာဝတီတွင် အကွက်အရပ်ချပေးနေစေသည်။ ထိုအချိန်မှစ၍ ယွန်းထည်အလုပ် တတ်ကျွမ်းသူတို့ရောက်လာဟန်ရှိသည်ဟု နိုင်ငံသမိုင်းဆရာတို့က ယူဆကြသည်။ ဘုရင့်နောင်လက်ထက်၌ပင် ဇင်းမယ်နှင့်နီးစပ်ရာဒေသများမှာ မငြိမ်မသက်ရှိ၍ အကြိမ်ကြိမ်သွားရောက်နှိမ်နင်းခဲ့ရသည်။ မြန်မာဘုရင်များလက်ထက်တွင် အစဉ်အလာအားဖြင့် ဇင်းမယ်၌ အမြဲတစေ အထောက်တော်များ ထားရှိခဲ့သည်။

သက္ကရာဇ် ၉၂၆ ခုနှစ် (ခရစ် ၁၅၆၄ ခုနှစ်) တွင် ဇင်းမယ်သောင်းကျန်း၍ ချီတက်တိုက်ခိုက်ရပြီးလျှင်၊ မဟာဒေဝီကိုမင်းပြုစေခဲ့သည်။ ၉၄၀ ပြည့်နှစ်တွင် မဟာဒေဝီလွန်သဖြင့် ဘုရင့်နောင်သည် သားတော်နော်ရထာစောအား ဇင်းမယ်ကို ပေးတော်မူသည်။

ညောင်ရမ်းဆက် ပြည်မင်းလက်ထက် သက္ကရာဇ် ၁၀၂၄ ခုနှစ်တွင် ဇင်းမယ်ကို ယိုးဒယားတို့ကတဖန်တိုက်ခိုက်သိမ်းပိုက်သဖြင့်၊ မြန်မာတို့ချီတက်ခဲ့ကြပြန်ရာ၊ ယိုးဒယားတို့ကစီးမိပြန်သဖြင့် တပ်တော်များဆုတ်ခွာခဲ့ရသည်။ ၁၀၂၆ ခုနှစ်၌ ယိုးဒယားတို့ ဇင်းမယ်တွင်မနေနိုင်၍ ဆုတ်ခွာသောအခါတွင်မှ ဇင်းမယ်ကို မြန်မာတို့ပြန်ရသည်။

ဘိုးတော်ဘုရားလက်ထက် သက္ကရာဇ် ၁၁၅၉ ခုနှစ် (ခရစ် ၁၇၉၇ ခုနှစ်) တွင် လကွန်းစား ကာဝိလသည် ဇင်းမယ်သို့ဝင်၍ မြို့ပြသစ် တည်ထောင်နေသည်နှင့် တပ်တော်များစေလွှတ်ရပြန်ရာ၊ ယိုးဒယားတို့က ဇင်းမယ်ဖက်မှကူသဖြင့် အရေးမလှချေ။ ဘိုးတော်ဘုရားလက်ထက်တွင် ယိုးဒယားသို့ အကြိမ်ကြိမ် ချီတက်လုပ်ကြံခဲ့သော်လည်း၊ ဇင်းမယ်အပါအဝင် ယိုးဒယားပြည်သားတို့သည် မြန်မာလွှမ်းမိုးမှုမှအပြီးတိုင်လွတ်မြောက်လိုသည်တကြောင်း၊ အနောက်နိုင်ငံသားတို့နှင့်ပေါင်းသင်းမိ၍ လက်နက် ခဲယမ်းများ ကောင်းစွာရရှိကြသည်တကြောင်း၊ မြန်မာတို့၏ စီမံခန့်ခွဲမှု ပေါ့လျော့သည်ကြောင့်တကြောင်း၊ မြန်မာတို့စစ်ရေးရှုံးခဲ့သည်ဟုဆိုသည်။ ယင်းအချိန်မှစ၍ ဇင်းမယ်သည် ယိုးဒယားနိုင်ငံ၏ အစိတ်အပိုင်းတခု ဖြစ်ခဲ့သည်။

ထိုနောက် ခရစ် ၁၈၆၇ ခုနှစ်တွင် အမေရိကန် ပရက်ဇဗီတီးရီးယန်း သာသနာပြုအဖွဲ့သည် ဇင်းမယ်သို့ စတင်ရောက်ရှိလာပြီးလျှင်၊ ကောလိပ်၊ ဆေးရုံ၊ ကုဋ္ဌနူနာရုံ စသည်တို့ကိုတည်ထောင်ခဲ့သည်။ ဗရင်ဂျီဂိုဏ်းကလည်း စာသင်ကျောင်းနှစ်ကျောင်းတည်ထောင်ထားခဲ့လေသည်။ ဗြိတိသျှကုမ္ပဏီကြီး ၂ ခုသည် ဇင်းမယ်တွင် သစ်လုပ်ငန်းကိုလုပ်ကိုင်လျက်ရှိသည်။

ဇင်းမယ်ရှိဘုရားစေတီတို့၏ ပုံသဏ္ဍာန်မှာ မြန်မာဘုရားစေတီတို့၏ပုံသဏ္ဍာန်နှင့်တူကြသည်။ ယွန်းထည်လုပ်ငန်းသည် အထူးကြီးကျယ်သော လုပ်ငန်းတခုဖြစ်၍၊ မြန်မာ

တို့ကဲ့သို့ပင် ကွမ်းအစ်၊ သပိတ်၊ သေတ္တာ၊ ဗျပ်စသည်တို့ကို ပြုလုပ်သည်။

ထိုလုပ်ငန်းများအပြင် ပိုးထည်အများအပြားကိုလည်း ဇင်းမယ်တွင်ရက်လုပ်ကြသည်။ ဇင်းမယ်လုံချည်မှာ မြန်မာအမျိုးသမီးလောကတွင် ယခုထက်တိုင် ခေတ်စားလျက်ရှိသည်။ ကြေးဖြင့်လုပ်သော ဟင်္သာရုပ်၊ ခြင်္သေ့ရုပ်၊ ဆင်ရုပ်စ သည့် အ လေး တို့ ကို လည်း ပြု လုပ် ရောင်း ချ ကြ လေသည်။

**ဇာတ်ကြီးဆယ်ဘွဲ့**။ ။ဇာတ်ဆိုသည်မှာ ဇာတကဆိုသော ပါဠိစကားမှ ရွေ့လျောလာသော စကားဖြစ်သည်။ ဖြစ်ပျက်သောအကြောင်းအရာဟု အဓိပ္ပါယ်ရသည်။

မြတ်စွာဘုရားသခင် ဟောကြားတော်မူသော နိကာယ်ငါးရပ်အနက် ခုဒ္ဒကနိကာယ်တွင် ပါရှိသော ပါဠိဇာတ်တော်၌ မြတ်စွာဘုရား ဖြစ်တော်ပေါင်း ၅၄၇ ဇာတ်ကို ဟောကြားတော်မူခဲ့သည်။ သို့ရာတွင် အခေါ်ရလွယ်ကူအောင် ဇာတ်ပေါင်း ၅၅၀ ဟု ခေါ်ကြသည်။ ထိုဇာတ်တော်များကို ပါဝင်သော ဂါထာဦးရေအလိုက် နိပါတ်အားဖြင့် ၂၂ ပိုင်းခွဲခြားထားပြန်ရာ၊ ဇာတ်တော်ကြီး ၁၀ ဘွဲ့ကို မဟာနိပါတ်တွင်ထည့်သွင်းထားသည်။ မဟာနိပါတ်ဆိုသည်မှာ နိပါတ်ကြီးဖြစ်၍၊ ပါဝင်သောဂါထာဦးရေလည်း များပြားလေသည်။

ဇာတ်တော်ကြီး ၁၀ ဘွဲ့မှာ တေမိ၊ ဇနက၊ သုဝဏ္ဏသာမ၊ နေမိ၊ မဟောသဓ၊ ဘူရိဒတ်၊ စန္ဒကုမာရ၊ နာရဒ၊ ဝိဓုရနှင့် ဝေဿန္တရာဇာတ်တော်ကြီးများ ဖြစ်ကြသည်။ ထိုဇာတ်တော်ကြီး ၁၀ ဘွဲ့ကို အလွယ်တကူမှတ်သားနားလည်စေရန် မြန်မာတို့က တေ၊ ဇ၊ သု၊ နေ၊ မ၊ ဘူ၊ စံ၊ နာ၊ ဝိ၊ ဝေဟူ၍ အက္ခရာသင်္ကေတဖြင့် မှတ်သားကြသည်။

အချို့ဇာတ်တော်ကြီးများကို စကားပရိယာယ်တမျိုးဖြင့်လည်းခေါ်ဝေါ်ကြသေး၏။ ဥပမာအားဖြင့်၊ သုဝဏ္ဏသာမဇာတ်ကို သုဝဏ္ဏသျှမ်၊ မဟောသဓဇာတ်ကို ဥမင်၊ စန္ဒကုမာရဇာတ်ကို ခဏ္ဍဟာလ၊ ဝေဿန္တရာဇာတ်ကိုကား ဂါထာတထောင်ရှိသဖြင့် သဟဿန္တိဇာတ်ဟူ၍ အသီးအသီးခေါ်ကြသည်။

မြတ်စွာဘုရားသခင်သည် ပိဋကတ်သုံးပုံကို မာဂဓ ဘာသာဖြင့် ဟောကြားတော်မူခဲ့သည်။ မြတ်စွာဘုရားသခင် ပရိနိဗ္ဗာန်စံတော်မူသည်မှ နှစ်ပေါင်း ၄၃၀ ခန့်အကြာတွင် ရာဇဂြိုဟ်ပြည်သား အရှင်ဗုဒ္ဓဃောသ မထေရ်မြတ်သည် သီဟိုဠ်ကျွန်း အနုရာဓမြို့ တောင်ဖက်ရှိ မဟာဝိဟာရ ကျောင်းကြီး၌ သီတင်းသုံးနေတော်မူစဉ် ပါဠိဇာတ်များ၏ အဖွင့်ဖြစ်သော ဇာတ်အဋ္ဌကထာများကို မာဂဓဘာသာဖြင့် ပြုစုတော်မူခဲ့သည်။

ထိုအရှင်ဗုဒ္ဓဃောသမထေရ် ပြုစုတော်မူခဲ့သော ပါဠိအဋ္ဌကထာများသည် အခြားပိဋကကျမ်းတော်များနှင့်အတူ သာသနာတော် ၉၃၀ ကျော်၌ပင် သီဟိုဠ်ကျွန်းမှ မြန်မာနိုင်ငံ အောက်ပိုင်း သထုံပြည်သို့ ရောက်ရှိလာခဲ့လေသည်။ ထိုနောက် သာသနာနှစ် ၁၆၀၁ ခု (သက္ကရာဇ် ၄၁၉ ခုနှစ်) တွင် ပုဂံပြည့်ရှင် အနော်ရထာမင်းက သထုံပြည်ကိုသိမ်းယူသည်မှအစ မြန်မာနိုင်ငံတဝှန်းလုံးသို့ တဖြည်းဖြည်း ပျံ့နှံ့သွားလေသည်။

ကုန်းဘောင်ခေတ်မတိုင်မီကပင် ဇာတ်တော်ကြီးများကို အဋ္ဌကထာနိသျ ဖွင့်ဆိုခဲ့ကြသည်ဟု အဆိုရှိသည်။ ကုန်းဘောင်ခေတ် ဆင်ဖြူရှင်မင်းလက်ထက် သက္ကရာဇ် ၁၁၂၅–၁၁၃၈ ခုနှစ်အတွင်း ပင်းတလဲမြို့စီရင်စု လည်းကူးမရွာဇာတိဖြစ်သော ဒန့်တိုင်ဆရာတော် ရှင်ဂုဏလင်္ကာရမထေရ်သည် ဇာတ်တော်ကြီး ၁၀ ဘွဲ့ကို အဋ္ဌကထာနိသျအဖြစ် ပြန်ဆိုခဲ့သည်။

တဖန်ဘိုးတော်ဘုရားလက်ထက် မြန်မာသက္ကရာဇ် ၁၁၄၈ ခုနှစ်တွင် ပုခန်းကြီးမြို့စီရင်စု ဝက်ခုတ်ရွာဇာတိ မဏိသာရမေဓာမဟာဓမ္မရာဇဂုရုတံဆိပ်တော်ရ ဝက်ခုတ်ဆရာတော်ဘုရားသည် ဇာတ်ကြီး ၁၀ ဘွဲ့ အဋ္ဌကထာနိသျများကို စီရင်တော်မူလေသည်။ အချို့က ဒန့်တိုင်ဆရာတော်စီရင်တော်မူခဲ့သော နိသျများကို နိသျသစ်ဟုခေါ်ကြသည်။ သို့ရာတွင် ယင်းနိသျကျမ်းများ၏ပဏာမနှင့် နိဂုံးများတွင်ကား နိသျဟူ၍ သာ မန် မျှ သာ ဖော်ပြ ထား လေ သည်။ ယခုအခါ ပုံနှိပ်ရောင်းချလျက်ရှိကြသော ဇာတ်အဋ္ဌကထာနိသျများမှာ ဒန့်တိုင်ဆရာတော်၏ မူများဖြစ် ကြ သည်။ မည်သို့ဆိုစေကာမူ၊ ဤနိသျကျမ်းများသည် ပါဠိတချက်အနက်တချက်ရေးသားထားသော နိ သျ ပြန် အ ဖွင့် ကျမ်းများ သာ ဖြစ်၍၊ မြန်မာ စကားပြေကျမ်း အခြေသို့ကား မရောက်သေးချေ။

ဘိုးတော်ဘုရားလက်ထက် သက္ကရာဇ် ၁၁၄၄ ခုနှစ်မှစ၍ မင်းဘူးဆရာတော် ဦးဩဘာသအရှင်သည် ဇာတ်တော်ကြီး ၁၀ စောင်အနက် သုဝဏ္ဏသာမဇာတ်နှင့် ဘူရိဒတ်ဇာတ်တော်များမှတပါး ကျန်ဇာတ်တော်ကြီးများကို မြန်မာစကားပြေသက်သက်ဖြင့် စီကုံးရေးသားတော်မူလေသည်။

သုဝဏ္ဏသာမဇာတ်တော်ကို မင်းဘူးမြို့ ရန်ကုန်ဆရာတော်၏တပည့် အသျှင်ဦးပညာတိက္ခဆရာတော်က ပြန်ဆိုရေးသားခဲ့၍၊ ဘူရိဒတ်ဇာတ်တော်ကြီး ဝတ္ထုကိုကား ဦးဩဘာသဆရာတော်၏တပည့် နန္ဒမေဓာဆရာတော်က ပြန်ဆိုရေးသားခဲ့သည်။

ထိုဇာတ်တော်ကြီးများ ပြန်ဆိုပြုစုတော်မူခဲ့သော ဆရာတော်များနှင့် ပြုစုသောခုနှစ်များကိုပါ နောက်မျက်နှာတွင် ဇယားနှင့်ဖော်ပြထားသည်။

| ဇာတ်တော်ကြီးအမည် | ပြုစုသည့်ဆရာတော် | ကျမ်းပြီးသက္ကရာဇ် | တောင်းပန်လျှောက်ထားသူ |
|---|---|---|---|
| တေမိ | ဦးဩဘာသဆရာတော် | ၁၁၄၈ ခု တပို့တွဲလ | ကျောင်းတကာ မောင်ဝ |
| ဇနက | ,, | ၁၁၄၇ ခု နယုန်လ | ကျောင်းတကာမောင်ဝ၏သား မောင်ထောက် |
| သုဝဏ္ဏသာမ | အသျှင်ပညာတိက္ခ ဆရာတော် | ၁၁၈၈ ခု နယုန်လ | စာရေးတော်ကြီး မောင်သာ |
| နေမိ | ဦးဩဘာသဆရာတော် | ၁၁၄၈ ခု ဝါဆိုလ | |
| မဟောသဓ | ,, | ၁၁၄၆ ခု တန်ဆောင်မုန်းလ | မောင်ထောက် |
| ဘူရိဒတ် | အသျှင်နန္ဒမေဓာ ဆရာတော် | ၁၁၄၈ ခု နတ်တော်လ | ဥက္ကံသ ရှင်သာမဏေ |
| စန္ဒကုမာရ | ဦးဩဘာသဆရာတော် | ၁၁၄၄ ခု ပြာသိုလ | မောင်ထောက် |
| နာရဒ | ,, | ၁၁၄၄ ခု တန်ခူးလ | မောင်ထောက် |
| ဝိဓုရ | ,, | ၁၁၄၅ ခု ဝါခေါင်လ | မောင်ထောက် |
| ဝေဿန္တရာ | ,, | ၁၁၄၅ ခု တပေါင်းလ | မောင်ထောက် |

ဤသို့ မြန်မာစကားပြေသက်သက်ဖြင့် ရေးသားပြန်ဆိုလိုက်သဖြင့် ဇာတ်တော်ကြီးဆယ်စောင်ကို ရှင်လူအများအလွယ်တကူ ဖတ်ရှုလေ့လာနိုင်ကြသည်။ ဦးဩဘာသဆရာတော်သည် ဇာတ်တော်ကြီးများကို ချောမွေ့ပြေပြစ်သောစကားလုံးတို့ဖြင့် တန်ဆာဆင်၍ရေးသားထားရကား ဖတ်ရှုမငြီးဖွယ်ရာ ဖြစ်သည်။ ထိုကြောင့် ဤဇာတ်ကြီးဆယ်ဘွဲ့ ဝတ္ထုများကို ဘုရားဟော ဒေသနာ အဖြစ်ဖြင့် လေ့လာနိုင်ရုံမျှမက စံပြုထိုက်သော မြန်မာစကားပြေအနေဖြင့်လည်း လေ့လာဖတ်ရှုနိုင်ပေသည်။ ဦးဩဘာသ၏ မြန်မာစကားပြေမှာ ရှေးပုဂံခေတ်ကပေါ်ပေါက်ခဲ့သော ဓမ္မဝိလာသဓမ္မသတ်ကျမ်း၏စကားပြေများထက်ငှင်း၊ သဃ်နာထဆရာတော်၏ မဏိကုဏ္ဍလဝတ္ထု၊ တောင်ဖီလာဆရာတော်၏ ယသဝဍ္ဎနဝတ္ထုစကားပြေများထက်ငှင်း ကျစ်လစ်သိပ်သည်းပြေပြစ်သည်။ (ဩဘာသ၊ ဦး၊ မင်းဘူးဆရာတော် — လည်းရှု။)

မြန်မာလူမျိုးတို့သည် ဇာတ်ကြီးဆယ်ဘွဲ့ကို အလွန်နှစ်သက်ကြသည်။ ငယ်စဉ်က ပုံဝတ္ထုအဖြစ်ဖြင့် နားထောင်ခဲ့ကြရသည်။ အတန်ငယ်ကြီးပြင်းလာသောအရွယ်၌ ဇာတ်နိပါတ်ခင်းသည်တို့ကို ကြည့်ရှုမှတ်သားခဲ့ကြရသည်။ စာပေဖတ်ရှုလေ့လာနိုင်သောအရွယ်၌ စကားပြေအဖြစ်ဖြင့်ငှင်း၊ ပျို့ကဗျာလင်္ကာအဖြစ်ဖြင့်ငှင်း ဖတ်ရှုလေ့လာကြလေသည်။ မြန်မာလူမျိုးတို့သည် ဇာတ်ကြီးဆယ်ဘွဲ့ကို ထိုမျှနှစ်သက်ကြရကား၊ နေ့စဉ်ပြောဆိုသုံးနှုန်းသောစကားများ၌ပင် ဇာတ်ကြီးဆယ်ဘွဲ့ထဲမှ သက်ဆိုင်ရာကို ပုံနှိုင်းပြောဆိုလေ့ရှိကြသည်။ ပမာဆိုသော်၊ အစားကြီးသူကို ဇူဇကာဟူ၍ငှင်း၊ အပေးအကမ်းရက်ရောသူကို ဝေဿန္တရာဟူ၍ငှင်း၊ စကားနည်းသူကို တေမိဟူ၍ငှင်း တင်စားပြောဆိုကြသည်။

အင်းဝခေတ်၌ မြန်မာစကားပြေသက်သက်ဖြင့်ရေးသားခဲ့သော ဇာတ်တော်ကြီးများကို မတွေ့ရှိရချေ။ သို့သော် ရဟန်းပုဂ္ဂိုလ် လူပုဂ္ဂိုလ်တို့က ပျို့ကဗျာလင်္ကာများဖြင့်စီကုံးဖွဲ့ဆိုခဲ့ကြသည်ကို တွေ့ကြရသည်။ ကုန်းဘောင်ခေတ်နောက်ပိုင်းသို့ ရောက်သောအခါတွင်မူကား၊ ဇာတ်ကြီးဆယ်စောင်လုံးလိုလိုပင် ပျို့လင်္ကာဖြင့်ရေးပြီးဖြစ်လေသည်။ ထိုမျှမကသေး၊ ဇာတ်ကြီး ဆယ်ဘွဲ့ကို တရားစာ၊ ဇာတ်စကား၊ ရကန်၊ ဟောစာ စသော လင်္ကာနည်းအသီးသီးတို့ဖြင့် ဖွဲ့ခြီးစပ်ဆိုခဲ့ကြလေသည်။

**ဇာတ်ပွဲဇာတ်ရုံ။** ။ဇာတ်၊ အငြိမ့်၊ ရုပ်သေး၊ ယိမ်းစသည်တို့အပြင်၊ မျက်လှည့်ပြခြင်း၊ လက်ဝှေ့ထိုးခြင်းစသည်တို့ကိုပြသခြင်းကိုခြုံ၍ ပွဲဟုခေါ်သည်။ ထိုပွဲသဘင်များကျင်းပရာနေရာကို ယေဘုယျအားဖြင့် ပွဲရုံ၊ ဇာတ်ရုံဟုခေါ်လေသည်။

ဇာတ်ရုံတို့၏တိုးတက်ဖြစ်ထွန်းလာပုံအစဉ်ကိုပြဆိုလိုလျှင် ဂရိနှင့် ရောမခေတ်တို့တွင်ထွန်းကားခဲ့သော ဇာတ်ပွဲဇာတ်ရုံများမှအစပြု၍ ပြဆိုရပေမည်။ ဂရိဇာတ်ပွဲများသည် မူလက ရှေးမြန်မာပွဲသဘင်များ ဆင်ယင်ကျင်းပကြဘိသကဲ့သို့ မြေဝိုင်းဇာတ်မှ တဆင့်တဆင့် တိုးတက်ပြုပြင်ပြောင်းလဲလာကြသည်။ ရှေးဂရိဇာတ်ပွဲတို့တွင် ဇာတ်ရုံဟုအမိုးအကာနှင့်ကျနစွာ ဆောက်လုပ်ထားခြင်းမရှိချေ။

တောင်ကုန်းနှင့်နီးသော မြေကွက်လပ်တခုတွင် နေရာယူ၍ ဇာတ်ခင်းပြသကြသည်။ တောင်ကုန်းဘေးတွင် ပွဲကြည့်ပရိသတ်တို့ ထိုင်စရာခုံတန်းများကို အဆင့်ဆင့်တည်ဆောက်ကြသည်။ ဇာတ်ပွဲကျင်းပရာနေရာတို့မှာ များသောအားဖြင့် လူဦးရေထောင်ပေါင်းများစွာ ဆံ့သောနေရာများဖြစ်သည်။ ဇာတ်ပွဲ၌ပါဝင် ကပြသူများသည် ပရိသတ်၏ရှေ့တွင် စက်ဝိုင်းသဏ္ဍာန် သတ်မှတ်ထားသော အော်ကက်စထရာခေါ် နေရာတွင်ကပြရသည်။ ထိုစက်ဝိုင်း၏နောက်၌မူ ဆယ်ပေခန့်မြင့်သောဇာတ်ခုံရှိသည်။ ဇာတ်ခုံ၏နောက်ပိုင်းအဆုံးတွင် ကန့်လန့်ကာရှိ၍၊ ထိုကန့်လန့်ကာနောက်ပိုင်း၌ ဇာတ်တွင်ပါဝင်ကပြသူတို့သည် အင်္ကျီအဝတ်အစားဆင်ယင်ကြသည်။ ကပြသူတို့အဖို့ မျက်နှာဖုံးသည် အဝတ်အစားကဲ့သို့ အရေးပါအရာရောက်ပေသည်။ မျက်နှာဖုံးများမှာ အဝေးမှကြည့်သောပရိသတ်အတွက် မျက်နှာပုံပန်း ထင်ရှားစေရန် ရည်ရွယ်သော သဘောပါသည်။ မျက်နှာဖုံးနှင့်ကပြသူတို့ သီဆိုသည့်အခါ၊ သီဆိုလိုက်သောအသံကို အဝေးမှပရိသတ်တို့ကြားနိုင်စေရန်၊ မျက်နှာဖုံးကို အသံဟိန်းအောင် စီမံပြုပြင်ထားရသည်။

ဂရိဇာတ်ပွဲများကို နေ့အခါ၌သာ ကပြသဖြင့် အလင်းရောင်ရရန် စီမံဘို့မလိုပေ။ အခန်း (မြင်ကွင်း) များကိုလည်း ပြောင်းလဲခြင်းမရှိလှဘဲ၊ ဇာတ်ရုံတွင်လည်း ကားလိပ်ကားချပ်များ မရှိချေ။ မိုးချုန်းသံကိုဖန်တီးပေးရန်ငင်း၊ ကပြသူတို့ ကောင်းကင်၌ပျံဝဲပုံကို ကပြနိုင်စေရန်ငင်း စက်ကရိယာနှင့် ကောင်းကင်ကြိုးများကို စက်မောင်းတခုဖြင့် အရံသင့်ထားရှိရသည်။ ကပြသူအားလုံးမှာလည်း ယောကျ်ားချည်းဖြစ်၍၊ မိန်းမခန်းများအတွက်မူ လူငယ်များကို မိန်းမသဏ္ဍာန် ကပြစေကြလေသည်။

ရောမလူမျိုးတို့၏ဇာတ်ရုံများမှာ ဂရိတို့ဇာတ်ရုံကိုအတုယူလျက် မွမ်းမံဆောက်လုပ်ထားသောဇာတ်ရုံများဖြစ်၏။ ရောမတို့သည် ထိုင်ခုံများကို တောင်စောင်းတွင်မထားဘဲ၊ လှေကားထစ်များကဲ့သို့ ဆင့်ကဲဆင့်ကဲ အတန်းများပြုလုပ်ထားလေသည်။ အော်ကက်စထရာနေရာကို ကပြရန်အတွက် အသုံးမပြုသဲ၊ ဂုဏ်သရေရှိပုဂ္ဂိုလ်များ ထိုင်ရာခုံများအဖြစ်ပြုလုပ်ထား၏။ ဇာတ်စင်ကိုလည်း နိမ့်၍ ပိုမိုကျယ်ဝန်းလာအောင် စီမံလေသည်။

အနောက်နိုင်ငံတို့တွင် ၁၇ နှင့် ၁၈ ရာစုနှစ်အတွင်း ပြဇာတ်များအတွက် အခမ်းအနားအခင်းအကျင်းကို အရေးပေးလာကြသည်။ ထိုကြောင့် ဇာတ်ရုံများ၏ အခင်းအကျင်းမှာ အထူးတိုးတက်လာပေသည်။ ဣတလီနိုင်ငံအော်ပရာဇာတ်ရုံများမှာ အခင်းအကျင်းဖက်၌ အထူးတိုး



ခေတ်သစ်ဇာတ်ရုံ၏ ရှေးပြေး ဂရိဇာတ်ရုံ
ရှေ့မှ စက်ဝိုင်းသဏ္ဍာန်မြေနေရာမှာ ဇာတ်ကပြရန် သတ်မှတ်ထားသည့် နေရာဖြစ်၍ ဇာတ်ရုံလာပရိသတ်အတွက် တောင်ကုန်းဘေးတွင် ထိုင်ခုံအဆင့်ဆင့် ဆောက်လုပ်ထားလေသည်။



**ယခုခေတ် ဇာတ်ရုံ**

**ယခုခေတ် ဇာတ်ပွဲဇာတ်ရုံ အပြင်အဆင် အခင်းအကျင်းတို့မှာ များစွာ ထယ်ဝါခန့်ညားလှသည်။ အလင်းနှင့်အမှောင်ကိုရှင်း အခန်းအပြောင်း အလဲများကိုရှင်း လျှပ်စစ်ဓာတ် ဆလိုက်မီးဖြင့် လိုသလိုပြုပြင်ပေးနိုင်လေသည်။**

တက်လာတော့၏။ ၁၉ ရာစုနှစ်အတွင်း၌ မီလန်နှင့် နေပယ် မြို့များရှိ ပြဇာတ်ရုံများကို ကြီးကျယ်ခမ်းနားစွာဆောက် လုပ်ခဲ့လေသည်။ ဣတလီနိုင်ငံကိုအတုယူလျက် ပြင်သစ်၊ ဂျာမနီ၊ အင်္ဂလိပ်၊ အမေရိကန်နိုင်ငံများကလည်း ကြီးကျယ် ခမ်းနားသောဇာတ်ရုံများကို ဆောက်လုပ်လာကြ၏။

ယင်းသို့ဖြင့် တစတစတိုးတက်လာခဲ့ရာ၊ ယခုအခါ အ နောက်နိုင်ငံရှိ ဇာတ်ရုံများတွင် အခမ်းအနား အပြင်အဆင် အခင်းအကျင်းတို့မှာ များစွာထည်ဝါခန့်ညားလာတော့၏။ အင်္ဂလန်ပြည်တွင် ၁၅၇၆ ခုနှစ်တွင် ဂျိမ်း ဗားဗေ့ဆိုသူ ဆောက်ခဲ့သော ပဌမဦးဆုံးဇာတ်ရုံနှင့် ရှိုင်ယယ် အော်ပရာ ဟောက်စ (တော်ဝင်ပြဇာတ်ရုံ) ခေါ် လန်ဒန်ဇာတ်ရုံကြီး တို့ကိုရှင်း၊ ၁၇၆၆ ခုနှစ်တွင် ဖိလဒဲဖီးယားမြို့၌ဆောက်ခဲ့ သော အမေရိကန်ပြည်ထောင်စု၏ ပဌမဦးဆုံး အတည် တကျဇာတ်ရုံနှင့် ယနေ့အမေရိကန်ပြည်ထောင်စုရှိ ဇာတ်ရုံ တို့၏အခြေအနေများကိုရှင်း နှိုင်းရှည့်ကြည့်လျှင် သိသာ ထင်ရှားပေမည်။ ယခုခေတ် ဇာတ်ရုံများရှိ ဇာတ်စင် များကို လျှပ်စစ်ဓာတ်အားဖြင့် နှိမ့်နိုင် မြှင့်နိုင်၏။ အခန်း အပြောင်းအလဲများတွင်လည်း ဆလိုက်မီးအမျိုးမျိုးကို လိုသလိုထိုးပေးနိုင်၏။ ပွဲကြည့်ပရိသတ်အတွက်လည်း အေး ချမ်းသာယာစွာကြည့်နိုင်ရန် ခေတ်မှီသောစံနစ်ဖြင့်ဆောက် လုပ်ထားလေသည်။ ထိုင်ခုံများကိုလည်း ဆိုဖာကြီးများ အထိဖြစ်လာအောင်ပြုပြင်ခဲ့ကြ၏။ ပရိသတ်အအေးဓာတ် ရရန် လေရဟတ်များကိုပင်မသုံးတော့ဘဲ၊ ရုံတွင်း၌ အအေး အပူဓာတ်ပေးထားသည်ထိ တိုးတက်လာပေသည်။

ယခုခေတ်ရှိဇာတ်ရုံတရုံတွင် အဓိကနေရာနှစ်မျိုးရှိသည်။ ကပြသူများအတွက် ဇာတ်စင်နှင့် ပွဲကြည့်သူတို့အတွက် နေရာတို့ဖြစ်၏။ ပွဲကြည့်သူတို့၏နေရာမှာ ကျယ်ဝန်း၏။ ဇာတ်စင်ကို ကောင်းစွာမြင်နိုင်ရန် ထိုင်ခုံများ တန်းစီထား သည့်ကြမ်းပြင်ကိုလည်း ဆင်ခြေလျှော ပြုလုပ်ထားလေ သည်။ ဇာတ်ရုံဝတွင် လက်မှတ်ရောင်းရာဌာနရှိ၏။ ပွဲကြည့် ပရိသတ်၏ရှေ့တည့်တည့်တွင် ဇာတ်စင်ရှိလေသည်။ ယင်း မှာ စင်မြင့်ကလေးဖြစ်၍ ပရိသတ်ဖက်သို့မျက်နှာပြုထား၏။ ဇာတ်စင်ပေါ်တွင် ကားလိပ်များ ဆွဲချိတ်ထားလေသည်။ စင်၏ဘေးနှစ်ဖက်၌ ပန်းချီအရုပ်ကားများကို အလှအပ အဖြစ်ဆွဲချိတ်ထား၏။ ဇာတ်စင်၏နောက်ဖက်တွင် ဇာတ် တွင် ပါဝင်ကပြသူများ အဝတ်လဲခန်းနှင့် ပစ္စည်းထားခန်း များရှိလေသည်။ တူရိယာသမားများကမူ ဇာတ်စင်နှင့် ပရိသတ်အကြားတွင် နေရလေသည်။

အနောက်နိုင်ငံဇာတ်ပွဲဇာတ်ရုံများ အဆင့်ဆင့်တိုးတက် လာမှုကိုတွေ့မြင်ရပြီးနောက်၊ မြန်မာနိုင်ငံ၏ဇာတ်ပွဲ ဇာတ်



**အမိုးအကာမဲ့ မြန်မာမြေဝိုင်းဇာတ်**

**မြန်မာမြေဝိုင်းဇာတ်တွင် အမိုးအကာနှင့်ဇာတ်ခုံ မပါရှိပေ။ ညပွဲတွင် ဇာတ်ကသည့် နေရာအလယ်၌ ငရန်ချေး မီးတိုင်များ ဝိုင်းကာ ထွန်းညှိထားလေသည်။**

ရုံသမိုင်းကိုလေ့လာရပေမည်။ ရွှေဘုံနိဒါန်းတွင် မြန်မာဘုရင်များ၏ နန်းတွင်း အဆောင်အယောင်များနှင့်ပတ်သက်၍ ဖော်ပြရာ၌ သဘင်နန်းဆောင်အကြောင်းကို ဖော်ပြထားသည်ကိုတွေ့ရ၏။ ယင်းသဘင်နန်းသည် အနောက်အတွင်းတော်တွင် ပွဲသဘင်ခံလျှင် ရှုတော်မူရာဖြစ်ပေသည်။ ၎င်းသဘင်နန်းဆောင်၏အပြင်ဖက်တွင် ဇာတ်ရုံတော်ကြီးလည်း ရှိလေသည်။ ထိုနန်းတွင်းဇာတ်ရုံများတွင် ဇာတ်စင်များ ရှိနှင့်ပြီးဖြစ်၍၊ ယင်းတို့ မည်သည့်ခေတ်လောက်ကစ၍ပေါ်ပေါက်လာသည်ကိုမူ အတိအကျ မသိရပေ။ သို့သော် သဘင်ဝန်ဦးနု၏အလိုအရ မြန်မာတို့တွင် ပြောစမှတ်စကားတခုရှိသည်ဟု ဆို၏။ ဇာတ်ကို အနိမ့်သဘင်ခေါ်၍၊ ရုပ်သေးကို အမြင့်သဘင်ခေါ်သည်။ ထိုအနိမ့်သဘင် ကသော ဇာတ်သမားများသည် ရုပ်သေးစင်ပေါ် တက်၍ ကပြလျှင်၊ ပတ်မသံသည် ရင်ပတ်ကိုလာ၍ ဆောင့်သည်ဟု ပြောစမှတ်ရှိသည်။ ထိုပြောစမှတ်စကားကိုထောက်လျှင်၊ ဇာတ်စင်များသည် ရုပ်သေးစင် (ဝါ) ရုပ်စုံစင်များ၏နောက်မှပေါ်ပေါက်သည်ဟုယူဆရချိမ့်မည်။ သဘင်ဝန်ဦးနု၏အလိုအရ၊ ရုပ်သေးမှာ ကုန်းဘောင်ခေတ် ဘိုးတော်ဘုရားလက်ထက်တွင် သဘင်ဝန်ဦးသော်နှင့် မြဝတီမင်းကြီး၏ အစီအမံတို့ဖြင့် တိုးတက်ထွန်းကားလာခဲ့ရသည်ဟုဆိုလေသည်။ (ရုပ်သေး — ရှု။)

ရုပ်စုံစင်မှာ မျက်နှာစာ ၇ ပင် ၆ ခန်း၊ ၅ တောင်ခန်း ပန္နက်ချ၊ နောက်က ၅ ပင် ၄ ခန်းဖြစ်၏။ ရှေ့ပန္နက်နှင့် နောက်ပန္နက်အကွာအဝေးမှာ အတောင် ၂၀ ရှိရသည်။ ဘေးနှစ်ဖက်မှာ ရှေ့မျက်နှာစာထောင့်နှင့် နောက်တိုင်ထောင့်ကို ရှူးသွားရ၏။ စင်၏အမြင့်ကို ပရိသတ်ကြည့်ရှုကောင်းစေရန် ရှေ့နိမ့်နောက်မြင့်ထားသည်။ နောက်ဖက်အမြင့်မှာ လေးတောင်ရှိ၍၊ ရှေ့ဖက်တွင် သုံးတောင်ထွာ အမြင့်ထား၏။ ရှေ့မျက်နှာစာမှ နှစ်တောင်အကွာတွင် လက်ရန်းတိုင်များ နှစ်ပိုင်းခွဲစိုက်ထားသည်။ ထိုနှစ်ပိုင်း၏ လက်ရန်းတိုင်ထိပ်တိုင်တခုနှင့်တခု အကွာအဝေးကို နှစ်တောင်ခြားထား၏။ ထိုလက်ရန်းတွင် ကန့်လန့်ကာများကို လကျာဖက်ကန့်လန့်ကာက လက်ဝဲဖက် တိုင်ထိပ်ကိုဖုံးအောင် ကာထားသည်။ လက်နှစ်ခုကြားက အပေါက်ကို မင်းပေါက်ဟုခေါ်သည်။ ထိုမင်းပေါက်ရှေ့တည့်တည့်တွင် လှေကားတပ်ထားရာ၊ ထိုလှေခါးကို တော်ကောက်သော အကြီးအကဲများသာအသုံးပြုရသည်။ ဝဲဖက်သမားများမှာ ဝဲဖက်မှ ခုံခု၍တက်ရ၏။ ယာဖက်သမားများမှာ ယာဖက်မှ ခုံခု၍တက်ရ၏။ ရုပ်စုံများကိုလည်း လက်ဝဲရုပ်စုံကို လက်ဝဲသေတ္တာမှထုတ်၍၊ လက်ဝဲဖက်တွင်ချိတ်ရပြီးလျှင်၊ လကျာဖက်သေတ္တာမှလကျာရုပ်ကိုထုတ်၍ လကျာဖက်တွင်ချိတ်ရလေသည်။ ရုပ်စုံစင်၏ထောင့်နှစ်ထောင့်တွင် ရာဇမတ်တခုစီကာရ၏။ သိုင်းလေးလက် ဘွဲ့ဖြူချီလျက်၊ ကျည်တောက်နှင့် ရုပ်စုံစင်၏အရှေ့တိုင်မှချီစိုက်ရသည်။ စင်မှာ ကြာယပ် ၂ ထပ် ဆွဲထားလေသည်။

ကုန်းဘောင်ခေတ် နောက်ပိုင်းတွင် နန်းတွင်းဇာတ်ရုံတို့၏ အခြေအနေမှာ တစတစ ပြုပြင်ပြောင်းလဲ တိုးတက်ကောင်းမွန်လာခဲ့လေသည်။ ကုန်းဘောင်မင်းဆက် နောက်ဆုံး စိုးစံရာ မန္တလေးမြို့ရှိ နန်းတော်တွင်း အဆောင်အယောင် အခမ်းအနားများကိုထောက်ရှု၍၎င်း၊ ဘုရင့်ဆွေတော်မျိုးတော်တို့၏ပြောပြချက်အရ၎င်း နန်းတွင်းဇာတ်ရုံတော်ကြီးများတွင် ကားလိပ်ကားဆွဲခမ်းနားပုံ၊ စက်ကြိုးယန္တရားများတပ်ဆင်ထားပုံတို့ကိုသိရပေသည်။ ကုန်းဘောင်ခေတ်နောက်ဆုံးလောက်တွင် မီးမောင်းများပင် ထိုး၍ကပြခဲ့

သည်ဟူ၍လည်းအဆိုရှိသည်။ နန်းတွင်းပြသည့် ရာမဇာတ်တော်ကြီးတွင် မယ်သီတာကို ဒသဂီရိခိုးခန်း၌ စက်ကြိုးယန္တရားတပ်ဆင်သည့် ပန်းရထားပုံနှင့်တင်ဆောင်ခိုးသွားခြင်း၊ သုကြိတ်ဗာလီတို့ အခန်းတွင် ကျောက်ဂူ တောင်ခေါင်းကို ဖြိုခွဲရာ၌ ဖောက်ကား ခွဲကားများကို ခလုတ်ဆင်၍ သုံးစွဲခြင်း၊ မြေလျှိုးပေါ်လာခြင်း စသည်တို့ကိုပင်ပြသလာခဲ့သည်ဟုလည်း ဆိုကြ၏။

ယင်းသို့ နန်းတွင်းရှိဇာတ်ပွဲဇာတ်ရုံတို့မှာ တစတစ တိုးတက်လာသည့်တိုင်အောင် တနိုင်ငံလုံးခြုံ၍ကြည့်လျှင်၊ခရိုင်မြို့နယ်တို့မှာ မြေဝိုင်းဇာတ်သဘင်နှင့်သာ ရောင့်ရဲတင်းတိမ်နေသည်ကိုတွေ့ရ၏။ မြေဝိုင်းဇာတ်ကို မြေသလင်းပြောင်ပြောင် ကွင်းပြင်ကျယ်ကျယ်တွင်ဖြစ်စေ၊ လယ်များရိတ်ပြီးချိန်၌ လယ်ကွင်းပြင်၌ဖြစ်စေ ကပြလေ့ရှိသည်။ မြေဝိုင်းဇာတ်၏အဆင်အပြင်မှာ မြေပေါ်တွင် ဖျာကြမ်းများခင်းထား၏။ ထိုဖျာကြမ်းများ၏ရှေ့ပိုင်း သုံးပုံနှစ်ပုံခန့်ကို ကပြရန်နေရာ သတ်မှတ်ထားလေသည်။ အလယ်တွင် ရေနံချေး မီးတိုင်များဝိုင်းကာ မီးထွန်းညှိထား၏။ ထိုမီးတိုင်မှာ လူ၏ ရင်ခေါင်းလောက်မြင့်သော ဝါးလုံးကို မြေတွင်စိုက်၍ ထိပ်မှဖွာရရာခွဲစိတ်လျက် ရေနံချေးအင်တုံငယ်ညှပ်ထည့်ထားသည်။ ရေနံချေးအင်တုံတွင် မြိတ်ဆာများထည့်စိမ်လျက် မီးထွန်းညှိခြင်းဖြစ်သည်။ ကကွင်း၏အလယ်ကျသောတိုင်တွင် သပြေခက်များ ဆဲ့နှစ်ရာသီကိုင်းများစုစည်းစိုက်ထားသည်။ ဖျာနောက်ပိုင်း ကျန်နေရာဖြစ်သော သုံးပုံတပုံတွင် ဆိုင်းဝိုင်းများထား၏။ ဆိုင်းဝိုင်းပတ်ဝန်းကျင်တွင် မင်းသား၊ မင်းသားကြီး၊ ရှင်ဘုရင်၊ ဝန်ကြီးလက်စွဲတော် စသော ဇာတ်သမားများက တဖက်၊ ပွဲဦးထွက် အပျိုတော်၊ မင်းသမီး စသော ဇာတ်သူတို့ကတဖက်နေရာယူ၍ ဖြီးလိမ်းပြင်ဆင်ရသည်။ အကာအကွယ်မရှိပေ။ ဆိုင်းနှင့်လူများနောက်ဖက်၌ အမြင့်လေးတောင်နှစ်မိုက်ခန့် တုတ် ၂ ချောင်းစိုက်၍၊ တိုင်ထိပ် ၂ ခုပေါ်တွင် ငုတ်တိုင်ကလေးများပါသောတန်းတင်ထား၏။ ထိုတန်းရှိငုတ်ကလေးများတွင် ဆင်ခေါင်း၊ မြင်းဇခေါင်း၊ ငှက်ခေါင်း၊ ဘီလူးခေါင်းများချိတ်ဆွဲရသည်။ ၁၂၆၀ ပြည့်မတိုင်မီက ထိုခေါင်းများသာရှိသော်လည်း၊ နောက်ပိုင်းတွင် မျောက်ခေါင်း၊ ကျေးခေါင်း၊ ဂဠုန်ခေါင်း၊ ဆင်ခေါင်း၊ ကျားခေါင်း၊ နဂါးခေါင်းတို့ပါထည့်သွင်းလာလေသည်။ စိုက်ထားသောတိုင် ၂ ခု၏အလယ်တွင် ငုတ် ၂ ဖက်စိုက်၍ ဓားများ၊လေးများ၊ ကြိမ်လုံးများ စသည်တို့ကို ကန့်လန့်တင်ထား၏။ ဇာတ်ကမည့်မျက်နှာစာဖျာပေါ်၌ ဆိုင်းဝိုင်းအနီးမှကပ်၍၊ ဇာတ်သေတ္တာကြီးတခုချထားသည်။ ထိုသေတ္တာကြီးမှာ



**တိုးတက်လာသည့် မြန်မာဇာတ်ရုံ**

မြေဝိုင်းဇာတ်မှ တဆင့်တိုးတက်ကာ ဇာတ်ခုံဇာတ်ရုံထိုး၍ ကပြလာသောအခါ လသာမှန်အိမ်နှင့်တောကားမြို့ကား၊ နန်းတော်ကားစသည့် လိပ်ကား ဆွဲကားများ အသုံးပြုလာကြောင်း ပုံတွင်တွေ့မြင်နိုင်ပေသည်။

မြေဝိုင်း ဇာတ်သဘင်တွင် အသွင်အမျိုးမျိုး ဆောင်ရာဖြစ်သည်။ ရှင်ဘုရင်ထိုင်လျှင် ရာဇပလ္လင်ဖြစ်၏။ ရသေ့ရဟန်းထိုင်လျှင် ကျောင်းသခ်မ်းဖြစ်၏။ သဌေးထိုင်လျှင် တိုက်အိမ်ကြီးဖြစ်၍၊ မင်းသမီးထိုင်လျှင် တပင်တိုင်မြနန်းဖြစ်ကာ၊ သိကြားမင်းထိုင်လျှင် ဝေဇယန္တာနတ်နန်းဟု အမှတ်သညာပြုရသည်။ မြေဝိုင်းဇာတ်တွင် အပြင်အဆင် အခမ်းအနားများ ထူးထူးခြားခြားမရှိသော်လည်း၊ ဇာတ်ကောင်တို့၏ သရုပ်အမူအရာဖြင့် လိုရာပုံကို ကြည့်သူပရိသတ်တွင် ထင်မြင်ယုံကြည်လာစေနိုင်ပေသည်။

ထို့မှတဆင့် ရေနံချေးမီးခွက်များအစား လသာမှန်အိမ်များနှင့်သားနားလာ၏။ ထိုခေတ်တွင် ရန်ကုန်၊ မန္တလေး စသောမြို့ကြီးများတွင် လူထုကြည့်ရန် လသာမှန်အိမ်နှင့် ဇာတ်ခုံမြင့်များ၊ တောကားမြို့ကား၊ နန်းတော်ကား စသည့် ကားလိပ် ၃၊ ၄ကားနှင့် ဇာတ်ပွဲဇာတ်ရုံများပေါ်ပေါက် တိုးတက်လာလေသည်။ ပဌမဦးဆုံး ဇာတ်စင်ဇာတ်ခုံထိုး၍ကပြသောမင်းသားမှာ ဦးဘဆင်ဖြစ်သည်ဟု ပြောကြ၏။ ဇာတ်ခုံဇာတ်စင်ဆောက်လုပ်ပုံမှာ ရုပ်သေးစင်ကဲ့သို့ စင်မြင့်ပင်ဖြစ်သော်လည်း၊ အမြင့်အားဖြင့် နှစ်တောင်သာမြင့်သည်။ ဆိုင်းဝိုင်းနှင့်အညီ ရှိစေရန်ဖြစ်၏။ အမိုးမှာ အမြင့် ၁၂ တောင်၊ အလျားအနံစတုရန်း ၁၂ တောင်အကျယ်မိုးကာ၍ ဇာတ်ခုံထိုးသည်။ ဇာတ်အဖွဲ့ဝင်များနေထိုင်ပြင်ဆင်ရန် ၇ တောင်အကျယ်ကို ဇာတ်ခုံတွင် စွယ်ချမိုးကာထားရှိလေသည်။ ဤဇာတ်စင်များမှာမူလက လဟာပြင်ဇာတ်စင်များပင်ဖြစ်၏။

ဇာတ်ခုံ ဇာတ်စင် ပေါ်၌ အစပဌမက လက်ဖက်ရည်ကားဟုခေါ်သော ပန်းချီထည်ကားကို တပ်ဆင်ကာ ပြင်ဆင်ထားလေသည်။ ထိုလက်ဖက်ရည်ကားမှာ လိပ်၍ဆွဲတင်ရသော ကားမဟုတ်ပေ။ မူသေထားသော ကားတကားသာ ဖြစ်သည်။ ထိုနောက်မှ လိပ်ကား ဆွဲကားများဖြစ်လာသည်။ မူလက လက်ဖက်ရည်ကားတွင် ကျုံး၊ မြို့ရိုးပုံများကိုရေး၏။ ထိုနောက် မြိုင်ထနှစ်ပါးသွားအတွက် တောကား တောင်ကားများရေးလာ၏။ ထိုနောက် ထီးနန်းဆိုင်ရာ ရာဇပလ္လင်ကားများကိုရေးသားလာကြလေသည်။ ဤသို့အားဖြင့် ဇာတ်ခုံဇာတ်စင်၏အဆင်အပြင်များမှာ တစတစတိုးတက်ပြောင်းလဲလာ၏။

ယင်းသို့တိုးတက်လာသည့်နောက်ပိုင်း၌ ဇာတ်များကို ရုံပွဲသွင်း၍ ကပြသည့်အလေ့ ပေါ်လာ၏။ ဦးဖိုးစိန်သည် ရှေးဦးစွာ ရုံပွဲကို မန္တလေးမြို့ အိမ်တော်ရာဘုရားအနီး ဘုရားငုတ်တိုအတွင်း ဖျာရိုင်စသည်ကာ၍ ကပြခဲ့လေသည်။ ထိုသို့ရုံပွဲသွင်းသည့်အလေ့ ပေါ်လာသည့်အတွက် အမြို့မြို့အရွာရွာတွင် ဇာတ်ပွဲဇာတ်ရုံများဆောက်လုပ်ကာ ရုံပွဲသွင်းလာလေသည်။

ထိုသို့ဇာတ်ရုံများ နိုင်ငံအတွင်း ဆောက်လုပ်လာခဲ့သည့်အချိန်တွင် မြန်မာဇာတ်သဘင်အဆင့်အတန်းကို တိုးချဲ့လိုသော ဇာတ်မင်းသားဦးဖိုးစိန်သည် အိန္ဒိယသို့သွားခဲ့၏။ အိန္ဒိယသို့ရောက်သည်တွင် ရွှက်ထည်ရုံကြီးများကို တွေ့မြင်ရသဖြင့် နှစ်သက်အဘောကျကာ မဒရပ်မြို့မှ ရွှက်ထည်ရုံတရုံအတွက် ငွေ ၃၀၀၀ ကျပ်ပေး၍ မှာယူခဲ့၏။ မန္တလေးမြို့ ရွှေတိုက်ဝင်းအတွင်း၌ ပဌမအစပြု၍ ရွှက်ထည်ရုံဖြင့် ပွဲကပြလေသည်။ ထိုနောက် မြန်မာနိုင်ငံအနှံ့ အပြား ဦးဖိုးစိန်ကပြရာ နေရာတို့၌၊ ထိုရွှက်ထည်ရုံကြီးကိုထိုး၍ ကပြသည်ကို တွေ့နိုင်ပေသည်။

ထိုသို့ မြန်မာ့ဇာတ်ပွဲဇာတ်ရုံခေတ်သည် တစတစတိုးတက်လာခဲ့ရာ၊ ယခုအခါ ဇာက်ရုံကြီးများ၏အခမ်းအနားအပြင်အဆင်များမှာ ကမ္ဘာ့အရပ်ရပ်မှ ဇာတ်ပွဲဇာတ်ရုံများကို အတုယူလျက် ဆင်ပြင်ထားရှိကြပေသည်။ ဆုံလည်စသောဇာတ်စင်နှင့် ဇာတ်ခုံတို့မှာလည်း တိုးတက်လျက်အနောက်နိုင်ငံဇာတ်ခုံများ၏အဆင့်အတန်းကိုမှီလျက်ရှိ၏။ ဇာတ်ခုံတွင်လည်း ပန်းချီကားများ ဆန်းကြယ်စွာတီထွင်ခြယ်လှယ်လာကြ၏။ မိုးရွာဟန် လေကြီးမိုးကြီးကျဟန်၊ မီးလောင်ဟန်များကိုလည်း ပုံပြင်ဖန်တီး လာနိုင်ကြ၏။ သို့သော် မြန်မာနိုင်ငံအရပ်ရပ်၌ အမြဲတမ်းဆောက်လုပ်ထားသော ဇာတ်ပွဲဇာတ်ရုံများကား ရှားလှသည်။ မြို့ကြီးများတွင်သာရှိပေသည်။ စစ်ပြီးခေတ်တွင် ဇာတ်ရုံများထက် ရုပ်ရှင်ရုံများက ပို၍တိုးတက် များပြားလာသည်ကို တွေ့ရ၏။ ယခုအခါ မြန်မာနိုင်ငံ မြို့တိုင်းလိုလို၌ ရုပ်ရှင်ရုံများရှိလာပေသည်။ မြန်မာဇာတ်ပွဲများနှင့် ပြဇာတ်များကိုကပြရာ၌ ထိုရုပ်ရှင်ရုံရှိ ဇာတ်စင်ကိုပင် ပြန်လည်ပြုပြင်၍ အသုံးချကြရသည်။

**ဇန်ဇီဗာကျွန်း**။ ။ဇန်ဇီဗာကျွန်းသည် အာဖရိကတိုက်အရှေ့ဖက်၊ တောင်လတ္တီတွဒ် ၆° တွင်တည်ရှိသည်။ အာဖရိကတိုက်မှ မိုင်ပေါင်း ၂၂ မိုင်ခွဲခန့် ကွာဝေးသည်။ အာဖရိကကမ်းခြေရှိ သန္တာကျွန်းများအနက် အကြီးဆုံးကျွန်းဖြစ်သည်။ အလျားအားဖြင့် မိုင် ၅၀၊ အနံအားဖြင့် ၂၄ မိုင်ခန့်ရှိ၍၊ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၆၄၀ ခန့်ရှိသည်။ ဇန်ဇီဗာ၏အရှေ့မြောက်ဖက်တွင် အလျား ၄၂ မိုင်၊ အနံ ၁၄ မိုင်ရှိ၍၊ စတုရန်းမိုင် ၃၈၀ ခန့်ကျယ်သော ပင်းဗာကျွန်းတည်ရှိသည်။ ပင်းဗာ အပါအဝင် ဇန်ဇီဗာကျွန်းသည် ဗြိတိသျှစောင့်ရှောက်ခံနယ်ဖြစ်သည်။ ၁၉၄၈ ခုနှစ်သန်ကောင်စာရင်းအရ ဇန်ဇီဗာကျွန်း၌ လူဦးရေ ၁၄၉,၅၇၅ ယောက်ရှိ၍၊ ပင်းဗာ၌ ၁၁၄,၅၈၇ ယောက်ရှိသည်။ ယင်းနှစ်ရပ်ပေါင်း လူဦးရေတွင် အာဖရိကလူမျိုး ၁၉၉,၉၇၅ ယောက်၊ အာရပ်လူမျိုး ၄၄,၅၆၀ ယောက်၊ အိန္ဒိယလူမျိုး



ဇန်ဇီဗာမြို့ရှိ စည်ကားသော လမ်းတလမ်း

၁၅,၇၉၂ ယောက်၊ ဥရောပလူမျိုး ၂၉၆ ယောက်၊ အခြား လူမျိုး ၃,၄၃၉ ယောက်ရှိသည်။ မြို့တော်မှာ ဇန်ဇီဗာမြို့ပင် ဖြစ်၍၊ လူဦးရေ ၄၅,၂၇၅ ယောက်ရှိသည်။

၁၆ ရာစုနှစ်တွင် ပေါ်တူဂီလူမျိုးများသည် ဇန်ဇီဗာ ကျွန်း၌ ကုန်ရောင်း ကုန်ဝယ်ဌာနတခု တည်ထောင်ကာ အခြေစိုက်ခဲ့ကြသည်။ သို့ရာတွင် ဇန်ဇီဗာကျွန်းအရှေ့ဖက် ကမ်းရိုးတန်းရှိ အာရပ်လူမျိုးတို့သည် အာဖရိကတိုက်တွင် နေထိုင်သောအာရပ်အမျိုးသားများ၏အကူအညီဖြင့် ပေါ် တူဂီလူမျိုးတို့ကိုနှင်ထုတ်လိုက်ကြသည်။ ၁၈၃၂ ခုနှစ်တွင် အာရပ်တို့သည် ဇန်ဇီဗာမြို့ကို ဇန်ဇီဗာကျွန်း၏မြို့တော် အဖြစ်သမုတ်၍၊ သီးခြားနယ်တည်ထောင်ကြသည်။ သို့ရာတွင် ၁၈၅၆ ခုနှစ်သို့ရောက်မှပင်၊ ဇန်ဇီဗာကျွန်းသည် အာဖရိကတိုက်မှ သီးခြားလွတ်လပ်သော ဒိုမီနီယန် နိုင်ငံဖြစ်လာသည်။ ၁၈၉၀ ပြည့်နှစ်၌မူ၊ ပြင်သစ်နှင့် ဂျာမန်တို့က ဇန်ဇီဗာနှင့် ပင်းဗာကျွန်းများတွင် ဗြိတိသျှ တို့၏အကျိုးခံစားခွင့်ရှိသည်ဟု အသိအမှတ် ပြုလိုက်သော ကြောင့် ပင်းဗာအပါအဝင် ဇန်ဇီဗာကျွန်းမှာ ဗြိတိသျှ စောင့်ရှောက်ခံနယ် ဖြစ်လာလေသည်။ အုပ်ချုပ်ရေးမှာ စူလတန်နှင့် ဗြိတိသျှကိုယ်စားလှယ်တို့ ပူးတွဲအုပ်ချုပ်သော စံနစ်ဖြစ်သည်။ ၁၉၂၆ ခုနှစ်တွင် အမှုဆောင်ကောင်စီနှင့် ဥပဒေပြုကောင်စီဟု အဖွဲ့နှစ်ဖွဲ့နှင့်အုပ်ချုပ်သော စံနစ်ဖြစ် ပေါ်လာသည်။ အမှုဆောင်ကောင်စီဥက္ကဋ္ဌမှာ စိုးစံသူစူလ တန်ဖြစ်၍၊ ဥပဒေပြုကောင်စီဥက္ကဋ္ဌမှာ ဗြိတိသျှကိုယ်စား လှယ်ဖြစ်သည်။ တရားစီရင်ရေးမှာမူ ဗြိတိသျှနိုင်ငံရှိ ဗြိတိသျှ ဟိုက်ကုတ်တရားရုံးတော်တို့ လက်အောက်တွင်တည်ရှိသည်။

ဇန်ဇီဗာစောင့်ရှောက်ခံနယ်တွင် လေးညှင်းစိုက်ပျိုးခြင်း သည် အဓိကလုပ်ငန်းဖြစ်၍၊ အများအားဖြင့် အာရပ်နှင့် အိန္ဒိယလူမျိုးတို့၏လက်တွင်း၌ရှိသည်။ နိုင်ငံ၏စီးပွားရေး အားဖြင့် ဒုတိယအရေးပါသောလုပ်ငန်းမှာ အုန်းပင်စိုက်ပျိုး ရေးဖြစ်သည်။ အုန်းခွံ၊ အုန်းဆီ၊ ဆပ်ပြာနှင့် အုန်းမှထွက် သော အခြားပစ္စည်းတို့သည် ဤကျွန်း၏ထွက်ကုန်များဖြစ် ကြသည်။

ဒုတိယကမ္ဘာစစ်ကြီးအပြီးတွင် လုပ်ငန်းသစ်တရပ် ထွန်း ပေါ်လာခဲ့သည်။ ယင်းမှာ ကနစိုခေါက်ကိုခွာ၍ထွက် ကုန်အဖြစ်နှင့် တင်ပို့သည့်လုပ်ငန်းဖြစ်သည်။ အသီးအနှံ တို့မှာ ဆန်စပါး၊ လိမ်မော်၊ နာနတ်၊ သဘော်သီး၊ သရက်သီး စသည်တို့ဖြစ်ကြသည်။ ထို့ပြင် ဇန်ဇီဗာကျွန်း သည် ကမ္ဘာပေါ်တွင် ဆင်စွယ်အများဆုံးထွက်ရာအရပ်ဖြစ် သည်။ ဇန်ဇီဗာမြို့မှာ နှစ်စဉ် ပင်လယ်ကူးသင်္ဘော ၃၀၀ ခန့်ဝင်ထွက်ရာ ဆိပ်ကမ်းမြို့ဖြစ်လေသည်။

ဇုန်။ ။ကျွန်ုပ်တို့မှီတင်းနေထိုင်ရာကမ္ဘာကြီးသည် အပူအအေးကိုလိုက်၍ သဘာဝအားဖြင့် အပိုင်းကြီးငါးပိုင်းကွဲပြားခြားနားလျက်ရှိသည်။ ထိုအပိုင်းကြီးငါးပိုင်းကို ပထဝီဝင်ဝေါဟာရအားဖြင့် ဇုန်ကြီးငါးဇုန်ဟုခေါ်ကြသည်။ ဇုန်မှာ အင်္ဂလိပ်ဝေါဟာရ ဖြစ်သည်။ မြန်မာလို ရပ်ဝန်းဟူ၍ ခေါ်ဆိုရန် ပညာရှင်တို့က သတ်မှတ်ထားသည်။

၌ အရှေ့လေတိုက်ခတ်သည်။ ရှေးအခါက ရွက်သင်္ဘောဖြင့် ကူးသန်းသွားကြသောကုန်သည်များသည် ဤလေကိုအထူးမှီခိုအားထားခဲ့ရသည်။ ထိုကြောင့် ဤလေကို 'ကုန်သည်လေ' ဟုခေါ်ကြသည်။

အီကွေတာတောင်ဖက်တွင်တိုက်ခတ်နေသော ကုန်သည်လေကို အရှေ့တောင် ကုန်သည်လေဟူ၍၎င်း၊ အီကွေတာ




**အပူအအေးကိုလိုက်၍ ကမ္ဘာကိုပိုင်းခြားထားသော ဇုန်ကြီး ၅ ဇုန်**

အီကွေတာ၏ မြောက်ဖက် ၂၃° ၂၇' (၂၃ ဒီဂရီ ၂၇ မိနစ်) နှင့် အီကွေတာ၏တောင်ဖက် ၂၃° ၂၇' လတ္တီတွဒ်မျဉ်းပြိုင်အတွင်းရှိအပိုင်းသည် ကမ္ဘာပေါ်တွင် အပူဆုံးဒေသဖြစ်သဖြင့် အပူပိုင်းဇုန်ဟုခေါ်သည်။ တနည်းအားဖြင့်ဆိုလျှင် အီကွေတာ၏တောင်ဖက်ရှိ တောင်ယဉ်စွန်းတန်းမှ အီကွေတာ၏မြောက်ဖက်ရှိ မြောက်ယဉ်စွန်းတန်းအတွင်းရှိဒေသကို အပူပိုင်းဇုန်ဟုခေါ်သည်။

တောင်ဖက်ဝင်ရိုးစွန်းမှဖြစ်စေ၊ မြောက်ဖက်ဝင်ရိုးစွန်းမှဖြစ်စေ ၆၆° ၃၃' လတ္တီတွဒ်မျဉ်းပြိုင်အတွင်းရှိဒေသများမှာ အေးသောဒေသများ ဖြစ်သဖြင့် အအေးပိုင်းဇုန်ဟုခေါ်သည်။ တောင်ဖက် အအေးပိုင်းဇုန်နှင့် အပူပိုင်းဇုန်အတွင်းရှိ ဒေသကို၎င်း၊ မြောက်ဖက် အအေးပိုင်းဇုန်နှင့် အပူပိုင်းဇုန်အတွင်းရှိ အပိုင်းကို၎င်း သမပိုင်းဇုန်ဟုခေါ်သည်။ ထိုကြောင့် ကမ္ဘာပေါ်တွင် အအေးပိုင်းဇုန် ၂ ခုနှင့် သမပိုင်းဇုန် ၂ ခု၊ အပူပိုင်းဇုန်တခု၊ ပေါင်း ဇုန်ကြီးငါးခု ရှိသည်။

ဤဇုန်ကြီးငါးခုအတွင်း၌ တိုက်ခတ်လျက်ရှိသော လေကြောင်းကြီးများလည်းရှိသေးသည်။ အပူပိုင်းဇုန်အတွင်း မြောက်ဖက်တွင်တိုက်ခတ်နေသော ကုန်သည်လေကို အရှေ့မြောက် ကုန်သည်လေဟူ၍၎င်း အသီးသီး ခေါ်ကြသည်။ ဤလေများမှာ အချိန်မှန်တိုက်ခတ်ကြသည်။

မြောက်ယဉ်စွန်းတန်းမှ မြောက်ဖက်သို့၎င်း၊ တောင်ယဉ်စွန်းတန်းမှ တောင်ဖက်သို့၎င်း တိုက်ခတ်သောလေကို အနောက်လေဟုခေါ်သည်။ တနည်းအားဖြင့်ဆိုလျှင် သမပိုင်းဇုန်အတွင်း၌ အနောက်လေများတိုက်ခတ်ကြ၏။ အနောက်လေမှာ ကုန်သည်လေကဲ့သို့ အချိန် မမှန်ချေ။ မြောက်ဝင်ရိုးစွန်းနှင့် တောင်ဝင်ရိုးစွန်းတို့မှ သမပိုင်းဇုန်များဆီသို့ တိုက်ခတ်လာသောလေကို ဝင်ရိုးစွန်းလေဟုခေါ်သည်။ ဤသို့လျှင် ဇုန်ကြီးငါးဇုန်အတွင်း၌ လေကြောင်းကြီး ၃ မျိုးတိုက်ခတ်လျက်ရှိသည်။ (လေတိုက်ခတ်ခြင်း — ရှု။)

**ဇမ်ဗီဇီမြစ်။** ။အိန္ဒိယသမုဒ္ဒရာထဲသို့ စီးဆင်းသော အာဖရိကတိုက်ရှိမြစ်များထဲတွင် ဇမ်ဗီဇီမြစ်သည် အကြီးဆုံးမြစ်ဖြစ်သည်။ မိုင် ၁,၆၀၀ ခန့်ရှည်လျားသည်။ မြစ်ဝမှစ၍ မိုင် ၃၀၀ ခန့်အထိ ပေါ်တူဂီတို့ကပိုင်သည်။ မြစ်ဖျား


ဇမ်ဗီဇီမြစ်စီးဆင်းရာ ဝိတိုရိယရေတံခွန်

ခံရာဒေသမှာ ဗဲလဂျီယန်ကွန်ဂိုနှင့် အန်ဂိုးလားနယ်စပ်ဖြစ်သည်။ ပင်လယ်ရေမျက်နှာပြင်ထက် ပေပေါင်း ၃,၆၀၀ ခန့်မြင့်သောဒေသတွင်မြစ်ဖျားခံ၍၊ ကွေ့ကောက်လျက်စီးဆင်းလာပြီးလျှင် ရိုးဒီးဇီးယားတောင်ပိုင်းနှင့် မြောက်ပိုင်းကိုပိုင်းခြားကာ မိုဇမ်ဗစ်နယ်ကိုဖြတ်၍ စီးဆင်းလေသည်။ ဇမ်ဗီဇီမြစ်ဝကျွန်းပေါ်ဒေသမှာ စတုရန်းမိုင် ၂၅၀၀ ခန့်ကျယ်ဝန်းသည်။ မြစ်သည် အထက်ပိုင်းတွင် ညီညာသောကုန်းမြေပြင်ကို ဖြတ်သန်းလာ၍၊ ဝိတိုရိယ ရေတံခွန်တွင် မြေနိမ့်သို့စီးဆင်းလေသည်။ (ဝိတိုရိယရေတံခွန် — ရှု။) ထိုရေတံခွန်မှာ အလွန်မတ်စောက်၍ နိုင်အဂ္ဂရာ ရေတံခွန်ထက်ပင် ရေစီးသန်သည်။ ဇမ်ဗီဇီမြစ်မှာ နှစ်စဉ်ရေလွှမ်းမိုးခြင်းကြောင့် မြစ်ကမ်းနှစ်ဖက်တို့သည် ရွှံ့ညွန်များဖုံးလွှမ်းလျက်ရှိသဖြင့် မြေဩဇာကောင်းမွန်သည်။ ထိုမြစ်ကြောင်းဖြင့် မိုင် ၄၀၀ ခန့် တေတီမြို့အလွန်အထိ မီးသင်္ဘောဖြင့်သွားလာနိုင်သည်။ ဆေနာမြို့အနီးတွင် မြစ်ကိုဖြတ်၍ ဆောက်လုပ်ထားသော မီးရထားတန်တားမှာ အင်ဂျင်နီယာပညာအောင်မြင်မှုတရပ်ပင် ဖြစ်ပေသည်။

**ဇမ္ဗူ့သပြေပင်။** ။ဇမ္ဗူ့သပြေပင်သည် ဇမ္ဗူဒိပ်ကျွန်းဦးတွင်ပေါက်သော ကမ္ဘာဦးသစ်ပင်ကြီးဖြစ်သည်။ တကမ္ဘာပတ်လုံး တည်နေနိုင်သည့် သစ်ပင်ကြီး ခုနစ်ပင်တွင်ပါဝင်သော သစ်ပင်ကြီးဖြစ်သည်ဟု အင်္ဂုတ္တိုရ်အဋ္ဌကထာ၊ သာရတ္ထသင်္ဂဟာအဋ္ဌကထာတို့တွင်လာသည်။ ထိုကျမ်းဂန်လာစကားအရ ဇမ္ဗူ့သပြေပင်၏အမြင့်အစောက်မှာ ယူဇနာ ၁၀၀၊ ပင်စည်လုံးပတ် ယူဇနာ ၁၅ ရှိသည်ဟူ၏။ ခက်မငါးဖြာရှိ၍၊ အကိုင်းအခက်ယ်ပေါင်းမှာ ရှစ်သောင်းရှိသည်။ အလွန်ထူထပ်သောအရွက်၊ စိပ်သောအရွက်ရှိသည်ဖြစ်၍၊ မိုးပေါက် ဆီးနှင်းပေါက်တို့သည် အတွင်းမဖောက်နိုင်ချေဟူ၍လည်း ဆိုသည်။

ဇမ္ဗူ့သပြေပင်၏အသီးတို့သည် လူတို့တီးသော မရိုးစည်မျှလောက်ရှိကုန်၏။ ပတ္တမြားညိုအဆင်းရှိ၍ ပျားလပို့အရသာကဲ့သို့ လွန်စွာချိုမြိန် ကောင်းမြတ်သော အရသာရှိကုန်သည်။ ထိုအသီးတို့ကို ဆင်ပမာဏရှိသော ငှက်ကြီးတို့သည်ဆွတ်ယူသုံးဆောင်ကုန်၏။ တန်ခိုးကြီးသော ရသေ့ရဟန်းတို့သည်၎င်း၊ ဇော်ဂျီတပသီတို့သည်၎င်း ဆွတ်ယူသုံးဆောင်ကုန်၏။

အရှေ့မျက်နှာ၊ အနောက်မျက်နှာ၊ တောင်မျက်နှာတို့သို့ထွက်သော အကိုင်းအခက်တို့မှသီးသော အသီးတို့သည် ဇမ္ဗူဒိပ်ကျွန်းအပြင်သို့ကျကုန်၏။ မြောက်မျက်နှာသို့ထွက်သော အကိုင်းအခက်မှအသီးတို့သည်ကား သီတာသမုဒ္ဒရာသို့ကျလေကုန်သည်။ သမုဒ္ဒရာသို့ကျသောအသီးတို့ကား ဇမ္ဗူရာဇ်ရွှေစင်အတိချည်း ဖြစ်ကြကုန်၏။ (ဇမ္ဗူရာဇ်ရွှေ — ရှု။) ရွှေမဖြစ်သေးသောအခါ အရသာမျိုးလွန်သည်ဖြစ်၍ ငါးတို့သည်၎င်း၊ နဂါးတို့သည်၎င်း စားကြကုန်၏ဟူ၍ အာဒိကပ္ပကမ္ဘာဦးကျမ်းနှင့် ဇမ္ဗူဒီပစာတမ်းတို့တွင်ဆိုထားလေသည်။

မဟာဝါပါဠိတော်တွင် မြတ်စွာဘုရားသခင်သည် ဥရုဝေဠကဿပတို့အား တရားဟောရွတ်ချတ်တော်မူရန် အလို့ငှာ ဇမ္ဗူ့သပြေပင်မှ သပြေသီးကိုယူဆောင်ခဲ့ပြီးသော် သုံးဆောင်စေသည်ဟူ၍၎င်း၊ သုတ္တန်ပါဠိတော်၌ ရာဇဂြိုဟ်ပြည်သား ရဟန်းနှစ်ပါးနှင့် ရှင်မောဂ္ဂလာန်ထေရ်တို့သည် ဇမ္ဗူ့သပြေပင်မှ သပြေသီးကို ယူဆောင်သုံးဆောင်ကြောင်းကို၎င်း ဖော်ပြထား၏။

ဇမ္ဗူ့သပြေပင်မှအသီးတို့သည် ရေသို့ကြွေကျသောအခါ သာယာသောအသံကိုမြည်၏။ ထိုအသံကိုအစွဲပြု၍ ပြုတ်ပြုတ်မြန်းဟူသော ဗျောသံတူရိယာတီးလုံးသွားကိုဖန်တီးခဲ့ကြသည်ဟုအဆိုရှိသည်။ ဤကိုရည်၍ ရွှေဘုံနိဒါန်းတွင်၊ 'ဝေဠုအညီ၊ စိမ်းလဲ့စိုသား၊ မြင့်မိုထုတ်သန်း၊ မြခါးပန်းမှ၊ မယွန်းပေါ်ထူး၊ မြောက်စူးစူးဝယ်၊ ကျွန်းဦးသပြေ၊ ညွှာမှကြွေသား၊ ကျပေတုံလှာ၊ ရေမျက်နှာထက်၊ သံဝါကျူးလွန်၊ နစ်လေဟန်တူ၊ ပြုတ်ပြုတ်ဟူ၍၊ ပေါ်မူထူးလည်၊ ပြွန်းပြွန်းမြည်ရှင့်၊ နတ်စည်အစ၊ ပေး၍ရသား' ဟူ၍ စပ်ဆိုထားသည်ကို တွေ့ရသည်။

**ဇမ္ဗူဒီပဥဆောင်းကျမ်း။** ။ဇမ္ဗူဒီပဥဆောင်းသည် ဇမ္ဗူဒီပါကျွန်း၏ ဥဆောင်းသဖွယ် မြန်မာနိုင်ငံ၏ပထဝီဝင်နှင့် အုပ်ချုပ်ပုံစံနစ်တို့ကို ဖော်ပြသောကျမ်းဖြစ်သည်။ အပိုင်းသုံးပိုင်းရှိ၏။ ပဌမပိုင်း၌ ရွှေတိဂုံစေတီသမိုင်းမှစ၍ မြန်မာတိုင်းရေးပြည်ရေးဆိုင်ရာ ပထဝီဝင်နှင့်နယ်နိမိတ် စသည်တို့ကိုဖော်ပြသည်။ ဒုတိယပိုင်း၌ ရှမ်းပြည်သမိုင်း၊ ၉၆၃ ခုရွာအချို့တို့၏ အကြောင်းအရာများနှင့် ၉၉၉ ခု အောက် မြန်မာပြည်ဆိုင်ရာ အမိန့်တော်စသည်တို့ကို ဖော်ပြသည်။ တတိယပိုင်း၌ ၉၉၉ ခုမှ ၁၁၀၃ ခုအတွင်းပြုစုသော မြန်မာနိုင်ငံအရပ်ရပ်ဆိုင်ရာ စစ်တမ်းစသည်တို့ကိုဖော်ပြသည်။ ထိုကျမ်းကို မည်သူပြုစုစီရင်သည်ဟူ၍ အသေအချာမသိရချေ။ သို့ရာတွင်နိုင်ငံတော်အုပ်ချုပ်ပုံစံနစ်ကိုသိလို၍စစ်တမ်းရှာဖွေရန် အမိန့်ထုတ်သော အနောက်ဖက်လွန်မင်းတရားကြီး၏အမိန့်တော်ကိုအစွဲပြု၍ဖြစ်ပေါ်လာသော စစ်တမ်း၊ အမှာတမ်း၊ အမိန့်တော်စသည်တို့၏ညွန့်ပေါင်းသည် ဇမ္ဗူဒီပဥဆောင်းကျမ်း ဖြစ်သည်ဟု ယူဆကြ၏။ ဇမ္ဗူဒီပဥဆောင်းကျမ်းတွင် ဘိုးတော်ဘုရား၏ ၁၁၄၅ ခုစစ်တမ်းများ၌ ဖော်ပြသောအကြောင်းအရာ တစုံတခုမျှ မတွေ့ရသည်ကိုထောက်သော်၊ ထိုကျမ်းကို ၁၁၄၅ ခုမတိုင်မီပြုစုစီရင်သည်ဟုယူဆအပ်၏။ ၉၆၃ ခုစစ်တမ်းတခုတွင် ရန်ကုန်မြို့ကိုတွေ့ရာ၊ ယင်းစစ်တမ်းကို နောက်ထပ်တည်းဖြတ်ကြောင်းသိရ၏။ သို့ရာတွင် အကြောင်းအရာအားလုံးကို ခြုံ၍ကြည့်မူ၊ ဇမ္ဗူဒီပဥဆောင်းကျမ်း၌ဖော်ပြသောအုပ်ချုပ်ပုံစံနစ်သည် အင်းဝကို ပဲခူးကမအောင်မြင်မီ မြန်မာမင်းတို့၏အုပ်ချုပ်ပုံစံနစ်ဖြစ်ကြောင်း သိသာ၏။ (မြန်မာမင်းအုပ်ချုပ်ပုံ — လည်းရှု။)

ဤကျမ်းသည် စစ်တမ်းတို့ကိုသာ စုဆောင်းထားသည်မဟုတ်။ အခြားအကြောင်းအရာများကိုလည်းဖော်ပြသည်။ ‘အမိန့်တော်ရှိသည်။ အရပ်ရပ်ရှမ်းပြည်၊ ယွန်းပြည်၊ တရုပ်ပြည် မြို့စား စော်ဘွား ဝန်ကြီး ဝန်ထောက် အခွန်ဝန် စာရေးကြီး ဝင်းမှူး၊ ဆင်မှူးအမှုထမ်းဗိုလ်မှူး၊ တပ်မှူးစစ်ကဲနားခံ တပ်စာရေးအကြီးအကြပ်အကွပ်အကဲတို့’ ဟုအစချီသော ၇၂၉ ခုထုတ်သည့် မင်းကြီးစွာစော်ကဲ၏အမိန့်တော်သည် အထူးမှတ်သားဖွယ်ကောင်း၏။ ဘုရင်မင်းမြတ်၏လွှတ်တော်အမှုထမ်းများသည် ပြေ့ကြီးမှူး၊ စမြောင်မှူး၊ သာရကာအမှူး၊ နားထောက်၊ နားခံ စသည်တို့ဖြစ်ကြောင်းသိရ၏။

‘ရှမ်းပြည် ယွန်းပြည် တလိုင်းပြည်မှစ၍ အရှေ့ကိုလားသော် သံတံတား။ အနောက်ကိုလားသော် ပင်လယ်နား။ တောင်ကိုလားသော် ယိုးဒယား။ မြောက်ကိုလားသော် ရေပေါ်ငါ့နားကြီး။ အက္ကပတ်ကသည်းတို့နေရာလူပေါင်းတို့ကို ရတနာပူရရွှေမြို့ကြီး ရွှေထီးစိုက်ရာ အစိုးရတော်မူသော သီရိသုဓမ္မရာဇာမဟာဓိပတိအမည်တော်ရှိသော ဘဝရှင်မင်းတရားကြီးလက်ထက်’ ဟုအစချီသော ၉၉၉ ခုထုတ်သည့် သာလွန်မင်းတရားကြီး၏အမိန့်တော်သည်လည်း မှတ်ဖွယ်ကောင်း၏။ ကလန် သံပျင် မြေတိုင် မြေထိန်းအစရှိသည်တို့ကို ဖော်ပြ၏။

အဝမင်းလက်ထက် သက္ကရာဇ် ၉၉၉ ခုတွင် နန္ဒသူရ ကူးယူ၍ရှင်းလင်းသည့် စောရဟန်မင်းကြီး လှူတော်မူသော ပေါက္ကံမြစည်းခုံဘုရားသမိုင်း ကျောက်စာကိုလည်း ဇမ္ဗူဒီပဥဆောင်းကျမ်းတွင် ဖတ်ရ၏။ ဦးဖေမောင်တင်

**ဇမ္ဗူဒိပ်ကျွန်း။** ။မဟာဝင်၊ အာဒိကပ္ပကမ္ဘာဦးကျမ်းအစရှိသော မြန်မာကျမ်းဂန်များအရ၊ ကျွန်ုပ်တို့နေထိုင်ရာကမ္ဘာလောကသည် ဇမ္ဗူဒိပ်ကျွန်းဖြစ်သည်။ ဇမ္ဗူဒိပ်ကျွန်းသည် မြင့်မိုရ်တောင်၏ တောင်ဖက်မျက်နှာတွင်ရှိသောကျွန်းကြီးဖြစ်သည်။ ပါဠိဘာသာအားဖြင့် ဇမ္ဗူဒီပကျွန်းဟုခေါ်သည်။ ယင်းကို မြန်မာမှုပြုသော် ဇမ္ဗူဒိပ်ကျွန်းဖြစ်၏။ မြင့်မိုရ်တောင်ကိုဗဟိုပြု၍ အရှေ့ဖက်တွင် ပုဗ္ဗဝိဒေဟကျွန်း၊ အနောက်ဖက်တွင် အပရဂေါယာနကျွန်း၊ တောင်ဖက်တွင် ဇမ္ဗူဒီပကျွန်း၊ မြောက်ဖက်တွင် ဥတ္တရကုရုကျွန်းဟူ၍၊ ကျွန်းကြီးလေးကျွန်းနှင့် အရံကျွန်းငယ် ၂,၀၀၀ ရှိသည်။ ဇမ္ဗူဒိပ်ကျွန်းသားတို့သည် အခြားကျွန်းများသို့ မသွားရောက်နိုင်သကဲ့သို့ အခြားကျွန်းသားတို့သည်လည်း ဇမ္ဗူဒိပ်ကျွန်းသို့မလာရောက်နိုင်ပေ။ ဘုရား ရဟန္တာနှင့် စကြဝတေးမင်းတို့သာလျှင် ကြွသွားနိုင်သည်ဟုဆို၏။

ဇမ္ဗူဒိပ်ကျွန်း၏ပမာဏမှာ အရှေ့မျက်နှာအပြင်သည် ယူဇနာနှစ်ထောင်၊ အနောက်မျက်နှာအပြင်သည် ယူဇနာနှစ်ထောင်၊ မြောက်မျက်နှာအပြင်လည်း ယူဇနာနှစ်ထောင်၊ တောင်မျက်နှာအပြင်သည် ဟူဇနာလေးထောင်ကျယ်သည်။ ထောင့်ကြီးသုံးထောင့်၊ ထောင့်ငယ်သုံးထောင့်ရှိသည်ဖြစ်၍၊ လှည်းဦးနှိုက်ခင်းအပ်သော ကတ်သဏ္ဍာန်ကဲ့သို့တည်သည်။ အချင်းအားဖြင့် ယူဇနာတသောင်း၊ အဝန်းအားဖြင့် ယူဇနာသုံးသောင်း ရှိသည်ဟု လောကပညတ္တိကျမ်း၊ ဆဂတိဒီပနီကျမ်းတို့တွင် လာသည်။ တယူဇနာလျှင်၊ ခုနစ်မိုင်ခန့်ရှိသည်။

ဇမ္ဗူဒိပ်ကျွန်းနှင့် အရံကျွန်းငယ် ၅၀၀ တို့တွင်နေကြသော ကျွန်းသားတို့၏သက်တမ်းမှာ မတည်မမြဲချေ။ ရံခါလည်း အသချေ်ရှည်သည်။ ရံခါလည်း ဆယ်နှစ်သာရှည်သည်။ ပုဗ္ဗဝိဒေဟကျွန်းသားတို့၏သက်တမ်းမှာ အနှစ်ခုနစ်ရာအမြဲရှည်၏။ အပရဂေါယာနကျွန်းသားတို့၏သက်တမ်းမှာ အနှစ်ငါးရာအမြဲရှည်၏။ ဥတ္တရကုရုကျွန်းသားတို့၏သက်တမ်းမှာ အနှစ်တထောင်အမြဲရှည်၏။ ဤသို့ သံယုတ္တနိကာယ်အဌကထာတွင် ဆိုလေသည်။

ဇမ္ဗူဒိပ်ကျွန်းသားတို့၏မျက်နှာမှာ ကျွန်း၏ပုံကိုလိုက်၍ သုံးထောင့်သဏ္ဌာန်ရှိသည်ဟုဆိုကြ၏။ အခြားကျွန်းသားတို့၏မျက်နှာမှာလည်း ထိုအတူပင် ကျွန်းပုံကိုလိုက်၍ အသီးသီး ရှိကြသည်။ ဇမ္ဗူဒိပ်ကျွန်းသားတို့၏ အဆင်းသဏ္ဌာန်သည် အထူးထူးအပြားပြားရှိကုန်၏။ ဇမ္ဗူဒိပ်ကျွန်းတွင် ဟောပြောဆုံးမမည့် ဘုရား ပစ္စေကဗုဒ္ဓါ အရိယာသာဝက စသောသူတော်သူမြတ်တို့ရံခါရှိတတ်သောကြောင့်ဤကျွန်းသူကျွန်းသားတို့သည် သုဂတိနတ်ရွာ အမြိုက် နိဗ္ဗာန်ချမ်းသာတိုင်အောင် လားရကုန်သည်။ အခြားကျွန်းကြီး ၃ ကျွန်းတွင် ဟောပြောဆုံးမမည့်သူ မရှိသဖြင့် သံသရာဝဋ်ဆင်းရဲ၏အကြောင်းသာများသည်။ ထိုကြောင့် ကျွန်းကြီးလေးကျွန်းတွင် ဇမ္ဗူဒိပ်ကျွန်းသည် နိဗ္ဗာန်သို့ကူးရာဆိပ်ကမ်းနှင့်တူသောကြောင့် ဘုရား အစရှိသော သူတော်ကောင်းတို့သည် အထူးချီးမွမ်းတော်မူကုန်သည်။ ဤကိုရည်၍ ရှင်မဟာသီလဝံသပုဏ္ဏိုလ်ကျော်က တန်တားဦးတည်မော်ကွန်းတွင်၊

'မိုးနတ်သိကြား၊ မြောက်ကျွန်းသားလည်း၊ တရား ကုသိုလ်၊ နိုင်း၍ဆိုမူ၊ မတူကြဘဲ၊ ရာဆကဲ၍၊ ဖြစ်ခဲစွာမူ၊ ဟေိပြု၏၊ ဘိက္ခုသံဃာ၊ အရိယာသမိုက်၊ ရှင်တော်ရိုက်လျှင်၊ ဤ၌သီးခြား၊ တည်ထွန်းပွား၏၊ ဦးဖျားပေါပေါ၊ ဖိုလ်မဂ်ဇောဟု၊ သဘော်ဗိမာန်၊ သည်ကခံမှ၊ နိဗ္ဗာန်တူရူ၊ ကူးမှတ်မူသား၊ ဇမ္ဗူလကျာ၊ တို့ကျွန်းသာလျှင်၊ ဆိပ်ညာတဖြောင့် တန်းတန်းတည်း' ဟူ၍ စပ်ဆိုထားလေသည်။

ဇမ္ဗူဒိပ်ကျွန်းဦးတွင် ဇမ္ဗူ့သပြေပင်ရှိသည်။ ထိုဇမ္ဗူ့သပြေပင်မှ ဇမ္ဗူရာဇ်ရွှေကိုရရှိသည်။ (ဇမ္ဗူ့သပြေပင်။ ဇမ္ဗူရာဇ်ရွှေ — ရှု။) ဇမ္ဗူဒိပ်ကျွန်းနှင့်တကွသော ကျွန်းကြီးကျွန်းငယ်တို့၏ဗဟိုပြုရာ မြင့်မိုတောင်တွင် ရောင်ခြည် ၄ ပါးရှိ၏။ အရှေ့ဖက်ပိုင်းသည် ငွေအတိပြီး၏။ အနောက်ဖက်ပိုင်းသည် ဖလ်အတိပြီး၏။ တောင်ဖက်ပိုင်းသည် ပတ္တမြားညိုအတိပြီး၏။ မြောက်ပိုင်းသည် ရွှေအတိပြီး၏။ ဤသို့ သာရတ္ထဒီပနီဋီကာတွင်ဆို၏။ ထိုရတနာတို့၏ အရောင်သည် မျက်နှာမူရာ ကျွန်းကြီးကျွန်းငယ်တို့သို့ ထွန်းပ လွှမ်းမိုးနေလေသည်။ ထိုကြောင့် ဇမ္ဗူဒိပ်ကျွန်းသည် မြရောင်လွှမ်းမိုးခြင်းခံရသောကြောင့် အမြဲစိမ်းလန်းစိုပြည်နေသည်ဟုဆိုသည်။ ဇမ္ဗူဒိပ်ကျွန်းနှင့်တကွသော ကျွန်းကြီးကျွန်းငယ်တို့ကို အုပ်စိုးသောမင်းကို စကြဝတေးမင်းဟုခေါ်သည်။

ဇမ္ဗူဒိပ်ကျွန်းတွင် အချင်းယူဇနာ ၃၀၀၀၊ အဝန်းယူဇနာ ၉၀၀၀၊ အမြင့်ယူဇနာ ၅၀၀ ခန့်ရှိသော ဟိမဝန္တာတောင်နှင့် ၈၄,၀၀၀ မျှသောတောင်ငယ် တောင်ထွတ်တို့ရှိ၏။ အချင်းယူဇနာ ၅၀ ခန့်၊ အဝန်းယူဇနာ ၁၅၀ ခန့်ရှိသော အနောတတ္တအိုင်၊ ဆဒ္ဒန္တအိုင်၊ ကုဏာလအိုင်၊ မန္ဒာကိနီအိုင်၊ သီဟပ္ပပါတအိုင်၊ ကဏ္ဏမုဏ္ဍအိုင်၊ ရထကာရအိုင်ဟူ၍ အိုင်ကြီး ၇ အိုင်တို့ရှိ၏။ အနောတတ္တအိုင်ကိုရံလျက်၊ သုဒဿနတောင်၊ စိတ္တကူဋတောင်၊ ကာဠကူဋတောင်၊ ဂန္ဓမာဒနတောင်၊ ကေလာသတောင်ဟူ၍ တောင် ၅ လုံးရှိသည်။ အနောတတ္တအိုင်၌ ပြွန်လေးသွယ်ရှိ၍ တောင်ဖက်ပြွန်မှ ဂင်္ဂါ၊ ယမုနာ၊ အစိရဝတီ၊ မဟီ၊ သရဘူဟူသော မြစ်ကြီးငါးစင်းတို့ဖြစ်ပေါ်လာသည်ဟုဆိုသည်။

ဇမ္ဗူဒိပ်ကျွန်းတွင် မြို့သစ်ပေါင်း ပဌမအကြိမ် ၆၃,၀၀၀၊ ဒုတိယအကြိမ် ၆၃,၀၀၀၊ တတိယအကြိမ် ၆၃,၀၀၀ ပေါ်ထွန်းခဲ့၍၊ သီရိဓမ္မာသောကမင်းကြီးလက်ထက် တိုင်သော်၊ မြို့သစ် ၈၄,၀၀၀ တိုးပွားသည်ဟုဆို၏။ သဘော်ဆိပ် ကိုးသန်းခြောက်သိန်း၊ ရတနာတည်ရာ ငါးဆယ့်ခြောက်ဌာန၊ ကျေးရွာခရိုင် ကိုးသန်းကိုးသိန်းရှိသည်ဟု ဆိုလေသည်။

**ဇမ္ဗူရာဇ်ရွှေ**။ ။ဇမ္ဗူရာဇ်ရွှေသည် ဇမ္ဗူ့သပြေသီးမှ ဖြစ်သောရွှေဖြစ်သည်ဟု ကျမ်းဂန်တို့တွင်ဆို၏။ ယင်းကို ဇမ္ဗူနဒရွှေဟုပြသည်။ လူတို့သုံးဆောင်ကြသောရွှေမှာ အဘိဓာန်ဋီကာ၊ အင်္ဂုတ္တိုရ်စသည့်ကျမ်းတို့ အလိုအားဖြင့် အမျိုးမျိုးအပြားပြားရှိကြရာ၊ဇမ္ဗူရာဇ်ရွှေသည် အကောင်းဆုံး ရွှေတမျိုးဖြစ်၏။

ဤကိုရည်လျက် ဦးတိုးက ရာမရကန်တွင် 'ရွှေနာရနီ၊ သိင်္ဂီနိက္ခ၊ ဟေမစာရု၊ ဝေလုရိယာ၊ နာလာမုတ္တာ၊ အဋ္ဌနာနှင့် နာရကာ၊ နာရဝေါ၊ သီးသန့်၍ပြောလွန်းလျှင်၊ ကြောမစင်းတန်၊ ကြောစင်းပြန်မည်ကြောင့်၊ ဝေဖန်ခြားနား၊ ခေါင်းစဉ်လိုသွားရော့မည်။ နဂါးရင်းမြစ်၊ မြေကဖြစ်နှင့်၊ ရွှေနှစ်ဇော်ဂျီ၊ နင်းခွက်ကျစီခဲ့သည်။ လောဟိတွင်းစံ၊ နီဖလံကို၊ ဟန်တမ်းခွန်ထူ၊ ပြိုင်ရည်တူသော်လည်း၊ ရွှေဇမ္ဗူရာဇ်၊ ပင်ကြီးဖြစ်ကို၊ ဦးသစ်ရောင်မှိုင်း၊ ရွှေမြင်တိုင်းတို့၊ မင်းတိုင်းမှာဆုံရမည်ဖြစ်သည်' ဟူ၍ ဇမ္ဗူရာဇ်ရွှေကို ချီးကျူး ဖွဲ့ဆိုထားသည်။

သာရတ္ထသင်္ဂဟကျမ်း၊ မဇ္ဈိမနိကာယ်၊ ဥပရိပဏ္ဏာသအဋ္ဌကထာ၊ တိကနိပါတ်၊ အင်္ဂုတ္တရဋီကာကြီးနှင့် အဘိဓာန်တို့အလိုအရ ဇမ္ဗူဒီပါ တောင်ကျွန်းဦးတွင်သာ ပေါက်သော ဇမ္ဗူ့သပြေပင်တွင် ဆင်ပြောင်ကြီးပမာဏ၊ အိုးစရည်းကြီးပမာဏရှိကုန်သောအသီးတို့ရှိ၏။ (ဇမ္ဗူဒိပ်ကျွန်း။ ဇမ္ဗူ့သပြေပင် — ရှု။) သပြေသီးတို့မှည့်၍ကျရာအရပ်၌ ရွှေအညွန့်၊ ရွှေပင်တို့သည် ပေါက်ကုန်သည်ဟုဆိုသည်။ ဤကိုရည်၍ ရှင်မဟာရဋ္ဌသာရ၏ ဘူရိဒတ်ဇာတ်ပေါင်းခဏ်းပျို့၌ 'ဤမှတဆန်း၊ ငါတို့ကျွန်း၌၊ မြင့်သွန်းယူဇနာ၊ တရာမျှလောက်၊ ဖြူဖြူရောက်သား၊ ပင်အောက်သပြေ၊ အသီးကြွေသော်၊ ရွှေတိဖြစ်ရှောင်း' ဟူ၍ စပ်ဆိုထားသည်။

ဇမ္ဗူရာဇ်ရွှေမှာ မီးနှင့်တူသောအရောင်ရှိသည်ဟု အဘိ

မာန်ငိုကာပါဋ္ဌ၌ဆို၏။ ထိုကြောင့် ရွှန်းပတောက်ပြောင်သော အဆင်းအရောင်မျိုးကို ဇမ္ဗူရာဇ်ရွှေရောင်ဖြင့် ဥပမာတင်စားပြောဆိုလေ့ရှိကြသည်။ 'နာလိမုတ္တာ၊မည်ထုတ်စသည်၊ ကမ္ဘာ့ကျက်သရေ၊ ဆယ်ပါးရွှေ' ဟူ၍ ဘုံခန်းပျို့၌စပ်ဆိုထားသည်။ သို့သော် ရွှေ အကောင်းအညံ့ အလိုက် ၁၂ မျိုးခွဲထား၍၊ ဇမ္ဗူရာဇ်ရွှေစင်အရည်မှီအောင် သာမန်ရွှေကို အဆင့်ဆင့်လျှော်လျှင်ဖြစ်နိုင်ကြောင်း ရာဇောဝါဒကျမ်း၊ သမန္တစက္ခုဒီပနီကျမ်းတို့တွင် ဤသို့ဖော်ပြထား၏။

'နီဖလံရွှေ ၈၀ ကျပ်ကို ၆၀ ကျပ်တင်အောင်လျှော်သော်၊ နာရဏီရွှေဖြစ်၏။ နာရဏီရွှေကို ၄၅ ကျပ်တင်အောင်လျှော်သော်၊ နာရဝေါရွှေဖြစ်၏။ နာရဝေါရွှေကို ၃၃ ကျပ် ၇ မူး ၃ပဲ ၂ ရွေးတင်အောင်လျှော်သော်၊ နာလိကာရွှေဖြစ်၏။ ယင်းနာလိကာရွှေကို ၂၅ ကျပ် ၃ မူး ၂ ရွေးတင်အောင်လျှော်သော်၊ နာလိမုတ္တာရွှေဖြစ်၏။ ထိုရွှေကို ၁၉ ကျပ် ၂ ရွေး ၂ ဆန်တင်အောင်လျှော်သော်၊ အဇ္ဈနီရွှေဖြစ်၏။ ထိုရွှေကို ၁၄ ကျပ် ၂ မူး တပဲ ၂ နှမ်းတင်အောင်လျှော်သော်၊ အဇ္ဈနီမုတ္တာရွှေဖြစ်၏။ ထိုရွှေကို ၁၀ ကျပ် ၁၆ မူး ၁ ပဲ ၄ ရွေး တဆန် တနှမ်း ၃ မုန်ညင်း ၂ သန်းခေါင်းတင်အောင် လျှော်မှ အဇတဝနီရွှေဖြစ်၏။ ထိုရွှေကို ၈ ကျပ် ၁ ရွေး ၃ နှမ်း ၂ မုန်ညင်း ၁ သန်းခေါင်း ၃ ကညစ်ချေး တင်အောင်လျှော်မှ ဇာတရူပရွှေဖြစ်၏။ ထိုရွှေကို ၆ ကျပ် ၃ ဆန် ၃ နှမ်း ၄ သန်းခေါင်း ၄ ကညစ်ချေး တင်အောင်လျှော်မှ ဥရဏီတာရွှေဖြစ်၏။ ယင်းကို ၄ ကျပ် ၂ မတ် ၂ ဆန် ၃ နှမ်း ၁ မုန်ညင်း ၆ သန်းခေါင်း ၂ ကညစ်ချေးတင်အောင်လျှော်မှ သိင်္ဂီနိက္ခရွှေဖြစ်သည်။ ယင်းရွှေကို ၃ ကျပ် ၃ မူး ၁ ပဲ ၄ ရွေး ၂ ဆန် ၂ နှမ်း ၃ သန်းခေါင်း ၂ ကညစ်ချေးတင်အောင်လျှော်မှ ဇမ္ဗူရာဇ်ရွှေဖြစ်လေသည်။'

**ငှေ့ငှက်**။ ။ငှေ့ငှက်သည် 'တင်မလိုင်းအီဒီး'မျိုးရင်းတွင် ပါဝင်၏။ ပါဏဗေဒအမည်မှာ 'တာဒိုက်ဒီ ဂူလာရစ်' ဖြစ်သည်။ ငှေ့ငှက်သည် ၁၀ လက်မခန့်ရှိ၍၊ အမြီးတခုတည်းကပင် ၅½ လက်မရှည်သည်။ အမွေးအတောင်များသည် သေသပ်ခြင်းမရှိချေ။ လည်တံနှင့် ရင်အုပ်တို့သည်ဖြူ၏။ အခြားအစိတ်အပိုင်းတို့၏အရောင်မှာ ညိုသည်။ မြန်မာနိုင်ငံအလယ်ပိုင်းရှိ မြို့ရွာများတွင် တွေ့နေကျ ငှက်မျိုးဖြစ်သည်။ ငှေ့ငှက်သည် ၆ ကောင်မှ ၇ ကောင်ထိ စုဝေးကာသွားလာနေထိုင်တတ်သဖြင့် 'ညီအမခုနစ်ပေါ်' ဟုလည်း တင်စား၍ခေါ်လေ့ရှိကြသည်။

ထိုငှက်သည် အမြဲဆူညံနေတတ်၏။ ချစ်–ချစ် ဟုမြည်သံပြုပြီးနောက်၊ တုန်သံတမျိုးကိုပြုတတ်သည်။ ထိုပြင်ပျံသန်းနေစဉ်ထူးဆန်းကျယ်လောင်သော တုန်သံတမျိုးကို ပြုလုပ်တတ်သည်။ ထို ငှက်သည် အအုပ်အသင်းဖွဲ့ကာ ကျက်စားတတ်၏။ အမြီးကို မြှောက်တုံ ချတုံ ပြုလုပ်၍၊ ခုန်ဆွခုန်ဆွ သွားကာ၊ အစာကိုလိုက်လံရှာဖွေသည်။ ပျံသန်းသည့်အခါ တရှိန်ထိုးပျံတက်ပြီးလျှင် အမြီးကို ယပ်တောင်သဖွယ် ဖြန့်ထားတတ်သည်။

ထိုငှက်သည် လမ်းနံဘေး၌ရင်း၊ ဥယျာဉ်များ၊ ခြံများအတွင်း၌ရင်း သစ်ရွက်ခြောက်များကိုလှန်လှော၍ ပိုးမွှားများကို ရှာဖွေစားသောက်တတ်သဖြင့် စိုက်ပျိုးရေးသမားများအတွက် အလွန် အသုံးဝင်သော ငှက်ဖြစ်လေသည်။ ထိုကြောင့် ထိုငှက်များကို မောင်းနှင်မပစ်ဘဲ၊ မိမိတို့အနီးအပါး၌နေစေရန် ဆောင်ရွက်ပေးသင့်ပေသည်။

ငှေ့ငှက်၏သားပေါက်ချိန်မှာ ဧပြီလမှ ဇွန်လအလယ်ထိဖြစ်သည်။ အသိုက်များကို ချုံဖုတ်ခပ်နိမ့်နိမ့် သို့မဟုတ် ကျူတော၊ ကိုင်းတော၊ မြက်ဖုတ်များထဲတွင် မြက်၊ ကျူရွက်၊ ကိုင်းရွက်များဖြင့် ဖြစ်ကတတ်ဆန်းလုပ်တတ်သည်။ များသောအားဖြင့် တမြုံလျှင် ၃ ဥမှ ၄ ဥထိရှိသည်။ ဥခွံများမှာ ပြာလဲ့ချောမွတ်သည်။ ငှေ့ငှက်ကို မြန်မာနိုင်ငံ၌သာ တွေ့ရသည်။

ငှေ့ငှက်ကို စှေ့ငှက်ဟူ၍လည်းရေးထုံးရှိ၏။ စင်စစ် ငှေ့ငှက်ဟုရေးသည်မှာ စှေ့ငှက်ကို အသံထွက်အတိုင်းရေးခြင်းမျှသာဖြစ်၏။

**ဇိုင်ဒါဇေး**။ ။ဇိုင်ဒါဇေးသည် ဟော်လန်နိုင်ငံမြောက်ဖက်ရှိ ပင်လယ်ကမ်းစပ်မြေနိမ့်ဒေသဖြစ်သည်။ ရှေးအခါက ထိုဒေသမှာ အိုင်ထွန်း၍နေပြီးလျှင်၊ ရွှံ့ထူထပ်သော မြေရိုင်းမျှသာဖြစ်သည်။ 'ဇိုင်ဒါဇေး' မှာ ဒပ်ချစကား ဖြစ်သည်။ တောင်ဖက်ပင်လယ်ဟု အနက်ရ၏။

ဇိုင်ဒါဇေးတည်ရာဒေသကို ခရစ် ၁၁ ရာစုနှစ်နှင့် ၁၃ ရာစုနှစ်အတွင်း၌ ဒီရေတိုက်စားသဖြင့်၊ ယင်းဒေသသည် ပင်လယ်ကွေ့ကြီးအဖြစ်သို့ပြောင်းလဲသွားလေသည်။ ထိုပင်လယ်ကွေ့ကြီးသည် တောင်နှင့် မြောက်သို့ အလျားလိုက်တည်ရှိသည်။ အလျားမှာ ၈၅ မိုင်ရှိ၍၊ အနံမှာ ၄၅ မိုင်ရှိ



မြန်မာနိုင်ငံ၌သာတွေ့ရသော ငှေ့ငှက်

သည်။ ပင်လယ်ကွေ့အတွင်း များစွာသောနေရာတို့တွင် ၃ ပေမျှသာနက်၍၊ အနက်ဆုံးနေရာ၌ ၁၉ ပေမျှရှိလေသည်။

ထို့ကြောင့် ဟော်လန်အစိုးရသည် ပင်လယ်ရေကိုထုတ်ပစ်ပြီးလျှင် လယ်ယာမြေကွက်များပြုလုပ်ရန် ၁၂ ရာစုနှစ်ခန့်ကပင် ကြံစည်စိတ်ကူးခဲ့၏။ သို့ရာတွင် ၁၉၂၀ ပြည့်နှစ်တွင်မှ လုပ်ငန်းကို စတင်နိုင်ခဲ့လေသည်။ ရှေးဦးစွာ ထိုချိုင့်ဝှမ်းမြေနိမ့်ကို အကန့်ကြီး ၄ ကန့် ကန့်ပြီးနောက်၊ တာတမံများဆည်ကာ ရေများကိုထုတ်ပစ်လေသည်။ ယခုအခါ ရေကာတာကြီးများသည် ဗွိုင်ဒါဇေးမြေနိမ့်ကို မြောက်ပင်လယ်မှ ပိုင်းခြား၍ထားသည်။ အကန့်လေးကန့်စလုံးမှ ရေထုတ်ပစ်ခြင်းလုပ်ငန်းမှာ ၁၉၄၂ ခုနှစ်တွင်မှအပြီးသတ်သည်။ ထိုသို့ တာတမံများဆည်၍ ရေများထုတ်ပစ်လိုက်ခြင်းဖြင့် လယ်ယာစိုက်ပျိုးလုပ်ကိုင်နိုင်သော မြေယာပေါင်း ၅၂၃,၀၀၀ ကေတိုး၍ ရရှိခဲ့လေသည်။ (ဟော်လန်နိုင်ငံ — ရှု။)

**ဇွန်းနှုတ်သီးငှက်**။ ။ဇွန်းနှုတ်သီးငှက်သည် ခရစုတ်ငှက်နှင့်အတူ ‘ သရက်စကီအိုနီသီဒီး ’ မျိုးရင်းတွင်ပါဝင်၍၊ ငှက်ကျားနှင့်မျိုးချင်းနီးစပ်သည်။ (ငှက်ကျား — လည်းရှု။)

ဇွန်းနှုတ်သီးငှက်သည် သာမန်အားဖြင့် ဟေစ်နှင့်တူ၏။ (ဟေစ် — လည်းရှု။) ကမ္ဘာပေါ်၌ ဇွန်းနှုတ်သီးငှက် ၆ မျိုးရှိ၏။ ထိုငှက်သည် အလျား ၃၃ လက်မရှည်သဖြင့် ငှက်ကြီးမျိုး ဖြစ်လေသည်။ အမွေးအတောင်များဖြူသည်။ ခြေတံများသည်ရှည်လျား၏။ နှုတ်သီးသည်လည်း ဖြောင့်တန်း၍ရှည်လျားသည်။ နှုတ်သီးရင်း၏အရောင်သည် ခြေထောက်အရောင်ကဲ့သို့မည်းသည်။ နှုတ်သီးဖျား၏အရောင် ကားဝါသည်။ နှုတ်သီးသည် အလယ်၌ကျဉ်း၍ အဖျား၌ ပြားလျက် ဇွန်းပုံသဏ္ဌာန်ရှိသည်။ ထို့ကြောင့် ဇွန်းပုံသဏ္ဌာန်နှုတ်သီးကိုကြည့်ခြင်းအားဖြင့် ယင်းကိုလွယ်ကူစွာ မှတ်မိနိုင်ပေသည်။

ဇွန်းနှုတ်သီးငှက်သည် ရွှံ့ထဲ ရေထဲတွင် လျင်မြန်စွာ လျှောက်သွားကာ နှုတ်သီးကို ရွှံ့ထဲသို့ တဝက်နှစ်ပြီးလျှင် ဗယ်ပြန်ညာပြန်ခတ်၍ ငါးကလေးများ ခရုများကို ဖမ်းယူစားသောက်သည်။ ပျံသန်းရာတွင် လည်ပင်းကိုမစီးဘဲ၊ အတောင်ကိုမှန်မှန်ခတ်၍ ပျံအန်းသည်။ ဇွန်းနှုတ်သီးငှက်သည် အအုပ်အသင်းဖွဲ့၍ နေထိုင်တတ်၏။ အသိုက်ကို ကျူတောနှင့် ချုံဖုတ်များတွင်၎င်း၊ သစ်ပင်အထက် ၁၀ ပေခန့်အမြင့်တွင်၎င်း၊ သစ်ကိုင်းသစ်ရွက်များနှင့် ဆောက်လုပ်ကြသည်။ ဥ ၃ လုံးမှ ၅ လုံးအထိ အုလေ့ရှိသည်။ ထိုဥများသည် အဖြူရောင်ဖြစ်၍၊ နီညိုရောင်အကွက်များ ပါရှိတတ်သည်။

အမေရိကတိုက်တွင်တွေ့ရသော ဇွန်းနှုတ်သီးငှက် တမျိုးမှာ လည်ပင်းနှင့် ကျောဖက်တွင် အဖြူရောင်ရှိ၍ ကျန်အမွေးများသည် ပန်းရောင်ဖြစ်သည်။ အတောင်ပံရှိအမွေးများသည် အနီရောင်ဖြစ်၏။ ခြေတံများ၌လည်း အနီရောင်ရှိသည်။ ဇွန်းနှုတ်သီးငှက်များကို ဥရောပတိုက်၊ အာဖရိကတိုက်၊ အမေရိကတိုက်၊ အာရှတိုက်တို့၌ တွေ့ရ၏။ ယင်းငှက်များသည် ရာသီအလိုက် ဒေသပြောင်းရွှေ့၍ နေထိုင်လေ့ရှိ၏။ ဟော်လန်နိုင်ငံတွင် ပေါက်ပွားသောဇွန်းနှုတ်သီးငှက်များသည် အာဖရိကတိုက်နှင့် အင်္ဂလန်ပြည်သို့ပင် ရောက်ရှိလာတတ်ကြသည်။

မြန်မာနိုင်ငံတွင် ဇွန်းနှုတ်သီးငှက်များမရှိကြချေ။ သို့သော် တခါတရံ ရောက်ရှိလာတတ်သည်ဟု ဆိုသည်။ ယင်းတို့ကို ရခိုင်ပြည်နှင့် မင်းဘူးနယ်တွင် တွေ့ရတတ်ကြောင်း မှတ်တမ်းတင်ထားဘူးသည်။



ဇွန်းပုံသဏ္ဌာန်နှုတ်သီးရှိသော ဇွန်းနှုတ်သီးငှက်နှင့် ခြေတံရှည် ဖလမ်မင်ဂိုငှက်များ



။မြန်မာဗျည်း ၃၃ လုံးတွင် ဈ သည် ၉ ခုမြောက်အက္ခရာဖြစ်၍ စ၊ ဆ၊ ဇ၊ ဈ၊ ည ဟူသော စဝဂ်တွင်ပါဝင်သည်။ ဈ အသံ၏ဖြစ်ရာဌာနမှာ တာလုဌာန် အာစောက်အရပ်ဖြစ်သည်။ အက္ခရာ၏ပုံသဏ္ဌာန်ကိုလိုက်၍ ဈ မြင်းဆွဲဟုအမည်တွင်သည်။ ဈ အရေးအသား၏မူလမှာ ဗြာဟ္မီ မှ ကုသန တို့ဖြစ်သင့်သော်လည်း၊ အရေးအသားချင်းဆက်သွယ်၍မရသေးပေ။သို့သော် ခင်ဗပျူ မောင်းကန်ပျူ တို့မှ အဆင့်ဆင့်ပြောင်းလဲလာရာမှ ကျောက်စာများတွင် နှင့် ပေစာများတွင် ဈ ဟုရေးသားသည်ကို တွေ့ရသည်။ ခင်ဗပျူနှင့် မောင်းကန်ပျူအရေးအသားတွင် မြန်မာအက္ခရာ ဈ ကို ဇ္ဈ အဖြစ်ရေးသားသည်ကို တွေ့ရသဖြင့် ထိုမှတဆင့် မြန်မာအက္ခရာ ဈ ဖြစ်လာသည်ဟု ယူဆနိုင်သည်။ ဈ အက္ခရာအရေးအသားတွေ့ရသမျှကိုအောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။

ဈေး။ ။ဈေးဆိုသည်မှာ စားသုံးကုန်ပစ္စည်းအမျိုးမျိုးကို ရောင်းဝယ်ဖောက်ကားရာဌာနဖြစ်သည်။ ရှေးအခါက ဈေးကို နေရာအတည်တကျ သတ်မှတ်ထားခြင်းမရှိချေ။ ထိုအခါက လမ်းပန်းအဆက်အသွယ် သယ်ယူပို့ဆောင်ရေးမှာ မလွယ်ကူသေးသည့်အလျောက်၊ တည်ခင်းရောင်းချသော ဈေးဟူ၍လည်း မရှိခဲ့ချေ။

ကုန်ရောင်းလိုသူတဦးအဖို့ မိမိ၏ကုန်စည်များကို တနေရာတည်းတွင်ထား၍ ရောင်းချသောအခါ၊ မိမိအတွက်လည်း သက်သာ၊ ကုန်ဝယ်လိုသူအဖို့လည်း လိုက်လံရှာဖွေ၍မနေရဘဲ၊ အလွယ်တကူ လာရောက်ဝယ်ယူနိုင်သည်ကိုတွေ့ရ၏။ ဤနည်းနှင်နှင်ပင် အခြားကုန်သည်များကလည်း ထိုသူ၏အနီးတွင် တည်ခင်းရောင်းချ၏။ ဤသို့အားဖြင့် ရောင်းသူဝယ်သူ များပြားလာပြီးလျှင် ထိုနေရာသည် ဈေးဖြစ်လာတော့၏။



ဒုတိယကမ္ဘာစစ်ဒဏ်ကို ခံလိုက်ရသော သိမ်ကြီးဈေး

ဤကဲ့သို့ဖြစ်ပေါ်လာသောဈေးမှာ အမြဲတမ်း မဟုတ်သေးချေ။ ရာသီအလိုက်ပေါ်သော စပါး၊ နှမ်း၊ ပြောင်း၊ ဆီ၊ ဆေးစသည်တို့မှာ သိုမှီးထားရှိနိုင်သော ကုန်ပစ္စည်းများဖြစ်သောကြောင့် တနှစ်လျှင် တကြိမ်ဖြစ်စေ၊ နှစ်ကြိမ်ဖြစ်စေ အရောင်းအဝယ်ပြုကြသည့်အားလျော်စွာ၊ ထိုဈေးများမှာ ရောင်းဝယ်ချိန် လွန်မြောက်ပါက ဈေးအဖြစ် ဆက်လက်၍မတည်ရှိတော့ချေ။ သို့သော် သိုလှောင်သိမ်းဆည်း၍မထားနိုင်သော နေ့စဉ်သုံး စားနပ်ရိက္ခာများအတွက် နေ့စဉ်ရောင်းချရန် ဈေးလို၏။ လူနေမှုစံနစ် တရွေ့ရွေ့ပြောင်းလဲလာသည့် အလျောက်၊ ရောင်းဝယ်ဖောက်ကားမှုစံနစ်သည်လည်း ရှေးကနှင့်မတူဘဲ ကွဲပြားလာလေသည်။ လမ်းပန်းဆက်သွယ်ရေးနှင့် သယ်ယူပို့ဆောင်ရေး



ရန်ကုန်မြို့၏ကျက်သရေဆောင် သန့်ရှင်းသပ်ရပ်သော ဗိုလ်ချုပ်ဈေး

များမှာလည်း ရှေးကထက် ပိုမို လျင်မြန် တိုးတက် လာလေရာ၊ ရာသီ အခါမရွေးဖွင့်လှစ်ထားရှိသော ဈေးများ ပေါ်ပေါက်လာရပေသည်။

ကူးသန်း သွားလာရေး ခက်ခဲသော အချို့ဒေသများတွင်မူကား၊ ၅ ရက်တကြိမ်၊ ရက်သတ္တတပတ်လျှင် တကြိမ်ရောင်းချကြသည့် ယာယီဈေးများရှိသေး၏။ ရေကြောင်းခရီးလမ်းသာရှိသော တောလက်ကျေးရွာများ၌မူကား၊ လှေသမ္ဗန် သဘောၤများဆိုက်ကပ်ရာဆိပ်ကမ်းသည်ပင် ဈေးဖြစ်တော့၏။ အချို့သောရွာကလေးများမှာ အိမ်တွင်ပင်ဆိုင်ဖွင့်ထား၏။ အချို့ဈေးများမှာ အမိုးအကာဟူ၍ မရှိဘဲ၊ လမ်းဘေးတဖက်တချက်၌ နံနက်ပိုင်းတွင်သာဖြစ်စေ၊ ညနေပိုင်းတွင်သာဖြစ်စေ၊ တည်ခင်းရောင်းချသော ယာယီဈေးမျှဖြစ်ကြသည်။ အမြဲတမ်းဈေးမှာမူ၊ မိုးကာထားသော ဆိုင်တန်းများရှိ၏။ ကုန်ပစ္စည်းအမျိုးမျိုးကို ရောထွေး၍ မထားဘဲ၊ ကုန်တမျိုးတည်းသာ သီးသန့်ရောင်းချသည့်ဈေးရုံများ ထားရှိ၏။

ဈေးသည်မြို့၏အင်္ဂါရပ်များတွင်အပါအဝင်ဖြစ်ပေသည်။ မြို့တိုင်းတွင်ဈေးရှိသည်။ မြို့အကျယ်အဝန်းကို လိုက်၍ ဈေးတခု သို့မဟုတ် နှစ်ခု သုံးခုရှိတတ်သည်။ ဈေးသည် များသောသားဖြင့် ဒေသန္တရအုပ်ချုပ်ရေးအဖွဲ့ပိုင်ဖြစ်၏။ ပုဂ္ဂလိကပိုင်ဈေးများမှာ အနည်းအကျဉ်းမျှသာရှိပေသည်။ ဈေးကို ဒေသန္တရအုပ်ချုပ်ရေးအဖွဲ့က သတ်မှတ်ထားသော စည်းကမ်းဥပဒေများနှင့်အညီအုပ်ချုပ်ရသည်။ ဈေးအုပ်ချုပ်ရေးအတွက် ဈေးခေါင်းတဦးထားရှိရသည်။ ဈေးအတွင်း သန့်ရှင်းရေး၊ ဈေးဆိုင်များလုံခြုံရေး၊ ဈေးအတွင်းရှိဆိုင်များပေါ်တွင် အခွန်အခများကောက်ခံရေးစသည်တို့ကို ဈေးခေါင်းကတာဝန်ယူ၍ ခန့်ခွဲစီမံရလေသည်။

ယင်းသို့ရောင်းဝယ်သူတို့ လွယ်ကူစွာ ရောင်းဝယ်နိုင်မှုအတွက် အတည်တကျ သတ်မှတ်ကာရောင်းဝယ်လာကြသည့် ဈေးများဖြစ်ပေါ်လာပြီးနောက်၊ ကုန်သည်တို့က ဖန်တီးယူသောဈေးများလည်း ပေါ်ပေါက်ခဲ့၏။ ထိုကုန်သည်တို့က ဖန်တီးသည့် ဈေးများမှာ ကုန်စည် ပြပွဲကြီးများပင် ဖြစ်သည်။ ယင်းသို့ ကုန်စည်ပြပွဲကြီးများကို ဖန်တီးခြင်းဖြင့် ကမ္ဘာ့အရပ်ရပ် ဒေသအသီးသီးတို့မှလူအများသည် ထိုပြပွဲတို့သို့လာရောက်ကြည့်လိုစိတ်များပွားများလာခြင်း၊ လာရောက်ကြည့်သူများမှတဆင့် ကုန်ပစ္စည်းများကို ကြော်ငြာပြီးဖြစ်ခြင်းနှင့် ကုန်အရောင်းရ တွင်ကျယ်ခြင်း စသည့် အကျိုးသက်ရောက်မှုများရှိခဲ့လေသည်။ အထူးသဖြင့် ကုန်စည်ပြပွဲပြုလုပ်သောမြို့၏ ရောင်းဝယ်မှု တိုးတက်ခြင်းကား ယှဉ်မှားဘွယ်မရှိချေ။ ၁၈၅၁ခုနှစ်၌ အင်္ဂလန်ပြည် လန်ဒန်မြို့ရှိ ဟိုက်ပတ်တွင် ကုန်စည်ပြပွဲကြီးတခုကို ပြုလုပ်ခဲ့သည်။ ယင်းကုန်စည်ပြပွဲကို ဝိတိုရိယဘုရင်မကြီး၏ကြင်ယာတော် အဲလဗတ်မင်းသားကြီး၏အကြံပေးချက်အရ ကျင်းပခဲ့ခြင်းဖြစ်၏။ ထိုပြပွဲတွင် ကုန်ကြမ်းများ၊ စက်မှုပစ္စည်းများ၊ လူသုံးကုန်ပစ္စည်းများ၊ အနုပညာမြောက်သည့်ပစ္စည်းများဟူ၍ အပိုင်းကြီး ၄ ပိုင်းခွဲကာပြသထား၏။ ယင်းသို့ဖန်တီးလိုက်သောဈေးသို့ ကမ္ဘာ့အရပ်ရပ်မှလာရောက်ကြည့်ရှုကြလေသည်။ ထိုသူတို့မှတဆင့် ကမ္ဘာသို့ကြော်ငြာပေးလိုက်သကဲ့သို့ ဖြစ်ပေသည်။ ထိုပြပွဲ အကျိုးကျေးဇူးကြောင့် ၁၈၅၀ ပြည့်နှစ်တွင် ပေါင် ၇၁ သန်းဖိုးသာရရှိခဲ့သော နိုင်ငံခြားကုန်သွယ်မှုမှာ ထိုနှစ်တွင် ပေါင် ၇၄ သန်း၊ ၁၈၅၃ ခုနှစ်တွင် ပေါင် ၉၉ သန်းအထိ တိုးတက်လာခဲ့လေသည်။

ဗြိတိန်နိုင်ငံ၏ကုန်စည်ပြပွဲ အောင်မြင်အကျိုးများမှုကို သိရှိလာကြသောနိုင်ငံအသီးသီးတို့ကလည်း ထိုပြပွဲများကို ပြုလုပ်ရန် စိတ်ထက်သန်လာကြလေသည်။ ထို့ကြောင့်ပင်လျှင် ဗြိတိန်နိုင်ငံ၌ ၁၈၅၁ ခုနှစ်တွင်ပြုလုပ်ခဲ့သောပြပွဲကြီးမှာ ယခုခေတ်ကုန်စည်ပြပွဲကြီးများ ပေါ်ပေါက်လာရာတွင် တခုသောအဆင့်ဖြစ်သည်ဟု ဆိုရပေမည်။ ကုန်စည်ပြပွဲကို ဒုတိယဖန်တီးသောနိုင်ငံမှာ ပြင်သစ်နိုင်ငံဖြစ်၏။ ၁၈၅၅ ခုနှစ်တွင် ပြင်သစ်နိုင်ငံ ပါရစ်မြို့၌ ပြပွဲကြီးတခုကို ပြုလုပ်ခဲ့လေသည်။ ထိုကုန်စည်ပြပွဲများ၏အောင်မြင်မှုကြောင့် နောင်အခါတွင် ကမ္ဘာ့နိုင်ငံအသီးသီးမှ ကုန်စည်ပြပွဲများကိုကျင်းပကာ၊ မိမိတို့တိုင်းပြည်ထွက်ကုန်ပစ္စည်းများကို အရောင်းရတွင်ကျယ်စေရန် ပါဝင်ပြသလာကြလေသည်။ အရှေ့တိုင်းပြည်များတွင် ထိုကုန်စည်ပြပွဲများကို ဘာသာရေးပွဲတော်အချိန်များ၌ ကျင်းပလေ့ရှိကြသည်။

**ဈေးရောင်းစက်။** ။ခေတ်ပြောင်းလဲနေသည်ကိုလိုက်၍ လုပ်ငန်းဌာနအသီးသီးတို့သည် ခေတ်ပေါ်စက်ကရိယာများကိုအသုံးပြုလာကြသည်။ ကမ္ဘာ့အရပ်ရပ်၌ရှိကြသော ဈေးဆိုင်ကန္တားအစားစားတို့တွင် အရောင်းအဝယ်နှင့် စပ်လျဉ်း၍ အထူးအသုံးဝင်သော ဈေးရောင်းစက်ကိုအသုံးပြုလျက်ရှိကြသည်။ ထိုစက်သည် ကုန်သည်တို့၏လုပ်ငန်းကို စီမံအုပ်ချုပ်ရာတွင် အထောက်အပံ့ ဖြစ်စေသည့်နည်းတူ ဆိုင်ထိုင်ရောင်းသမားအားလည်း ဝယ်သူဖောက်သည်များ ကျေနပ်အောင်ဆောင်ရွက်ပေးရာ၌ များစွာအကူအညီဖြစ်စေသည်။ ဤမျှမကသေး ထိုစက်သည် လက်ခံရရှိသောငွေနှင့် တနေ့တာအရောင်းအဝယ်ပြုလုပ်သည့်စာရင်းအင်းများကို မှားယွင်းချွတ်ချော်ခြင်းမရှိဘဲ မှတ်သားပေးလေသည်။

အစအဦး အသုံးပြုသောဈေးရောင်းစက်မှာ အရောင်းအဝယ်ပြုလုပ်မှုတခုခု၏ ကျသင့်သောငွေပေါင်းကို စက်၏ဒိုင်ခွက်ပေါ်၌ လက်တံများဖြင့်ပြသရုံသာပြသသော စက်ဖြစ်လေသည်။ ထိုစက်ကို ၁၈၇၉ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စု၊ ဒေတန်မြို့နေ ဂျိမ်း ရစ်တီးဆိုသူ တီထွင်ပြုလုပ်ခဲ့၏။ ထိုစက်ကိုတီထွင်ရန် စိတ်ကူးပေါ်ပေါက်လာပုံမှာ စိတ်ဝင်စားဖွယ်ဖြစ်ပေသည်။ ဂျိမ်း ရစ်တီးသည် မီးသင်္ဘောဖြင့်ခရီးသွားနေစဉ် သင်္ဘောရဟတ်ဝင်ရိုးလည်သော အပတ်ပေါင်းကိုမှတ်သားသည့် ကရိယာကလေးကို အာရုံစိုက်မိလေသည်။ ထိုသို့အာရုံစိုက်မိရာမှ အလားတူစက်ကရိယာမျိုးကို အရောင်းအဝယ်စာရင်းမှတ်သားရာတွင် အသုံးပြုနိုင်မှုအတွက် ဆက်လက်ကာစိတ်ကူးမိပြန်သည်။ ထိုစိတ်ကူးဖြင့် တီထွင်လိုက်သောအခါ ငွေစာရင်းကို မှတ်တမ်းတင်ပေးနိုင်သောစက်တမျိုး ဖြစ်ပေါ်လာသည်။

ကနဦး၌ ထိုစက်သည် ဖော်ပြခဲ့သည့်အတိုင်း ရောင်းဝယ်ရာတွင် ကျသင့်သောငွေကို စက်၏ဒိုင်ခွက်၌ ပြရုံသာပြခဲ့သည်။ နောက်တွင် တဖြည်းဖြည်းတိုးတက်ပြုပြင်လာကာ



ရောင်းသူဝယ်သူ နှစ်ဦးစလုံးအဖို့ အကျိုးရှိစေသည့် ဈေးရောင်းစက်

မျက်မှောက်ခေတ်၌အသုံးပြုနေကြသော ချိုးမွမ်းအုံသြဖွယ် ကောင်းလောက်အောင် ရှုပ်ထွေးသိမ်မွေ့သည့် စက်တို့၏ အဆင့်သို့ ရောက်ရှိလာလေသည်။

ခေတ်မီဈေးရောင်းစက်သည် ရောင်းဝယ်မှုတိုင်းကို မှတ်တမ်းတင်ပေးခြင်း၊ ကျသင့်သောငွေများကိုပေါင်းပေးခြင်း၊ သင့်ငွေမည်မျှ၊ လက်ခံရရှိငွေမည်မျှ၊ ပြန်အမ်းငွေမည်မျှ စသည်တို့ကိုပါ မှတ်သားပုံနှိပ်ပေးခြင်းစသောအလုပ်များကို ပြုလုပ်ပေးလေသည်။ ဖြတ်ပိုင်းအမှတ်စဉ်၊ နေ့စွဲ၊ ရောင်းသမား၏လက်မှတ်တို့အပြင် ကျသင့်သောငွေ၊ ပေးသောငွေ၊ ပြန်အမ်းသောငွေများကိုပါဖော်ပြထားသော ပြေစာဖြတ်ပိုင်းများကို တခဏခြင်း၌ပင် နှိပ်ထုတ်ပေးသဖြင့် ဝယ်သူဖေါက်သည်များမှာ ကျေနပ်ကြသည်။ လုပ်ငန်းရှင်မှာလည်း မည်သည့် အရောင်းအဝယ်မျိုး ဖြစ်မြောက်သည်၊ ရောင်းရာ၌ ငွေမည်မျှရသည်၊ ရောင်းသမားတို့သည် မည်မျှ အလုပ်လုပ်ကြ၍၊ မည်သည့်နေရာ၌ ချွတ်ယွင်းနေကြသေးသည် စသောအချက်များကို တခုမကျန်သိရှိရလေသည်။ လုပ်ငန်းရှင်ကုန်သည်အဖို့ဆိုသော်၊ ထိုစက်သည် စာရင်းကိုင်လည်းမည်၏၊ စုံထောက်လည်းမည်၏။ သို့အားလျော်စွာ ဈေးရောင်းစက်သည် ခေတ်မီသည့်လုပ်ငန်းဆောင်တာတို့၌ အဖိုးမဖြတ်နိုင်သောအထောက်အပံ့တခု ဖြစ်လာပေသည်။

**ဈာန်**။ ။ဈာန်ဟူသည်ကား အာရုံကိုကြံတတ်၊ ကပ်၍ရှုတတ်သောကြောင့်၎င်း၊ ကုသိုလ်တရားတို့ကိုပိတ်ပင်တားဆီးသော ဆန့်ကျင်ဖက် နီဝရဏတရားတို့ကို လောင်ကျွမ်းပယ်ဖျက်တတ်သောကြောင့်၎င်း ဈာန်မည်၏။ နီဝရဏတရားတို့ကား၊ ခြောက်ပါးအာရုံ ကာမဂုဏ်ကို ခံစားလိုသော ကာမစ္ဆန္ဒနီဝရဏ၊ အမျက်ဒေါသတည်းဟူသော ဗျာပါဒနီဝရဏ၊ ငိုက်မျဉ်းထိုင်းမှိုင်းခြင်းဟူသော ထိနမိဒ္ဓနီဝရဏ၊ ပျံ့လွင့်ခြင်း၊ ပူပန်ခြင်းဟူသော ဥဒ္ဓစ္စကုက္ကုစ္စနီဝရဏ၊ စိတ်နှစ်ခွဖြစ်ခြင်းဟူသော ဝိစိကိစ္ဆာနီဝရဏဟူ၍ ငါးပါးအပြားရှိသတည်း။

ဈာန်သည် ရူပဈာန်၊ အရူပဈာန်ဟူ၍ နှစ်ပါးအပြားရှိ၏။ ရူပဈာန်သည် စတုက္ကနည်းအားဖြင့် အင်္ဂါလေးပါးရှိ၍၊ ပဉ္စကနည်းအားဖြင့် အင်္ဂါငါးပါးရှိ၏။

ပဉ္စကနည်း၌ ဝိတက်နှင့်ဝိစာရကို တခါစီပယ်၍၊ ဒုတိယဈာန်ကို နှစ်ခုခွဲခြင်းအားဖြင့်၊ ရူပဈာန်ငါးပါးရ၏။ ထိုရူပဈာန်ငါးပါးတို့ကား (၁) ပဌမဈာန်၊ (၂) ဒုတိယဈာန်၊ (၃) တတိယဈာန်၊ (၄) စတုတ္ထဈာန်၊ (၅) ပဉ္စမဈာန်ဟူ၍ ဖြစ်ကြ၏။

၁။ ။ဝိတက်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာတည်းဟူသော ဈာန်အင်္ဂါငါးပါးနှင့်တကွဖြစ်သောဈာန်သည် ပဌမဈာန်မည်၏။ ဝိတက်ဟူသည်မှာ စိတ်ဟုခေါ်သော နာမ်တရားတို့ကို အာရုံသို့ပို့ဆောင်တတ်သော သဘောဖြစ်၏။ ဝိစာရဟူသည်မှာ အာရုံပေါ်သို့ရောက်ပြီးသောစိတ်ကို ဖွဲ့ချည်တတ်သောသဘောဖြစ်၏။ ပီတိဟူသည်မှာ အာရုံ၌နှစ်ခြိုက်စေတတ်သောသဘောဖြစ်၏။ သုခဟူသည်မှာ အာရုံ၌ ချမ်းမြေ့စေတတ်သော သဘောဖြစ်၏။ ဧကဂ္ဂတာဟူသည်မှာ အာရုံ၌ ခိုင်ခံ့စွာတည်ငြိမ်တတ်သောသဘောဖြစ်၏။

၂။ ။ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာတည်းဟူသောဈာန်အင်္ဂါ လေးပါးသာ ကျန်ရှိသော ဈာန်သည် ဒုတိယဈာန်မည်၏။

၃။ ။ပီတိ၊ သုခ၊ ဧကဂ္ဂတာတည်းဟူသောဈာန်အင်္ဂါသုံးပါးသာ ကျန်ရှိသောဈာန်သည် တတိယဈာန်မည်၏။

၄။ ။သုခ၊ ဧကဂ္ဂတာတည်းဟူသောဈာန်အင်္ဂါနှစ်ပါးသာ ကျန်ရှိသောဈာန်သည် စတုတ္ထဈာန်မည်၏။

၅။ ။ဥပေက္ခာ၊ ဧကဂ္ဂတာတည်းဟူသောဈာန်အင်္ဂါနှစ်ပါးနှင့်တကွဖြစ်သော ဈာန်သည် ပဉ္စမဈာန်မည်၏။ ဥပေက္ခာဟူသည်ကား ကောင်းသည်ဟု ခံစားခြင်းသဘောလည်းမဟုတ်၊ မကောင်းဟု ခံစားခြင်း သဘောလည်းမဟုတ်၊ ကောင်းမှု မကောင်းမှုနှစ်ဖက်သို့မကျဘဲ၊ အလယ်အလတ် ခံစားခြင်းသဘောဖြစ်၏။ (စိတ် — ရှု။)

အရူပဈာန်သည် (၁) အာကာသာနဉ္စာယတနဈာန်၊ (၂) ဝိညာဏဉ္စာယတနဈာန်၊ (၃) အာကိဉ္စညာယတနဈာန်၊ (၄) နေဝသညာနာသညာယတနဈာန်ဟူ၍ လေးပါးအပြားရှိ၏။

၁။ ။စတုတ္ထဈာန်တွင်ရအပ်သော ကသိုဏ်းကိုခွာ၍၊ အဆုံးမရှိသောကောင်းကင်ပညတ်ကိုအာရုံပြုကာ၊ စီးဖြန်းပွားများ၍ရအပ်သောဈာန်သည် အာကာသာနဉ္စာယတနဈာန်မည်၏။ ရုပ်တရားကိုအာရုံမပြုသောကြောင့်၎င်း၊ ပဌမရအပ် ရောက်အပ်သောကြောင့်၎င်း၊ ယင်းကို ပဌမာရုပ္ပဈာန်ဟူ၍လည်း ခေါ်၏။

၂။ ။အဆုံးမရှိသော ပဌမာရုပ္ပဝိညာဏ်ကို စီးဖြန်းပွားများ၍ရအပ်သောဈာန်သည် ဝိညာဏဉ္စာယတနဈာန်မည်၏။ ဒုတိယာရုပ္ပဈာန်ဟူ၍လည်းခေါ်၏။

၃။ ။အနည်းငယ်မျှအကြွင်းမရှိသော၊ ပဌမာရုပ္ပဝိညာဏ်၏အဖြစ်တည်းဟူသော၊ ဘာမျှမရှိဟုအနက်ရသော၊ နတ္ထိဘောပညတ်ကိုအာရုံပြုကာ၊ စီးဖြန်းပွားများ၍ရသော ဈာန်သည် အာကိဉ္စညာယတနဈာန်မည်၏။ တတိယာရုပ္ပဈာန်ဟူ၍လည်းခေါ်၏။

၄။ ။သညာရှိသည်လည်းမဟုတ်၊ မရှိသည်လည်းမဟုတ်သော၊ မနာယတန ဓမ္မာယတန၌အကျုံးဝင်သော အာရုံကို အာရုံပြုကာ၊ စီးဖြန်းပွားများ၍ရသောဈာန်သည် နေဝသညာနာသညာယတနဈာန်မည်၏။ စတုတ္ထာရုပ္ပဈာန်ဟူ၍လည်းခေါ်၏။ ထိုဈာန်လေးပါးတို့ကို ပဌမမှ ဒုတိယသို့၊

ဒုတိယမှ တတိယသို့၊ တတိယမှ စတုတ္ထသို့ အဆင့်အဆင့် တက်ရာ၏။

## ဈာန်ရအောင်အားထုတ်နည်း

ဈာန်တရားသည် အလွယ်နှင့်ရနိုင်သော တရားမျိုးမဟုတ်၊ ရူပဈာန်ကိုရလိုသော ယောဂီပုဂ္ဂိုလ်သည် ပထဝီကသိုဏ်းစသော ကသိုဏ်းတရားစသည်တို့ကို ပွားများအားထုတ်အပ်၏။ ဆန်ကောပမာဏရှိသော ပထဝီကသိုဏ်းဝန်းကိုပြုလုပ်၍၊ ထိုကသိုဏ်းဝန်းကိုရှေ့ဝယ်ချကာ၊ ပထဝီ ပထဝီ ဟု သေချာစေ့ငုအဖန်ဖန်ကြည့်ရှု၍၊ မနေမနားစီးဖြန်းပွားများလတ်သော်၊ ယောဂီပုဂ္ဂိုလ်အား အရပ်လေးမျက်နှာကြည့်သမျှ ကသိုဏ်းဝန်းသာထင်၏။ ယင်းမှာ ရှေးဦးလုပ်ငန်းတည်းဟူသော ပရိကမ္မနိမိတ်ဖြစ်၏။ ဤသို့မျက်စိ၌ထင်လတ်သော်၊ ပဌမကသိုဏ်းဝန်းကို မကြည့်ရှုတော့ဘဲ၊ ပထဝီ ပထဝီဟု အဖန်ဖန်အထပ်ထပ်စီးဖြန်းပွားများအပ်၏။ ဤသို့ပွားများပြန်သော်၊ ပဌမကသိုဏ်းဝန်းကို မျက်စိဖြင့်မြင်သကဲ့သို့ စိတ်၌ပထဝီကသိုဏ်းဝန်းနယ်နိမိတ်သည် ထင်မြင်၍လာသည်။ ထိုသို့စိတ်၌ထင်မြင်လာသော ပထဝီကသိုဏ်းဝန်းသည် စိတ်၌ရယူအပ်သော ဥဂ္ဂဟနိမိတ်မည်၏။ ထိုဥဂ္ဂဟနိမိတ် ထင်လတ်သော်၊ စိတ်သည်ငြိမ်သက်တည်ကြည်၏။ ပရိကမ္မသမာဓိကိုရ၏။

ထိုနောက် ယောဂီပုဂ္ဂိုလ်သည် ထိုစိတ်၌ထင်လာသော ဥဂ္ဂဟနိမိတ်ပထဝီကသိုဏ်းဝန်းကိုပင်၊ ပထဝီ ပထဝီဟု တဖန်အကြိမ်ကြိမ်အထပ်ထပ်စီးဖြန်းလတ်သော်၊ နီဝရဏတရားတို့သည် ကင်းကွာကုန်၏။ ကိလေသာတို့သည် အနည်ထိုင်သောရေကဲ့သို့ ငြိမ်ဝပ်၍နေကုန်၏။ စိတ်သည် အထူးကြည်လင်လာ၏။ တိမ်တိုက်မှထွက်လာသော လဝန်းကြီးကဲ့သို့ ဥဂ္ဂဟနိမိတ်တွင်းမှပေါက်ခွဲထွက်ပေါ်၍၊ ဥဂ္ဂဟနိမိတ်ထက် အဆအရာအထောင်မက အလွန်စင်ကြယ်ကြည်လင်သော ပထဝီကသိုဏ်းဝန်းကြီးသည် ထင်ပေါ်၍လာ၏။ ထိုထင်လာသော ပထဝီကသိုဏ်းဝန်းကို ပဋိဘာဂနိမိတ် (ပုံတူနိမိတ်) ဟုဆိုအပ်၏။ ထိုပဋိဘာဂနိမိတ်ကိုပင် ပထဝီ ပထဝီဟု တဖန်အထပ်ထပ်ပွားများစီးဖြန်းလတ်သော်၊ယောဂီပုဂ္ဂိုလ်အား ဝိတက်၊ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာတည်းဟူသော ဈာန်အင်္ဂါငါးပါးနှင့်ပြည့်စုံသော ပဌမဈာန်ဖြစ်ပေါ်လာ၏။ ကြွင်းသော ကမ္မဋ္ဌာန်းတို့တွင်လည်း ဤနည်းအတိုင်းပင် ပဌမဈာန်ကိုရနိုင်၏။

ထိုကဲ့သို့ပဌမဈာန်ကိုရပြီး၍၊ ဒုတိယဈာန်ကိုအားထုတ်လိုသော်၊ ယခုရသော ပဌမဈာန်စိတ်သည် ဝိတက်ပါခြင်းကြောင့် ရန့်ရင်းကြမ်းတမ်းသေး၏။ ဤဝိတက်မပါလျှင် ယခုထက်သိမ်မွေ့ရာ၏ဟုဆင်ခြင်၍၊ ဝိတက်ကိုမပါစေလိုသောဆန္ဒဖြင့်၊ ပထဝီပဋိဘာဂနိမိတ်ကိုပင်လျှင် ပထဝီ ပထဝီ ဟု စိတ်၌မှတ်လျက်၊ တဖန်အထပ်ထပ်စီးဖြန်းပွားများလတ်သော်၊ ဝိစာရ၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာတည်းဟူသော ဈာန်အင်္ဂါလေးပါးနှင့်ပြည့်စုံသော ဒုတိယဈာန်ဖြစ်ပေါ်လာ၏။

ဒုတိယဈာန်မှ တတိယဈာန်သို့တက်၍အားထုတ်လိုသော ယောဂီပုဂ္ဂိုလ်သည် အထက်ပါနည်းအတိုင်း ဝိစာရကိုမပါစေလိုသောဆန္ဒဖြင့် ပထဝီပဋိဘာဂနိမိတ်ကိုပင်လျှင်၊ ပထဝီ ပထဝီဟု စိတ်၌မှတ်လျက်၊ တဖန်အထပ်ထပ်စီးဖြန်းပွားများလတ်သော်၊ ပီတိ၊ သုခ၊ ဧကဂ္ဂတာဟူသော ဈာန်အင်္ဂါသုံးပါးနှင့်ပြည့်စုံသော တတိယဈာန်ဖြစ်ပေါ်လာ၏။

အထက်ပါနည်းအတိုင်းပင်၊ ပီတိမပါစေလိုသောဆန္ဒဖြင့် ပထဝီပဋိဘာဂနိမိတ်ကို တဖန်အထပ်ထပ်စီးဖြန်းပြန်သော်၊ သုခ၊ ဧကဂ္ဂတာဟူသော ဈာန်အင်္ဂါနှစ်ပါးနှင့်ပြည့်စုံသော စတုတ္ထဈာန်ဖြစ်ပေါ်လာ၏။

ထို့အတူပင်၊ သုခမပါစေလိုသောဆန္ဒဖြင့်၊ ပထဝီပဋိဘာဂနိမိတ်ကို တဖန်အထပ်ထပ်စီးဖြန်းပြန်သော်၊ သုခသည် တဖြည်းဖြည်းသိမ်မွေ့၍သွားသောအခါ၊ ကောင်းသည်ဟုခံစားခြင်းသဘောလည်းမဟုတ်၊ မကောင်းသည်ဟုခံစားခြင်းသဘောလည်းမဟုတ်၊ ကောင်းမှုမကောင်းမှု နှစ်ဖက်သို့မကျသော အလယ်အလတ်ခံစားခြင်းဥပေက္ခာဝေဒနာဖြစ်လာ၍၊ ဧကဂ္ဂတာနှင့်တကွ ဈာန်အင်္ဂါနှစ်ပါးနှင့်ပြည့်စုံစွာ ပဉ္စမဈာန်သည် ဖြစ်ပေါ်လာ၏။

ထိုပဉ္စမဈာန်သည် ရုပ်တရား၌သာလျှင်အာရုံရှိသော ရူပဈာန်ဖြစ်၍ ညံ့ဖျင်းသေး၏။ ထို့ကြောင့် ထိုမှတဆင့် သိမ်မွေ့မှန်မြတ်သော အရူပဈာန်ကိုတက်လှမ်းလိုသော်၊ စတုတ္ထနည်းအားဖြင့်ရအပ်သော စတုတ္ထဈာန်မှရအပ်သော ကသိုဏ်းဝန်းကိုပယ်၍၊ ကောင်းကင်ဟင်းလင်းဟု နှလုံးသွင်းကာ အထပ်ထပ်စီးဖြန်းပွားများသည်ရှိသော်၊ အာကာသာနဉ္စာယတနဈာန် (ပဌမာရုပ္ပဈာန်) သည်ဖြစ်ပေါ်လာ၏။

ထိုမှတဆင့်၊ ပဌမာရုပ္ပဈာန်ဝင်စား၍၊ ဈာန်မှထပြီးလျှင်၊ အဆုံးမရှိသော ကောင်းကင်ကိုအာရုံပြုသော ဝိညာဏ်ဟု စိတ်ထဲကမှတ်လျက် အဖန်ဖန်စီးဖြန်းပွားများသည်ရှိသော်၊ ဝိညာဏဉ္စာယတနဈာန် (ဒုတိယာရုပ္ပဈာန်) သည်ဖြစ်ပေါ်လာ၏။

ထိုမှတဆင့်၊ ဒုတိယာရုပ္ပဈာန်ဝင်စား၍၊ ဈာန်မှထပြီးလျှင်၊ ပဌမာရုပ္ပဝိညာဏ်ကိုမရှိအောင် ပျောက်အောင် နှလုံးသွင်း၍ အဖန်ဖန်စီးဖြန်းပွားများသည်ရှိသော်၊ အာကိဉ္စညာယတနဈာန် (တတိယာရုပ္ပဈာန်) သည်ဖြစ်ပေါ်လာ၏။

ထိုမှတဆင့်၊ တတိယာရုပ္ပဈာန်ဝင်စား၍၊ ဈာန်မှထပြီးလျှင်၊ တတိယာရုပ္ပဈာန်စိတ်ဝိညာဏ်ကိုပင်လျှင် သိမ်မွေ့ငြိမ်သက်၏ဟုစိတ်ကမှတ်လျက် အဖန်ဖန်စီးဖြန်းပွားများသည်ရှိသော်၊ နေဝသညာနာသညာယတနဈာန် (စတုတ္ထာရုပ္ပဈာန်) သည်ဖြစ်လာ၏။

ဆရာဆိုင်



။မြန်မာဗျည်း ၃၃ လုံးတွင် ည သည် ၁၀ ခုမြောက်အက္ခရာဖြစ်၍ စ၊ ဆ၊ ဇ၊ ဈ၊ ညဟူသော စဝဂ်တွင်ပါဝင်သည်။ ည အသံ၏ဖြစ်ရာဌာနမှာ တာလုဌာန်အာစောက်အရပ်ဖြစ်သည်။ ည အရေးအသား၏မူလမှာ ဗြာဟ္မီအရေးအသား ဖြစ်သည်။ ဗြာဟ္မီ မှ ကဒံဗ မောင်းကန်ပျူ သို့ အဆင့်ဆင့်ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟုရေးသားသည်ကိုတွေ့ရသည်။

ဗြာဟ္မီအရေးအသား ၏ကန့်လန့်မျဉ်းအစွန်တွင် အောက်သို့စိုက်နေသည့်မျဉ်းသည် အထက်သို့ဆန့်ကာ ဤသို့ဖြစ်လာသည်။ ထိုသဏ္ဍာန်မှ ရှေ့ဖက်ထောင်လိုက်မျဉ်း၏ခြေသည် အပြင်ဆန့်၍၊ ဗယ်ဖက်သို့အနည်းငယ်ယိမ်းပြီးလျှင်၊တဖန်ညာဖက်သို့ကွေး၍၊ ဤသို့ဖြစ်လာ၏။ ထိုသို့ရေးဖန်များလာသောအခါ၊ ညာဖက်တွင်ရှိထောင်လိုက်မျဉ်း၏အောက်ခြေမှာ လုံးဝပြုတ်သွားပြီးလျှင် မြန်မာ ည ဖြစ်လာသည်။ ည အက္ခရာ၏ အဆင့်ဆင့်ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။

**ညို၊ မိ။** ။အင်းဝခေတ်သည် မြန်မာစာပေလောက တွင် ပျို့နှင့် မော်ကွန်းအရေးအသား၌ တိုးတက်သောခေတ်ဖြစ်၏။ ထိုခေတ်က ထွန်းကားခဲ့သော စာဆိုပုဂ္ဂိုလ်တို့သည်လည်း အများအားဖြင့် ရဟန်းပုဂ္ဂိုလ်များဖြစ်ကြသည်။ ထိုသို့ရဟန်းပုဂ္ဂိုလ်စာဆိုများထင်ရှားနေသောခေတ်တွင် ကိုယ်ရည်သွေးရတုပိုဒ်စုံတပုဒ်ကို ရေးသားခြင်းဖြင့် ထူးကဲစွာနာမည်ကျော်ကြားလာသောအမျိုးသမီးစာဆိုတဦးကား မိညိုပင် ဖြစ်လေသည်။

မိညိုသည် ရခိုင်အမျိုးသမီးဖြစ်၏။ သက္ကရာဇ် ၉၁၃ ခုနှစ်တွင်အင်းဝ၌နန်းတက်သော နရပတိစည်သူမင်း လက်ထက်နန်းတွင်း စာဆိုတော် အဖြစ်ဖြင့် အမှု ထမ်းရွက်ရသည်။ သူနှင့်အပြိုင် စာဆိုအမျိုးသမီး တဦးမှာကား နန်းတွင်းသူ မိဖြူ ဖြစ်လေသည်။ (ဖြူ၊ မိ — ရှု)။

ယခုအခါ မိညိုရေးသားသော အထက်ဖော်ပြပါပိုဒ်စုံရတုတပုဒ်တည်းကိုသာတွေ့ရပေသည်။ သူ၏ပိုဒ်စုံရတုမှာ ကိုယ်ရည်သွေး ဖြစ်လေသည်။ ကိုယ်ရည်သွေးရခြင်းမှာလည်း ယှဉ်ပြိုင်စာဆိုဖက်ဖြစ်သော မိဖြူနှင့် ဖက်ပြိုင်၍ ကိုယ်ရည်သွေးရခြင်း ဖြစ်သည်။ ယင်းသို့ ကိုယ်ရည်သွေးရာ၌ မိညိုသည် ရှေးဦးစွာ မြင့်မိုရ်တောင်ကိုခြီးကျူးလိုသောကြောင့်၊

'တောင်တွင်မြင့်မိုရ်၊ ကျွန်ုပ်ဆိုသား၊ ရေညိုရစ်သန်း၊ ရံလျက်ဝန်း၍၊ လေးကျွန်းအလယ်၊ လေးသွယ်ခြည်ရောင်၊ တပြောင်ပြောင်လျှင်၊ ဘုန်းခေါင်အထွတ်၊ သုံးလူ့နတ်တို့၊ မချွတ်မေတ္တာ၊ ဘိမ္မာကို၊ မှန်စွာအခေါင်၊ ကြားလွှမ့်ဆောင်သည်၊ တောင်တွင်မြင့်မိုရ်သာတကား။' ဟုရေးသားဖွဲ့ဆိုလိုက်၏။ ထိုနောက် ပဟိုရ်စည်၏အံ့ဩဖွယ်များကို ဖော်ပြလိုပြန်သောကြောင့်၊

'စည်တွင်ပဟိုရ်၊ ကျွန်ုပ်ဆိုသား၊ ခါကိုသိစေ၊ ရစ်ကြိမ်နေဖြင့်၊ ချက်ရေမရွေ၊ တီးဝလေ့ကား၊ ညဥ့်နေ့နာရီ၊ ခြောက်ဆယ်စီလျှင်၊ ချက်ချီလှည့်ကျူး၊ ညဥ့်ဦးသန်ကောင်၊ သောက်ရောင်မိုးသောက်၊ မွန်းတည့်ရောက်က၊ ဝမ်းမြောက်ရှင်လန်း၊ လူရဟန်းတို့၊ ထက်ဝန်းဖူးမြင်၊ သိစီရင်သည်၊ စည်တွင်ပဟိုရ်သာတကား။' ဟုရေးသားစီကုံးပြန်လေသည်။ နောက်ဆုံးပိုဒ်တွင် မိညိုသည် သူ၏သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်တို့ကို အထက်ကခြီးကျူးခဲ့သည့်မြင့်မိုရ်တောင်၏ ကြီးမားသောဂုဏ်နှင့်ရင်း၊ ပဟိုရ်စည်၏အံ့ဩဖွယ်ရာမြည်ဟည်းလှသောဂုဏ်နှင့်ရင်း နှိုင်းခိုင်းကာ အောက်ပါအတိုင်း စပ်ဆိုလေသည်။

'နန်းတွင်မိညို၊ ကျွန်ုပ်ဆိုသား၊ မှောင်ကိုပယ်လင်း၊ ဆီမီးဝင်းသို့၊ သီတင်းငါးမည်၊ သီလတည်လျက်၊ လှရည်ညက်သေး၊ ပြေး၍မဆို၊ သူ့ကိုနှိပ်စက်၊ မာန်မထွက်တည့်၊ ဝှန်တက်ပညာ၊ လင်္ကာရတု၊ ဆိုမှုရွှရွ၊ ကြားကစိတ်ဝမ်း၊ သူ့နားချမ်းလိမ့်၊ စွဲလမ်းထိုတွင်၊ တောင်နှယ်ထင်သည်၊ နန်းတွင်မိညိုသာတကား။'

**ညို၊ ဦး။** ။ဦးညိုသည် ကုန်းဘောင်ခေတ်တွင် ထင်ရှားသော စာဆိုတော်တဦးဖြစ်သည်။ ဖခင်မှာ ထင်ရှားသော စာဆိုတော် ရွှေတောင်နန္ဒမိတ် ဖြစ်သည်။

ဦးညို၏ငယ်မည်မှာ မောင်သာမောင်ဖြစ်သည်။ ဦးညိုသည်စဥ့်ကူးမင်းလက်ထက်တွင် ကျွန်ယုံတော်ရင်းဖြစ်သည့်အတိုင်း အတွင်းဝန်ထောက်အဖြစ်ခြီးမြှောက်ခြင်းခံရသည်။ ထိုမင်းလက်ထက်တွင် ရွှေမင်းဘုန်း ဆင်တော်မော်ကွန်းကို ဖွဲ့ဆိုသည်။

ဆင်တော်မော်ကွန်း များစွာအနက် ရွှေမင်းဘုန်းဆင်တော်မော်ကွန်းမှာ ဒုတိယအဆင့်အတန်းကိုမှီသည်။ ယင်းမော်ကွန်းကိုလေ့လာသောအားဖြင့် ဦးညိုသည် ရာဇဝင်သမိုင်းနှင့် ဂဇသျှတ္တရဆင်ကြန်အတတ်များကိုကျွမ်းကျင်နှံ့စပ်ကြောင်းသိသာသည်။ ထိုမော်ကွန်း တစောင်တည်းဖြင့်ပင် ဦးညိုသည် စာပေလောကတွင်ထင်ရှားခဲ့သည်။

၁၄၃၃ ခုနှစ်တွင် ဘိုးတော်မင်းတရား နန်းတက်တော်မူသောအခါ၊စဥ့်ကူးမင်းကို ကွပ်မျက်ရာတွင် စဥ့်ကူးမင်း၏ ကျွန်ယုံတော် ဦးညိုသည်လည်း ပါသွားလေသည်။

ညောင်ကန်ဆရာတော်များ။ ။သက္ကရာဇ် ၁၂၁၃ ခုနှစ် သီတင်းကျွတ်လဆန်း ၁ ရက် ကြာသပတေးနေ့၊ မင်းလှသီရိသီဟသူရေးသားကောက်နုတ်အပ်သော ဆရာတော်များ ဦးရေစာရင်းအရ ညောင်ကန်ဆရာတော်သည်

(၁) ညောင်ကန်ဆရာတော်ရှင်ပုညသေဋ္ဌ
(၂) ညောင်ကန်ဆရာတော်ရှင်သဒ္ဓမ္မရံသီ (ဦးညွန့်)
(၃) ညောင်ကန်ဆရာတော်ရှင်ကဝိန္ဒ (ဦးရောင်)
(၄) ညောင်ကန်ဆရာတော်ရှင်ပုညရံသီ (ဦးပိုး)
(၅) ညောင်ကန်ဆရာတော်ရှင်ဇမ္ဗုဓဇ (ဦးပုတ်)
(၆) ညောင်ကန်ဆရာတော်ရှင်မေဓာလင်္ကာရ(ဦးကျီး)
(၇) ညောင်ကန်ဆရာတော်ရှင်ဒီပ (ဦးကံ)

ဟူ၍ ၇ ပါးရှိခဲ့ရာ၊ အလွန်ထင်ရှား၍ သာသနာတော်နှင့် လောကအား ကျေးဇူးများသော ရှင်သဒ္ဓမ္မရံသီ၊ ရှင်ကဝိန္ဒ၊ ရှင်ပုညရံသီ၊ ရှင်ဇမ္ဗုဓဇ၊ ရှင်မေဓာလင်္ကာရဟူသော ညောင်ကန် ဆရာတော်ငါးပါးတို့၏ အကြောင်းအရာ ထေရုပ္ပတ္တိကိုသာ ထုတ်နုတ်ရေးသားပါအံ့။

## ညောင်ကန်ဆရာတော်ရှင်သဒ္ဓမ္မရံသီ (ဦးညွန့်)

ညောင်ကန်ဆရာတော် ရှင်သဒ္ဓမ္မရံသီကား သက္ကရာဇ် ၁၁၁၀ ပြည့်နှစ်တွင်ဖွားမြင်တော်မူသည်။ နံတော် သောကြာသား၊ ဇာတိ မင်းအိုရွာ၊ လူမည် ဦးညွန့်၊ သက်တော်စေ့တွင် ရဟန်းပြုသည်။ ရဟန်းမည် ရှင်သဒ္ဓမ္မရံသီတည်း။

ထိုဆရာတော်သည် သာသနာပိုင် မင်းအိုဆရာတော်ဘုရားကြီး၏တပည့်ရင်းဖြစ်၏။ ဥဘတောဝိဘင်းကိုပြန်ဆိုနိုင်သဖြင့် အလုံမြို့ အထက်တိုက်အောက်တိုက် သံဃာစုတွင် နိဿယည်းဆရာအဖြစ် သာသနာပိုင် မောင်းထောင်ဆရာတော်ဘုရားကြီး စာချန်တော်ပေးအပ်ခြင်းကိုခံရသည်။ ထိုဆရာတော်သည် သမာဓိအထူးရှိသည်ဟု ဆရာစဉ်ဆက် ချီးမွမ်းတော်မူကြ၏။

ရတနာပုရ စတုတ္ထမြို့တည်နန်းတည်မင်းတရားကြီး နန်းတက်တော်မူစက ရွှေမြို့တော်သို့ပင့်၍၊ အရှေ့မြောက်ယွန်း အရပ်တွင် ဆောက်လုပ်အပ်သော အောင်မြေဘုံကျောင်းတိုက်ကို ညောင်ကန်ဆရာတော်ဘုရားအား တင်လှူတော်မူသည်။ သီရိသဒ္ဓမ္မာဘိပရမဓဇမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်နာမံကိုလည်း လှူတော်မူသည်။

ရတနာပုရအဝမြို့တော်သို့ရောက်သောအခါ၊ မြို့တော်အရှေ့မြောက်ထောင့်အရပ် မဟာအောင်မြေဘုံစံ အုတ်ကျောင်းတိုက်၌ သီတင်းသုံးတော်မူသည်။ နောက်မကျွန်းမမာရှိလျှင်၊ ရတနာပုရအဝမြို့တွင် အနောက်တောင်ယွန်းအရပ် ဘုံကျော်ကျောင်းကြီးမြောက်ဖက်ရှိဝါဆိုကျောင်းသို့ပြောင်း၍သီတင်းသုံးတော်မူသည်။ သက်တော် ၈၄ နှစ်၊ ဝါတော် ၆၄ ဝါ၊ သက္ကရာဇ် ၁၁၉၄ ခုနှစ်တွင် သီတင်းသုံးရာဝါဆိုကျောင်း၌ပင် ဘဝပြောင်းတော်မူသည်။

## ညောင်ကန်ဆရာတော်ရှင်ကဝိန္ဒ (ဦးရောင်)

ညောင်ကန်ဆရာတော် ရှင်ကဝိန္ဒ၊ ဒုတိယညောင်ကန်ဆရာတော်ကား သက္ကရာဇ် ၁၁၁၅ ခုနှစ်တွင်ဖွားမြင်တော်မူသည်။ နံတော် တနင်္လာသား၊ ဇာတိ အလုံမြို့ကျေး ညောင်ကန်ရွာ၊ လူမည် ဦးရောင်၊ အသက် ၁၅ နှစ်တွင်သာမဏေပြုသည်။ ရှင်သာမဏေမည် ရှင်ကဝိန္ဒ၊ သာမဏေ ၆ ဝါ သက်တော်စေ့တွင် ရဟန်းပြုသည်။ ရဟန်းမည်လည်း ရှင်ကဝိန္ဒပင်တည်း။ ထိုဆရာတော်သည် အသိပညာနှင့်အထူးပြည့်စုံ၏ဟု ဆရာစဉ်ဆက်ချီးမွမ်းကြသည်။ စတုတ္ထာလီသန်ပါတ်ဇာတ်အဋ္ဌကထာနိဿယ၊ ပဏ္ဏာသနိပါတ်ဇာတ် အဋ္ဌကထာနိဿယ၊ ငါးရာငါးဆယ်ဇာတ်ဝတ္ထု၊ မင်္ဂလတ္ထဒီပနီစကားပြေ၊ သချႋုပကာသက စာကိုယ်နိဿယ စသောကျမ်းဂန်များကို ရေးသားတော်မူသည်။ ယခုအသုံးပြုနေသော ငါးရာငါးဆယ်ဇာတ်ဝတ္ထုမှာ ယင်းဆရာတော်ရေးသားသော ဇာတ်ဝတ္ထုဖြစ်သည်။

အမရပုရ မြို့တည်နန်းတည်မင်းတရားကြီး၏ မြောက်နန်းမတော်မိဖုရားဆောက်လုပ်အပ်သော အမိုးဘုံ ၄ ဆင့်ကျောင်းမ၊ မာရာဘင်ဆီး၊ ဦးကင်ရာဇပလ္လင်တည်၊ ဝဲယာထီးဖြူစိုက်၊ အတွင်းအပြင် အထက်အောက်ရွှေပိန်းချကျောင်းတော်ကြီးကို သက္ကရာဇ် ၁၁၅၃ ခုနှစ် ပြာသိုလဆန်း ၁၀ ရက် အင်္ဂါနေ့တွင် မင်္ဂလာဘုံကျော်ဟုကမ္ပည်းမော်ကွန်းထိုးမှတ်သမုတ်တော်မူ၍၊ မင်းကရာဇ်ကိုယ်တော်တိုင် ရွှေကရားဖြင့် ရေစက်သွန်းချ၍၊ ညောင်ကန်ဆရာတော်အား တင်လှူတော်မူသည်။

သက်တော် ၆၈ နှစ်၊ ဝါတော် ၄၈ ဝါ၊ သက္ကရာဇ် ၁၁၇၃ ခုနှစ်တွင်၊ မင်္ဂလာဘုံကျော်ကျောင်းတော်ကြီး၌ပင် ဘဝပြောင်းတော်မူသည်။ ဘွဲ့တံဆိပ်တော်ကား ကဝိန္ဒာဘိသဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရု ဖြစ်သည်။

ထိုဆရာတော်ကား ကျောင်းအမ မြောက်နန်းမတော်မိဖုရားအမိန့်တော်နှင့် သားတော်ပြည်မင်းသား မဟာသီရိသီ

ဟာသူရမ္မရာဇာ၊ သက်န်းအများကပ်လှူလာသည်ကို စကား တခွန်းမျှမြွက်တော်မမူ၊ အလှူခံ၍တရားဟောပြီးလျှင် မင်းသား ပြန်၍သွားရတော့သည်။ နှုတ်ခွန်းဆက်မည်ကိုထားဘိ၊ မော်၍မျှကြည့်တော်မမူချေ။ သို့စဉ် ဣန္ဒြေကို သိမ်းဆည်းတော်မူနိုင်သည်။

## ညောင်ကန်ဆရာတော် ရှင်ပုညရံသီ (ဦးပိုး)

ညောင်ကန်ဆရာတော် ရှင်ပုညရံသီ အုတ်ကျောင်းဆရာတော်ကား သက္ကရာဇ် ၁၁၄၀ ပြည့်နှစ်တွင်ဖွားမြင်တော်မူသည်။ နံတော် ကြာသပတေးသား၊ အဖ မောင်ဖြူ၊ အမိ ရှင်ညက်၊ လူမည် ဦးပိုး၊ အသက် ၁၅ နှစ်က ရှင်သာမဏေပြုသည်။ သာမဏေမည် ရှင်ပုည၊ သာမဏေဝါ ၆ ဝါရသည့်ကာလ သက်တော်စေ့၍ရဟန်းပြုသည်။ ရဟန်းမည် ရှင်ပုညရံသီ ဖြစ်သည်။

အမရပုရ မြို့တည်နန်းတည် မင်းတရားကြီး၏ နန်းမတော် အရှင်မိဖုရားခေါင်ကြီးက ကိုးကွယ်တော်မူသည်။ အမရပုရ ရွှေမြို့တော်တွင်း အရှေ့မြောက်ထောင့်အရပ် မင်းအိုတိုက်တွင် သီတင်းသုံးတော်မူသည်။

ရတနာပုရ အဝရွှေမြို့တော်ကြီးသို့ရောက်သောအခါ၊ ရွှေမြို့တော် အရှေ့မြောက်ထောင့် ထီးလှိုင်ရှင်ဘုရား ရွှေစေတီဘုရားအနီး ကျောင်းဦးပြာသာဒ်နှင့် အမိုး ဘုံသုံးထပ် ကျောင်းမ မာရဘင်ဆီး၊ ဦးကင်ရာဇပလ္လင်တည်၊ ဝဲယာထီးဖြူစိုက်၊ သရွတ်အင်္ဂတေတို့ဖြင့် အုတ်ကျောင်းတော်ကြီးဆောက်လုပ်၍ပြီးသောအခါ၊ သက္ကရာဇ် ၁၁၈၉ ခုနှစ် တပို့တွဲလဆန်း ၃ ရက်နေ့ ကျောင်းတော်ကြီးအနောက်မြောက်မြေလပ်၌ မင်းတဲကြီးစွာဆောက်လုပ်စေ၍၊ အရှင်နှစ်ပါး ထွက်တော်မူပြီးလျှင်၊ ကြီးကျယ်စွာ မင်းပွဲသဘင် ဆင်ယင်ကျင်းပလျက်၊ တံဆိပ်တော်ရ မရဆရာတော်တို့အား ပရိက္ခရာရှစ်ပါးနှင့်တကွ ရဟန်းတို့အသုံးအဆောင်ပဒေသာပင်ရေ တရာကျော် လှူဒါန်းတော်မူလျက်၊ အုတ်ကျောင်းတော်ကြီးကို မဟာအောင်မြေဘုံစံကမ္မည်းမော်ကွန်း ထိုးမှတ်သမုတ်တော်မူ၍၊ မင်းကေရာဇ်ကိုယ်တော်တိုင် ရွှေကရားဖြင့် ရေစက်သွန်းချတော်မူပြီးလျှင်၊ ညောင်ကန်ဆရာတော်ဦးပိုးအား တင်လှူတော်မူသည်။

ဆရာတော်သည် သက်တော် ၅၁ နှစ်၊ ဝါတော် ၃၂ ဝါတွင် သီတင်းသုံးတော်မူရင်း အုတ်ကျောင်းတော်ကြီး၌ပင်၊ သက္ကရာဇ် ၁၁၉၁ ခုနှစ် နယုန်လဆန်း ၁၅ ရက်နေ့ ဘဝပြောင်းတော်မူသည်။ ဘွဲ့တံဆိပ်တော်ကား ပုညာဘိသီရိ သဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရု ဖြစ်သည်။

ယင်းဆရာတော်ပြုစုသောကျမ်းဂန်များကား အဘိဓမ္မတ္ထ သင်္ဂဟအဋ္ဌကထာနိဿယနှင့် သုဗောဓာလင်္ကာရနိဿယနှစ်စောင်သာ ပိဋကတ်သမိုင်းတွင်တွေ့ရသည်။

## ညောင်ကန်ဆရာတော်ရှင်ဇမ္ဗုဓဇ (ဦးပုတ်)

ညောင်ကန်ဆရာတော်ရှင်ဇမ္ဗုဓဇ ဦးပုတ်၊ ဒုတိယအုတ်ကျောင်းဆရာတော်ကား သက္ကရာဇ် ၁၁၄၉ ခုနှစ် နယုန်လဆုတ် ၅ ရက် အင်္ဂါနေ့တွင်ဖွားမြင်တော်မူသည်။ ဇာတိ အလုံမြို့ကျေး ညောင်ကန်ရွာ၊ အဖ မောင်အို၊ အမိ ရှင်မွေး၊ လူမည် ဦးပုတ်၊ အသက် ၁၃ နှစ် ရှင်သာမဏေပြုသည်။ သာမဏေဝါ ၇ ဝါ သက်တော်စေ့တွင် ရဟန်းပြုသည်။ သာမဏေမည်၊ ရဟန်းမည် ရှင်ဇမ္ဗုဓဇဖြစ်သည်။

ရတနာပုရ စတုတ္ထမြို့တည်နန်းတည်မင်းတရားကြီး၏ နန်းမတော်အရှင်မိဖုရားခေါင်ကြီးက ကိုးကွယ်တော်မူသည်။ အဝရွှေမြို့တော်အရှေ့မြောက်ထောင့်အရပ် မဟာအောင်မြေဘုံစံ အုတ်ကျောင်းတော်ကြီးကို နောင်ဇွတ်ဦးပိုး ပျံလွန်တော်မူပြီးနောက်၊ ဆရာတော်ဦးပုတ်အားတင်လှူသဖြင့်၊ ထိုကျောင်းတော်ကြီး၌သီတင်းသုံးတော်မူသည်။ ထိုအခါ ဒုတိယအုတ်ကျောင်းဆရာတော်ဟူ၍၎င်း၊ ညောင်ကန်ဆရာတော်ဟူ၍၎င်း၊ ဆရာတော်ဦးပုတ်ဟူ၍၎င်း ထင်ရှားကျော်စောတော်မူသည်။

ညီတော်မင်းတရားကြီး လက်ထက် အမရပုရရွှေမြို့တော်ကြီး အရှေ့မြောက်ယွန်းအရပ် မင်္ဂလာဘုံကျော်ညောင်ကန်တိုက်၌ ညီတော်မင်းတရားကြီးနန်းမတော်အရှင်မိဖုရားခေါင်ကြီးက ဝါဆိုကျောင်းဆောက်၍ တင်လှူတော်မူသည်။

ထိုအခါ ညီတော်မင်းတရားကြီးက ဆရာတော်ဦးပုတ်ကျော်စောလှသည်၊ ကျမ်းဂန်တတ်ပါ၏လောဟု သံအင်းသာသနာပိုင်ဆရာတော်ဘုရားကြီးကိုလျှောက်ထားရာ၊ ဆရာတော်ဘုရားကြီးက ဆရာတော်ဦးပုတ်ကိုခေါ်စေ၍ ဆန်းကြယ်နက်နဲခက်ခဲသော အရာဌာန ဂဏ်ပဒ္ဓပြဿနာတို့ကို တခုပြီးတခု မေးမြန်းတော်မူသောအခါ ဆရာတော်ဦးပုတ်က ဆန်း၊ အလင်္ကာ၊ သဒ္ဒါ၊ နေတ္တိနည်းတို့ဖြင့် ဆန်းပြားကျယ်ဝန်းစွာ ဖြေဆိုလျှောက်ထားလေလျှင်၊ သာသနာပိုင်ဆရာတော်ဘုရားကြီးက ညောင်ကန်ဆရာတော်သည် အတော်နှင့်အကျော်မှာ အကျော်ပင် နည်းသေးသည်ဟုမိန့်တော်မူလေသည်။

ဆရာတော်ဦးပုတ်သည် သက်တော် ၅၅ နှစ်၊ ဝါတော် ၃၅ ဝါတွင် မင်္ဂလာဘုံကျော်ကျောင်း၌ပင် ဘဝပြောင်းတော်မူသည်။ ဘွဲ့တံဆိပ်တော်ကား ပဌမဘွဲ့တံဆိပ်တော် စက္ကိန္ဒာဘိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု၊ ဒုတိယ ဘွဲ့တံဆိပ်တော် စက္ကိန္ဒာဘိ သီရိသဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရု ဖြစ်သည်။ ထိုဆရာတော်ကြီးကား သီလသမာဓိနှင့် ပြည့်စုံတော်မူ၍ ပရိယတ္တိဓမ္မ၌ အလွန်မွေလျော်တော်မူသည်။

တနေ့သ၌ မင်းတရားကြီးက မှန်နန်းရာဇဝင်တော်ကြီးကို ပြုစုအံ့သောငှာ ဆရာတော်ကြီးကိုပင့်လျှောက်သည်။ ဆရာတော်ကြီး ကြွတော်မမူချေ။ မုံရွေးဇေတဝန် ဆရာတော်

ကိုပင့်လျှောက်လျှင် ကြွ၍ရေးသားတော်မူသည်။ မုံရွေးဇေတဝန်ဆရာတော်ကြီးသည် တခါတရံ ကျောင်းတော်သို့ မပြန်၊ နန်းတော်ကြီး၌ပင် ကျိန်းစက်တော်မူသည်။ ဤအကြောင်းကို ဆရာတော်ဦးပုတ်ကြားသိတော်မူလျှင်၊ ရှေးအခါက နန်းတော်အိမ်တော်များမှာ သမားဖြူသမားညိုသာရှိပေသည်။ ယခုအခါမှာမူကား သမားဝါလည်းရှိတော့သည် ပင်ဟု မိန့်တော်မူသတတ်။

ထိုဆရာတော်ဦးပုတ်သည် ပါရာဇိကဏ်ပါဠိတော်နိဿယ၊ သမ္မောဟဝိနောဒနီ အဋ္ဌကထာနိဿယ၊ နယမုခဒီပနီ ပါဠိနိဿယ၊ ဝုတ္တောဒယဆန်းနိဿယသစ်၊ သဒ္ဒနီတိနိဿယ ၃ တွဲ၊ ရူပသိဒ္ဓိနိဿယ၊ ဝိနည်းငယ် လေးစောင် နိဿယ၊ ကဗျာသဒ္ဒသင်္ဂဟကျမ်း၊ ကဗျာသာရတ္ထသတ်ပုံ၊ သီဟိုဠ်ရာဇဝင်ချုပ်ပါဠိနိဿယ သံပေါက် စသော လောကီ လောကုတ္တရာ ပါဠိမြန်မာကျမ်းပေါင်း ၅၄ ကျမ်းတို့ကို ရေးသားစီရင်ခဲ့သဖြင့် သာသနာတော်နှင့် လောကအားအလွန်ကျေးဇူးများသော ပုဂ္ဂိုလ်ထူးဖြစ်သည်။

### ညောင်ကန်ဆရာတော် ရှင်မေဓာလင်္ကာရ (ဦးကျီး)

ညောင်ကန်ဆရာတော်ရှင်မေဓာလင်္ကာရ ပြည်ဆရာတော်ကား သက္ကရာဇ် ၁၁၅၀ ပြည့်နှစ် ဝါဆိုလဆန်း ၇ ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်မူသည်။ ဇာတိ အလုံမြို့ကျေး ညောင်ကန်ရွာ၊ အဖ မောင်ဖြူ၊ အမိ ရှင်ညွန့်၊ လူမည် ဦးကျီး၊ အသက် ၁၂ နှစ်တွင် ရှင်သာမဏေပြုသည်။ ရှင်မည် မေဓာ၊ သာမဏေဝါ ၇ ဝါ သက်တော်စေ့ရဟန်းပြုသည်။ ရဟန်းမည် ရှင်မေဓာလင်္ကာရတည်း။

ထိုဆရာတော်သည် ရတနာပုရ အဝမြို့တည်နန်းတည် မင်းတရားကြီး လက်ထက် ရွှေမြို့တော်မြောက်ထောင့် မဟာ အောင်မြေဘုံစံ အုတ်ကျောင်းတော်ကြီးဝယ် သီတင်းသုံးတော်မူသော ညောင်ကန်ဆရာတော်ဦးပိုးထံတွင် စာပေ ကျမ်းဂန် သင်ကြားပို့ချကာနေသည်။

ညီတော်မင်းတရားကြီးလက်ထက် အမရပုရ ရွှေမြို့တော်ကြီးသို့ရောက်သောအခါ၊ ရွှေမြို့တော်အရှေ့တောင်ယွန်းအရပ်တွင် မင်းတရားကြီး၏သားတော် ဒါယကာပြည်မင်းသားက တိုက်တာအသစ်တည်ထောင်ကာ ဝါဆိုကျောင်းဆောက်လုပ်လှူဒါန်းကိုးကွယ်သည်။ ထိုအခါမှစ၍ ပြည်ဆရာတော်ဟု ထင်ရှားသည်။

နောက်တဖန် မင်းတုန်းမင်းတရားကြီး လက်ထက် သီရိမဟာမင်္ဂလာဒေဝီ ဘွဲ့ခံ မြောက်နန်းမတော် မိဖုရားသည် မန္တလေးမြို့မြောက်ပြင်၌ မင်္ဂလာရာမ ကမည်းတပ်သော ကျောင်းတိုက်ကြီးကိုတည်ထောင်၍ ပြည်ဆရာတော်ဘုရားကြီးကို တင်လှူတော်မူသည်။ ထိုဆရာတော်ဘုရားကြီးကား ပရိယတ္တိ၊ ပဋိပတ္တိ၊ သီလ၊ သမာဓိ၊ ပညာ၊ ဟိရိဩတ္တပ္ပနှင့် ပြည့်စုံ၏။ ဖြဟ္မစိုရ်တရား ၄ ပါးနှင့်ပြည့်စုံ၏ဟု ဆရာတော်စဉ်ဆက်တို့ချီးမွမ်းကြသည်။ သက်တော် ၇၅ နှစ်၊ ဝါတော် ၅၅၊ သက္ကရာဇ် ၁၂၂၅ ခုနှစ် နှောင်းတန်ခူးလဆန်း ၁၃ ရက်နေ့တွင် ဘဝပြောင်းတော်မူသည်။ ဘွဲ့တံဆိပ်တော်ကား၊ မေဓာဘိ ပဏ္ဍိတ ဓဇ မဟာ ဓမ္မ ရာဇာဓိရာဇ ဂုရုနှင့် မေဓာဘိဝံသသဒ္ဓမ္မဓဇမဟာဓမ္မရာဇာဓိရာဇဂုရု ဖြစ်သည်။

ထိုဆရာတော်ကြီးသည် ငါးရာငါးဆယ်ဇာတ်ပါဠိတော်နိဿယသစ်၊ ဝိသုဒ္ဓိမဂ်အဋ္ဌကထာနိဿယသစ်၊ အဋ္ဌသာလိနီ အဋ္ဌကထာနိဿယသစ်၊ ဋီကာကျော်နိဿယသစ်၊ ခန္ဓဝိဘာဝနီဋီကာပါဠိ၊ ကစ္စာယနသဒ္ဒပ္ပတ္ထဒီပနီ စသော ကျမ်းဂန်များစွာတို့ကို ရေးသားစီရင်ခဲ့သည်။

မှတ်ချက်။ ။ဟသ်ာတမြို့ မြစ်ကမ်းဆရာတော် ရှင်ပညာဝံသရေးသားသော ပြည်ဆရာတော်အတ္ထုပ္ပတ္တိ၌ ညောင်ကန်ဆရာတော် (၁၂) ပါး ပြဆိုထားသည်။

ညောင်ကန်ဆရာတော်ဟုခေါ်ဝေါ်ခြင်းမှာ ညောင်ကန်ရွာကျောင်း၌ သီတင်းသုံးဘူး၍ငင်း၊ ညောင်ကန်ရွာဇာတိဖြစ်၍ငင်း ခေါ်ဝေါ်ကြဟန်တူသည်။ ဦးကြီးမေ

**ညောင်တုန်းမြို့။** ။ညောင်တုန်းမြို့သည် မအူပင်ခရိုင်၊ ညောင်တုန်းနယ်အပိုင်၊ ညောင်တုန်းမြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ ဧရာဝတီမြစ်နှင့် ပန်းလှိုင်မြစ် ဆုံရာအရပ်တွင် တည်ရှိ၍၊ မအူပင်မြို့၏မြောက်ဖက်ကျသည်။ ညောင်တုန်းနယ်အပိုင်တွင် ညောင်တုန်းမြို့နယ်နှင့် ဓနုဖြူမြို့နယ်တို့ပါဝင်သည်။ ညောင်တုန်းမြို့နယ်၏အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၃၃၁မိုင်မျှရှိသည်။ ၁၈၅၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေ ၁၅,၂၄၅ ယောက်ရှိသည်။

မူလက ညောင်တုန်းသည် အိမ်ခြေ ၁၀၀ မျှသာရှိသော ရွာဖြစ်သည်။ ညောင်တုန်းနှင့်တဖက်ကမ်းဖြစ်သော ရန်ကင်းစံရာသည် ယခုအခါ ရွာပင်ဖြစ်နေသော်လည်း၊ ညောင်တုန်းမြို့ မစည်ကားစဉ်က မြစ်ကြောင်း ဆိပ်ကမ်းအဖြစ်ဖြင့် ထင်ရှားခဲ့သည်။ ခရစ် ၁၈၅၂ ခုနှစ်လောက်တွင် ညောင်တုန်းမြို့နေရာ၌ အိမ်ခြေ ၁၀၀ ရှိသော ရွာကလေးသာ ရှိသည်။ ထိုနောက် အင်္ဂလိပ်အစိုးရလက်ထက်တွင်မှ စည်ကားတိုးတက်လာသည်ဟု အမှတ်အသားရှိသည်။ ထိုခေတ်ကစ၍၊ အညာကုန်နှင့် အောက်ကုန် လဲလှယ်ရောင်းချရာ ဧရာဝတီဆိပ်ကမ်းမြို့ကြီးအဖြစ်သို့ တစတစ တိုးတက်လာခဲ့သည်။ အောက်ကုန်များမှာ အများအားဖြင့် ငပိသာဖြစ်သောကြောင့် ညောင်တုန်းမြို့တွင် ငပိလှော်ခြင်း၊ ပြုပြင်ခြင်း၊ ရောင်းချခြင်းအလုပ်သည် များစွာတွင်ကျယ်လာလေရာ၊ ညောင်တုန်းမြို့မှငပိထွက်သည်ဟုဆိုစမှတ်ပြုကြသည်။ အကယ်စင်စစ်ကား၊ ညောင်တုန်းမြို့၏အဓိကထွက်ကုန်မှာ ငပိမဟုတ်ချေ။ ဆန်စပါးနှင့် ကိုင်းကုန်များ ဖြစ်



ညောင်တုန်းမြို့ အတုလမာရဇိန်သွန်းဘုရားကြီး၏ တန်ဆောင်းတော်များ

သည်။ ငပိမှာ အောက်မြို့ကျေးရွာများမှ ညောင်တုန်းမြို့သို့ မြန်မာနိုင်ငံအထက်ပိုင်းအတွက် ရောင်းချစေရန် တင်ပို့သောကုန်စည်ဖြစ်သည်။

ညောင်တုန်းမြို့ကျွန်းထိပ်ရပ်သည် ငပိအရောင်းအဝယ်ဖြင့် စည်ကားသောရပ်ကွက်ဖြစ်ခဲ့သည်။ သို့ရာတွင် ၁၉၂၀ ပြည့်နှစ်လွန်လာသောအခါ၊ ညောင်တုန်းမြစ်ဆိပ်၌ သောင်ထွန်းလာသောကြောင့် ရေဝတီမီးသင်္ဘောတို့သည် ညောင်တုန်းမြို့၌မဆိုက်ကပ်နိုင်တော့ချေ။ အထူးသဖြင့်နွေအခါတွင် မြို့ရှိဆိပ်ခံတွဲသို့ သင်္ဘောမကပ်နိုင်ဖြစ်ခဲ့သည်။ ဤသို့လျှင် တစတစဖြင့် ဆိပ်ကမ်းနေရာကော၍သွားခြင်းကြောင့်၊ ညောင်တုန်းမြို့၏ငပိ အရောင်းဝယ်လုပ်ငန်းသည်လည်း ဆုတ်ယုတ်သွားခဲ့လေသည်။ သို့သော် ထိုလုပ်ငန်းမှာ အစဉ်အလာအားဖြင့် ယနေ့တိုင် အနည်းငယ်ကျန်ရစ်သေးသည်။

**ညောင်ပင်။** ။ညောင်ပင်သည် 'မိုရေးစီအီး' မျိုးရင်းတွင် ပါဝင်သည်။ ညောင်ပင်၏သိပ္ပံအမည်မှာ 'ဖိုင်းကပ်ဗင်ဃာလင်းဆစ်'ဖြစ်သည်။

ညောင်ပင်သည် အလွန်ကြီးမားသည့်အပင်မျိုးဖြစ်သည်။ ယင်းပေါက်ရောက်သည့်မူလဒေသမှာ အိန္ဒိယနှင့် မြန်မာနိုင်ငံစသည်တို့ကဲ့သို့သော အပူပိုင်းဒေသတို့ဖြစ်သည်။ ညောင်ပင်သည် မြေကြီးမှပေါက်ခဲ၏။ ညောင်သီးကိုငှက်စား၍၊ ထန်းပင်စသော သစ်ပင်များပေါ်၌ မစင်စွန့်ချရာ၊ ထိုမစင်တွင်ပါသောအစေ့မှ အညောက်များပေါက်လာတတ်သည်။ ထိုအညောက်များသည် မျိုးစေ့ကျရာအပင်မှတဆင့် မြေကြီးသို့ရောက်သွားပြီးလျှင် အမြစ်တွယ်ကြသည်။ ညောင်ပင်ကြီးထွားလာသောအခါ၊ မျိုးစေ့ကျရာအပင်ကိုမျိုလိုက်သည်။ များသောအားဖြင့် ထိုအပင်သေလေသည်။

ညောင်ပင် ပေါက်လာလျှင်၊ အောက်ပိုင်းရှိ အကိုင်းတို့မှ ညောင်ထောက်များ ထွက်လာကြသည်။ ထိုညောင်ထောက်တို့သည် လေမြစ်များဖြစ်ကြသည်။ ယင်းလေမြစ်တို့သည် ပင်စည်နီးပါးမျှကြီးထွားလာသောအခါ၊ အကိုင်းများသည်လည်း ကြီးထွားလာကြ၍၊ ညောင်ပင်၏မူလအမြစ်တွယ်ရာနေရာသည် ကျယ်ပြန့်သွားလေသည်။ ထိုနောက် မူလညောင်ပင်၏ပင်စည်သည် အသက် ကြီးရင့်လာသဖြင့် သိမ်ဖျင်းပျက်စီးသွားသောအခါ၊ ညောင်ထောက်များသည် ပင်စည်ကဲ့သို့ ကျန်ရစ်ခဲ့ကြသည်။

ကာလကတ္တားမြို့၊ ရုက္ခဗေဒဥယျာဉ်အတွင်းရှိညောင်ပင်တပင်သည် ပေ ၇၀ ကျော်မြင့်သည်။ အချင်းမှာ ၁၃ ပေဖြစ်သည်။ ပင်စည်ကလေးပေါင်း ၃၀၀၀ မက ရှိသည်။ ထိုပင်စည်များအနက် ပင်စည် ၂၃၀ တို့မှာ ပင်စည်တခုလျှင် အချင်း ၂ ပေနှင့် ၃ ပေကြား၌ရှိကြသည်။ ထိုပင်စည်များဖြင့် ဝေဆာနေသောညောင်ပင်အောက်တွင် လူပေါင်း ၇၀၀၀ မျှခိုလှုံနိုင်သည်။ လူအများသိရှိသမျှမှာ ညောင်ပင်အကြီးဆုံးသည် သီဟိုဠ်ကျွန်း၌ရှိသည်ဟု သိကြရသည်။



ဗုဒ္ဓဘာသာဝင်တို့ အထွတ်အမြတ်ထားရာ ဗောဓိညောင်ပင်

ထိုညောင်ပင်၌ ပင်စည်ကြီးပေါင်း ၃၅၀ နှင့် ပင်စည်ငယ်ပေါင်း ၃၀၀၀ မက ရှိသည်။ ဤသို့လျှင် ပင်မတခုတည်းမှ ပင်စည်အများ ပွားတတ်သော အခြင်းအရာကြောင့် ညောင်ပင်တပင်တည်းဖြင့် သစ်တောတတောဖြစ်နိုင်သည်ဟု ဆိုလေ့ရှိကြသည်။

ညောင်ပင်သည် သစ်တော၌ရင်း၊ တောအုပ်၌ရင်း ပေါက်လေ့မရှိဘဲ၊ သီးခြားသာပေါက်လေ့ရှိသည်။ ညောင်ပင်၌ နှလုံးပုံသဏ္ဍာန်အရွက်ရှိသည်။ ထိုအရွက်သည် ၅ လက်မမှ ၆ လက်မထိရှည်သည်။ ညောင်ပင်၏အသားသည် ပျော့၍ ပွသည်။ မထင်ရှားသည့်အပွင့်များပွင့်ပြီးနောက်၊ ဝါဝင်းသောအသီးများ သီးလာကြသည်။ ထိုအသီးများကို ငှက်နှင့် မျောက်တို့ ကြိုက်နှစ်သက်ကြသည်။ ညောင်စေးကို ငှက်ဖမ်းရာတွင် အသုံးချနိုင်သည်။

မြန်မာနိုင်ငံ၌ ညောင်ပင် မျိုးစိတ်ပေါင်း ၄၅ မျိုးခန့်ရှိသည်။ ယင်းတို့အနက်၊ မျိုးစိတ်အနည်းငယ်မှသာ အဖိုးတန်သစ်ကို ရနိုင်သည်။ သို့သော် ညောင်ပင်တို့မှ အရိပ်ကောင်းကောင်းရသဖြင့် အသုံးကျလေသည်။ ညောင်သပြေပင်၏သိပ္ပံအမည်မှာ 'ဖိုင်းကပ်ဂစ်ဗိုဆာ' ဖြစ်သည်။ ထိုညောင်ပင်၏အမြစ်ကို ဝမ်းနုတ်ဆေးအတွက်ရင်း၊ အရွက်ကို ပြည်တည်သောအနာကိုအုံရန်အတွက်ရင်း အသုံးပြုနိုင်သည်။ ဆေးဖက်တွင်အသုံးချရသော အခြားညောင်ပင်တမျိုးမှာ ညောင်အုပ်ဖြစ်သည်။ ထိုညောင်ပင်ကို သိပ္ပံအလိုအားဖြင့် 'ဖိုင်းကပ်ရီတျူဆာ' ဟုခေါ်သည်။ ထိုညောင်ပင်မျိုး၏ အမြစ်နှင့် အရွက်ကိုကြိတ်၍ ဒဏ်ရာများတွင် အုံပေးရန် အသုံးပြုနိုင်သည်။

ဗောဓိညောင် (ဝါ) ညောင်ဗောဓိ၏သိပ္ပံအမည်မှာ 'ဖိုင်းကပ်ရီလီဂျီအိုဆာ' ဖြစ်သည်။ ထိုညောင်မျိုးသည် အမွေးအမှင်မရှိသော အပင်ကြီးမျိုးဖြစ်သည်။ ထိုညောင်မျိုး၏ အရွက်သည် ၃ လက်မမှ ၆ လက်မထိရှည်သည်။ အရင်းကျယ်၍ အနားပြတ်များမရှိချေ။ အကြော ၅ ခုမှ ၇ ခုထိရှိသည်။ ရွက်ညှာသေး၍ ၃ လက်မမှ ၄ လက်မထိ ရှည်သည်။ ဗောဓိညောင်ဖိုသည် အပွင့်များကို ပွင့်ရင်းခံအနီး၌သာ ပွင့်သည်။ ပွင့်ချပ် ၃ ခုရှိ၍၊ ပွင့်ချပ်ပုံသဏ္ဍာန်မှာ ကြက်ဥ၏အဝန်းကဲ့သို့ဖြစ်၏။ ဧပြီလနှင့် မေလတွင်ပွင့်သည်။

သိပ္ပံအမည် 'ဖိုင်းကပ်ဗင်ဂျမီနာ' ခေါ် ညောင်မျိုးကို တနင်္သာရီညောင်ဟုရင်း၊ ညောင်ခြေထောက်ဟုရင်း ခေါ်သည်။ ထိုညောင်ပင်မျိုး၏အကိုင်းများမှ လေမြစ်များသည် မြေသို့ရောက်အောင်ထွက်လာပြီးလျှင် တဖြည်းဖြည်း ပင်မပင်စည်လောက်ကြီးသည်အထိ ကြီးထွားလာကြသည်။ ထိုညောင်ပင်မျိုးသည် ကနစိုတောရှိရာ မြေနိမ့်ပိုင်းအနီးတွင် ပေါက်လေ့ရှိသည်။

ညောင်ခြေထောက်သည် နွေကူးဥတု၌ ဒီရေရောက်တတ်သော ချောင်းကမ်းပါးများ၌သာ အလိုအလျောက် ပေါက်လေ့ရှိသည်။ သို့သော် ဒီရေရောက်ရာ ကနစိုတောခေါင်ခေါင်များ၌မူကား၊ ယင်းကိုမတွေ့ရချေ။ ပင်လယ်နှင့်နီးရာ မြေနိမ့်ပိုင်းဖြစ်သော ထားဝယ်နှင့် မြိတ်မြို့အကြားဒေသတို့တွင်လည်း ထိုညောင်မျိုးကို တွေ့ရသည်။ ညောင်ခြေထောက်ပင်ကို မြို့တွင်း၌စိုက်ပျိုးလေ့မရှိကြချေ။ သို့သော် ထားဝယ်မြို့၏အနောက်ဖက်၊ ပင်လယ်ကမ်းခြေအနီးရှိ ကုန်းမြေတို့တွင် ထိုညောင်ပင်မျိုးကို ဥယျာဉ်သမားတို့စိုက်ပျိုးယူကြသည်။ ညောင်ခြေထောက်ပင်၏အရွက်မှာ ကြက်ဥ၏အဝန်းကဲ့သို့သောပုံသဏ္ဍာန်ဖြစ်၍၊ ပြောင်လက်နေသည်။ အသီးများသည် အကိုင်းမှစုံထွက်၍ ချောမွတ်သည်။

မြန်မာနိုင်ငံရှိ အခြားညောင်တမျိုးမှာ ညောင်ကျတ်ဖြစ်သည်။ ထိုညောင်မျိုး၏သိပ္ပံအမည်မှာ 'ဖိုင်းကပ် ကော်ဒီဖိုးလီးယား' ဖြစ်သည်။ စေတီပုထိုးများအနီး၌ ထိုညောင်ပင်မျိုးပေါက်လေ့ရှိသည်။ ထိုညောင်မျိုး၏အရွက်သည် အနံငယ်၍၊ ရှည်မြောမြောရှိသည်။ အသီးမှာဝိုင်းစက်သည်။

မြန်မာနိုင်ငံတွင် ညောင်ပင်သည် စေတီပုထိုးများကိုဖျက်ဆီးတတ်သဖြင့် ညောင်ပင်သတ်နိုင်သောဆေးကို ရှာကြံကြရသည်။ ပိုတက်ဆီယမ် ကရိုမိတ်၊ အာစနစ်ရည်၊ ဒိုင်ကိုတော့ ဆေးတို့သည် ညောင်ပင်ကို ထိရောက်စွာ သတ်နိုင်ကြောင်းသိရသည်။ ပိုတက်ဆီယမ် ကရိုမိတ်ကို ရေများများရော၍၊ သုံးလခန့် ရက်သတ္တတပတ်တကြိမ်လောင်းပေးလျှင် ညောင်ပင်သေသည်။ အာစနစ်ရည်သည် အဆိပ်ဆေးဖြစ်၍၊ ယင်းကိုအသုံးပြုရာ၌ သတိထားရသည်။ ညောင်ပင်ကို ဓားနှင့်အနည်းငယ်ထစ်၍ အာစနစ်ရည်လောင်းထည့်လျှင်၊ ရက်သတ္တနှစ်ပတ်အတွင်း ညောင်ပင်သေသည်။ ဒိုင်ကိုတော့ခေါ် အသင့်ဖော်ပြီးဆေးသည် အလွန်ထိရောက်သော ညောင်ပင်သတ်ဆေးဖြစ်သည်။ ဒိုင်ကိုတော့ဆေးရည် (၁၀ — ၁၃ ရာခိုင်နှုန်း) ကိုသစ်ရွက်များပေါ်၌ တလနှစ်ကြိမ်ဖျန်းပေးလျှင် ညောင်ပင်သေသည်ဟု ဆိုသည်။

**ညောင်ရမ်းဆရာတော်** (မြန်မာ ၁၂၃၅ – ၁၃၁၆)။ ။ ဆဋ္ဌ သံဂါယနာ မဟာဓမ္မသဘင် သံဃနာယကဖြစ်တော်မူသော မန္တလေးမြို့၊ မိုးကောင်းတိုက်ကျေးဇူးတော်ရှင် ညောင်ရမ်းဆရာတော်ဘုရားကြီးသည် ညောင်ရမ်းမြို့တွင် ၁၂၃၅ ခုနှစ် တပို့တွဲလဆန်း ၄ ရက် ဗုဒ္ဓဟူးနေ့နံနက်အချိန်၌ ဖွားသန့်စင်သည်။ ခမည်းတော်မယ်တော်တို့မှာ ဦးနိုင်၊ ဒေါ်ငြိမ်းသာ ဖြစ်လေသည်။

၁၂၄၆ ခုနှစ် ကဆုန်လ၊ အသက် ၁၂ နှစ်အရွယ်တွင် ညောင်ရမ်းပေါက်တောကျောင်း အရှင်ဇမ္ဗုဒီပထံတွင် စာပေသင်သည်။ ၁၂၅၀ ပြည့်နှစ် ကဆုန်လပြည့်နေ့၌ ထိုဆရာ



ကျေးဇူးရှင် ညောင်ရမ်းဆရာတော်ဘုရားကြီး

တော်ကို ဥပဇ္ဈာယ်ပြု၍ ရှင်သာမဏေအဖြစ်သို့ ရောက်၏။ ရှင်သာမဏေဘဝဖြင့် သဒ္ဒါ၊ သင်္ဂဟဋီကာကျော်တို့ကိုသင်ယူသည်။ ၁၂၅၄ ခုနှစ်တွင် မန္တလေးစကုတိုက်၌သီတင်းသုံးကာ ပညာကိုဆက်လက်ဆည်းပူးယင်း အိမ်တော်ရာဘုရားစရပ်များတွင် သီတင်းနေ့တိုင်းတရားဟောခဲ့လေသည်။

၁၂၅၅ ခုနှစ်တွင် မန္တလေးမှ ဇာတိဒေသသို့ပြန်ကြွလာခဲ့ပြီးနောက်၊ ခမည်းတော်ဦးနိုင်က ပစ္စည်းလေးပါးဒါယကာအဖြစ်ခံယူ၍၊ အရှင်ဇမ္ဗုဒီပကိုပင်ဥပဇ္ဈာယ်ပြုလျက် ကဆုန်လပြည့်နေ့တွင် ဥပသမ္ပဒကံဆောင်ကာ ရဟန်းဘောင်သို့ ရောက်တော်မူသည်။ ရဟန်းဘွဲ့ကား ဦးရေဝတဖြစ်၏။ ဥပဇ္ဈာယ်ဆရာထံ၌ ပါတိမောက်ကိုသင်ယူခဲ့၏။ ဝါဆိုလဆန်း ၆ ရက်နေ့၌ မန္တလေးစကုတိုက်သို့ပြန်ကြွသွားလျက် ကခ်ႝါ အဋ္ဌကထာစသော အဋ္ဌကထာညဝါများကို သင်ကြားခဲ့၏။

၁၂၅၆ ခုနှစ်တွင် စကုတိုက်မှ မိုးကောင်းတိုက်သို့ပြောင်းရွှေ့ခဲ့သည်။ မိုးကောင်းဆရာတော်ကြီးများနှင့် ပဌမကျော်ဆရာတော် အရှင်မုနိန္ဒတို့ထံ၌ အဋ္ဌကထာဋီကာများကို ဆက်လက်သင်ကြားခဲ့သည်။ ယင်းသို့သင်ကြားစဉ်၊ နေ့စာတဝါ၊ ညစာတဝါကိုလည်း အမြဲပို့ချခဲ့၏။ ဝါတော်သုံးဝါရရှိသောအခါ မိုးကောင်းတိုက် ထိမ်ပင်ကျောင်း၌ ကျောင်းထိုင်ဘုန်းကြီးအဖြစ်သို့ရောက်၏။ လေးဝါရသော်၊ ဝိနည်း ၅ ကျမ်းအဋ္ဌကထာ၊ အဋ္ဌသာလိနီအဋ္ဌကထာ

သမ္မောဟဝိနောဒနီအဋ္ဌကထာနှင့် မူလဋီကာ ညဝါ ၂ ခေါက်ပေါက်ပြီးဖြစ်သဖြင့် နံနက်စာဝါအလိုက်ကိုဖြတ်လျက် ညနေစာဝါလိုက်ပြီးလျှင် နံနက်တွင် ပါရာဇိကဏ် အဋ္ဌကထာ၊ နေ့ ၁၂ နာရီအချိန်၌ သဒ္ဒါကြီးနျာသကျမ်းများကို ပို့ချပေးတော်မူ၏။ ယင်းသို့ပို့ချရာ စာလိုက်သံဃာ ၁၀၀ ကျော်ရှိလေသည်။ ထိုသို့စာလိုက်သံဃာ များစွာရှိခဲ့သောကြောင့် ၁၂၆၀ ပြည့်နှစ်တွင် တည်ထောင်ခဲ့သော ပရိယတ္တိသာသနဟိတ အသင်း၏ ရှေးဦးအစ ဓမ္မာစရိယဖြစ်တော်မူခဲ့သည်။ စာချဓမ္မာစရိယအဖြစ်သို့ ရောက်သော်လည်း၊ သိက္ခာဝါ ၁၂ ဝါတိုင်အောင် ပဥ္စမကြိုဏ်အဋ္ဌကထာ၊ ဝိသုဒ္ဓိမဂ်အဋ္ဌကထာနှင့် သုတ်သုံးကျမ်းအဋ္ဌကထာများ ကုန်အောင် ညနေစာဝါလိုက်ကာ သင်ယူခဲ့လေသည်။

သိက္ခာတော် ၇ ဝါရချိန်မှစ၍ နာဂိန္ဒာဘိကဝိဇမဟာဓမ္မရာဇာဓိရာဇဂုရု တံဆိပ်တော်ရ မိုးကောင်းဆရာတော်ဘုရားကြီးစသော တကျိပ်နှစ်ပါးသောသာသနာပြု ဆရာတော်ကြီးများ၏ သီတင်းနေ့တိုင်းအစည်းအဝေး၌ အတွင်းရေးမှူးအဖြစ်ဆောင်ရွက်လာခဲ့ရသည်။ ထိုဆရာတော်ကြီးများက ရေဝတာဘိ ကဝိဓဇ သာသနကရဟူသော ဘွဲ့တံဆိပ်ကိုပေးအပ်၍၊ မြို့ပြင်ကြီးဆရာတော်အစား သာသနာပြုဆရာတော်တပါးအဖြစ် ထည့်သွင်းခြီးမြှောက်ခြင်း ခံခဲ့ရလေသည်။

၁၂၇၄ ခုနှစ်တွင် ရတနာဂီရိစံ သီပေါဘုရင်က ရေဝတာဘိပဏ္ဍိတဓဇမဟာဓမ္မရာဇဂုရုဘွဲ့တံဆိပ်တော် လှူဒါန်းသည်ကိုရင်း၊ အင်္ဂလိပ်အစိုးရကလည်း အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်ကို လှူဒါန်းသည်ကိုရင်း ခံယူခဲ့ရ၏။

၁၃၁၅ ခုနှစ်တွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်သမတက အဘိဓဇမဟာရဋ္ဌဂုရုဘွဲ့တံဆိပ်တော်ကို ဆက်ကပ်လှူဒါန်းခဲ့လေသည်။

ယင်းသို့ ဘွဲ့တံဆိပ်တော်အသီးသီး ရရှိတော်မူသော ညောင်းရမ်းဆရာတော်ဘုရားကြီး၏ မှတ်သားဖွယ်ရာ သာသနာ့ရေးရာ ဆောင်ရွက်ချက်အချို့တို့သည် ဤသို့ဖြစ်၏။ သာသနာတော် တိုးတက်ကြီးပွားရေးအတွက် သက်တော် ၂၄ နှစ် သိက္ခာ ၄ ဝါအတွင်း၌ပင် ဝိနည်းငါးကျမ်းပါဠိတော်ကို ခြောက်ခေါက်ပေါက်အောင် ပို့ချသင်ပြတော်မူခဲ့၏။ ၁၂၆၅ ခုနှစ်ကစ၍ ပရိယတ္တိသာသနဟိတအသင်းကျင်းပရာ စာမေးပွဲစည်းမျဉ်းများကို မူလရေး၍ပေးခဲ့ပြီးလျှင် နောက်ထပ် ၂ ကြိမ်ပြင်ဆင်ပေးခဲ့၏။ မေးခွန်းပုစ္ဆာများကိုလည်း နှစ်စဉ် ခြီးမြှောက်ခဲ့သည်။ အစိုးရပဌမပြန်စုံစမ်းရေးအဖွဲ့ ဥက္ကဋ္ဌအဖြစ်ဖြင့်လည်း ဆောင်ရွက်ခဲ့၏။

သံဃသာမဂ္ဂီအဖွဲ့၏ ပဌမဦးဆုံး ဥက္ကဋ္ဌ၊ ဝံသာနုစာမေးပွဲ ပဌမဦးဆုံး ဥက္ကဋ္ဌအဖြစ်ဖြင့်လည်း သာသနာတော်ကိုခြီး

မြှောက်ခဲ့၏။ ထို့ပြင် ဆဋ္ဌသံဂါယနာမဟာဓမ္မသဘင်ကြီး၏ သံဃနာယကအဖြစ်ဖြင့်၎င်း၊ နိုင်ငံတော်ဗုဒ္ဓသာသနအဖွဲ့၏ ဩဝါဒစရိယ အဖြစ်ဖြင့်၎င်း၊ အထက်မြန်မာနိုင်ငံတော် ဝိနည်းဓိုရ်အဖွဲ့တာဝန်ခံအဖြစ်ဖြင့်၎င်း၊ ပါဠိတက္ကသိုလ်ဗဟို ဥက္ကဋ္ဌအဖြစ်ဖြင့်၎င်း ဆောင်ရွက်ခဲ့၏။ ဆဋ္ဌသံဂါယနာမဟာဓမ္မသဘင်တွင်လည်း၊ ပဌမသန္နိပါတတွင် ၄၄ ရက်၊ ဒုတိယ သန္နိပါတတွင် ၆၅ ရက်၊ ပေါင်း ၁၀၉ ရက်၊ ပျံလွန်တော်မူသည်အထိ သံဃနာယက အဖြစ်ဖြင့် နားရက်မယူဘဲ ဆောင်ရွက်တော်မူခဲ့သည်။

ညောင်ရမ်း ဆရာတော်ဘုရားကြီးကား သာသနာ၏အကျိုးကို ဆောင်ရွက်ရာတွင် မြတ်စွာဘုရား၏တရားဓမ္မခန်းမှ လွဲ၍၊ မည်သူ့ကိုမျှထောက်ထားလေ့မရှိပေ။ ဂျပန်ခေတ်တွင် ဂိုဏ်းဂဏအသီးသီးမှဆရာတော်ကြီးများကိုရန်ကုန်သို့ ပင့်ဖိတ်၍၊ ရန်သူတို့ကိုတိုက်ခိုက်ရေး၌ သံဃာတော်များက ကူညီရန်ဂျပန်တို့ကလျှောက်ထားသည်။ ထိုအခါ ညောင်ရမ်းဆရာတော်ဘုရားကြီးက ရဟန်းတို့မည်သည် စစ်နှင့်ပတ်သက်၍အားပေးအားမြှောက်မပြုစကောင်း။ ဤသို့အားပေးအားမြှောက်မပြု၍ သတ်မည်ဆိုလျှင် ငါ့ကို အရင်သတ်နိုင်သည်ဟု မိန့်ကြားခဲ့လေသည်။

ညောင်ရမ်းဆရာတော်ဘုရားသည် ကျမ်းကြီးကျမ်းငယ် အသွယ်သွယ်ပေါင်း ၁၃၀ ကျော်တို့ကိုရေးသားပြုစုခဲ့သည်။

ညောင်ရမ်းဆရာတော်ဘုရားကြီးသည် ဆဋ္ဌသံဂါယနာတင်မဟာဓမ္မသဘင်တွင် အားကြိုးမာန်တက်ဆောင်ရွက်တော်မူနေစဉ်၊ ၁၃၁၆ ခုနှစ် တပို့တွဲလပြည့် (၇-၂-၅၅) တနင်္လာနေ့၊ နေ့ ၂ နာရီ၊ ၁၃ မိနစ်အချိန်၌ သီရိမင်္ဂလာကုန်း၊ အဘိဓဇမဟာဝိဟာရ၌ ပျံလွန်တော်မူသည်။ ဆဋ္ဌသံဂါယနာမဟာဓမ္မသဘင်တွင် ပဌမဆုံးသံဃနာယကဖြစ်သည့်အတွက် ဆရာတော်၏ပုံတော်ကို ကြေးရုပ်သွန်း၍ အထိမ်းအမှတ် အဖြစ်ဖြင့် ဆဋ္ဌသံဂီတိမဟာပါသာဏဂူတွင် တည်ထားလျက်ရှိသည်။



**ညောင်ရမ်းမင်းတရား** (မြန်မာ ၉၅၉-၉၈၇)။ ။မိတ္ထီလာခရိုင်ရှိ ညောင်ရမ်းမြို့ကား အလွန်ရှေးကျသောမြို့ဖြစ်သည်။ ပုဂံပြည် အနော်ရထာမင်းစောသည် ကမ္မောဇတိုင်းနှင့် တမ္ဗဒီပတိုင်း နှစ်ဖက်စပ်ကြား လူတို့မရောစပ်စိမ့်သော ၄၃ နယ်ခြားမြို့ပေါင်း ၄၃ မြို့ကို သက္ကရာဇ် ၃၉၅ ခုနှစ်တွင် တည်ရာ ညောင်ရမ်းမြို့လည်းအပါအဝင်ဖြစ်သည်။ မြို့ဝန်းမှာ ၆၅၄ တာရှိသည်။ သီဟသူရမဟာဓမ္မရာဇာအမည်ရှိသောညောင်ရမ်းမင်းတရားသည် ငယ်စဉ်ကစ၍ မင်းဖြစ်သည်တိုင် ဤမြို့ကိုစားရသောကြောင့် ဤမြို့အမည်ဖြင့်ထင်ရှားလေသည်။

ညောင်ရမ်းမင်းတရားသည် ဘုရင့်နောင်မင်းကြီးနှင့် မိဖုရားခင်ပြည့်စုံတို့မှ သက္ကရာဇ် ၉၁၇ ခုနှစ်တွင်ဖွားမြင်သော ဒုတိယသားတော်ဖြစ်သည်။ ငယ်မည်မှာ ရှင်သစ္စာဖြစ်၍၊ ဘွဲ့မည်မှာ မင်းရဲနန္ဒမိတ် (မင်းရဲရန္တမိတ်) ဖြစ်သည်။ ၉၅၈ ခုနှစ် ပခန်းကြီးတွင် အခိုင်အလုံနေသော ပြည်စားရဲမက်တို့ကိုနိုင်အောင်တိုက်သည့်အတွက် နောင်တော်ဟံသာဝတီဘုရင် ငါးဆူဒါယကာ (နန္ဒဘုရင်) က အောင်ဆုပေး၍ ယင်းဘွဲ့ကိုရသည်။

ဘုရင့်နောင်မင်းကြီး၏ထီးမွေနန်းမွေကိုဆက်ခံသော ငါးဆူဒါယကာမင်းတရားသည် သားတော်မြေးတော်၊ ဆွေတော်မျိုးတော်၊ မှူးတော်မတ်တော်၊ သူရဲသူခက်အပေါင်းတို့ကို ဝမ်းနည်းအောင်ပြုတော်မူလေ့ရှိသည်။ နိုင်ငံတော်အလုံးတွင် ရှိသော တိုင်းကြီးပြည်ကြီး • ထီးဆောင်း မင်းတကာတို့ကိုလည်း ဝမ်းနည်းအောင်ပြုတော်မူလေ့ရှိသည်။ သားတော် အိမ်ရှေ့မဟာဥပရာဇာသည်လည်း ပြည်သူရွာသားတို့နှင့်ဆန့်ကျင်သောအမှုကိုသာပြုတော်မူလေ့ရှိသည်။ ထိုကြောင့် နေပြည်တော်တွင် မကျေနပ်မှုများပေါ်ပေါက်၍ နိုင်ငံတော်တွင် ပုန်ကန်သောင်းကျန်းမှုများပေါ်ပေါက်လေသည်။ ဇင်းမယ်ဘုရင်၊ တောင်ငူဘုရင်၊ ပြည်ဘုရင်တို့ခြားနားကြသည်။ ရခိုင်ဘုရင်နှင့် တောင်ငူဘုရင်တို့ ပူးပေါင်းတိုက်ခိုက်သောအခါ ဟံသာဝတီ ပျက်၍ ငါးဆူဒါယကာ တောင်ငူသို့ပါလေသည်။ ဤသို့ဖြင့် ဘုရင့်နောင်မင်းတရားကြီး တည်ထောင်ခဲ့သော နိုင်ငံတော်ကြီး အစိတ်စိတ် ကွဲလေသည်။

ထိုအခါ ညောင်ရမ်းဘုရားသည် ပဌမသော် ညောင်ရမ်းမြို့ကိုခိုင်လုံအောင်စီရင်ပြီးလျှင် အလုံးအရင်းသွင်း၍ အခိုင်အလုံနေတော်မူသည်။ ထို့နောက်တွင်ကား ပြည်ထဲရေးကိုထောက်ရှုကာ မိမိမင်းပြုမှနိုင်ငံအေးတော့အံ့ဟု နှလုံးပိုက်မိ၍၊ ရတနပူရအဝရွှေပြည်သို့ ဗိုလ်ပါအင်အားနှင့်ချီတော်မူသည်။ ညောင်ရမ်းဘုရားအားကိုးတော်မူသူတို့တွင် ဟံသာဝတီကရောက်လာသောမွန်ဘုန်းကြီး ဘားမဲ့ဆရာတော်နှင့် သားတော်ကြီး သခင်လတ်တို့မှာ အဓိကပုဂ္ဂိုလ်များဖြစ်ကြသည်။ ထိုပုဂ္ဂိုလ်တို့၏ စွမ်းရည်ကြောင့် အရှေ့ဖက်က ယိုးဒယားဘုရင်ဖြုနရာဇ်သည်၎င်း၊ တောင်ဖက်က သန်လျင်စားဇေကာသည်၎င်း၊ အနောက်ဖက်က ရခိုင်ဘုရင်မင်းရာဇ်ကြီးသည်၎င်း ညောင်ရမ်းဘုရားကို မချောက်ချားဝံ့ကြရှိချေသည်။ ဇေကာကား ဖိလစ် ဒီဗရစ်တိုအမည်ရှိသော ပေါ်တူဂီလူမျိုးဖြစ်သည်။ ညောင်ရမ်းဘုရားကိုယ်တိုင်သည်လည်း ခမည်းတော်ဘုရင့်နောင်မင်းတရားကြီးက ယုံကြည်ကိုးစားသည်ဖြစ်၍ ‘ ငါ့သားငါကဲ့သို့မင်းတကာတို့၏အရှင်ဖြစ်မည် ’ ဟုမိန့်တော်မူသည်ကိုခံရဘူးသော ပုဂ္ဂိုလ်ချွန်ဖြစ်ပေသည်။

သက္ကရာဇ် ၉၆၀ ပြည့်နှစ်တွင် အဝမြို့ကိုချဲ့၍ အသစ်တည်တော်မူသည်။ ၉၆၁ ခုနှစ်တွင် ပြီးလေ၏။ ထိုနှစ်တွင်ပင်

သီဟသူရမဟာဓမ္မရာဇာ ဟူသောအမည်ကို ခံကာ ရွှေနန်းတက်တော်မူသည်။ သားတော်အကြီးကို မဟာဥပရာဇာ ဟူသောအမည်နှင့် အိမ်ရှေ့ပေးတော်မူသည်။

ညောင်ရမ်းဘုရားသည် မင်းပြုမည်ကြံလျှင်ပင် ရမည်းသင်း၊ ဝတီး၊ ယင်းတော်စသောမြို့တို့ကိုရင်း၊ ပုဂံ၊ စဥ့်ကူး၊ စလေစသောမြို့တို့ကိုရင်း၊ စစ်ကိုင်း၊ မြေတူး၊ ဒီပဲယင်း စသောမြို့တို့ကိုရင်း၊ စကု၊ စလင်း၊ ဘောင်းလင်း၊ လယ်ကိုင်း စသောမြို့တို့ကိုရင်း တိုက်ခိုက် သိမ်းယူကာ နေထားတကျ စီစဥ်သည်။

ထိုနောက် အိမ်ရှေ့မင်းမိုးညှင်းသို့ချီရသည်။ မိုးညှင်းကိုရတော်မူသည်။ ထိုနောက် ညောင်ရမ်းမင်းတရားကိုယ်တော်တိုင် သားတော်အိမ်ရှေ့မင်းနှင့်အတူ ညောင်ရွှေသို့ချီတော်မူ၏။ အိမ်ရှေ့မင်း ညောင်ရွှေကို အဆောတလျင် တိုက်၍ဆက်၏။ မင်းတရားကြီးသည် သားတော်ကို 'လူပျိုလူရွယ်ပီသည်။ အရပ်အနေမသင့်၍ ပြောင်းသေနတ်ထိခဲ့သော် မခက်ချေလော' ဟုနှုတ်ပြစ်တင်တော်မူ၏။

ထိုနောက် ဗန်းမော်သို့ချီတော်မူသည်။ ဗန်းမော်စော်ဘွားသည် မရပ်မခံနိုင်၍ မိုင်းဆည်သို့ပြေးလေ၏။ အိမ်ရှေ့မင်းလည်း 'ဗန်းမော်စော်ဘွားကိုပေး။ မပေးလျှင် တိုက်မည်' ဟူ၍ မိုင်းဆည်သို့စေသည်။ မိုင်းဆည်စော်ဘွားလည်း ဥတည်ဘွားကိုလျှောက်ရသည်။ ဥတည်ဘွားက 'ပေးပါလေ။ လက်ခံ၍မထားပေနှင့်' မှာသောကြောင့် ဗန်းမော်စော်ဘွားကို သားမယားနှင့်ပို့လာရသည်။

ထိုနောက် မိုးနဲသို့ချီတော်မူသည်။ အိမ်ရှေ့မင်း ဆင်တော်ဘုန်းတောက်ပကိုစီး၍ အပြင်းတိုက်ယူ ဆက်သပြန်သည်။ ဤတွင်လည်း အထက်နည်းတူ သားတော်ကိုနှုတ်ပြစ်တင်ပြန်သည်။ ထိုနောက် အိမ်ရှေ့မင်းသည် မိုးကောင်းကိုတိုက်၍ဆက်သည်။

ထိုနောက် သက္ကရာဇ် ၉၆၇ ခုနှစ်တွင် မင်းတရားကြီးသည် စစ်ရေးကိစ္စတိုင်ပင်တော်မူရာ အိမ်ရှေ့မင်းက မြောက်ဖက်တလွှားကိုသိမ်းပြီးမှ တောင်ဖက် ပြည်၊ တောင်ငူကိုသိမ်းမည်ဟု နားတော်လျှောက်သည်။ ထိုကြောင့် ထိုနှစ်တွင် မိုးမိတ်သို့ချီသည်။ အလွယ်နှင့်အောင်တော်မူ၏။ သိန္နီသို့ချီပြန်သည်။ အောင်တော်မူပြန်၏။ ထိုတွင် ညောင်ရမ်းမင်းတရားသည် သားတော်မဟာဥပရာဇာကို အားရနှစ်သက်တော်မူလှ၍ 'မောင့်မြို့ မောင့်နန်း' ဆိုသည့် ကေရာဇ်တကာတို့ပေးခဲလှစွာသောဆုကိုပေးတော်မူသည်။ ထိုနောက်တွင်ကား ကိုယ်တော်ကျန်းခံ့တော်မမူ၍ တပ်ခေါက်ကာနေပြည်တော်သို့ပြန်တော်မူသည်။ ရွှေသာလျောင်းတောင်သို့ ရောက်တော်မူလျှင် အိမ်ရှေ့မင်းကိုဤသို့အမိန့်တော်ရှိသည်။ 'ငါသည် ဤအနာမှထမြောက်တော်မူနိုင်မည်မထင်။ ငါမရှိလျှင် မောင်တို့ညီနောင်သုံးဦး ကြီးစဥ်ငယ်လိုက်မင်းပြုရစ်။ လူဆိုးလူသွမ်းတို့စကားကိုလိုက်နာ၍ အနှောင့်အရှက်မဖြစ်ကြစေနှင့်' ဟူ၍အမိန့်တော်ရှိသည်။ ထိုအမိန့်တော်ကို ဦးထိပ်ရွက်ပါမည်လျှောက်၍ သစ္စာတော်ခံစေသည်။ ဤသို့လည်းအမိန့်တော်ရှိပြန်သည်။ 'မောင်သည် ဘုန်းအာဏာနှင့်ရွှေသို့ အပြည်ပြည်ထောင်သော မင်းတို့ကို နှိပ်နင်း၍ ခမည်းတော်ဆင်ဖြူရှင်နိုင်ငံအလုံးကို သိမ်းယူရစ်လိမ့်မည်။ နောက်နောင် ပြည်မြို့ကိုလုပ်ကြံ၍ အလိုတော်ပြည့်လျှင် ရန်နိုင်စားကိုမကွပ်မမျက်ပါနှင့်။ ရန်နိုင်စားကျေးဇူး မောင်တို့ငါတို့တွင်ရှိချေသည်' ဟူ၍အမိန့်တော်ရှိပြန်သည်။ သားတော်အိမ်ရှေ့မင်းလည်း 'အမိန့်တော်ကိုဦးထိပ်ရွက်ပါမည်' ဟူ၍လျှောက်သည်။ ဤသို့မှာထားတော်မူစဥ်ပင် ၉၆၇ ခုနှစ်၊ တပေါင်းလပြည့်ကျော်တဆဲ့တရက် သောကြာနေ့ ညောင်ရမ်းမင်းတရားကြီး စစ်ခရီးတွင် လူ့ပြည်ငြီး၍ နတ်ပြည်စံတော်မူသည်။

ဦးဝန်

**ညောင်ရမ်းမင်းတရား အရေးတော်ပုံ။** ။မြန်မာစာပေလောကတွင် ဓညဝတီအရေးတော်ပုံ၊ ရာဇာဓိရာဇ်အရေးတော်ပုံ စသည်ဖြင့် မင်းကေရာဇ်တို့ တိုင်းနိုင်ငံတည်ထောင်ရာ၌ တွေ့ကြုံရသော အဖြစ်သနစ်တို့အကြောင်းကို မှတ်တမ်းတင်ထားသောကျမ်းများရှိလေသည်။ (ဆင်ဖြူရှင်အရေးတော်ပုံ — ရှု။) ညောင်ရမ်းမင်းတရားအရေးတော်ပုံသည်လည်း တခုအပါအဝင်ဖြစ်သည်။ ဤအရေးတော်ပုံကို မြင်းခုံတိုင်မြို့စား တရားသူကြီး မဟာအတုလဓမ္မကရာဇာ ရေးသည်ဟုဆိုသည်။ မည်သည့်မင်းလက်ထက် မည်သည့်သက္ကရာဇ်တွင်ရေးသည်ဟုမသိရ။ သို့သော်လည်း သက္ကရာဇ် ၉၇၇ ခုနှစ်တွင်ပြီးပုံရသော မင်းရဲဒိဗ္ဗချေင်းကို ထုတ်ဆောင်ရေးထားသည်ဖြစ်၍ ဤသက္ကရာဇ်နောက်မှ ဤအရေးတော်ပုံကိုရေးသည်ဟု မှတ်ယူရပေမည်။ သက္ကရာဇ် ၁၁၀၀ ဆီတွင်ပေါ်သော ဦးကုလားမဟာရာဇဝင်ကြီး၏မှီခိုရာကျမ်းတစောင်ဖြစ်သည်ဟုလည်း မှတ်ယူဖွယ်ရှိပေသည်။ အကြောင်းအရာမှာကား ညောင်ရမ်းမင်းတရားကြီး၏ အတ္ထုပ္ပတ္တိနှင့် အနောက်ဖက်လွန်မင်းတရား၏ အတ္ထုပ္ပတ္တိ တပိုင်းတို့ ဖြစ်လေသည်။

ညောင်ရမ်းမင်းတရား အရေးတော်ပုံကား တပင်ရွှေထီးနှင့် ဘုရင့်နောင်တို့တည်ထောင် ဖွဲ့စည်းပေးခဲ့သော မြန်မာနိုင်ငံတော်သည် ငါးဆူဒါယကာမင်းလက်ထက်တွင် ပြိုကွဲအံ့ဆဲဆဲဖြစ်သည်တွင်၊ ညောင်ရမ်းမင်းတရားနှင့် သားတော်အနောက်ဖက်လွန်မင်းတရားတို့က မြန်မာနိုင်ငံတော်ပြန်လည်စည်းရုံးညီညွတ်အောင် ကြိုးပမ်းသည်ကို ပြဆိုပေသည်။ သက္ကရာဇ် ၉၅၉ ခုနှစ်တွင် ဟံသာဝတီကို တောင်ငူဘုရင်နှင့် ရခိုင်ဘုရင်တို့လုပ်ကြံကြလေသည်။ (ညောင်ရမ်းမင်းတရား — ရှု။) ထိုအချိန်တွင် ယိုးဒယားသည်ရင်း၊ ဇေကော

ကြီးစိုးလျက်ရှိသော သံလျင်သည်ငင်း မြန်မာနိုင်ငံတော်၏ ညီညွတ်စည်းလုံးမှု အန္တရာယ်များဖြစ်ချေသည်။ ဤအန္တရာယ်တို့ကို ပယ်ဖျောက်ရန်အလို့ငှာ ညောင်ရမ်းမင်းတရားသည် မိုးကောင်း၊ မိုးညှင်း၊ ဗန်းမော်၊ ညောင်ရွှေ၊ သိန္နီစသော နယ်တို့ကို ပဌမသိမ်းသွင်း၍၊ စည်းလုံးမှုအခြေကို တည်ဆောက်ခဲ့သည်။ ညောင်ရမ်းမင်းတရားလွန်လေသော်၊ သားတော်ကြီးဖြစ်သော အနောက်ဖက်လွန်မင်းတရားသည် (မြန်မာ ၉၆၇–၉၉၀ ခုနှစ်) ခမည်းတော်၏လက်ငုတ်ဖြစ်သော နိုင်ငံတော် ပြန်လည်ထူထောင်ရေးကို ဆောင်ရွက်ခဲ့လေသည်။ ညောင်ရမ်းမင်းတရား အရေးတော်ပုံကျမ်းတွင် ထိုအချက်တို့ကို မှတ်တမ်းတင်ခဲ့သည်။

**ညောင်ရွှေမြို့**။ ။ညောင်ရွှေမြို့သည် ရှမ်းပြည်တောင်ပိုင်း၏ဗဟိုတွင် တည်ရှိ၍၊ ညောင်ရွှေစော်ဘွားနယ်၏ မြို့တော်လည်းဖြစ်၏။ ရှေးယခင်က ညောင်ရွှေနယ်၏နယ်နိမိတ်မှာ အရှေ့ဖက်တွင် ပွန်ချောင်း၊ တောင်ဖက်တွင် သံလွင်မြစ်၊ မိုင်းပဲကြီး (မိုးဗြဲ) နယ်မြေနှင့်အစပ်၊ အနောက်ဖက်တွင် စမ့်ကောက်ကောက်စင်းစင်း၊ မြောက်ဖက်တွင် ဒုတ္ထဝတီ (ဝါ) နန့်တူ (ဝါ) မြစ်ငယ်အထိဖြစ်၏။ ယခုမူ အရှေ့ဖက်မှ သထုံ (ဆထုံ) နယ်၊ တောင်ဖက်မှ စကားနယ်၊ အနောက်ဖက်မှ မော်ဆုန် (ဘော်ဆိုင်း)၊ ပွေးလှသမခန်း၊ ပင်မှိစသည့်နယ်များ၊ မြောက်ဖက်မှ ယပ်စောက်နယ်နှင့် မိုင်းပန်နယ် စသည်တို့က နယ်နိမိတ်သတ်မှတ် ဝန်းရံလျက်ရှိသည်။ ယခုအခါ မူလနယ်၏အလယ်အချက်မျှသာရှိတော့၏။ စတုရန်းမိုင်ပေါင်း ၁၃၉၃ မိုင်ကျယ်ဝန်း၍၊ လူဦးရေတသိန်းခွဲခန့်ရှိသည်။ ရှမ်းတောင်သူနှင့် ဓနုလူမျိုးအများဆုံး နေထိုင်ကြသည်။

ညောင်ရွှေနယ်၏အရှေ့ပိုင်းသည် တောင်ထူထပ်ပေါများလေရာ၊ ထိုဒေသရှိ လွိုင်ဆင်တောင်တန်းသည် ပေ ၆၀၀၀ မြင့်၏။ ညောင်ရွှေမြို့သည် အရှေ့နှင့်အနောက် တောင်တန်းကြီးနှစ်ခုအကြားရှိ မြေပြန့်တွင် နံ့ဘီလူးမြစ် (ဘီလူးချောင်း) နံဘေး၌တည်ရှိ၍၊ ရှမ်းပြည်တောင်ပိုင်းမီးရထားလမ်းဆုံးမြို့ဖြစ်သော ရွှေညောင်မြို့နှင့် ၇ မိုင်ကွာဝေး၏။ ညောင်ရွှေနယ်တွင် မြင့်သောတောင်တန်းများ၌ တောင်ယာလုပ်ကိုင်လျက် ယာစပါးကိုစိုက်ပျိုး၏။ တောင်ကုန်းဒေသတွင် မြေပဲစိုက်၍၊ မြေနိမ့်ဒေသမျာ်းတွင် ကြံပင်ကို စိုက်ပျိုးကြ၏။

ညောင်ရွှေနယ်အတွင်း၌ ထင်ရှားသော ဒေသမှာ အင်းလေးကန်ဖြစ်သည်။ ညောင်ရွှေမြို့နှင့် ၆ မိုင်အကွာ၌တည်ရှိ၏။ ကန်၏အကျယ်အဝန်းမှာ စတုရန်းမိုင် ၇၀ ခန့်ဖြစ်၍၊ ကန်တွင်းရှိ ရေပေါ်ကျွန်းများတွင် ရွာများစွာတည်ရှိသည်။ အင်းလေးကန်တဝိုက်တွင် ဆန်စပါးကိုများစွာစိုက်ပျိုးကြသဖြင့် တနယ်လုံးစားသုံးနိုင်၏။ ကန်အတွင်း ရေပေါ်ကျွန်းများပေါ်ရှိရွာများတွင် အများအားဖြင့် ပိုးထည်ရက်လုပ်ကြသည်။ မြန်မာလူမျိုးတို့အထူးကြိုက်နှစ်သက်သော အင်းလေးလုံချည်၊ ဇင်းမယ်လုံချည်၊ အင်းလေးဘန်ကောက်လုံချည်တို့သည် ထိုဒေသမှထွက်သည်။ ဝါဂွမ်းကိုလည်းစိုက်ပျိုး၍၊ လက်ရက်ကန်းဖြင့်ပင် အိမ်သုံးထည်များကိုရက်လုပ်



ညောင်ရွှေမြို့ရှိ ဟော်နန်းတော်



ညောင်ရွှေမြို့ ရတနာမာရ်အောင်စေတီတော်

လေ့ရှိ၏။ တံငါလုပ်ငန်းကိုလုပ်ကိုင်သူများလည်း ရှိသည်။ အင်းလေးတောင်ပိုင်းတွင်မူ ပုရပိုက်နှင့် ကြေးကွမ်းအစ်များကို လုပ်ကိုင်ရောင်းချကြ၏။ ကြံသကာ၊ သနပ်ဖက်၊ ကြက်သွန်ဖြူ၊ ငပိကောင်များကို ရပ်ဝေးဒေသများသို့တင်ပို့ရောင်းချကြသည်။ အင်းလေးကန်တွင် လှေကိုလက်ဖြင့်မလှော်ဘဲ၊ ခြေဖြင့်သာလှော်ခတ်ကြသဖြင့် ကမ္ဘာပေါ်တွင် အထူးအဆန်းတမျိုးဖြစ်၏။ ညောင်ရွှေစော်ဘွားကြီး ဆီဆိုင်ဖလက်ထက်တွင် ထားဝယ်မြို့မှ ငတောင်နှင့် ငနောင်ညီအစ်ကိုနှစ်ယောက်သည် စော်ဘွားကြီးထံလာရောက်အမှုထမ်းခဲ့ကြရာမှ စော်ဘွား၏ခွင့်ပြုချက်နှင့် ထားဝယ်မှ အိမ်ထောင် ၃ အိမ်ထောင်ကိုခေါ်ဆောင်၍၊ ညောင်ရွှေတွင်နေထိုင်စေခဲ့သည်။ ယင်းတို့၏အဆက်အနွယ်များသည် အင်းသားများဖြစ်လာကြသည်ဟု ဆိုလေသည်။

ညောင်ရွှေမြို့ကို ခရစ် ၁၃၅၉ ခုနှစ် (မြန်မာ ၇၂၁ ခုနှစ်) တွင် စော်ဘွား ဆီဆိုင်ဖကတည်ထောင်ခဲ့၏။ မြို့ပတ်လည်တွင် ကျုံး၊ မြို့ရိုး၊ တံခါးတိုင်၊ သုရဲပြေးစသည်တို့နှင့်ပြည့်စုံစွာဆောက်တည်ထားခဲ့သော်လည်း၊ ယခုအခါ အချို့နေရာများတွင် မြို့ရိုးမှာပျောက်ကွယ်ခဲ့ပြီဖြစ်၏။ မြို့တွင်း၌လည်း လွှတ်တော်၊ ဟော်နန်း၊ ဗဟိုရ်စင်စသည်တို့နှင့်ပြည့်စုံစေခဲ့၏။ စော်ဘွားအစဉ်အဆက် စိုးစံခဲ့သော ဟော်နန်းကြီးသည် မြန်မာသက္ကရာဇ် ၁၂၆၉ ခုနှစ်တွင် မီးသင့်၍လောင်လေရာ၊ အလားတူဟော်နန်းတော်တခုကို သက္ကရာဇ် ၁၂၇၆ ခုနှစ်တွင် စော်ဘွား ဆာစဝ်မောင်က ထပ်မံဆောက်လုပ်ထားခဲ့၏။ ထိုဟော်နန်းသည် မင်္ဂလာလှေကား၊ မင်္ဂလာမုတ်ပေါက်၊ ဟော်ဦးဆောင်၊ ဟော်နန်းပြာသာဒ်ဆောင်၊ သုံးထပ်လယ်ပေါ် ဇေတဝန်ဆောင်မကြီး၊ တောင်မားဝယ်ဆောင်၊ မြောက်မားဝယ်ဆောင်၊ မြောက်ဆောင်တော်၊ တောင်ဆောင်တော် စသည်တို့ဖြင့် ခမ်းနားလှပေသည်။ ဟော်နန်းပြာသာဒ်ဆောင်တွင် သီဟာသနပလ္လင်ထားရှိ၍၊ စော်ဘွားကြီးသည် တနှစ်လျှင်နှစ်ကြိမ်မျှ မြို့စားရွာစားတို့၏ပူဇော်မှုကို ထိုပလ္လင်မှနေ၍ခံယူလေ့ရှိသည်။ အုပ်ချုပ်ရေးကို စော်ဘွားကြီးကပင် စီမံခန့်ခွဲသည်။ မြန်မာနိုင်ငံလွတ်လပ်ရေးရသည့်အခါတွင် ညောင်ရွှေစော်ဘွားကြီး စဝ်ရွှေသိုက်သည် ယာယီသမတအဖြစ် ပဌမဦးဆုံးရွေးကောက်တင်မြှောက်ခြင်းခံရ၏။

ညောင်ရွှေမြို့သည် ရှမ်းပြည်နယ်အသီးသီး၏ဟော်စိုက်ရာမြို့များတွင် အကောင်းဆုံးမြို့တမြို့ဖြစ်၏။ ညောင်ရွှေမြို့မှ မောလိသတ် (ပေါရိသတ်) မြို့သို့သွားသောလမ်းပေါ်တွင် စေတီတဆူရှိသည်။ ထိုစေတီကို တည်ရခြင်းအကြောင်းသည်ကား၊ ဗြိတိသျှတို့ ရှမ်းပြည်သို့ ချီတက်သိမ်းပိုက်လာသည့်အခါ စော်ဘွားကြီး စဝ်အုံးသည် မိမိနှင့် ဗြိတိသျှတို့ ပဌမတွေ့ဆုံရာအရပ်ကို အထိမ်းအမှတ် ပြုလိုသောကြောင့် ထိုစေတီကိုတည်ခဲ့သည်ဟုဆိုကြသည်။ ညောင်ရွှေမြို့ရှိ ရတနာမာရ်အောင် စေတီတော်မှာကား စော်ဘွားကြီး ဆာစဝ်မောင်လက်ထက်၌ မင်းတုန်းမင်းတရားကြီးခြီးမြှင့်တော်မူခဲ့သော သိဟိုဠ်မှ ဓာတ်တော်များကိုဌာပနာ၍ တည်ထားခြင်းဖြစ်သည်။ ညောင်ရွှေမြို့တွင် နှစ်စဉ် နယုန်လ၌ ဝိနယာမိန္ဒဂူဟာစာပြန်ပွဲတော်ကြီးကို ဆင်ယင်ကျင်းပလေ့ရှိလေ

သည်။ ထို့ပြင်လည်း နှစ်စဉ် သီတင်းကျွတ်လတိုင်းတွင် အင်းလေးကန်မှဖောင်တော်ဦးဘုရားကို လှေဖြင့်ပင့်ဆောင်၍ ဘုရားပွဲကျင်းပမြဲဖြစ်သည်။ ဖောင်တော်ဦးရုပ်ပွားတော်မြတ်ကိန်းဝပ်စံပယ်တော်မူရန် စံကျောင်းတော်အဖြစ် အဋ္ဌဒိသာ၀မ္ဘဝိဟာရဒေသစာရီကျောင်းတော်ကြီးကို စော်ဘွားကြီး ဆာစဝ်မောင်ပင်လျှင် ဆောက်လုပ်လှူဒါန်းထားရှိလေသည်။ ညောင်ရွှေမြို့ရှိ အခြားတန်ခိုးကြီးဘုရားတို့မှာ ရွှေသံတောင်နှင့် ရွှေအင်းတိမ်ဘုရားများ ဖြစ်ကြသည်။

**ညောင်လေးပင်မြို့။** ။ပဲခူးခရိုင်၊ ညောင်လေးပင်နယ်၊ ညောင်လေးပင် အရှေ့နှင့် အနောက်မြို့နယ်တို့၏ရုံးစိုက်ရာမြို့ဖြစ်၏။ မီးရထားလမ်းဖြင့် ပဲခူးမှ ၄၆ မိုင်၊ ရန်ကုန်မှ ၈၃ မိုင် မျှကွာဝေးသည်။ ရန်ကုန် မန္တလေး ကားလမ်းမကြီးမှာလည်း ညောင်လေးပင်မြို့လယ်ကိုဖြတ်သန်းသွားလေသည်။ ပဲခူးမြောက်ပိုင်း စပါးရောင်းဝယ်တင်ပို့ရာ ဗဟိုဌာနတခုဖြစ်၍ အတော်ပင်စည်ကားသည်။ မြို့၏လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၁၂,၁၅၅ ယောက်ခန့် ဖြစ်လေသည်။

ညောင်လေးပင်မြို့တွင် မျူနီစီပယ်အဖွဲ့ရှိ၍ မြို့တွင်းကိစ္စရပ်များတို့ကိုဆောင်ရွက်ရသည်။ ညောင်လေးပင်နယ်တွင် ညောင်လေးပင်မြို့နယ်၊ ညောင်လေးပင်အနောက်မြို့နယ်နှင့် ဒိုက်ဦးမြို့နယ်များ ပါဝင်လေသည်။

ညောင်လေးပင်အရှေ့မြို့နယ်တဝှန်းလုံးမှာ အများအားဖြင့် စပါးကိုအဓိကထား၍စိုက်ပျိုးသောလယ်ယာများသာဖြစ်သည်။ ညောင်လေးပင်အနောက်မြို့နယ်မှာမူ ကုန်းမြင့်ဒေသများ၊ တောင်တန်းများဖြစ်၍ လယ်ယာလုပ်ကိုင်ကြသော်လည်း၊ အနည်းငယ်မျှသာဖြစ်သည်။

ညောင်လေးပင်မြို့မှ အရှေ့ဖက် ၁၂ မိုင်ခန့်ဝေးသော မဒေါက်သို့ မီးရထားလမ်းခွဲတခုရှိ၍၊ မဒေါက်မှ စစ်တောင်းမြစ်ကိုဖြတ်ကူးလိုက်လျှင် တောင်ငူခရိုင်အပိုင် ရွှေကျင်မြို့သို့ ရောက်ရှိနိုင်လေသည်။

ညောင်လေးပင်မြို့မှာ နယ်ပိုင်ဝန်ထောက်ရုံးစိုက်သောမြို့ဖြစ်သည့်အားလျော်စွာ အစိုးရရုံးများ၊ ကျောင်း၊ ဆေးရုံ၊ ဈေး စသောအဆောက်အအုံများဖြင့် စည်စည်ကားကားရှိသည်။ မြို့နယ်မှာ စပါးအထွက်များသောနယ်ဖြစ်သည့်အပြင်၊ မီးရထားလမ်း၊ ကားလမ်းများရှိသောကြောင့် အရောင်းအဝယ်တွင်ကျယ်သည်။ ပဲခူးခရိုင်တွင် တတိယအကြီးဆုံးမြို့ဖြစ်သည်။

**ညောင်ဦးမြို့။** ။မြင်းခြံခရိုင် တောင်ပိုင်း ပုဂံနယ်၏ ရုံးစိုက်မြို့ဖြစ်၍၊ ဧရာဝတီမြစ် အရှေ့ဖက် ကမ်းပေါ် တွင် တည်ရှိသည်။ ပုဂံနယ်တွင် ပုဂံမြို့နှင့် ကျောက်ပန်းတောင်းမြို့တို့ ပါဝင်ကြသည်။

မြို့၏ကျက်သရေမှာ ရွှေစည်းခုံစေတီတော်ဖြစ်လေသည်။ (ရွှေစည်းခုံဘုရား — ရှု။) ညောင်ဦးမြို့၏ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၉,၄၁၆ ယောက်ဖြစ်



ညောင်ဦးမြို့ ကျက်သရေဆောင် ရွှေစည်းခုံစေတီတော်



ဧရာဝတီမြစ်ကမ်းမှ ရှုမြင်ရသော ရှေးဟောင်းအောက်မေ့ဘွယ်ရာ ညောင်ဦးမြို့ရှုခင်း

သည်။ စည်ပင်သာယာရေးအတွက်၊ ညောင်ဦးမြို့ကော်မီတီကို ၁၉၀၃ ခုနှစ်မှစ၍တည်ထောင်ဖွဲ့စည်းခဲ့သည်။

ပုဂံမြို့အထက် ၄ မိုင်ကွာတွင်ရှိသော ရှေးဟောင်းပုဂံမြို့ရှိ စေတီပုထိုးများကို လည်ပတ် ဖူးမြော်ရန် လာကြသော ခရီးသည်များ အတွက်၊ ညောင်ဦးမြို့သည် စားတည်းချရာ သင်္ဘောဆိပ်မြို့ဖြစ်သည်။ ပုဂံထွက် ကျောက်ကာယွန်းထည်များထုတ်လုပ်ရာဌာနဖြစ်၍ လူသိများသည်။ မြို့နယ်အတွင်း မြေပဲဖြစ်ထွန်းသဖြင့် ဆီစက်ကြီးများရှိသည်။

# ရှေးသုဟောင်းတို့၏ပညာဉာဏ်ပြန်လည်သစ်ဆန်းခြင်း

**ဥရောပတိုက်တွင် အလယ်ခေတ်ဟုဆိုအပ်သော ၁၃ ရာစုနှင့် ၁၄ ရာစုနှစ်များအတွင်းက ရှေးဟောင်းစာပေ၊ အနုပညာ၊ ယဉ်ကျေးမှုစသည်တို့သည် တိမ်မြုပ်လျက်ရှိချေသည်။ သို့ရာတွင် ဣတလီနိုင်ငံ၌အစပြု၍ ထိုကဲ့သို့တိမ်မြုပ်လျက်ရှိသော ခေတ်ယဉ်ကျေးမှုအရပ်ရပ်တို့ကို တစတစထုတ်ဖော်လာကြခြင်းအားဖြင့် ဥရောပတိုက်တွင် 'ရီနေဆွန်း' ခေါ် ဉာဏ်သစ်အရေးပုံ ပေါ်ထွန်းလာခဲ့ပေသည်။**

**ဉာဏ်သစ်အရေးပုံ။** ။ဉာဏ်သစ်အရေးပုံဟူသည်မှာ ၁၃ နှင့် ၁၄ ရာစုနှစ်အတွင်း ဣတလီနိုင်ငံတွင်စတင်ထွန်းကား၍၊ ဥရောပနိုင်ငံတို့သို့ပျံ့နှံ့သွားသော ရီနေဆွန်းခေတ်၏ အခြင်းအရာဖြစ်သည်။ ခရစ် ၁၇၃၀-၆၀ ပြည့်နှစ် အတွင်း၌ထင်ရှားသော စာပေပညာရှင်တို့သည် အဆိုပါဣတလီနိုင်ငံတွင် စတင်ပေါ်ပေါက်ခဲ့သော ခေတ်၏သဘောကို ဆင်ခြင်သုံးသပ်သည့်အခါ၊ ထိုခေတ်၌လူတို့သည် ဣတလီနိုင်ငံ၏ ရှေးဟောင်းယဉ်ကျေးမှုတို့ကို ပြန်လည်လေ့လာထုတ်ဖော်၍၊ အဝိဇ္ဇာတည်းဟူသောအမှောင်ကို ပညာတည်းဟူသော အလင်းရောင်ဖြင့် ဖုံ့ခွင်းလိုက်သည်ဟု ယူဆကြသည်။ ထိုသည်မှစ၍၊ ဥရောပတိုက်ရှိ တိုင်းပြည်အသီးသီးတို့သည် ဣတလီပြည်၏နမူနာကိုယူ၍၊ စာပေ၊ အနုပညာ၊ ယဉ်ကျေးမှု၊ အတွေးအခေါ်၊ အယူဝါဒစသည်တို့ကို အသစ်တဖန်ပြန်လည်ထွန်းကားအောင် ဆောင်ရွက်လာကြသည်ဟူ၍လည်း အယူရှိကြသည်။

ထို့ကြောင့် ထိုခေတ်ကို 'ရီနေဆွန်း' ဟူ၍အမည်ပေးသည်။ ရီနေဆွန်းဟူသော ဝေါဟာရသည်ပြင်သစ်စကားဖြစ်သည်။ အသစ်တဖန်ပြန်၍ဖြစ်ခြင်းဟု အဓိပ္ပါယ်ရသည်။ အဟောင်းကို ဖယ်ရှား၍၊ အသစ်ကိုတည်ဆောက်ခြင်းဟု ဆိုလိုသည်။

၁၉ ရာစုနှစ်စာပေပညာရှင်တို့က အထက်ပါအတိုင်း ခေတ်သဘောကိုအကဲဖြတ်ခဲ့ရာ၊ ၂၀ ရာစုနှစ်စာပေပညာရှင်တို့က တဖန် ထိုအကဲဖြတ်ချက်ကို ပြန်၍ဝေဖန်သုံးသပ်ကြည့်ကြပြန်သည်။ သမိုင်းအလိုအားဖြင့်၊ ၁၃ နှင့် ၁၄ ရာစုနှစ်အကြား၌တည်သောခေတ်ကို အလယ်ခေတ်ဟုခေါ်သည်။ ၁၉ ရာစုနှစ်စာပေပညာရှင်တို့က ထိုခေတ်ကို 'အမှောင်ခေတ်' ဟုယူဆခဲ့ကြသည်။ ၂၀ ရာစုနှစ်စာပေပညာရှင်တို့ကမူ ထိုခေတ်သည် အသိပညာတိမ်ကောသောအမှောင်ခေတ်ဟုမဆိုသာ၊ အကယ်၍အမှောင်ခေတ်သက်သက်ဟုဆိုရပါလျှင်၊ အလယ်ခေတ်၌ ယဉ်ကျေးမှုအခြေခံတို့သည် အဘယ်နည်း

ဖြင့် ထွန်းကားလာရပါသနည်းဟူ၍ စောဒက တက်လာကြသည်။ ထိုကြောင့် ရီနေဆွန်းခေတ်သည် အလယ်ခေတ်ယဉ်ကျေးမှုအဆောက်အအုံပေါ်တွင်အခြေပြုကာ၊ နှောင်းခေတ်ယဉ်ကျေးမှုတို့ တဆင့်ထက်တဆင့် အသစ်အသစ်ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ခဲ့သောခေတ်ဖြစ်သည်။ ရီနေဆွန်းဟူသောစကားသည် အသိဉာဏ်ဆိတ်သုန်းသောခေတ်ကိုလွန်၍၊ ဥဒါန်သစ် ပညာသစ်ထွန်းကားလာသည်ဟူသော အဓိပ္ပါယ်ကို ဆောင်သည့်ထက်၊ အသိဉာဏ်ပညာတို့သည် ရှေးဟောင်း ယဉ်ကျေးမှုကိုအခြေပြုကာ၊ အသစ်အသစ် ဖွံ့ဖြိုးတိုးတက်လာသည်ဟူသော အဓိပ္ပါယ်ကိုသာဆောင်အပ်သည်ဟု ယူဆလာကြကုန်သည်။ ထိုကြောင့် မျက်မှောက်ခေတ်ပညာရှင်တို့၏ အလိုအားဖြင့်၊ ဥဒါန်သစ်အရေးပုံ၏ သဘော အကျဉ်းချုပ်ကား၊ ရှေးဟောင်းယဉ်ကျေးမှုတို့ကို စူးစမ်းရှာဖွေလေ့လာပြီးလျှင်၊ ယင်းတို့ကို တဖန်ပြန်လည်ဆန်းသစ်စေသော သဘောဖြစ်လေသည်။

အလယ်ခေတ်၏လူမှုရေးရာတို့သည် ကံကျေးချစံနစ်အရပေါ်ပေါက်လာသောလူမှုရေးရာတို့ဖြစ်သည်။ (ကံကျေးချစံနစ် — ရှု။) ကံကျေးချစံနစ်ခေတ်တွင် တိုင်းကားပြည်ရွာတို့ကိုမထူထောင်နိုင်သေးမီ၊ လူတို့သည် မြို့စားရွာစားတို့၏နယ်ပယ်များတွင် မိမိတို့လူမျိုးစုနှင့် မိမိသီးခြားနေထိုင်လေ့ရှိကြသည်။ ထိုခေတ်လူမှုဆက်ဆံရေးစံနစ်သည် မြို့စားရွာစားတို့နေထိုင်ရာ မြိတိုက်နှင့် သာသနာရေး ဂိုဏ်းအုပ်ဂိုဏ်းချုပ်တို့နေထိုင်ရာ နန်းတော်ပမာတမျှရှိသောကျောင်းတို့ကိုအဓိကပြုရသည်။ ထိုစဉ်က လူမှုရေးသည် ရှုပ်ထွေးများမြောင်ခြင်းမရှိ။ ဘာသာအယူဝါဒ၏ အဆုံးအမ၌သာလျှင်တည်နေကြလေရာ၊ လူတို့သည် မိမိတို့ရပ်တည်ရာ လောကအခြင်းအရာကို သတိမမူဘဲ၊ ကောင်းကင်ဘုံကိုသာလျှင်ရည်စူးကြကုန်သည်။ ဥဒါန်သစ်အရေးပုံ ပေါ်ပေါက်လာသောအခါ၌မူကား လူတို့သည် ဘာသာအယူဝါဒ အရေးထက် လောကီအရေးတို့ကို ပိုမို စိတ်ညွတ်လာကြသည်။ လောကီ၊ လောကုတ္တရာနှစ်ဖြာရှိသည်တွင်၊ ရှေးက လောကုတ္တရာဖက်သို့စိတ်ညွတ်ခဲ့ကြသော်လည်း၊ ယခုအခါ လောကီဖက်သို့စိတ်ညွတ်လာကြသည်။ ထိုကြောင့် လောကပတ်ဝန်းကျင်ကိုလက်တွေ့ဆင်ခြင်သုံးသပ်လာကြသည်။ မူလက လူသည် ထာဝရဘုရားသခင်ကိုသာ ဆည်းကပ်ခဲ့ရာမှ၊ ယခုအခါ လူလျှင်လူချင်းပိုမိုချဉ်းကပ်လာပြီးလျှင်၊ လောက၏တိုးတက်မှုကိုကြံဆောင်လာကြသည်။ ဤ၌ ဥရောပတိုက်သားတို့သည် ခရစ်တော်၏ သာသနာအယူဝါဒကို ပစ်ပယ်သည်ဟုမမှတ်ရ။ သာသနာရေးဆိုင်ရာအယူဝါဒနှင့် အခြားရေးရိုးအစဉ်အလာ အယူဝါဒတို့ကို လောက၏ဖြစ်စဉ်နှင့်ညှိနှိုင်းကြည့်ခြင်းကို ဆိုလိုပေသည်။ ဤသို့ လောကုတ္တရာအရေးကို လိုက်စားခဲ့ရာမှ၊ လောကီအရေးကို လိုက်စားလာကြသည့်အခြင်းအရာကို ဥရောပသမိုင်းအလိုအရ လောကုတ္တရာစရိယလမ်းစဉ်ဟု ခေါ်ဆိုကြသည်။ အလယ်ခေတ်မှလွန်သည်ရှိသော်၊ မြို့စားရွာစားနယ်ပယ်တို့သည် နိုင်ငံရေးအရ ပူးပေါင်းလာကြပြီးလျှင်၊ တိုင်းပြည်နိုင်ငံများဖြစ်ပေါ်လာသည်။ ရှေးက မိမိအစုနှင့်မိမိ သီးခြားနေထိုင်ခဲ့သောသူတို့သည် ယခုအခါ ကူးသန်းရောင်းဝယ်ရေး ဖွံ့ဖြိုးမှုတို့ကြောင့်၊ တဦးနှင့်တဦး ကူးလူးဆက်ဆံလာကြလေရကား၊ အသိဉာဏ်ပညာ ဗဟုသုတတို့သည် ဖွံ့ဖြိုး တိုးတက်လာကြကုန်သည်။ မူလက နိုင်ငံရေးအာဏာသည် သာသနာရေးအဖွဲ့အစည်းတို့၏လက်တွင် အချုပ်အချာအားဖြင့် တည်ရှိခဲ့ရာ၊ ယခုမှာမူ ထိုနိုင်ငံရေးအာဏာသည် ရေမြေစိုးပိုင်သူတို့၏လက်ထဲသို့ သာသနာရေးကိစ္စမှတပါး အားလုံးလိုလိုပင် ကူးပြောင်းလာခဲ့သည်။ ဤအခြေတွင် လူတို့သည် သာသနာရေးဆိုင်ရာအယူဝါဒတို့၌ပင်လျှင် စူးစမ်းဆင်ခြင်သောအားဖြင့် စစ်ဆေးသမှုပြုလာကြသည်။ ထိုကြောင့်လည်း ခရစ်ယန်သာသနာအရေးပုံဟူ၍ ပေါ်ပေါက်လာခဲ့ခြင်းဖြစ်သည်။ (ခရစ်ယန်သာသနာအရေးပုံ — ရှု။)

ထိုကဲ့သို့ခေတ်ပြောင်းလာသည်တွင်၊ လူတို့သည် ခေတ်နှင့်လျော်သောလူနေမှုစံနစ်တရပ်ကို ရှေးဟောင်းစံပြစာပေနှင့် အနုပညာယဉ်ကျေးမှုတို့တွင် စူးစမ်း ရှာဖွေလာကြသည်။ ဤတွင် ဂရိနှင့်ရောမ ရှေးဟောင်းစံပြစာပေနှင့် အနုပညာယဉ်ကျေးမှုတို့၌ မိမိတို့လိုရာကိုတွေ့ရှိလာကြသည်။ ထိုကြောင့် ထိုခေတ်တွင် အထက်ကပြဆိုခဲ့သော လောကုတ္တရိယလမ်းစဉ် ထွန်းကားလာသည့်အပြင်၊ ရှေးဟောင်းစာပေ လေ့လာခြင်းသည်လည်း ခေတ်၏သဘောဖြစ်လာလေသည်။

ရီနေဆွန်းခေတ်မတိုင်မီက ဥရောပတိုက်ရှိ တိုင်းပြည်တို့သည် လက်တင်ဘာသာဖြင့်ရေးသားသောစာပေကိုမှ စာပေမြောက်သည်ဟု ယူဆကြသည်။ ထိုကြောင့် စာပေပြုစုရာ၌ တိုင်းရင်းဘာသာဖြင့်မပြုစုဘဲ၊ လက်တင်ဘာသာဖြင့်သာ ပြုစုလေ့ရှိသည်။ ထိုကဲ့သို့သောအခြေတွင် ဣတာလျံလူမျိုး ကဗျာဆရာကြီးဒန်တီ (ခရစ် ၁၂၆၅–၁၃၂၁) သည် 'ဒီဗိုင်းကော်မီဒီ' လင်္ကာကို ဣတာလျံဘာသာဖြင့်စီကုံးရေးသားလေသည်။ ဤအတွက်ကြောင့် ဒန်တီကို ဥဒါန်သစ်အရေးပုံ၏ရှေ့ပြေးပုဂ္ဂိုလ်ဟုခေါ်ဆိုကြသည်။ (ဒန်တီ,အလီဂျာရီ — ရှု။) သို့ရာတွင် စာပေလောက၌ ဥဒါန်သစ်အရေးပုံကိုစတင်ခဲ့သူကား ပီးထရတ် (ခရစ် ၁၃၀၄–၇၄) ဖြစ်သည်ဟု စာပေပညာရှင်တို့ကဆိုကြသည်။ ပီးထရတ်သည် ကွန်စတန်တီနိုပယ်မြို့မှပြန့်ပွားလာသော ဂရိနှင့်ရောမ စံပြစာပေတို့၏အဖွဲ့အနွဲ့နှင့် အတွေးအခေါ်တို့ကို ကောင်းစွာလေ့လာခဲ့သူဖြစ်သည့်အလျောက်၊ မိမိကိုယ်တိုင် ဣတာလျံဘာသာဖြင့် ကဗျာလင်္ကာတို့ကို စပ်ဆိုသည်တွင်၊ ဂရိနှင့်

ရောမစံပြစာပေတို့၏သဘောတရားသည် အသစ်တဖန်ပြန်လည် ထွန်းကားလာလေသည်။ ပီးထရတ်နှင့် ပီးထရတ်၏နမူနာကိုယူသောအဖော်အပေါင်းတို့သည် ပတ်ဝန်းကျင်လူ့လောက၏အကျိုးကို ဆောင်သောသဘောရှိသည့် စာပေတို့ကိုရေးသားပြုစုကြသဖြင့်၊ နှောင်းလူတို့က ယင်းတို့ကို လောကတ္ထစရိယလမ်းစဉ်ချမှတ်သူများဟူ၍ အသိအမှတ်ပြုကြသည်။ ထိုပုဂ္ဂိုလ်တို့သည် ရှေးဟောင်းစံပြစာပေတို့ကို အခြေပြု၍၊ စာပေသစ်ကိုဖန်တီးကြသည်။ ဤသို့လျှင် ဣတလီနိုင်ငံ၌ ရီနေဆွန်းခေတ်သည် အထွတ်အထိပ်သို့ရောက်ခဲ့လေသည်။

ခရစ် ၁၄၅၃ ခုနှစ်တွင် ကွန်စတန်တီနိုပယ်မြို့သည် တူရကီလူမျိုးတို့၏လက်ထဲသို့ကျရောက်လေသည်။ (ကွန်စတန်တီနိုပယ်မြို့ — ရှု။ တူရကီနိုင်ငံ — လည်းရှု။) ထိုအခါ များစွာကုန်သောဂရိပညာရှိတို့သည် ဣတလီနိုင်ငံသို့ ဝင်ရောက်ခိုလှုံကြပြီးလျှင်၊ ဂရိဘာသာစာပေတို့ကို သင်ကြားပို့ချကြလေသည်။ ဤအချက်ကြောင့် ရှေးဟောင်းစံပြစာပေကို လေ့လာသောဓလေ့သည် ပိုမိုပြန့်ပွားလာပြန်သည်။ ခရစ် ၁၄၅၀ ပြည့်နှစ်တွင် စာပုံနှိပ်စက်ပေါ်လာသည်။ ထိုနှစ်၌ပင်လျှင် အီရက်ဇမပ်အမည်ရှိ ပညာရှင်တဦး ထွန်းကားသည်။ ထိုပညာရှင်သည် ပြင်သစ်၊ အင်္ဂလန်၊ ဆွစ်ဇာလန်၊ ဂျာမနီစသောတိုင်းပြည်တို့တွင် ဂရိနှင့် လက်တင်စာပေပြန့်ပွားအောင် သင်ကြားပို့ချပေးခဲ့သည်။ ၁၅၁၆ ခုနှစ်တွင် အီရက်ဇမပ်သည် ဂရိဘာသာဖြင့် ဓမ္မသစ်ကျမ်းစာကိုတည်းဖြတ်သုတ်သင်သည်။ စာပုံနှိပ်စက်၏ကျေးဇူးကြောင့်၊ ထိုဓမ္မသစ်ကျမ်းစာသည် လူအများထံသို့ပျံ့နှံ့ခဲ့လေသည်။ ဤအချက်သည် သမ္မာကျမ်းစာကို လူအများ စံနစ်တကျသိရှိတတ်ကျွမ်းအောင် ဖန်တီးပေးသောအချက်ဖြစ်လေသည်။ အထက်ပါအကြောင်းတို့ကြောင့်၊ ဥဒဏ်သစ်အရေးပုံသည် ဣတလီနိုင်ငံမှ ဥရောပရှိအရပ်ရပ်တို့သို့ပျံ့နှံ့သွားလေသည်။

စာပေဖွံ့ဖြိုးတိုးတက်သည့်နည်းတူ ပန်းချီ၊ ရုပ်ထု၊ ဗိသုကာစသောအနုပညာတို့သည်လည်း ဖွံ့ဖြိုးတိုးတက်လာလေသည်။ ၁၅ ရာစုနှစ်နှင့် ၁၆ ရာစုနှစ်အကြားတွင်၊ ရက်ဖီအယ်၊ လီယိုနာဒို ဒါဗင်းချီ၊ မိုက်ကယ်အန်ဂျလို၊ တစ်ရှန်တို့၏ ပန်းချီလက်ရာတို့သည် ဥဒဏ်သစ်အရေးပုံ ထိပ်ဆုံးသို့ရောက်ခဲ့သည်ကိုပြလေသည်။ (ရက်ဖီအယ်,စန္တီ။ လီယိုနာဒို ဒါဗင်းချီ။ မိုက်ကယ်အန်ဂျလို။ တစ်ရှန် — ရှု။) ဖလန်းဒါး၊ ဟော်လန်၊ ဂျာမနီနိုင်ငံတို့တွင် ဗန်အိုက်၊ ဒူရာ၊ ဟောလဗိုင်းစသော ပန်းချီပညာရှင်တို့သည် သူတို့နှင့်ဆိုင်ရာတိုင်းပြည်တွင် ဥဒဏ်သစ်အရေးပုံကို တည်ထောင်ခဲ့ကြသည်။ (အိုက်,ဟျူးဗရက် ဗန်။ ဒူရာ,အေ။ ဟောလဗိုင်း,ဟန်းဇ — ရှု။) အသစ်တည်ထောင်သော သဘောတို့ကိုပြရလျှင်၊ ပြင်သစ်နိုင်ငံတွင် ရက်ဗီလေး (ရက်ဗီလေး,အက် (ဖ) — ရှု။) စပိန်နိုင်ငံတွင် သာဗင်တေး၊ အင်္ဂလန်ပြည်တွင် ရှိတ်စပီးယားဟူသော ပုဂ္ဂိုလ်တို့၏အရေးအသားကို ပြရမည်ဖြစ်၏။ (သာဗင်တေး။ ရှိတ်စပီးယား,ဝီလျံ — ရှု။) သိပ္ပံပညာရပ်တို့၌ အသိဉာဏ်ဆန်းသစ်ထွန်းကားလာပုံကိုမူကား ကော့ပါးနီကပ်၊ ဗီဆေးလီယပ်၊ ဂယ်လီလေအိုဟူသော ပညာရှင်တို့၏ရှာဖွေစမ်းသပ်ချက်တို့၌တွေ့မြင်နိုင်သည်။ (ကော့ပါးနီကပ်,အင်။ ဗီဆေးလီယပ်,အေ။ ဂယ်လီလေအို — ရှု။) ဒီးအတ်၊ ဗတ်ရှကူးသဂါမ၊ ကိုလံဗပ်၊ မဂျဲလန်စသော ခရီးသည်တို့၏စူးစမ်းရှာဖွေမှုတို့သည်လည်း ဥဒဏ်သစ်အရေးပုံတည်ဆောက်ရာ၌အကျုံးဝင်လေသည်။ (ဒီးအတ်,ဗာတူးလူးမေယု။ ဗတ်ရှကူးသဂါမ။ ကိုလံဗပ်,စီ။ မဂျဲလန် — ရှု။) ဥရောပသမိုင်းအလိုအားဖြင့်၊ ထိုဥဒဏ်သစ်အရေးပုံသည် အင်္ဂလန်ပြည် အယ်လစ်ဇဗက်ဘုရင်မကွယ်လွန်သော ခရစ် ၁၆၀၃ ခုနှစ်မှ လွန်လေသော် ခေတ်ကုန်ခြင်းသို့ရောက်သည်ဟုဆိုသည်။ စင်စစ်၊ ဥဒဏ်သစ်အရေးပုံသည် အသိဉာဏ်ထွန်းကားသောခေတ်သို့ရောက်ပြီးလျှင်၊ ပြင်သစ်တော်လှန်ရေးခေတ်သို့ ရှေးရှုလေသည်။ (ပြင်သစ်တော်လှန်ရေး — ရှု။)

**ညံ့ပင်။** ။ညံ့ပင်သည် မျိုးရင်း 'လီဂူမီးနိုးစီအီး'၊ မျိုးရင်းခွဲ 'ပက်ပီလီအိုနေးတီး' တွင်ပါဝင်သည်။ ယင်းကို သိပ္ပံအမည်အားဖြင့် 'ဆက်စဗေးနီးယား အကျူလီအေးတား' ဟုခေါ်သည်။

ညံ့ပင်သည် ဆူးရှိသောသစ်နုပင်မျိုးဖြစ်သည်။ ဆောင်းရာသီတွင် အကိုင်းစွန်း ခြောက်သွေ့သိုးနွမ်းတတ်သော ညံချုံဖုတ်မျိုးလည်းရှိသည်။ ညံ့ပင်သည် စိမ့်မြေများတွင် အများအားဖြင့်ပေါက်ရောက်သည်။ အမြင့် ၆ ပေမှ ၈ ပေထိရှိသည်။ အရွက်မှာ ၆ လက်မမှ ၁၂ လက်မထိရှိသည်။ ရွက်ကြောမတွင် ဆူးများပါရှိသည်။ ရွက်မြွာအစုံ ၃၀ မှ ၄၀ ထိရှိသည်။ အပွင့်မှာ 'ရေစီမို' မျိုးဖြစ်၍၊ အရှည် ၂ လက်မမှ ၃ လက်မထိရှိသည်။ ညံ့ပွင့်အရောင်မှာ အဝါရောင်တွင် ခရမ်းရောင်အပြောက်ကလေးများပါရှိသည်။ အသီးမှာ သီးတောင့်ဖြစ်၍၊ အရှည် ၆ လက်မမှ ၁၂ လက်မထိ ရှိသည်။

ညံ့ပင်ကို အိန္ဒိယနိုင်ငံတွင် အနှံ့အပြားတွေ့ရသည်။ ယိုးဒယားနိုင်ငံတွင်လည်း ပေါက်သည်ဟုသိရသည်။ ညံ့ပင်ကို ကျွဲနွားစာအတွက်သော်၎င်း၊ လျှော်မျှင်အတွက်သော်၎င်း စိုက်ပျိုးကြသည်။ တခါတရံ မြေဩဇာကောင်းမွန်စေရန်အတွက်လည်း ညံ့ပင်ကိုစိုက်ကြသည်။ ညံ့စေ့မှာ အာဟာရဓာတ်ကြွယ်ဝသဖြင့် ယင်းကိုစားသုံးနိုင်သည်ဟု ဆိုသည်။ မြန်မာနိုင်ငံတွင် ညံ့ပွင့်နှင့်ညံ့ရွက်တို့ကို တို့စရာအဖြစ်စားသုံးကြသည်။



မြန်မာဗျည်း ၃၃ လုံးတွင် ငှ သည် ၁၁ ခုမြောက် အက္ခရာဖြစ်၍ ငှ၊ ဌ၊ ဍ၊ ဎ၊ ဏ ဟူသော ငှဝဂ်တွင်ပါဝင်သည်။ ငှအသံ၏ ဖြစ်ရာဌာနမှာ မုဒ္ဓဌာန် လျှာထိပ်အရပ်ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဌာန်ကိုလိုက်၍၊ ငှ သံလျင်းချိတ်ဟု အမည်တွင်သည်။ ငှ အရေးအသား၏ မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့်ပေစာများတွင် ဟုရေး သားသည်ကို တွေ့ရသည်။ ဗြာဟ္မီအရေးအသား ကို အောက်တွင်ခြေထောက်တပ်၍ တဖြည်းဖြည်းရေးဖန်များသော် သံလျင်းချိတ်ပုံသဏ္ဌာန်ရှိသော မြန်မာအက္ခရာ ငှ ဖြစ် ပေါ်လာလေသည်။ ငှ အက္ခရာ၏ အဆင့်ဆင့် ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။

**ငှိကာကျော်**။ ။ငှိကာကျော် ကျမ်းသည် သီဟိုဠ်ကျွန်း ပရက္ကမဗာဟုမင်း လက်ထက်တွင် သာရတ္ထဒီပနီငှိကာဆရာ အရှင်သာရိပုတြာ၏တပည့်ဖြစ်သော အရှင်သုမင်္ဂလသာမိ မထေရ် ပြုစုစီရင်သောကျမ်းဖြစ်၏။ ငှိကာကျော်ဟူသော ပုဒ်၌ ငှိကာဟူသောစကားသည် တပုဒ်၊ ကျော်ဟူသော စကားသည် တပုဒ်ဖြစ်၏။ ငှိကာသည် ပါဠိစကားဖြစ်၏။ ငှိကိယတိ ဇနီယတိ အဋ္ဌကထာယ အတ္ထော တော ယာတိ ငှိကာဟူသော ဝိဂ္ဂြိုဟ်အရ၊ အဋ္ဌကထာ၏အနက်အဓိပ္ပါယ် အသွယ်သွယ်ကို သိသာထင်ရှားအောင် အကျယ်တဝင့်ဖွင့် ဆိုကြောင်းဖြစ်သောကြောင့် ငှိကာမည်၏။ ပါဠိတော်၏ အဖွင့်ကျမ်းသည် အဋ္ဌကထာမည်၏။ အဋ္ဌကထာ၏အဖွင့် ကျမ်းသည် ငှိကာမည်၏။ ငှိကာကျမ်းသည်လည်း ပိဋက ကသုံးပုံ အစုံအလင် များစွာပင်ရှိလေသည်။

ဤငှိကာကျော် ကျမ်းကား အဘိဓမ္မာ ၇ ကျမ်းမှ လာ ရှိသော စိတ် စေတသိက်စသော တရားတို့ကို အကျဉ်းချုံး ၍ အရှင်အနုရုဒ္ဓါဆရာ ရေးသားအပ်သော အဘိဓမ္မတ္ထသင်္ဂ ဟမည်သော သင်္ဂြိုဟ်လက်သန်း အဋ္ဌကထာကျမ်းကို ဖွင့် ဆိုသောကျမ်းဖြစ်၏။

ကျော်ဟူသော စကားမှာ ကျော်စော ထင်ရှားသော အနက်ရှိသော မြန်မာစကားဖြစ်၏။ ငှိကာအများနှင့်တကွ လက်သန်းအဋ္ဌကထာတည်သော အဘိဓမ္မတ္ထသင်္ဂဟာသင်္ဂြိုဟ် ကျမ်း၏အဖွင့်၊ ငှိကာဟောင်း၊ သင်္ခေပဝဏ္ဏနာ ငှိကာများ ရှိပါလျက်နှင့် အခြားငှိကာများကို ကျော်သဒ္ဒါတပ်၍မခေါ် ဆိုဘဲ၊ ဤငှိကာကိုသာ ကျော်ဘွဲ့တပ်ကာ ငှိကာကျော်ဟု အဘယ်ကြောင့်ခေါ် ဆိုရပါသနည်းဟူမူ၊ ယခုဆိုလတ္တံ့သော အကြောင်းတို့ကြောင့်ဖြစ်၏။

အရှင်သုမင်္ဂလသာမိ မထေရ်၏ ငှိကာကျမ်းသည် မြန်မာ နိုင်ငံသို့ အစဉ်အားဖြင့် ရောက်လာရာ၊ ဆရာ စဉ်ဆက် သင် ကြားပို့ချကြသောအခါ၊ စာသင်ငယ်အများသိနားလည်ရန် ပေါ်လွင်ထင်ရှားသော အနက်အဓိပ္ပါယ် ရှိသောကြောင့် 'ငှိကာလှ' ဟုရှေးဦးစွာတွင်၏။

သက္ကရာဇ် ၇၀၄ ခုနှစ် ရတနာပူရ အင်းဝနေပြည်တော် နရပတိမင်းလက်ထက် နန်းစံခြောက်နှစ်မြောက်တွင် ပင်းယ မြို့တော် တောင်လက် စကားအင်းရွာဇာတိ အရိယဝံသ မည်သော အရှင်သည် မိန်းမကိုယ်ဝန်ဆောင်တရွက်မျှ လောက်သော သဒ္ဒါကြီး၊ သဒ္ဒါငယ်၊ သင်္ဂြိုဟ်၊ အဘိဓာန်၊ ဆန်း၊ အလင်္ကာစသောကျမ်းစာများကို နှုတ်ရအာဂုံလုံး စုံတျက်တျက် ကောင်းစွာဆောင်ရွက်နိုင်ပါလျက် ပိဋက အရာ လိမ်မာတတ်မြောက် ဥာဏ်အမြင်ပေါက်မှု မရှိပါ၍၊ စိတ်ပျက်နှမ်းလျ၊ လက်မှိုင်ချ၍နေလေ၏။ ထိုနောက်၌ မူ၊ စစ်ကိုင်းတောင် ရေငုံချောင်ဆရာတော်၏ သင်းပျံ့မွှေး ကြူ၊ သူမတူတန်၊ ကျန်းဂန်ကျန၊ တတ်တော် မူလှသော သတင်းထူးကိုကြားသိရ၍၊ အရိယဝံသအရှင်သည် ယင်း ဆရာတော်ထံ နည်းခံသင်ယူရန် အခွင့်ကောင်းကို ဝပ်စင်း တောင်းယူ၍၊ ဤငှိကာကျမ်းကို ကျမ်းထွက်၊ ကျမ်းတက်၊ သံဝဏ္ဏနာဆက္ကာ၊ အချက်ကျန၊ နယစုံစွာပို့ချသင်ကြားတော် မူလေသည်။ ထိုအခါမှ ငှိကာကျမ်းဦးအစ၊ ရတနတ္တယ ပဏာမအဖွင့်ပလ္လင်တို့မျှဖြင့်၊ ပညာမျက်စိအလင်းကို ရရှိ သဖြင့်၊ ကဝိမုံသောက် ပေါက်အာဇာနည် ကျမ်းတတ်ပုဂ္ဂိုလ် ကျော်မြတ်ဖြစ်ရသည်ကိုအကြောင်းပြု၍ 'ကျော်ရော့ဟဲ့ငှိ ကာ' ဆိုသောဆရာတော်အစဉ်အဆက်တို့၏ စကားအရ၊ ငှိကာလှအမည်ပျောက်၍၊ ငှိကာကျော်ဟူသောအမည်ဖြင့် ထင်ရှားကျော်စောလာသည်မှာ ယခုတိုင်အောင်ပင်ဖြစ်၏။ အရှင်အရိယဝံသမထေရ်လည်း ထိုငှိကာကျော်၏အဖွင့် မဏိ သာရမဉ္ဇူသာမည်သော ကျမ်းကို ရေးသားစီရင်တော်မူခဲ့ ပေသည်။

ဆရာဆိုင်



မြန်မာဗျည်း ၃၃ လုံးတွင် ဌ သည် ၁၂ ခုမြောက်အက္ခရာဖြစ်၍ ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ ဟူသော ဋဝဂ်တွင် ပါဝင်သည်။ ဌ အသံ၏ ဖြစ်ရာဌာနမှာ မုဒ္ဓဌာန် လျှာထိပ်အရပ်ဖြစ်၏။ အက္ခရာ၏ ပုံသဏ္ဌာန်ကိုလိုက်၍၊ ဌ ဝမ်းပဲဟုအမည်တွင်သည်။ ဌ အရေးအသား၏မူလမှာ ဗြာဟ္မီ ◯ ဖြစ်၏။ ဗြာဟ္မီ ◯ မှ ကုသန ◯ မောင်းကန်ပျူ ဌ ဌ သို့ အဆင့်ဆင့်ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် ဌ နှင့်ပေစာများတွင် ဌ ဟုရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီ ◯ သည် တဖြည်းဖြည်းထိပ်အလယ်တွင် ထီးဆောင်းထားသည့်ပုံပေါ်လာသည်။ နောက်မှတဖန် အထက်က ဝဲဖက်ထိပ်စွန်း အနည်းငယ်ပြွတ်သွားပြီးလျှင်၊ ရေးဖန်များသောအခါ လက်ရှိမြန်မာ ဌ ဝမ်းပဲပုံ ပေါ်လာသည်။ ဌ အက္ခရာ၏ အဆင့်ဆင့်ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ ပြထားသည်။



ဌာပနာ။ ။ဌာပနာဆိုသောစကားသည် ပါဠိမှ ဆင်းသက်လာသော စကားဖြစ်၏။ ပါဠိအမှန်ကား ဌပနာဖြစ်၏။ ဌပနာကိုပင် ဝါစာသိလိဋ္ဌဖြစ်စေရန် ဌ၌အချထည့်၍ ဌာပနာဖြစ်လာသည်။ မြတောင်ဆရာတော်ဘုရားကြီး ရေးသားအပ်သော ပုဂံမြို့ ဘုရားတဆဲ့ခုနစ်ဆူ သမိုင်း၌ပါဠိအတိုင်း ဌပနာဟူ၍ရင်း၊ ပခုက္ကူမြို့ အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒဝံသ စီရင်ရေးသားအပ်သော ပုဂံမြို့ ရွှေစည်းခုံ သမိုင်းသစ်ကျမ်း၌ ထပနာဟူ၍ရင်းရေးသားသည်ကိုတွေ့ရ၏။ ဌ ဝမ်းဘဲနှင့် ထဆင်ထူးကား အနက်အဓိပ္ပါယ်အတူပင်ဖြစ်သည်။

ဌာပနာ၏အနက်အဓိပ္ပါယ်ကား စေတီပုထိုးတည်ထားရာနှင့် ဗုဒ္ဓရုပ်ပွားဆင်းတုတော် တည်ထားရာဝယ် သင့်လျော်သောနေရာ၌ အမြတ်တနိုးကိုးကွယ်အပ်သော ပစ္စည်းများနှင့်အသုံးအဆောင်ပစ္စည်းများကို အမြတ်တနိုးကိုးကွယ်ကြစေရန်ငှင်း၊ မပျောက်မပျက်စေရန်ငှင်း၊ အထိမ်းအမှတ်တခုဖြစ်ရစ်စေရန်ငှင်း သိုမှီးသိမ်းဆည်းထားခြင်းဖြစ်သည်။

အများအားဖြင့် ဌာပနာသော ပစ္စည်းများကား ဘုရားပစ္စေကဗုဒ္ဓါ၊ ရဟန္တာ၊ ပုထုဇဉ် သီလဝန္တဖြစ်သောရဟန်း၊ စကြဝတေးမန္ဓာတ်မင်းတို့၏ သရီရဓာတ်တော်၊ ညှပ်ရိုးတော်၊ ဗောဓိပင်၊ ရုပ်ပွားဆင်းတုတော်၊ ရဟန်းတို့အသုံးအဆောင် ပရိက္ခရာရှစ်ပါး၊ အခြားအသုံးအဆောင်များ၊ ပိဋကတ်တော် ဓမ္မက္ခန္ဓာများ၊ သတ္တဌာနပုံတော်များမှစ၍ ဘုရားဖြစ်တော်စဉ် ပုံတော်များ၊ ဘုရားလောင်းတော် ဖြစ်တော်စဉ် ပုံတော်များ၊ ဘုရားဒါယကာ ဒါယိကာမတို့ ဖြစ်စဉ် ပုံများ၊ လူတို့အသုံးအဆောင်များဖြစ်သည်။

### ရှေးရှေးခေတ်ဌာပနာပုံ

ဌာပနာသော အလေ့အထမှာလည်း ယခုအခါမှ ဖြစ်ပေါ်လာသော အလေ့အထမဟုတ်၊ ကမ္ဘာရှည်ဝေးရှေးရှေးအခါကပင် ဖြစ်ပေါ်လာခဲ့သော အလေ့အထဖြစ်သည်။

ဂေါတမဘုရားလောင်းနိယတဗျာဒိတ်ခံရာဒီပင်္ကရာဘုရားအစ ကဿပဘုရားအဆုံးရှိ နှစ်ကျိပ်လေးဆူသောဘုရားတို့တွင် ဒီပင်္ကရာဘုရား၏ဓာတ်တော်တို့ကို သုံးဆဲ့ခြောက်ယူဇနာမြင့်သော စေတီ၌ ဌာပနာသည်။ ကောဏ္ဍည ဘုရား၊ ဝိပဿီဘုရားတို့၏ ဓာတ်တော်တို့ကို ခုနစ်ယူဇနာမြင့်သော စေတီ၌၊ မင်္ဂလဘုရား၏ဓာတ်တော်တို့ကို ယူဇနာသုံးဆယ်မြင့်သော စေတီ၌၊ သုမနဘုရား၊ နာရဒဘုရား၊ သိဒ္ဓတ္ထဘုရားတို့၏ဓာတ်တော်တို့ကို လေးယူဇနာမြင့်သော စေတီ၌၊ အနောမဒဿီဘုရား၏ ဓာတ်တော်တို့ကို နှစ်ဆဲ့ငါးယူဇနာမြင့်သော စေတီ၌၊ သုဇာတဘုရား၏ဓာတ်တော်တို့ကို သုံးဂါဝုတ်မြင့်သောစေတီ၌၊ ပဒုမုတ္တရဘုရား၏ဓာတ်တော်တို့ကို တဆဲ့နှစ်ယူဇနာမြင့်သော စေတီ၌၊ တိဿဘုရား၊ ဓမ္မဒဿီဘုရား၊ ပိယဒဿီဘုရား၊ သိခီဘုရားတို့၏ဓာတ်တော်တို့ကိုသုံးယူဇနာမြင့်သော စေတီ၌၊ ကကုသန်ဘုရား၏ ဓာတ်တော်တို့ကို တဂါဝုတ်မြင့်သော စေတီ၌၊ ကဿပဘုရား၏ဓာတ်တော်တို့ကို တယူဇနာမြင့်သော စေတီ၌ဌာပနာသည်။

ရေဝတဘုရား၊ သောဘိတဘုရား၊ ပဒုမဘုရား၊ သုမေဓာဘုရား၊ ဖုဿဘုရား၊ အတ္ထဒဿီဘုရား၊ ဝေဿဘူဘုရား၊ ကောဏဂုံဘုရားတို့၏ဓာတ်တော်တို့ကို ဌာပနာသော စေတီတိုက်ရိုက်အဆိုမရှိသော်လည်း၊ ထိုထိုအရပ်ဒေသသို့ ဓာတ်တော်ပျံ့နှံ့သည်ဟုအဆိုရှိသဖြင့် ရောက်ရာအရပ်၌ စေတီတည်၍ ဌာပနာသည်ဟု ယူဆရန်ရှိသည်။

ထိုနှစ်ကျိပ်လေးဆူသော ဘုရားလောင်းတို့တွင် ဒီပင်္ကရာဘုရားလောင်း၊ ရေဝတဘုရားလောင်း၊ နာရဒဘုရားလောင်းတို့ ဆံတော် ဝတ်လဲတော်တို့ကို စေတီတည်၍ ဌာ

ပနာကြောင်းအဆိုရှိသဖြင့် ကြွင်းသောဘုရားလောင်းတို့၏ ဆံတော်ဝတ်လဲတော်တို့ကိုလည်း စေတီတည်၍ ဌာပနာသည်ဟု ယူဆရန်ရှိသည်။

## မဇ္ဈိမဒေသခေတ် ဌာပနာပုံ

ဂေါတမဘုရားလောင်း တောထွက်တော်မူသော အခါ ပယ်အပ်သောဆံတော်ကို သိကြားမင်းယူ၍ တာဝတိံသာ နတ်ပြည်ဝယ် သုံးယူဇနာမြင့်သော စူဠာမဏိစေတီ၌ ဌာပနာသည်။ (စူဠာမဏိစေတီ — ရှု။) ပရိနိဗ္ဗာန် စံတော်မူသောအခါ လက်ယာအထက်စွယ်တော်နှင့် လက်ယာညှပ်ရိုးတော်တို့ကိုလည်း ယင်းစေတီ၌ပင် ဌာပနာသည်။ ရဟန်းပြုသောအခါ ဝတ်လဲတော်အစုံကို ဃဋိကာရဗြဟ္မာကြီးယူ၍ အကနိဋ္ဌဘုံဝယ် တဆဲ့နှစ်ယူဇနာမြင့်သော ဒုဿစေတီ၌ ဌာပနာသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံလွန်တော်မူသောအခါ အသွင်သဏ္ဍာန် ကွဲပြား၍တည်သော ဘိန္နဓာတ်တော်များစွာနှင့် အသွင်သဏ္ဍာန် မကွဲမပြား ပကတိအတိုင်း တသားတည်းတည်သော အသမ္ဘိန္နဓာတ်တော်ခုနစ်ဆူဟု ကြွင်းကျန်ခဲ့ရာ၊ ရှစ်ပြည်ထောင်မင်းတို့အား ဒေါဏပုဏ္ဏား ဝေပေးသော ဘိန္နဓာတ်တော်ရှစ်စုတို့တွင် တစုကို ရာဇဂြိုဟ်ပြည်၌၊ တစုကို ဝေသာလီပြည်၌၊ တစုကို ကပိလဝတ်ပြည်၌၊ တစုကို အလ္လကပ္ပတိုင်း၌၊ တစုကို ရာမရွာ၌၊ တစုကို ဝေဌဒီပတိုင်း၌၊ တစုကို ကုသိနာရုံပြည်၌၊ စေတီတည်၍ ဌာပနာသည်။ ဓာတ်တော်ချင့်သော အိုးကို တက္ကသိုလ်ပြည်၌၊ စန္ဒကူးမီးသွေးကို မောရိယပြည်၌စေတီတည်၍ ဌာပနာသည်။

အသမ္ဘိန္နဓာတ်တော် ခုနစ်ဆူတို့တွင်၊ နဖူးသင်းကျစ်တော်ကို သီဟိုဠ်ကျွန်း၌ ဌာပနာသည်။ လက်ဝဲညှပ်ရိုးတော်ကို ဗြဟ္မာပြည်၌စေတီတည်၍ ဌာပနာသည်။ လက်ယာညှပ်ရိုးတော်ကို သီဟိုဠ်ကျွန်း ထူပါရုံစေတီ၌ ဌာပနာသည်။ (စွယ်တော် — ရှု။) လည်ရိုးတော်ကို သီဟိုဠ်ကျွန်း မဟိယင်္ဂဏစေတီ၌ ဌာပနာသည်။ သွားတော်၊ ဆံတော်၊ မွေးညှင်းတော်၊ ခြေသည်းတော်၊ လက်သည်းတော်တို့ကို စကြဝဠာအဆက်ဆက်သို့ ဆောင်ယူလျက် နတ်များကိုးကွယ်ကြ၏။

မှတ်ချက်။ ။(ဗုဒ္ဓဝင်ပါဠိတော်၊ မဟာပရိနိဗ္ဗာနသုတ်ပါဠိတော်တို့၌ လည်ရိုးတော်မပါရှိသော်လည်း၊ မဟာဝင်၊ ထူပဝင်၊ နလာဋဓာတုဝင်၊ ဒါဌာဓာတုဝင်တို့၌ ပါရှိသောကြောင့် ထည့်သွင်းရေးသားလိုက်သည်။ ယင်းလည်ရိုးတော်၊ သွားတော်၊ ဆံတော်၊ မွေးညှင်းတော်၊ ခြေသည်းတော်၊ လက်သည်းတော်တို့ကို အသမ္ဘိန္နဓာတ်တော်ဟု တိုက်ရိုက်အဆိုမရှိသော်လည်း၊ မကွဲမပြား ပကတိအတိုင်း တသားတည်းတည်သော ဓာတ်တော်များဖြစ်၍ အသမ္ဘိန္နဓာတ်တော်သို့ သွင်းယူသင့်သည်။)

သပိတ်တော်၊ တောင်ဝှေးတော်၊ သင်္ကန်းတော်တို့ကို ဝဇီရပြည်၌၊ သင်းပိုင်တော်ကို ကုလဃရမြို့၌၊ အပေါ်လွှမ်းအခင်းတော်ကို ကပိလဝတ်ပြည်၌၊ ဓမ္မကရိုဏ်ရေစစ်တော်၊ ခါးပန်းကြိုးတော်တို့ကို ပါဋလိပုတ်ပြည်၌၊ ရေသနုပ်တော်ကို စမ္ပာပြည်၌၊ ဥဏ္ဏလုံမွေးရှင်တော်ကို ကောသလတိုင်း၌၊ နိသီဒိုင်အခင်းတော်ကို အဝန္တိတိုင်း၌၊ ပွတ်ခုံတော်ပွတ်ကျည်တော်တို့ကို မိမိလာပြည်၌၊ ပဝါရေစစ်တော်ကို ဝေဒေဟတိုင်း၌၊ ပဲခွပ်တော်၊ အပ်ကျည်တော်တို့ကို ဣန္ဒပဋ္ဌနဂိုရ်ပြည်၌၊ ကြွင်းသောပရိက္ခရာများကို အပရန္တတိုင်း၌စေတီတည်၍ ဌာပနာလေသည်။

ပဌမသင်္ဂါယနာတင်ပြီးနောက် အရှင်မဟာကဿပသည် အနာဂတံသဉာဏ်ဖြင့် ကြည့်ရှုလတ်သော် ဒေါဏပုဏ္ဏားဝေပေးသော ဓာတ်တော်ရှစ်စုတို့တွင် ရာမရွာစေတီ၌ ဌာပနာသော ဓာတ်တော်တစုကိုထား၍ ကြွင်းသောဓာတ်တော်ခုနစ်စုတို့ နောင်အခါ အန္တရာယ်ဖြစ်မည်ကို မြင်တော်မူသဖြင့် ဓာတ်တော်တို့ကို သိတင်းသုံးရာ စေတီတို့၌ အနည်းငယ်စီချန်ထားခဲ့၍ တန်ခိုးတော်ဖြင့် ဆောင်ယူပြီးလျှင် ဌာပနာရန် အဇာတသတ်မင်းအားပေးသည်။

အဇာတသတ်မင်းလည်း ရာဇဂြိုဟ် မြို့တော်၏ အရှေ့တောင်ကုန်း မြင့်မောက်သောနေရာ၌ အတောင်ရှစ်ဆယ်နက်သော တွင်းကိုတူး၍ ဌာပနာသည်။ ထိုဌာပနာခြင်းအကြောင်းကို ဇိနတ္ထပကာသနီ ဒသမတွဲ၌၊

'တူးသောတွင်းသည် အတောင်ရှစ်ဆယ်နက်လေသော်၊ အောက်၌ သံပြားကို ခင်းစေ၍၊ သီဟိုဠ်ကျွန်း ထူပါရုံစေတီ ပမာဏရှိသော ကြေးနီဖြင့် ပြီးသော ကျောင်းကိုပြုစေ၏။ ထိုအတွင်း၌ သာယာစွာ ခင်းကျင်းပြီးသော် ဓာတ်တော်တို့ကို စန္ဒကူးကြုတ်ရှစ်လုံးတို့၌သွင်း၍၊ ထိုအထက်၌ ရွှေကြုတ် ငွေကြုတ်မွမ်းမံပြီးလျှင်၊ ထပ်ကာ ထပ်ကာ ရတနာကိုးပါး ဖြစ်သော ကျောက်တို့ကိုထွင်း၍၊ အထက်ထပ်သွင်းပြီးမှ၊ အပေါ်ကမူကား ပတ္တမြားပြောက်ကျောက်ကိုစေတီပြု၍ထား၏။' ဟူ၍၎င်း၊ 'နံပါးနှစ်ဘက်တို့၌လည်း ငါးရာငါးဆယ်သော ဇာတ်ရုပ်၊ သုဒ္ဓေါဒနမင်း၊ သီရိမဟာမာယာမိဖုရား၊ ဘွားဘက်တော်သားတို့၏ အရုပ်ကို၎င်း၊ ရွှေအတိကို သွင်းလုပ်၍ ထားပေ၏။' ဟူ၍၎င်း အကျယ်တဝင့်ရေးသားထားသည်။

## သထုံခေတ် ဌာပနာပုံ

သက္ကရာဇ် ၁၀၃ ခုနှစ် ဥက္ကလာပနေပြည်တော်၏ တောင်ဖက် ပေါက္ခရဝတီမြို့နေ တဖုဿ ဘလ္လိက ညီနောင်တို့သည်



အိန္ဒိယနိုင်ငံ ဗိုပါးစိရင်စုဆန်ချီရှာရှိ ထူပါရုံစေတီတဆူ ဌာပနာတိုက်မှ ရှင်သာရိပုတ္တရာနှင့်ရှင်မောဂ္ဂလာန် ဓာတ်တော်ကြုတ် ၂ ဆူ။

လှည်းငါးရာဖြင့် မဇ္ဈိမဒေသသို့ ကုန်ကူးသွားရာ မြတ်စွာဘုရား ပွင့်တော်မူ၍ လင်လွန်းပင်ရင်း၌ သီတင်းသုံးတော်မူခိုက်ကြုံသဖြင့် ပျားမုံ့ဆုတ်နှင့်မုံ့ကြွက်ကျစ်တို့ကို လှူဒါန်း၍ ဒွေးဝါစိက သရဏဂုဏ်ခံယူကာ ဥပါသကာဖြစ်ကြပြီးလျှင်၊ မြတ်စွာဘုရားက ကိုးကွယ်ဆည်းကပ်ရန် ဆံတော်ရှစ်ဆူတို့ကို ပေးအပ်တော်မူသဖြင့် မိမိနေရာ ပေါက္ခရဝတီမြို့သို့ ပင့်ဆောင်လာ၍၊ ဥက္ကလာပမင်းကြီးထံအပ်နှံကြသည်။

ယင်းသည့်နှစ် တပေါင်းလတွင် သိင်္ဂုတ္တရ ကုန်းတော်၌ မြေကိုတူးဖော်၍ ဌာပနာတိုက် ဆောက်လုပ်ပြီးလျှင်၊ အဝသုံးတောင် အလျားခုနစ်တောင်ရှိသော ရွှေသင်္ဘောကို ဆောက်လုပ်၍၊ ယင်းအထက်တွင် မြပုခက်ကို တင်ကာ၊ မြပုခက်ကို ရွှေဖြင့်သွန်းထုထားသော တဖုဿ ဘလ္လိက ညီနောင်ရုပ်တို့က ဦးပွဲထမ်းလျက်၊ ပတ္တမြားကြုတ်တွင် ဆံတော်ရှစ်ဆူတို့ကို ထည့်သွင်း၍၊ ယင်းပတ္တမြားကြုတ်ကို ရွှေကြုတ်တွင်သွင်းကာ၊ မြပုခက်ပေါ်၌ ဌာပနာကြသည်။

ဌာပနာတိုက်ဆောက်လုပ်ရန် မြေကို တူးဖော်သောအခါ ရရှိသည့် ကကုသန်ဘုရား၏ တောင်ဝှေးတော်၊ ကောဏာဂုံဘုရား၏ မမ္မကရိတ်ရေစစ်တော်၊ ကဿပဘုရား၏ ရေသနုပ်တော်တို့ကိုလည်း ပတ္တမြားကလပ်၌တင်၍ မြပုခက်ပေါ်၌ ဌာပနာကြသည်။ ဗြဟ္မာမင်း၊ သိကြားမင်းနှင့်မိဖုရားလေးပါး၊ ဥက္ကလာပမင်းနှင့်မိဖုရား၊ သုဝဏ္ဏသဒ္ဒေးနှင့် သဒ္ဒေးကတော်တို့ပုံတို့ကို ရွှေဖြင့်သွန်း၍ ဌာပနာကြသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံလွန်တော်မူသောအခါ ဂဝမ္ပတိရဟန္တာသည် သွားတော် သုံးဆဲ့သုံးဆူကို ဆောင်ယူ၍ သုဝဏ္ဏဘူမိသထုံပြည် တိဿဓမ္မသီဟရာဇာမင်းကြီးအားပေးအပ်သဖြင့် မင်းကြီးက မိဖုရား သုံးကျိပ် သုံးပါးတို့အား တပါးလျှင် တဆူစီပေးအပ်လေ၏။ မိဖုရားတို့သည် အသီးအသီး ကျောက်စေတီ သုံးဆဲ့သုံးဆူတည်ထား၍ ဌာပနာကြလေသည်။

## ပုဂံခေတ်ဌာပနာပုံ

'ရွှေကြာအိုး၊ ပုထိုးစည်းခုံတည်' ဟူသောဆောင်ပုဒ်အရ၊ ရွှေစည်းခုံဘုရားကို သက္ကရာဇ် ၄၂၁ ခုနှစ် ပုဂံပြည်နော်ရထာမင်း တည်ထားသည်။ နောက်သက္ကရာဇ် ၄၅၂ ခုနှစ်တွင် ကျန်စစ်သားမင်းသည် ရှိရင်းစေတီကိုငုံ၍ တည်ထားပြန်သည်။

'မွေတော်ခါတ်ပေါင်း၊ စွယ်ချောင်းရိုးညှပ်၊ သင်းကျပ်နဖူး၊ ရှိမူးအသရေ၊ အထွေထွေတည်း' ဟု နဝဒေးကြီး ရွှေစည်းခုံဘုရားတိုင်ရတုတွင် အဆိုရှိသော်လည်း၊ ပခုက္ကူမြို့ အဂ္ဂမဟာပဏ္ဍိတ အရှင်နန္ဒဝံသ စီရင်ရေးသားအပ်သော ရွှေစည်းခုံသမိုင်းသစ်ကျမ်း၌ ဂန္ဓာရတိုင်းကရခဲ့သော စွယ်တော်ပွား၊ မြဆင်းတုတော်၊ ကမ်းယံပြည်ကရခဲ့သော နဖူးသင်းကျပ်တော်၊ ညှပ်ရိုးတော်၊ ဒလမြို့မှရခဲ့သော ဆံတော်ဓာတ်တော်များကို ဌာပနာသည်ဟု အဆိုရှိသည်။

မဟာရာဇဝင်တော်ကြီးပဋ္ဌမတွဲနှင့် ပုဂံမြို့ ဘုရားတဆဲ့ခုနစ်ဆူသမိုင်းတို့၌ကား၊ နဝဒေးကြီး ရတုအတိုင်းပင် စွယ်တော်ပွား၊ ညှပ်ရိုးတော်၊ နဖူးသင်းကျပ်တော်၊ ဓာတ်တော်များ ဌာပနာကြောင်းကိုပြဆိုကြသည်။ မြဆင်းတုတော်နှင့်ဆံတော်မပါ။ စွယ်တော်ပွားမှာလည်း၊ ဂန္ဓာရတိုင်းကရခဲ့သော စွယ်တော်ပွားမဟုတ်။ သီဟိုဠ်ကျွန်းကရခဲ့သော စွယ်တော်ပွားဖြစ်သည်။ ပညာရှင်တို့ဆင်ခြင်၍ယူကြပါကုန်။

ပုဂံပြည် နရသီဟပတေ့မင်းသည် သက္ကရာဇ် ၆၃၀ ပြည့်နှစ် တပေါင်းလဆန်း ၆ ရက်နေ့ တနင်္ဂနွေနေ့တွင် မင်္ဂလာစေတီတော်ကို တည်ထားတော်မူသည်။ ထိုအခါ 'ဘုရားလည်းပြီး၊ ပြည်ကြီးလည်းပျက်' ဟု တပေါင်ပေါ်သဖြင့် ဆက်၍ မတည်ဘဲထားလေ၏။ ထိုအကြောင်းကို ပံသုကူထေရ် မြတ်သိလျှင်မင်းကြီးအား 'ဤပြည်နှင့်မင်း၊ မသေလျှင်းဘဲ နေရတုံအံ့လော' မိန့်တော်မူသောအခါ၊ ဆက်၍တည်ထားပြန်လေ၏။

ထိုစေတီ၌ ဓာတ်တော်များကို ဌာပနာသည့်ပြင် နှစ်ကျိပ်ရှစ်ဆူပုံတော်များ၊ သတ္တဌာန ပုံတော်များ၊ အဂ္ဂသာဝက၊ မဟာသာဝက ပုံတော်များ၊ လွန်လေပြီးသော ပုဂံမင်းငါးကျိပ်တပါးပုံတော်များ၊ မိဖုရားမောင်းမမိဿံတို့ ပုံများ၊ သားတော် သမီးတော်တို့ ပုံများ၊ မှူးမတ် ကလန်သံပျင်တို့ ပုံများကို သွန်းထု၍ ဌာပနာသည်။

ပင်းယ စစ်ကိုင်းခေတ်၊ အင်းဝခေတ်၊



ဗိုလ်တထောင် ကျိုက်ဒေးအပ် ဆံတော်ဦးစေတီမှ ဌာပနာတော်မြတ်များ



၁၁၇၅ ခုနှစ် ရွှေတိဂုံစေတီအရှေ့ဖက်ရှိ စေတီတဆူ ဌာပနာတိုက်မှရခဲ့သော ရွှေသားအတိပြီးသော မောင်းတော်။ မြန်မာ သိုမဟုတ် မွန်မင်းတပါး၏ မောင်းတော်ဟု ယူဆနိုင်သည်။



ဗိုလ်တထောင် ကျိုက်ဒေးအပ် ဆံတော်ဦးစေတီမှ ဌာပနာတော်မြတ်များ

ကုန်းဘောင်ခေတ်ရှေ့ပိုင်းတို့၌လည်း စေတီတည်သောအခါ ဓာတ်တော်များ၊ ပိဋကတ်တော် ဓမ္မက္ခန္ဓာများ၊ ပုံတော်များကို သင့်လျော်သလို ဌာပနာကြသည်။

ကုန်းဘောင်ခေတ်နောက်ပိုင်း၌ ဌာပနာပုံ

သီပေါမင်းသည် သက္ကရာဇ် ၁၂၄၁ ခုနှစ်တွင် ရွှေမြို့တော် အရှေ့တောင်အရပ် မဟာသီရိဟေမဝန် ဥယျာဉ်တော်ဝယ် မာရ်အောင်ရတနာစေတီကို တည်ထားတော်မူရာ၊ ရှေးမင်းတို့ စေတီတည်သောအခါ ဌာပနာသွင်းသော အခမ်းအနားကို သုဓမ္မာဆရာတော်များထံ လျှောက်ထားစေသဖြင့်၊ ဝန်တို့ လျှောက်ထားသောအခါ၊ သုဓမ္မာ ဆရာတော်တို့က သီပေါမင်းထံ ဆက်သွင်းသောစာကို 'မြန်မာအစိုးရတို့နှင့် သုဓမ္မာ ဆရာတော်တို့ ဆက်ဆံပုံ' စာအုပ်၌ အောက်ပါအတိုင်း တွေ့ရှိရသည်။

'သီဟိုဠ်ကျွန်း မဟာစေတီတော်၊ ပုဂံ ရွှေစည်းခုံဘုရား၊ စစ်ကိုင်း ရာဇမဏိစူဠာဘုရား၊ အဝ လောကသရဘူဘုရား၊ အမရပုရ အောင်မြေလောကစေတီတော်၊ အမရပုရ မဟာဝိဇယရံသီပုထိုးတော်ကြီးဘုရား၊ အမရပုရ လောကမုနိစူဠာဘုရားတို့တွင် ဌာပနာသွင်းသော အခမ်းအနားများမှာ 'သိဒ္ဓတ်မင်းသား ဘုရားအလောင်း ဘွားတော်မူသည်ကစ၍ ပရိနိဗ္ဗာန်စံသည်တိုင်အောင် ရုပ်ပုံအခမ်းအနားများနှင့်တကွ သတ္တဌာနအစုအစဉ် ရုပ်ပုံသွင်းလုပ်၍ ဌာပနာသွင်းရိုးရှိသည်။ ထိုသွင်းသည့်အရာများမှာလည်း မိန်းမ ယောကျ်ား အရုပ်သဏ္ဍာန်၊ ဆင်မြင်း အရုပ် သဏ္ဍာန် ပါရှိသည်ကို နုတ်ပယ်ပြီးလျှင် ယခုတည်တော်မူသည့် မာရ်အောင်ရတနာ ကုသိုလ်တော်မှာဘုရားဖြစ်တော်မူသည်ကစ၍ သတ္တဌာနရုပ်ပုံ ဆင်းတုတော်အသွင်၊ လေးဆဲ့ငါးဝါကာလပတ်လုံးဝါဆိုတော်မူသည့် အစုအစဉ် ရုပ်ပုံဆင်းတုတော်အသွင်၊ ပဌမသင်္ဂါယနာ တင်တော်မူရာ ရဟန္တာငါးရာရုပ်တုတော်၊ ဒုတိယသင်္ဂါယနာတင်တော်မူရာ ရဟန္တာခုနစ်ရာရုပ်တုတော်၊ တတိယသင်္ဂါယနာ တင်တော်မူရာ ရဟန္တာတထောင်များကို ငွေဆင်းတုကျောက်သလင်းဆင်းတုထုလုပ်၍ ဌာပနာသုံးတိုက်တွင် ဝေ၍သွင်းထား၊ မွေတော်ဓာတ်တော်များကိုလည်း ငွေကြုတ်၊ ရွှေကြုတ်၊ ပတ္တမြားကြုတ်များနှင့်ထည့်သွင်း၍၊ ပိဋကတ်သုံးပုံကျမ်းဦးဂါထာနှင့်ဓမ္မစကြာပါဠိ ပဌာန်းနှစ်ဆဲ့လေးပစ္စည်းပါဠိ၊ ပဋိစ္စသမုပ္ပါဒ်ပါဠိများကို ရွှေပြား ငွေပြား ကြေးနီပြားများတွင်ရေးသားထုလုပ် ဌာပနာ သွင်းထားရလျှင်၊ အထူးသဖြင့်သာလွန် မြင့်မြတ်ရှိမည် အကြောင်းကို စာသွင်းအပ်သည်။ သာသနဒါယကာ မဟာဓမ္မရာဇ်မင်းမြတ်။'

အထက်ပါ သွင်းစာအရ သီပေါမင်း၏စေတီတော်ဝယ် ဌာပနာသွင်းရာ၌ မိန်းမ ယောကျ်ား အရုပ်သဏ္ဍာန်၊ ဆင်မြင်းအရုပ်သဏ္ဍာန်မပါရှိကြောင်းထင်ရှားသည်။ ရှေးခေတ်စေတီများဝယ် ဌာပနာသွင်းရာ၌ကား အစုံအလင်ပါရှိသည်ကို တွေ့ရသည်။ ဗိုလ်တထောင်စေတီတော် ဌာပနာတိုက်ဝယ်၊ ပုတီး နားဒေါင်း လက်ကောက် လက်စွပ်များကိုလည်း တွေ့ရသည်။ ရွှေမော်ဓော စေတီတော် ဌာပနာတိုက်၌ နံ့သာသွေးသောကျောက်ပြင်ကိုပင် တွေ့ရသည်။

ထိုကြောင့် ဌာပနာသွင်းရာ၌ မြတ်စွာဘုရား၏ သရီရဓာတ်တော်တို့ကို ပဓာနထား၍ ဘုရားဒါယကာများ၏ စေတနာအင်အား ပစ္စည်းအင်အား အလျောက် အမျိုးမျိုး အဖုံဖုံ လှူဒါန်းခြင်း ထည့်သွင်း ဌာပနာခြင်းများကို

အပြစ်မဆိုသာ ခြီးကျူးဖွယ်ရာ အတုယူသင့်သောအရာ၌ အတုယူဖွယ်ရာဖြစ်ကြောင်း ကောင်းစွာသတိချပ်သင့်သည်။
ဦးကြီးဖေ

**ဌာန် ကရိုဏ်း ပယတ်။** ။အက္ခရာတို့၏ဖြစ်ရာအရပ်ကို ဌာန်ဟုခေါ် ဆိုသည်။

အက္ခရာများ ဖြစ်ပေါ်ခြင်း၏အကြောင်းကို ကရိုဏ်းဟု ခေါ် ဆိုသည်။

အက္ခရာများ ဖြစ်ပေါ်လာအောင်အားထုတ်မှုကို ပယတ်ဟု ခေါ် ဆိုသည်။

ထိုတွင် ဌာန်ဟူသည် ဌာနဟူသောပါဠိပုဒ်ကို မြန်မာသံဖြင့်ခေါ် ဆိုထားခြင်းပင်ဖြစ်သည်။ ဖြစ်ပေါ်ရာအရပ်၊ တည်ရာအရပ်ဟု ဆိုလိုသည်။

## ဌာန်

စကားတခွန်းကို ပြောဆိုမည်ဟုကြံစည်သောအခါ၊ စိတ်ကြောင့်ဖြစ်ပေါ်လာသော ပထဝီဓာတ်သည် လည်ချောင်း အာစောက်စသော အရပ်တို့၌ ပင်ကိုယ်မူလကရှိနေသော ကမ္မဇ (ကံကြောင့်ဖြစ်သည့်) ပထဝီဓာတ်ကို ထိခိုက်၏။ ယင်းသို့ ဓာတ်နှစ်ခုတို့ ထိခိုက်ကြသည်နှင့်တပြိုင်နက် ပြောဆိုလိုသောသူ၏ အလိုဆန္ဒအားလျော်စွာ အက္ခရာအသံတို့သည် သူ့အရပ်နှင့်သူ အသီးအသီး ဖြစ်ပေါ်လာကြ၏။ ယင်းအက္ခရာအသံများ ဖြစ်ပေါ်လာရာအရပ်ကို ဌာန်ဟု ခေါ် ဆိုလေသည်။

ထိုဌာန်တို့သည် နျာသ (ဉာသ်) ဆရာ့အလိုအားဖြင့် ၅ ပါး၊ ရူပသိဒ္ဓိဆရာ့အလိုအားဖြင့် ၆ ပါး၊ သဒ္ဒနီတိဆရာ့အလိုအားဖြင့် ၇ ပါး၊ စူဠနိရုတ္တိဆရာ့အလိုအားဖြင့် ၈ ပါး အပြားရှိကုန်၏။

နျာသဆရာ့အလိုအားဖြင့် ဌာန် ၅ ပါးဆိုသည်ကား (၁) ကဏ္ဌဌာန် = လည်ချောင်းအရပ် (၂) တာလုဌာန် = အာစောက်အရပ် (၃) မုဒ္ဓဌာန် = အာခေါင်အရပ် (၄) ဒန္တဌာန် = သွားအရပ် (၅) ဩဋ္ဌဌာန် = နှုတ်ခမ်းအရပ်ဟူသော ဤ ၅ ပါးဖြစ်၏။

ရူပသိဒ္ဓိဆရာ့အလိုအားဖြင့် ဌာန် ၆ ပါးဆိုသည်ကား ပြဆိုခဲ့ပြီးသော ၅ ပါးတွင် နာသိကဌာန် (နှာခေါင်းအရပ်) တခုကိုထည့်၍ ၆ ပါးဖြစ်၏။

သဒ္ဒနီတိဆရာ့အလိုအားဖြင့် ဌာန် ၇ ပါးဆိုသည်ကား ပြဆိုခဲ့ပြီးသော ၆ ပါးတွင် ဥရဌာန် (ရင်အရပ်) တခုကို ထည့်၍ ၇ ပါးဖြစ်၏။

စူဠနိရုတ္တိဆရာ့အလိုအားဖြင့် ဌာန် ၈ ပါးဆိုသည်ကား ပြဆိုခဲ့ပြီးသော ၇ ပါးတွင် ဇိဝှါမူလိယဌာန် (လျှာရင်းအရပ်) တခုကိုထည့်၍ ၈ ပါးဖြစ်၏။

| | ဌာန် | အက္ခရာများ |
|---|---|---|
| ၁။ | ကဏ္ဌ = လည်ချောင်း | အ၊ အာ၊ က၊ ခ၊ ဂ၊ ဃ၊ င၊ ဟ |
| ၂။ | တာလု = အာစောက် | ဣ၊ ဤ၊ စ၊ ဆ၊ ဇ၊ ဈ၊ ဉ၊ ယ |
| ၃။ | မုဒ္ဓ = အာခေါင် | ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ၊ ရ၊ ဠ |
| ၄။ | ဒန္တ = သွား | တ၊ ထ၊ ဒ၊ ဓ၊ န၊ လ၊ သ |
| ၅။ | ဩဋ္ဌ = နှုတ်ခမ်း | ဥ၊ ဦ၊ ပ၊ ဖ၊ ဗ၊ ဘ၊ မ |
| | ကဏ္ဌ = လည်ချောင်း<br>တာလု = အာစောက် | ဧ |
| | ကဏ္ဌ = လည်ချောင်း<br>ဩဋ္ဌ = နှုတ်ခမ်း | ဩ |
| | ဒန္တ = သွား<br>ဩဋ္ဌ = နှုတ်ခမ်း | ဝ |
| ၆။ | နာသိကာ = နှာခေါင်း | နိဂ္ဂဟိတ်ခေါ် သေးသေးတင်၊ င၊ ဉ၊ ဏ၊ န၊ မဟူသော ဤ ၅ လုံးတို့သည်လည်း မိမိတို့ဆိုင်ရာ ဌာန်တို့၌ ဖြစ်ကြသည့်အပြင် နာသိက ဌာန်၌ ဖြစ်ကြ၏။ |
| ၇။ | ဥရ = ရင့် | င၊ ဉ၊ ဏ၊ န၊ မ ၅ လုံး၊ ယ၊ လ၊ ဝ၊ ဠ ၄ လုံး၊ ဤ အက္ခရာ ၉ လုံးတို့နှင့်ယှဉ်သော ဟအက္ခရာသည် ဥရ ဌာန်၌ ဖြစ်၏။ ယင်းတို့ကား ငှ၊ ဉှ၊ ဏှ၊ နှ၊ မှ၊ ယှ၊ လှ၊ ဝှ၊ ဠှတို့ဖြစ်ကြ၏။ ယင်းအက္ခရာ ၉ လုံးနှင့် မယှဉ်သော ဟသက်သက်သည်ကား ကဏ္ဌဌာန်၌ပင် ဖြစ်၏။ |
| ၈။ | ဇိဝှါမူလိယ = လျှာရင်း | အားလုံးသောအက္ခရာတို့သည် ပြဆိုခဲ့ပြီးသည့်အတိုင်း အသီးအသီး မိမိတို့၏ဌာန်တို့၌ ဖြစ်ကြသည့်အပြင် ဇိဝှါမူလိယဌာန်၌လည်း ဖြစ်ကြ၏။ |

## ကရိုဏ်း

အက္ခရာများ ဖြစ်ပေါ်လာခြင်း၏အကြောင်းကို ကရိုဏ်းဟုခေါ် သည်။ ကရိုဏ်းဟူသည် ကရဏဟူသော ပါဠိပုဒ်ကို မြန်မာသံဖြင့် ခေါ် ဆိုထားခြင်းဖြစ်သည်။ အထူးသဖြင့် ကျေးဇူးပြုတတ်သော အရာ၊ အထူးသဖြင့် ကျေးဇူးပြုတတ်သော အကြောင်းဟု အဓိပ္ပါယ်ရလေသည်။

ဋ္ဌာန်ဟူသည် အက္ခရာများဖြစ်ပေါ်ရန် မူလပင်ကိုယ် အကြောင်းရင်းဖြစ်၏။ ကရိုဏ်းဟူသည် အက္ခရာများဖြစ်ပေါ်ရန် နီးကပ်သော အကြောင်း၊ ထောက်ပံ့တတ်သော အကြောင်းဖြစ်၏။

ထိုကရိုဏ်းသည် (၁) ဇိဝှါမဇ္ဈ = လျှာလယ်အရပ် (၂) ဇိဝှောပဂ္ဂ = လျှာဖျား၏အနီးအရပ် (၃) ဇိဝှဂ္ဂ = လျှာဖျားအရပ် (၄) သကဋ္ဌာန = မိမိတို့၏ဖြစ်ရာဋ္ဌာန် (အရပ်) ဟူ၍ ၄ ပါးရှိ၏။

| ကရိုဏ်း | အက္ခရာများ |
|---|---|
| ၁။ ဇိဝှါမဇ္ဈ = လျှာလယ် အရပ် | ဣ၊ ဤ၊ စ၊ ဆ၊ ဇ၊ ဈ၊ ဉ၊ ယ ဟူသော တာလုဇ အက္ခရာ ၈ လုံး |
| ၂။ ဇိဝှောပဂ္ဂ = လျှာဖျား၏ အနီးအရပ် | ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ၊ ရ၊ ဠ ဟူသော မုဒ္ဓဇအက္ခရာ ၇ လုံး |
| ၃။ ဇိဝှဂ္ဂ = လျှာဖျား အရပ် | တ၊ ထ၊ ဒ၊ ဓ၊ န၊ လ၊ သ ဟူသော ဒန္တဇအက္ခရာ ၇ လုံး |
| ၄။ သကဋ္ဌာန = မိမိတို့၏ ဖြစ်ရာအရပ် | ပြဆိုခဲ့ပြီးသော အက္ခရာများမှ ကြွင်းသော အ၊ အာ၊ ဥ၊ ဦ၊ ဧ၊ ဩ၊ က၊ ခ၊ ဂ၊ ဃ၊ င၊ ပ၊ ဖ၊ ဗ၊ ဘ၊ မ၊ ဝ၊ ဟ၊ အံ ဟူသောအက္ခရာ ၁၉ လုံး ယင်းအက္ခရာတို့မှာ ကရိုဏ်း ဟူ၍ သီးခြားမရှိ။ မိမိတို့ ဖြစ်ရာအရပ် ဋ္ဌာန်များသည်ပင် ယင်းတို့ဖြစ်ခြင်း၏အကြောင်းဖြစ်လေသည်။ |

### ပယတ်

အက္ခရာများဖြစ်ပေါ်လာအောင် အားထုတ်မှုကို ပယတ်ဟုခေါ်သည်။

ပယတ်ဟူသည် ပယတနဟူသော ပါဠိပုဒ်ကိုမြန်မာသံဖြင့် ခေါ်ဆိုထားခြင်းပင်ဖြစ်သည်။ အက္ခရာတို့ကိုရွတ်ဆိုခြင်း၌ အားထုတ်ခြင်းဟု အဓိပ္ပါယ်ရလေသည်။

ထိုပယတ်သည် (၁) သံဝုတ = ဋ္ဌာန်နှင့်ကရိုဏ်းတို့ကိုပိတ်ခြင်း၊ (၂) ဝိဝဋ = ဋ္ဌာန်နှင့်ကရိုဏ်းတို့ကိုဖွင့်ခြင်း၊ (၃) ဖုဋ္ဌ = ဋ္ဌာန်နှင့်ကရိုဏ်းတို့ကိုထိခြင်း၊ (၄) ဤသံဖုဋ္ဌ = ဋ္ဌာန်နှင့်ကရိုဏ်းတို့ကို အနည်းငယ်ထိခြင်းဟူ၍ ၄ ပါးရှိ၏။

(ဤ၌ ပုဒ်စစ်တွင်ကား နှုတ်ခမ်းတို့၏ပိတ်ခြင်းသည် သံဝုတမည်၏ စသည်ဖြင့် အဓိပ္ပါယ်တမျိုးပြဆိုထားလေသည်။)

| ပယတ် | အက္ခရာများ |
|---|---|
| ၁။ သံဝုတ = ဋ္ဌာန်နှင့် ကရိုဏ်းတို့ကိုပိတ်ခြင်း | အ။ အ အက္ခရာကို ရွတ်ဆိုသောအခါ၊ ဋ္ဌာန် ကရိုဏ်း ဖြစ်သော လည်ချောင်းသားနှစ်ခုကို ပိတ်သောအားဖြင့် ရွတ်ဆိုရသည်။ |
| ၂။ ဝိဝဋ = ဋ္ဌာန်နှင့် ကရိုဏ်းတို့ကိုဖွင့်ခြင်း | အာ၊ ဣ၊ ဤ၊ ဥ၊ ဦ၊ ဧ၊ ဩနှင့် သ၊ ဟ နှစ်လုံး။ ဤ အက္ခရာ ၉ လုံးကိုရွတ်ဆိုသောအခါ၊ မိမိတို့နှင့်ဆိုင်ရာ ဋ္ဌာန်ကရိုဏ်းတို့ကို ပွင့်ပွင့် ပြုသောအားဖြင့် (ဖွင့်သောအားဖြင့်) ရွတ်ဆိုရသည်။ |
| ၃။ ဖုဋ္ဌ = ဋ္ဌာန်နှင့် ကရိုဏ်းတို့ကိုထိခြင်း | က၊ ခ၊ ဂ၊ ဃ၊ င၊ စ၊ ဆ၊ ဇ၊ ဈ၊ ဉ၊ ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ၊ တ၊ ထ၊ ဒ၊ ဓ၊ န၊ ပ၊ ဖ၊ ဗ၊ ဘ၊ မ။ ဤအက္ခရာ ၂၅ လုံးတို့ကို ရွတ်ဆိုသော အခါ၊ မိမိတို့နှင့် ဆိုင်ရာ ဋ္ဌာန်ကရိုဏ်းတို့ကို ကောင်းစွာ စိစိထိစေ၍ ရွတ်ဆိုရသည်။ |
| ၄။ ဤသံဖုဋ္ဌ = ဋ္ဌာန်နှင့် ကရိုဏ်းတို့ကိုအနည်းငယ် ထိခြင်း | ယ၊ ရ၊ လ၊ ဝ။ ဤအက္ခရာ ၄ လုံးကို ရွတ်ဆိုသောအခါ၊ မိမိတို့နှင့်ဆိုင်ရာ ဋ္ဌာန်ကရိုဏ်းတို့ကို ထိယောင်မျှကာမျှဖြင့် (အနည်းငယ်ထိကာမျှဖြင့်) ရွတ်ဆိုရသည်။ |

ဤ ဋ္ဌာန်ကရိုဏ်းပယတ်ဟုဆိုသော အမည်များသည် ကား ပါဠိ ဘာသာကိုစွဲ၍ ဖြစ်ပေါ်လာကြသည်။ သို့ရာတွင် မြန်မာအသံ ကာရန် ခြောက်ဆယ့်လေးမျိုးနှင့် ဆက်စပ် ဖြစ်ပေါ်လာသော သရ ဗျည်း အက္ခရာတို့၌လည်း ယခုပြဆိုခဲ့ပြီးသော ဋ္ဌာန်ကရိုဏ်းပယတ်စဉ်အတိုင်း လျော်ရာ သွင်း၍ယူရသည်။

ဆရာဥာဏ်



မြန်မာဗျည်း ၃၃ လုံးတွင် ဍ သည် ၁၃ ခုမြောက် အက္ခရာဖြစ်၍ ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ ဟူသော ဋဝဂ်တွင်ပါဝင်သည်။ ဍ အသံ၏ဖြစ်ရာဌာနမှာ မုဒ္ဓဌာန် လျှာထိပ်အရပ်ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဌာန်ကိုလိုက်၍၊ ဍ ရင်ကောက်ဟု အမည်တွင်သည်။ ဍ အရေးအသား၏ မူလမှာ ဗြာဟ္မီ အက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့်ပေစာများတွင် ဟု ရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီ အရေးအသား တွင် ခြေထောက်တပ်၍ တဖြည်းဖြည်း ရင်ပတ်ကောက်ကောက်ကလေးကဲ့သို့ ရေးဖန်များလတ်သော်၊ မြန်မာ အက္ခရာ ဍ ဖြစ်ပေါ်လာလေသည်။ ဍ အက္ခရာ၏ အဆင့်ဆင့် ပြောင်းလဲလာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။

**ဍရင်ကောက်ပင်။** ။ဍရင်ကောက်ပင်သည် ကျောက်ခက်ပင်မျိုးဖြစ်၍၊ 'တာရီဒေါ့ဖိုတာ' ခေါ်အပင်လောကတွင် ပါဝင်လေသည်။ ဍရင်ကောင်ပင်ကို ရုက္ခဗေဒအရ 'အေသီရီယမ် အက်စကျူလင်တမ်' ဟုခေါ်သည်။ ထိုအပင်သည် ကုန်းပေါ်တွင်ပေါက်သည့်ကျောက်ခက်ပင်မျိုးစိတ်တွင် ပါဝင်လျက် ကမ်းခြေ၌ အခြားအပင်များပေါ်တွင် နွယ်၍တင့်တယ်စွာပေါက်သောအပင်မျိုးဖြစ်သည်။ ထိုကဲ့သို့အခြားအပင်များပေါ်တွင်နွယ်၍တက်တတ်ခြင်းနှင့်ယင်း၏ ရွက်မြွာကလေးများ၌ အနာပြတ်များရှိခြင်းတို့ကြောင့် ထိုအပင်မျိုးကို လွယ်ကူစွာနှင့်မှတ်မိနိုင်ပေသည်။ ထို့ပြင် ရွက်မြွာကလေးများ၌ အနာပြတ်များရှိနေခြင်းကြောင့် ယင်းကို အနာပြတ်ကျောက်ခက်ပင်မျိုးဟုလည်း ခေါ်ကြသေးသည်။

အရွက်နုများကို ဟင်းသီးဟင်းရွက်တမျိုးအဖြစ်ဖြင့် စားသုံးနိုင်ပေသည်။ ထို့ပြင် 'လိုင်ကိုပိုဒီယမ် စကင်ဒင်' နှင့် 'အိုဖီအိုဂလိုဆမ် စကင်ဒင်' ဟုခေါ်ဆိုသောအခြား ဍရင်ကောက်ပင်မျိုးများလည်း ရှိသေးသည်။ (ကျောက်ခက်ပင်မျိုး — ရှု။)



စားသုံးနိုင်သော ဍရင်ကောက်ပင်



မြန်မာဗျည်း ၃၃ လုံးတွင် ဎ သည် ၁၄ ခုမြောက် အက္ခရာဖြစ်၍ ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ ဟူသော ဋဝဂ်တွင် ပါဝင်သည်။ ဎ အသံ၏ ဖြစ်ရာဌာနမှာ မုဒ္ဓဌာန် လျှာထိပ်အရပ်ဖြစ်သည်။ အက္ခရာ၏ ပုံသဏ္ဍာန်ကိုလိုက်၍၊ ဎရေမှုတ်ဟု အမည်တွင်သည်။ ဎ အရေးအသား၏ မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့်ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့် ပေစာများတွင် ဟုရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီ အရေးအသား ကို လက်ျာဖက်သို့ မျက်နှာလှည့်ရာမှ တဖြည်းဖြည်းပက်လက်လှန်၍ ရေးဖန်များလာသော အခါ၊ ရေမှုတ်သဏ္ဍာန်ရှိသော မြန်မာအက္ခရာ ဎ ဖြစ်ပေါ်လာလေသည်။ ဎ အက္ခရာ၏ အဆင့်ဆင့် ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။



မြန်မာဗျည်း ၃၃ လုံးတွင် ဏ သည် ၁၅ ခုမြောက် အက္ခရာဖြစ်၍ ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ ဟူသော ဋဝဂ်တွင်ပါဝင်သည်။ ဏ အသံ၏ ဖြစ်ရာဌာနမှာ မုဒ္ဓဌာန် လျှာထိပ်အရပ်ဖြစ်သည်။ မြန်မာအက္ခရာတွင် န၊ ဏ ဟူ၍ ၂ မျိုးရှိရာ အက္ခရာအရွယ် အကြီးအငယ်ကိုခွဲခြား၍၊ ဏကြီးဟု ခေါ်တွင်သည်။ က၊ ဃ၊ ဏ၊ ဌ ဟူသော ကြီးလေးကြီးတွင် ပါဝင်သည်။ ဏ အရေးအသားမူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့်ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့်ပေစာများတွင် ဟုရေးသားသည်ကိုတွေ့ရသည်။ ဗြာဟ္မီအရေးအသား ၏ အလယ်တွင် ထောင်မတ်နေသောမျဉ်းကို ချိုင့်ဝှမ်းသောပုံသဏ္ဍာန်ဆွဲပြီးလျှင် ဘေးတဖက်တစကို အတွင်းသို့ကွေးကွေးချ၍ ရေးဖန်များလတ်သော် မြန်မာအက္ခရာ ဏ ဖြစ်ပေါ်လာလေသည်။ ဏ အက္ခရာ၏ အဆင့်ဆင့် ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။



မြန်မာဗျည်း ၃၃ လုံးတွင် တ သည် ၁၆ ခုမြောက် အက္ခရာဖြစ်သည်။ တ၊ ထ၊ ဒ၊ ဓ၊ န ဟူသော တဝဂ်တွင် ပါဝင်၍၊ တ အသံ၏ဖြစ်ရာဌာနမှာ ဒန္တဌာန် သွားအရပ်ဖြစ်သည်။ အက္ခရာ၏ပုံသဏ္ဌာန်ကိုလိုက်၍ တဝမ်းပူဟု အမည်တွင်သည်။ တ အရေးအသား၏မူလမှာ ဗြာဟ္မီအက္ခရာ ဖြစ်သည်။ ဗြာဟ္မီ မှ ကုသန ဂုတ္တ ကဒံဗ သို့ အဆင့်ဆင့် ပြောင်းလဲလာပြီးနောက်၊ ကျောက်စာများတွင် နှင့်ပေစာများတွင် ဟုရေးသားသည်ကို တွေ့ရသည်။ ဗြာဟ္မီအရေးအသား တွင် ဘေးတဖက် တချက်ကားနေသော ခြေ ၂ ခုသည် အတွင်းသို့ လခြမ်းပုံသဏ္ဌာန်ကွေး၍လာသည်။ ထိုမှ တဖန် လက်ဝဲဖက်မျဉ်းသည် တို၍သွားပြီးလျှင် တချက်ဆွဲရေးဖန်များသော် ဝမ်းပိုက်ပုံပေါ်လာသည်။ ထိုဝမ်းပိုက်ပုံသည် တစစကြီးလာ၍ တည့်မတ်စွာရှိနေသောအလယ်မျဉ်းသည် ထိပ်တုံး၍လာသည်။ ဤသို့ဖြင့် မြန်မာအက္ခရာ တ ဖြစ်ပေါ်လာပုံကို အောက်တွင် အစဉ်အတိုင်း ယှဉ်တွဲ၍ပြထားသည်။

**တကောင်း။** ။'မြန်မာအစ၊ တကောင်းက' ဟု မြန်မာတို့ဆိုရိုးစကားရှိသည်။ မြန်မာနိုင်ငံတွင် တကောင်းမင်းဆက် စတင်တည်ထောင်သည့်ခေတ်သည် မြန်မာ့သမိုင်း၏ အစဖြစ်သည်ဟု သမိုင်းဆရာတို့ယူဆကြ၏။ (မြန်မာနိုင်ငံ ပထဝီနှင့်သမိုင်း — ရှု။) မဟာရာဇဝင်၌ တကောင်းသည် ဂေါတမမြတ်စွာဘုရားလက်ထက်ကပင်လျှင် တကောင်းဟု တွင်ကြောင်းဖော်ပြသည်။ မဇ္ဈိမဒေသ သာကီယအနွယ်ဖြစ်သော အဘိရာဇာမည်သောမင်းသည် တကောင်းပြည်ကြီးကိုလက်မှန်တည်ကြောင်းလည်းဆိုသည်။ တကောင်းသည် မန္တလေးမှ ဧရာဝတီမြစ်ကိုဆန်တက်သော် မြစ်အရှေ့ဖက် ကမ်းမြေပြန့်ဒေသတွင်တည်ရှိသည်။ ယခုအခါကသာခရိုင် အတွင်း၌အိမ်ခြေအနည်းငယ်မျှရှိသော ရွာကလေးသာ ဖြစ်သည်။ သို့သော်ရှေးခေတ်က မြို့ရိုးဟောင်းများနှင့်စေတီဟောင်းများကို ယခုတိုင် တွေ့နိုင်သေး၏။ တကောင်း၏ အရှေ့တောင်ဖက်နှင့်အနောက်ဖက်တို့တွင်ရွှေစည်းခုံ၊ ရွှေစေတီ၊ ဗောင်းတော်ကျစသော စေတီဟောင်းများရှိသည်။

တကောင်းပြည်ကို သင်းတွဲပြည်ဟုလည်းခေါ်ကြသေး၏။ တကောင်းကို စတင်တည်ထောင်သည့်အချိန်က မြန်မာနိုင်ငံ အထက်ပိုင်းတွင် အရှေ့ဖက်၌ ပျူလူမျိုး၊ အနောက်ဖက်၌ ကမ်းယံလူမျိုး၊ မြောက်ဖက်၌သက်လူမျိုး၊ ဧရာဝတီ၊ စစ်တောင်း၊ သံလွင်မြစ်ဝှမ်းတို့တွင် မွန်လူမျိုးများရှိနှင့်ကြပြီဟု သမိုင်းဆရာတို့ယူဆကြသည်။ ထိုအခါက ပြည်မြို့သည် ပင်လယ်ဆိပ်ကမ်းမြို့ဖြစ်သည်ဟုလည်းမှတ်ယူကြသည်။ တကောင်းဟူသောအမည်မှာ ရှမ်းဘာသာဖြင့် 'စည်ကူးတို့' ဟု အဓိပ္ပါယ်ရသည်။

သာကီဝင်မင်း အဘိရာဇာ၌ သားတော်နှစ်ပါးရှိသည်။ သားငယ်ဖြစ်သော ကံရာဇာငယ်သည် တကောင်းထီးနန်းကို ဆက်ခံသောအခါ၊ သားကြီးကံရာဇာကြီးမှာ အလုံးအရင်းနှင့်တကောင်းမှဧရာဝတီမြစ်ကိုစုန်ခဲ့၍၊ ချင်းတွင်းမြစ်ကိုဆန်တက်ကာ၊ ကလေးကျေးတောင်ညိုအရပ်၌ ခြောက်လ ဗိုလ်ဝင်ခံသည်။ ထိုနောက် ကစ္ဆပနဒီမြစ်အရှေ့ဖက်၌ ကျောက်ပန်းတောင်းမြို့ကိုတည်ထောင်စိုးစံသည်။ ထိုကမှ ရခိုင်ပြည်တွင် မင်းဆက်ပြတ်နေသောဓညဝတီမြို့ဟောင်းကို သိမ်းယူ၍ အုပ်ချုပ်သည်။ အဘိရာဇာမင်းမှစ၍ရေသော်၊ ၃၃ ပါးမြောက် ဘိန္နကမင်းလက်ထက်တွင် တရုပ်တို့ဝင်ရောက်နှောင့်ယှက်သဖြင့် တကောင်းပြည်ပျက်သည်။ ဘိန္နကမင်း နတ်ရွာစံသောအခါ၊ မိဖုရားနာဂဆိန်သည် နောက်လိုက် ဗိုလ်ပါတို့နှင့်ကျန်ရစ်၏။

တကောင်းကို ဒုတိယအကြိမ်တည်ထောင်သူကား အိန္ဒိယပြည် မြောက်ပိုင်းမှ ဓဇရာဇာဆိုသူ သာကီဝင်မင်းဖြစ်၍၊ ထိုမင်းသည် ဘိန္နကမင်း၏မိဖုရား နာဂဆိန်နှင့်စုံဖက်၍ စိုးစံသည်။ ထိုမင်းမှစ၍မင်းပေါင်း ၁၇ ပါး တကောင်းတွင် စိုးစံကြသည်။ ထို့သို့ဖြင့် တကောင်းတွင် မင်းပေါင်း ၅၀ စိုးစံခဲ့ဘူးလေသည်။

**တာဂိုး၊ ရာဗင်ဒြာနတ်** (ခရစ် ၁၈၆၁–၁၉၄၁)။ ။အိန္ဒိယနိုင်ငံ၏ စာပေလောကကို ၁၉ ရာစုနှစ်တွင် ဗင်္ဂလီစာပေသည် ရှေ့ဆောင်ပြုခဲ့ပေသည်။ ထိုဗင်္ဂလီစာပေ ရှေ့ဆောင်ခဲ့သည့်ခေတ်ကို အိန္ဒိယစာပေလောက၌ ခေတ်သစ်ဟု ခေါ်ဆိုကြလေသည်။ အကြောင်းမှာ ထိုခေတ်၌ ရှေးကရေးသားခဲ့သော စာမွန်အရေးအသားများ၊ ဝတ္ထုတို ဝတ္ထုရှည် အရေးအသားများ၊ ရှေးဦး သက္ကတစာပေ ပြဇာတ်များ



ကမ္ဘာကျော်အိန္ဒိယကဗျာဆရာကြီး ရာဗင်ဒြာနတ် တဂိုး

စသည်တို့နှင့်မတူ၊ တမူကွဲပြား ဆန်းသစ်သော ပြဇာတ် အရေးအသားများ ထွန်းကားလာသောကြောင့်ဖြစ်သည်။ ထိုခေတ်သစ် ဗင်္ဂလီစာပေလောကတွင် အထင်အရှား အကျော်စောဆုံးဖြစ်၍၊ စာပေလောက ခေါင်းဆောင်ကြီး အဖြစ်ဖြင့် ဖခင်ကြီးဟုခေါ်တွင်ခံရသူကား ရာဗင်ဒြာနတ် တဂိုးပင်တည်း။

တဂိုးကို ၁၈၆၁ ခုနှစ် မေလ ၆ ရက်နေ့တွင် ကာလကတ္တား မြို့၌ မွေးဖွား၏။ ဖခင်မှာ ဒေဗင်ဒြာနတ် တဂိုးဖြစ်သည်။ ငယ်စဉ်အခါက အလွတ်ပညာသင် နည်းပြဆရာများဖြင့် သာ စာပေများကို သင်ကြားခဲ့ရ၏။ ၁၇ နှစ်သားအရွယ် တွင် တဂိုးသည် ဗိသနဝကဗျာစာဆိုများကို တပည့်ခံယူ၍ အတုယူကာ ကဗျာများကို ရေးသားစပ်ဆိုခဲ့လေသည်။ ထို အချိန်လောက်မှာပင် သူသည် အင်္ဂလန်ပြည်သို့သွားရောက် လည်ပတ်ခဲ့၏။ အသက် ၁၈ နှစ်တွင် တက်သစ်စနေကိုရင်း၊ ဝင်လုဆဲနေကိုရင်း ဖွဲ့နွဲ့သော ဂီတကဗျာများကို ရေးသား ခဲ့လေသည်။

တဂိုးသည် ၁၈၈၄ ခုနှစ်၌ အိမ်ထောင်ကျပြီးလျှင်၊ ဂင်္ဂါ မြစ်ကမ်းတနေရာ၌ရှိသော ရှိလေဒါအရပ်သို့ သွားရောက်၍၊ ဖခင်၏ လက်ငုတ်လက်ရင်းဖြစ်သော မြေယာများကို အုပ် ချုပ်စီမံကာ နေထိုင်ခဲ့လေသည်။ ထိုသို့ နေထိုင်ခဲ့ရာမှ၊ တဂိုး သည် ထိုအရပ်ရှိ အရပ်သူ အရပ်သားများ၏ သွားလာ နေထိုင်မှု၊ လုပ်ကိုင်စားသောက်မှု၊ ဆင်းရဲပင်ပန်းမှုများကို နေ့စဉ်နှင့်အမျှ လေ့လာသိရှိရလေသည်။ ဤသို့ လေ့လာ သိရှိမိခဲ့သမျှသော လောကသားတို့၏ ဖြစ်စဉ်တို့ကို တဂိုး သည် ကဗျာစာပေများအဖြစ်ဖြင့် အမှန်အတိုင်း စီကုံးရေး သားဖော်ထုတ်ခဲ့ပေသည်။ ရှိလေဒါ၌ ၁၇ နှစ်မျှနေထိုင် ခဲ့စဉ် တဂိုးရေးသားစီကုံးခဲ့သော ကဗျာများအနက် အထင် အရှားဆုံး ကဗျာများမှာ 'ဆန်းစသော်တာ'၊ 'ဉယျာဉ် မှူး'၊ 'ဂီတဥ္စလိ'၊ 'မွတ်သိပ်သောကျောက်ခဲလုံးကလေး များ' နှင့် အခြားပုံဝတ္ထုများဖြစ်သည်။

သို့သော် တဂိုးသည် ရှိလေဒါ၌နေထိုင်ခဲ့စဉ် သူ၏တသက် တာတွင် ဝမ်းနည်းကြေကွဲဖွယ်ရာများကို ကြုံတွေ့ခံစားခဲ့ရ ရှာ၏။ ရှိလေဒါ၌ တဂိုး၏ဇနီးသည်နှင့်တကွ သမီးတ ယောက်နှင့် သားအထွေးတယောက် ကွယ်လွန်လေသည်။

၁၉၀၁ ခုနှစ် အသက် ၄၀ အရွယ်၌ တဂိုးသည် ဗင်္ဂလား ပြည်နယ်၊ ဗိုးလပူမြို့မှ နှစ်မိုင်အကွာရှိ၊ ရှန္တိနိကေတန်အရပ် တွင် ကျောင်းတကျောင်းတည်ထောင်ခဲ့ရာ၊ ယခုအခါ ဝိသဝ ဘာရတီဟုကျော်ကြားလျက်ရှိ၏။ အင်္ဂလန်ပြည်သို့ ၁၉၁၂ ခုနှစ်တွင် သွားရောက်ခဲ့ပြီးလျှင်၊ သူရေးသားသော စာပေ အချို့ကိုလည်း ကိုယ်တိုင် အင်္ဂလိပ်ဘာသာသို့ ပြန်ဆို ရေး သားခဲ့သည်။ တဂိုးသည် ဥရောပတိုက်သို့လည်း အကြိမ် ကြိမ် ရောက်ဘူးသည့်ပြင် ဂျပန်နိုင်ငံ၊ တရုပ်နိုင်ငံ၊ ဆိုဗီယက် နိုင်ငံ၊ အမေရိကန်ပြည်ထောင်စု၊ တောင်အမေရိကတိုက်၊ ပါရှားပြည်နှင့် ကနေဒါပြည်များသို့လည်း လှည့်လည် သွား ရောက်ခဲ့ဘူးလေသည်။

၁၉၁၃ ခုနှစ်၌ တဂိုးသည် စာပေဆိုင်ရာ နိုဗဲဆုကို ဆွတ်ခူး ရရှိခဲ့၏။ ၁၉၁၅ ခုနှစ်တွင် ဆာဘွဲ့ချီးမြှင့် သူကောင်းပြုခြင်း ခံရလေသည်။ သို့သော်လည်း ၁၉၁၉ ခုနှစ်၌ ပန်ဂျပ်ပြည် နယ်တွင် ဆူပူလှုပ်ရှားမှုများကို တရားလွန်ပြင်းထန်စွာနှိမ် နင်းခဲ့သည်ကို အကြောင်းပြ၍၊ ထိုဆာဘွဲ့ကို ဗြိတိသျှအစိုး ရထံ ပြန်လည်အပ်နှင်းခဲ့လေသည်။ ၁၉၃၀ ပြည့်နှစ်တွင် ကား ကမ္ဘာကျော် အောက်စဖို့တက္ကသိုလ်၌ 'ဟစ်ဗတ်လက် ချာ' များကို ဟောပြောပို့ချရာတွင် လူတို့၏ကိုးကွယ်ရာ အယူဝါဒအကြောင်းဟောပြောခဲ့ပေသည်။ တဂိုးသည် စာ ပေ အရေးအသား၌သာ ကျော်ကြားထင်ရှားခဲ့သူမဟုတ် ပေ။ ပန်းချီရေးဆွဲခြင်း၌လည်း ထူးကဲသည့် ပါရမီရှင်တဦး ဖြစ်၏။ သူသည် အသက် ၆၈ နှစ်အရွယ်၌ ပန်းချီကားများ ကို စတင်ရေးဆွဲကာ မော်စကိုမြို့၊ ဗာမင်ဂမ်မြို့၊ ဘာလင်မြို့၊ မျူးနစ်မြို့၊ပါရစ်မြို့နှင့်နယူးယော့မြို့များတွင် လှည့်လည်တင် ပြခဲ့ခြင်းဖြင့်လည်း ကမ္ဘာကျော်သူဖြစ်ပေသည်။ ဂီတစာ ဆိုအဖြစ်ဖြင့်လည်း တဂိုးသည် သီချင်းအပုဒ်ပေါင်း ၃,၀၀၀ ကျော်မျှရေးသားစပ်ဆိုခဲ့သေးရာ၊ သူ့အား အနုပညာရေး

ရာတွင် အုံ့မှိုင်းသရဲထူးကဲလှသော ပါရမီရှင်ဟုခေါ် ဆိုထိုက် ပေတော့သည်။

၁၉၄၁ ခုနှစ် ဩဂုတ်လ ၇ ရက်နေ့တွင် တဂိုးသည် ကာလကတ္တားမြို့၌ပင် ကွယ်လွန်အနိစ္စရောက်သည်။ အနိစ္စမရောက်မီ တနှစ်ခန့် (၁၉၄၀ ပြည့်နှစ်) တွင် အောက်စဖို့တက္ကသိုလ်မှ တဂိုးအား စာပေဆိုင်ရာ ပါရဂူဘွဲ့ပေးအပ်ကာ ချီးမြှောက်ဂုဏ်ပြုခဲ့ပေသည်။ တဂိုးပြုစု ရေးသားခဲ့သော စာပေများမှာ ကဗျာလင်္ကာအုပ်ပေါင်း ၆၀ ခန့်နှင့် အခြား စကားပြေအရေးအသားများဖြစ်သော ဝတ္ထုတို ဝတ္ထုရှည်၊ စာမွန်၊ ဆုတောင်းပတ္ထနာနှင့်ပြဇာတ်အမြောက်အမြားပင် ဖြစ်သည်။ ယခုအခါ တဂိုး၏စာပေများကို အင်္ဂလိပ်ဘာသာသို့ ပြန်ဆိုရေးသားကာ ကမ္ဘာအနှံ့အပြားသို့ ထုတ်ဝေဖြန့်ချီလျက်ရှိကြလေသည်။

တာခ်ိးမှုဘ်။ ။ရေဝမ်းဘဲ — ရှု။

**တဆေး**။ ။တဆေးသည် မှန်ဘီလူးနှင့်ကြည့်မှသာ မြင်နိုင်သည့် မှိုမျိုးဝင် အပင်အစုအဝေးဖြစ်သည်။ (မှိုမျိုး — ရှု။) ထိုအပင်ကလေးတိုင်းသည် ရိုးရိုးတခုတည်းသော ဆဲလ်သာဖြစ်သည်။ ထိုဆဲလ်မှ အဖူးထွက်ခြင်းဖြင့် ဆဲလ်သစ်များ ဖြစ်လာသည်။ ထိုသို့ အသစ်ဖြစ်လာသည့် ဆဲလ်များသည် အများအားဖြင့် တခုနှင့်တခု ဆက်လျက်ရှိကြသည်။ တဆေးပင်အမျိုးမျိုးရှိရာ၌ ပေါင်မုန့်ဖုတ်သမားများနှင့် အရက်ချက်သမားများ အသုံးပြုသည့် တဆေးပင်များသည် လူသိအများဆုံးဖြစ်သည်။ (ကဇော်ပေါက်ခြင်း — ရှု။)

ထိုသေးငယ်သည့် တဆေးပင်များသည် ကော်မှုန့်နှင့် သကြား ပျော်ဝင်ရည်ကို ကဇော်ပေါက်စေနိုင်ခြင်းကြောင့် အလွန်အသုံးဝင်သော ပစ္စည်းဖြစ်သည်။ ကဇော်ပေါက်ရာ၌ ဖြစ်ပေါ်သည့် အဓိကပစ္စည်းများမှာ အယ်လကိုဟော (အရက်) နှင့် ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့တို့ဖြစ်သည်။ ပေါင်မုန့်လုပ်ရာ၌ တဆေးကြောင့်ဖြစ်ပေါ်သည့် ကာဗွန်ဒိုင်အောက်ဆိုက် ဓာတ်ငွေ့သည် နယ်ထားသောမုန့်ညက်စိမ်းကို ပွထစေသည်။

ကဇော်သည် ဆန်ကိုပေါင်း၍သော်၎င်း၊ ထန်းလျက်၊ တင်လဲ၊ သကာတုံးကို အရည်ဖျော်၍သော်၎င်း၊ တဆေးနှင့် ရောစပ် ကဇော်ပေါက်၍ရသော အရည်ဖြစ်သည်။ ယင်းကို စိမ်ရည်ဟုလည်းခေါ်သည်။ ဦးရေလုပ်ရာတွင် ကောက်ညှင်းဆန်ကိုပေါင်း၍ တဆေးအမှုန့် တော်ရုံနှင့်ရောစပ်ပေးရသည်။ ကဇော်ပေါက်သောအခါ ရေအနည်းငယ်ရောစပ်၍ စစ်ယူလျှင် ဦးရေရသည်။ ယင်းကို လှော်ဇာရည်ဟု



ဖြစ်ချက်လုပ်ငန်းတွင် တဆေးဖြင့် ဤသို့ ကဇော်ဖောက်ယူရသည်။

လည်း ခေါ်၏။ စစ်ယူ၍ ကျန်ရှိသော အဖတ်ကို ကဇော်ဖတ်ဟုခေါ်၏။

အရက်ချက်ရာတွင် 'ဝေါ့' ခေါ်မုယောပင်ပေါက်ရည်ကို တဆေးနှင့်ကဇော်ဖေါက်ယူရသည်။ 'ဝေါ့' ၃၆ ဂါလန်ဝင် တစည်လျှင် တဆေးတပေါင်ခန့် ထည့်ရသည်။ တဆေးသည် ကဇော်ဖေါက်သည့် အိုးအတွင်း၌ တိုးပွားလာရာတွင် နံ့သာရောင်ပေါက်နေသည့် အမြှုပ်များသည် အရက်၏မျက်နှာပြင်အထက်၌ လေးပေမြင့်သည်အထိ တက်လာသည်။ ထိုအမြှုပ်များ အနည်ထိုင်သောအခါ ပိုသည့် တဆေးကို နောင်အသုံးပြုရန်အတွက်ဖြစ်စေ၊ ရောင်းစားရန်အတွက်ဖြစ်စေ ခပ်၍ အအေးခံထားရသည်။ တဆေးသည် အပူကိုဖြစ်စေသဖြင့် 'ဝေါ့' ကို အေးအောင်လုပ်ပေးရသည်။ တဆေးကြောင့် ဓာတ်ပြောင်းလဲမှုများ ဖြစ်ရခြင်းမှာ တဆေးမှ ယိုထွက်လာသည့် 'အင်ဇာတေ့' နှင့် 'ဇိုင်းမေ့' ပစ္စည်းများကြောင့် ဖြစ်သည်။

တဆေးသည် 'အက်စကိုမီစီတီး' ခေါ် မှိုမျိုးစုတွင် ပါဝင်၏။ အခြေအနေသာကောင်းလျှင် ထိုမှိုမျိုးသည် အလွန်ကြီးထွားလွယ်သည်။ ကြီးထွားရန် အခြေအနေမကောင်းလျှင် ထိုမှိုမျိုး၏ဆဲအတွင်း၌ မျိုးမှုန်များဖြစ်လာပြီးလျှင် ဆဲသည် ရှုံ့သွားသည်။ ထိုအခါ ဆဲ၏အခွံသည်လည်း ပျက်စီးသွားလေသည်။ ဆဲ၏အခွံပျက်စီးသည်နှင့် မျိုးမှုန်များကို လေက သယ်ဆောင်သွားသည်။ ပိုးကောင်နှင့် အခြားတိရစ္ဆာန်တို့၏ခန္ဓာကိုယ်တွင် ထိုမျိုးမှုန်များကပ်၍ လိုက်ပါသွားခြင်းကြောင့် မျိုးမှုန် ပျံ့နှံ့သွားနိုင်သည်။ သကြား သို့မဟုတ် ကော်မှုန့်ပါသည့် ပစ္စည်းတခုခုသည် စိုလျက် လေထဲတွင်လွတ်လပ်စွာရှိလျှင် တဆေးမျိုးမှုန်များ ထိုပစ္စည်းပေါ်သို့ ရောက်လာတတ်သည်။ ထိုမျိုးမှုန်များ ကျရောက်လာလျှင် သကြားသည် ကဇော်ပေါက်လေသည်။

**တဇယ်မြို့**။ ။တံဆည်မြို့ — ရှု။

**တညင်းပင်**။ ။တညင်းပင်ကို မြန်မာနိုင်ငံအောက်ပိုင်း မြေနိမ့်ပိုင်းရှိ သစ်တောများ၌ တွေ့နိုင်သည်။ အများအားဖြင့် ပိန္နဲပင်၊ မရန်းပင်တို့နှင့်ရော၍ ပေါက်တတ်သည်။ ရုက္ခဗေဒအလို အားဖြင့် 'ပစ်သီကိုလိုဗီယမ် လိုဗေးတမ်' ဟုခေါ်၍၊ 'လီဂူမီနိုးစီအီး' မျိုးရင်းတွင်ပါဝင်၏။ စိုစွတ်သော အရပ်များ၌သာ ဖြစ်ထွန်းသော အပင်မျိုးဖြစ်၏။ အပင်အမြင့်ပေ ၄၀ အထိရှိ၍၊ ပင်စည်လုံးပတ် ၄ ပေဖြစ်စေ၊ ၅ ပေဖြစ်စေရှိသည်။ အများအားဖြင့် ပင်စည်မှာ ကောက်ကွေးလျက်ရှိတတ်သည်။ အကိုင်းအရွက်များ ဝေဆာစွာပေါက်သည်။ တညင်းသီးတွင် အခွံမာများရှိသဖြင့် ထိုအခွံမာကို ထုခွဲ၍ အသီးဆန်ကို ထုတ်ယူကြရသည်။

မြန်မာလူမျိုးများအဖို့ တညင်းသီးသည် တို့စရာကောင်းတလက်ဖြစ်၏။ အရွက်နုများကိုပင် တို့စရာအဖြစ် စားလေ့ရှိကြ၏။ တညင်းသီးနုနုကလေးများကိုလည်း ရေစိမ်၍ အစိမ်းလိုက် ငပိနှင့်တို့စားလေ့ရှိ၏။ တညင်းသီးကို အစိမ်းလိုက်စားရာ၌၊ ဦးစွာရေမစိမ်ထားလျှင်၊ အရသာမှာ စပ်ရှားရှားရှိ၏။ (ယင်းကိုပါးအာသည်ဟုဆို၏။) အသီးရင့်များကို ပြုတ်၍ရင်း၊ မီးဖုတ်၍ရင်း၊ ဆားရေစိမ်၍ရင်း စားသုံးကြသည်။ တညင်းသီးစေးလျှင်၊ စား၍ကောင်းသည်။ စေးသော တညင်းသီးများကို ပြုတ်၍ ပြားအောင်ထုပြီးလျှင် အုန်းနို့ဆမ်းကာစားရသည်။ ထို့ပြင် တညင်းသီးအရင့်များကို ရေဖျန်းပေးလျှင်ရင်း၊ သို့မဟုတ် ရေစိုနေသော မြေ၌ မြှုပ်ထားလျှင်ရင်း၊ အသီးသည် အလုံးကြီးလာပြီးလျှင် အစိမ်းရောင်သန်းလာ၏။ ဤကဲ့သို့သော တညင်းသီးကို တညင်းဝက်ဟုခေါ်သည်။ ဤအတိုင်း ဆက်၍ထားလိုက်လျှင် အညှောက်ထွက်၍ အပင်ပေါက်လာသည်။ တညင်းဝက်ကို မီးဖုတ်၍ တို့စရာအဖြစ် စားကြ၏။ တညင်းသီးကိုစားလျှင် ဆီးရွှင်သည်ဟု အယူရှိသဖြင့် ဆီးချိုရောဂါအတွက် တညင်းသီးသည် ဆေးကောင်းတလက် ဖြစ်သည်ဟု ဆိုသည်။

တညင်းသားသည် မွဲပြာရောင်ဖျော့ဖျော့ဖြစ်၏။ ကျစ်လစ်၍ လေးလံသော သစ်သားမျိုးဖြစ်သည်။ ကုဗပေတပေလျှင် အလေးချိန် ၃၃ ပေါင်စီး၏။ ရုက္ခဗေဒအလိုအားဖြင့် မျိုးချင်းမတူသော်လည်း၊ အရပ်ခေါ်အားဖြင့် တညင်းဖိုပင်၊ တညင်းရွှေးပင်၊ တညင်းနီပင် (ဝါ) ကျွဲတညင်းပင်ဟုခေါ်သော အပင်များလည်း ရှိသေးသည်။

**တတိုင်းမွှေးပင်**။ ။မြန်မာနိုင်ငံ၊ အိန္ဒိယနိုင်ငံ၊ ဟိမဝန္တာတောင်တန်းဒေသ၊ မြောက်အမေရိကတိုက်နှင့် အရှေ့စွန်းဒေသများတွင် တတိုင်းမွှေးပန်းမျိုးပေါင်း ၁၂မျိုးခန့်ပေါက်သည်။ တမျိုးနှင့်တမျိုး ပေါက်ပွားပုံချင်း မတူကြချေ။ အချို့မှာ အမြဲစိမ်းပင်မျိုးဖြစ်၍၊ အချို့မှာ ရာသီလိုက်အရွက်ကြွေပင်မျိုး ဖြစ်သည်။ အိန္ဒိယနိုင်ငံရှိ အလှပဆုံးသော တတိုင်းမွှေးပင်မျိုးတမျိုးမှာ အမြင့်ပေ ၈၀ မှ ၁၅၀ ခန့်ထိရှိ၍၊ ပင်စည်လုံးပတ်မှာ တုတ်ခိုင်ကြီးမားသည်။ တတိုင်းမွှေးပင်သည် 'မက်ဂနိုလီယေစီအီး' မျိုးရင်းဝင်ဖြစ်သည်။ တတိုင်းမွှေးပွင့်များမှာ အပင်၏မျိုးကိုလိုက်၍ အရောင်အမျိုးမျိုးကွဲပြားသည်။ 'လော်ရယ်' ခေါ် တတိုင်းမွှေးမျိုးတွင် အဖြူပွင့်များပွင့်သည်။ တတိုင်းမွှေးပွင့်များသည် နာမည်နှင့်လိုက်အောင်ပင် အလွန်မွှေးကြိုင်သည်။

ယခုအခါ ရုက္ခဗေဒဆရာများစမ်းသပ်သော မျိုးသန့်ရွေးချယ်မှုနှင့် မျိုးစပ်ပေးမှုတို့သည် အောင်မြင်လျက်ရှိသဖြင့် တတိုင်းမွှေးပင် အမျိုးမျိုးကို ဥယျာဉ်ခြံမြေများထဲတွင်



နူးညံ့သောပွင့်ချပ်လွှာများဖြင့် ထူးတင့်စွာပွင့်နေသော တတိုင်းမွေးပန်း

အများအပြားစိုက်ပျိုးနိုင်ကြပေပြီ။ တိုင်းပြည်တပြည်တွင် ပေါက်သောအပင်မျိုးကို အခြားတိုင်းပြည်တပြည်က အလှအပအဖြစ်ဖြင့်လည်း မျိုးယူစိုက်ပျိုးလျက်ရှိကြသည်။ ပမာအားဖြင့် တရုပ်နိုင်ငံပေါက် တတိုင်းမွေးမျိုးကို အင်္ဂလန်ပြည်ကယူ၍ စိုက်ပျိုးသဖြင့် ယခုအခါ အင်္ဂလန်ဥယျာဉ်များထဲတွင် ထိုအပင်မျိုး အများအပြားကို တွေ့ရလေပြီ။

သာမန်အခြေခံရှိသော တတိုင်းမွေးပင်၏အမြင့်မှာ ပေ ၇၀ မျှရှိသည်။ ပင်စည်သည် ဖြောင့်မတ်၍၊ ယင်းမှ အကိုင်းများဖြာထွက်လျက်ရှိ၏။ တတိုင်းမွေးပွင့်၏ပွင့်ချပ်များမှာ ဖယောင်းကဲ့သို့နူးညံ့ချောမွတ်၏။ အပွင့်၏အချင်းမှာ ၃ လက်မခန့်ရှိသည်။ ပန်းပွင့်ပြီးသောအခါ အသီးများဆက်၍သီးသည်။ တတိုင်းမွေးသီးမှာ ကတော့ပုံသဏ္ဌာန်ရှိသည်။ အသီးသည် မှည့်ချိန်တွင် နီရဲရဲအရောင်သို့ပြောင်းသွားသည်။

တတိုင်းမွေးပွင့်မှ ဝတ်မှုန်ဖြန့်ဖြူးပုံမှာ များစွာစိတ်ဝင်စားဖွယ်ရာကောင်းသည်။ ပိုးကောင်များသည် တတိုင်းမွေးပွင့်များသို့ လာရောက်နားလေ့ရှိကြသည်။ နားလျှင် နားခြင်းပင် တတိုင်းမွေးပွင့်မှာ ငုံ၍သွားပြီးနောက် ပိုးကောင်ကို လှောင်ထားလိုက်သည်။ ထိုပိုးကောင်မှာ အခြားအပွင့်မှ လာရသဖြင့် ကိုယ်ပေါ်တွင် ဝတ်မှုန်များ ပါလာသည်။ ထိုဝတ်မှုန်များကို ပွင့်မဝတ်ဆံကြီးပေါ်တွင် ခါချခဲ့သည်။ နောက်တနေ့ နံနက် တတိုင်းမွေးပွင့် ပြန်၍၊ ပွင့်ချိန်တွင် ထိုပိုးကောင်သည် ပွင့်ဖိုဝတ်ဆံမှ ဝတ်မှုန်များကို အခြားအပွင့်တပွင့်ရှိရာသို့ သယ်ယူသွားပြန်သည်။

**တနေဂျာငှက်။** ။ငှက်လောကထဲတွင် တနေဂျာငှက်ကဲ့သို့ လှပတောက်ပြောင်သော အမွေးအတောင်ရှိသည့် ငှက်မျိုးမှာရှားသည်။ တနေဂျာငှက်ဖိုသည် ငှက်မထက် အဆင်းလှပသည်။ တနေဂျာငှက်သည် စင်စစ်အားဖြင့် ဖင့်ဟုခေါ်သော ငှက်မျိုးအနွယ်ပင်ဖြစ်သည်။

တောင်အမေရိကတိုက်နှင့် အမေရိကတိုက်အလယ်ပိုင်းရှိ သစ်တောများမှာ တနေဂျာငှက်များ၏ နေရင်းဒေသဖြစ်



လှပသော တနေဂျာငှက်နီမျိုး

သည်။ အချို့သော တနေဂျာငှက်မျိုးကို မက္ကဆီကိုနိုင်ငံ၊ အမေရိကန်ပြည်ထောင်စုနှင့်ကနေဒါနိုင်ငံများတွင် အနည်းငယ်မျှတွေ့ရ၏။ ဥရောပတိုက်၊ အာရှတိုက်စသော ကမ္ဘာဟောင်းရှိနိုင်ငံများတွင်ကား၊ တနေဂျာငှက်ကိုမတွေ့ရချေ။

တနေဂျာငှက်မျိုးစိတ်ပေါင်း ၃၇၅ ခုရှိလေသည်။ အားလုံးသော တနေဂျာငှက်မျိုးသည် အရွယ်အားဖြင့် များစွာ မကွာခြားလှချေ။ အလျား ၆ လက်မမှ ၇ လက်မခန့်ထိ ရှိလေသည်။ အလေ့အကျင့်တွင်လည်း တမျိုးနှင့်တမျိုး တူညီကြသည်။ ထိုငှက်၏အစာမှာ ပိုးမွှားနှင့်သစ်သီးများဖြစ်၏။ အသိုက်ကို အလျားလိုက်ထိုးထွက်သော သစ်ကိုင်းပေါ်တွင် ဒယ်အိုးသဏ္ဌာန်ပြုလုပ်လေ့ရှိသည်။ တကြိမ်လျှင် ၃ ဥမှ ၅ ဥအထိအုသည်။ တနေဂျာငှက် အော်မြည်သံမှာ သာယာနာပျော်ဖွယ်ရှိသည်။

များစွာသော တနေဂျာငှက်မျိုးတွင် တနေဂျာခေါင်းဖြူသည် ချစ်စဖွယ်အကောင်းဆုံးငှက်ဖြစ်ပေသည်။ ထိုငှက်မျိုး၏ကိုယ်မှ အမွေးအတောင်များသည် ပြောင်းဖူးပွင့်ကဲ့သို့ ပြာလဲ့၍၊ အမောက်နှင့်ဦးခေါင်းမှာ ဘော်ငွေအဆင်းကဲ့သို့ ဖြူဖွေးပြီးလျှင် နဖူးတွင် အနီစက်တခုရှိသည်။ ငှက်ဖိုနှင့်ငှက်မတို့မှာ ပုံသဏ္ဌာန်ချင်းဆင်တူသည်။

နေရင်းဒေသ တောတွင်းမှထွက်၍၊ အရပ်တပါးသို့ သွားရောက်ကျက်စားသော တနေဂျာငှက်မျိုးတွင် တနေဂျာငှက်နီမျိုးကို လူသိများလေသည်။ ထိုငှက်မျိုးကို အမေရိကန်ပြည်ထောင်စုတွင် ငှက်နီဟူ၍လည်းခေါ်ကြ၏။ ငှက်ဖို၏ အမွေးအတောင်များမှာ ကြက်သွေးရောင်ဖြစ်၍၊ တောင်ပံနှင့်အမြီးတို့မှာ ချောမွတ်မည်းနက်သည်။ ငှက်မများ၏ ကိုယ်အထက်ပိုင်းမှာ အစိမ်းရောင်၊ ကိုယ်အောက်ပိုင်းမှာ အစိမ်းဝါရောင်ဖြစ်သည်။ အတောင်နှင့်အမြီးတို့မှာ ညိုမည်းလေသည်။

**တနင်္ဂနွေဂြိုဟ်။** ။နေ — ရှု။

**တနင်္လာဂြိုဟ်။** ။လ — ရှု။

**တနင်္သာရီမြို့။** ။တနင်္သာရီမြို့သည် မြိတ်ခရိုင် တနင်္သာရီမြို့နယ်၏ ရုံးစိုက်ရာမြို့ဖြစ်သည်။ တနင်္သာရီမြို့နယ်သည် တနင်္သာရီမြစ်ငယ်နှင့် မြစ်ကြီး ဆုံရာအရပ်၌ တည်ရှိသည်။ မြို့နယ်၏နယ်နိမိတ်မှာ မြောက်ဖက်၌ ပုလောမြို့နယ်၊ အရှေ့ဖက်၌ တနင်္သာရီမြစ်ငယ်၊ တောင်ဖက်၌ ဘုတ်ပြင်းမြို့နယ်၊ အနောက်ဖက်၌ အိန္ဒိယသမုဒ္ဒရာတို့ဖြစ်လေသည်။ တနင်္သာရီမြို့ကို ခရစ် ၁၃၇၃ ခုနှစ်တွင် ယိုးဒယားမင်းတို့ တည်ထောင်ခဲ့သည်ဟုဆိုသည်။ သို့သော် ခရစ် ၁၇၅၉ ခုနှစ်တွင် အလောင်းဘုရားသည် တနင်္သာရီမြို့ကို အပြီးအပိုင်သိမ်းပိုက်လေသည်။

တောင်ထူထပ်၍ သစ်တောများဖြင့် ဖုံးအုပ်လျက်ရှိသော



တနင်္သာရီမြို့ရှိ ရှေးမင်းများ၏နန်းတော်ရာနှင့် အရှေ့ကျောင်းတော်ရာ



တနင်္သာရီမြို့ပေါ်ရှိ မြို့စောင့်ရှင်ခေါ် ရှာရှင်နတ်ရုပ်တုများ

နယ်ဖြစ်၏။ နယ်အတွင်းနေထိုင်သူများသည် လယ်ယာစိုက်ပျိုးခြင်းအလုပ်ကို လုပ်ကိုင်ကြ၏။ လမ်းပန်းအဆက်အသွယ် လွယ်ကူမှုမရှိလှသောကြောင့် စည်ကားခြင်းမရှိချေ။ မြို့နယ် အကျယ်အဝန်းမှာ ၄၀၃၃ စတုရန်းမိုင်ဖြစ်သည်။ မြို့ပေါ်ရှိ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၁၁၉၄ ယောက်ဖြစ်သည်။

**တပို့တွဲလ။** ။တပို့တွဲလသည် မြန်မာလများတွင် ဆယ့်တကြိမ်မြောက်လဖြစ်သည်။ ဆောင်းဥတုနောက်ပိုင်းချိန်



တပို့တွဲထမင်းနှံပွဲတော်အတွက် ထမင်းနှဲအိုးကို အားသွန်နှဲနေကြစဉ်

ဖြစ်သည်။ တပို့တွဲလဟုခေါ်ဝေါ်ခြင်းမှာ ထန်းဖူးထန်းခိုင်တို့ တွဲညွတ်သော ရာသီဖြစ်၍ ခေါ်တွင်ခြင်း ဖြစ်သည်ဟုမှတ်ယူကြသည်။ ကျောက်စာအရေးအသား၌ တပို့တွဲကို တပိုဝ်ထွယ်၊ တပိုဝ်ထွဲ၊ တပိုဝ်တွဲ၊ တပိုဝ်တွယ်၊ တပို့ဝ်ထွယ် ဟုရေးသားလေ့ရှိသည်။ ဗေဒင်အခေါ်အားဖြင့် ကုံရာသီဟုခေါ်သည်။ ထိုရာသီတွင် မာဃနက္ခတ်စန်းနှင့်ယှဉ်၍မွန်းတည့်သည်။ ရာသီရုပ်မှာ ရေထမ်းသမားဆင်းရဲသားပုံဖြစ်၍၊ ရာသီပန်းမှာ ပေါက်ပွင့်၊ လဲပွင့်၊ လက်ပံပွင့်တို့ဖြစ်သည်။

တပို့တွဲလတွင် ထမင်းနှံပွဲကျင်းပကြသည်။ (ထမင်းနှဲ—ရှု။) ကောက်ညှင်းစပါးသစ် ပေါ်ချိန်တွင် အရပ်ရပ်၌ ထမင်းနှဲထိုး၍ ကျွေးမွေးလှူဒါန်းလေ့ရှိကြသည်။

ထိုလတွင် နံနက်စက် ၆.၂၀ နာရီတွင် နေထွက်လေ့ရှိ၍၊ ညနေ ၅.၄၀ နာရီအချိန်တွင် နေဝင်လေ့ရှိသဖြင့် ညတာမှာ နေ့တာထက် ပို၍ ရှည်သည်။ ဆီးနှင်းကျသောရာသီဖြစ်၍ ချမ်းအေးသည်။

ထိုလတွင် ရက်မစုံ လကွယ်သောကြောင့် ၂၉ ရက်သာ ရှိသည်။ တပို့တွဲ ကျွဲချိုဖျား ဆတ်ဆတ်ခါသည် ဟူ၍၎င်း၊ 'နှာရည်ယို့ရှဲ တပို့တွဲ' ဟူ၍၎င်း တပို့တွဲလတွင် အလွန်ချမ်းအေးလှကြောင်း ဆိုရိုးပြုလေ့ရှိကြသည်။

**တပင်တိုင်ဝါး။** ။ရုက္ခဗေဒ အလိုအရ တပင်တိုင်ဝါးကို 'မဲလိုကန္နား ဗမ်းဗူးဆိုက်ဒီး' ဟုခေါ်သည်။ တပင်တိုင်ဝါးသည် ရခိုင်ရိုးမ အထက်ပိုင်းနှင့်တနင်္သာရီရိုးမ တောင်များ၌ ပေါက်ရောက်သည်။ ထိုဝါးမျိုးသည် အခြားဝါးအများကဲ့သို့ ဝါးရုံဖွဲ့၍မပေါက်ဘဲ၊ မြေကြီးအောက်တွင် ကွေ့ကောက်လျက်ရှိသော ရိုင်းဇုမ်းများမှ ထိုးထွက်၍ပေါက်ကြသည်။ ထိုဝါးပင်များသည် အမြင့်ပေ ၃၀ မှ ၆၀ အထိရှိ၍၊ အချင်း ၁ လက်မမှ ၃ လက်မအထိရှိသည်။ ထိုဝါးကို အိမ်ဆောက်ရာ၌၎င်း၊ တောင်းများပြုလုပ်ရာ၌၎င်း အသုံးချကြသည်။ စက္ကူလုပ်ရာတွင်လည်း အသုံးချကြသည်။ တပင်တိုင်ဝါး အရိုးငယ်ကလေးများကို ပုသိမ်မြို့၌ ထီးရိုးတံများပြုလုပ်ရာတွင် အသုံးပြုကြသည်။

ထီးရိုးလုပ်ရန်အတွက် သက်သက်အသုံးပြုသော ဝါးမျိုးရှိသည်။ ထိုဝါးကို ထီးရိုးဝါးဟုခေါ်ကြ၏။ ရုက္ခဗေဒအမည်မှာ 'သားစိုးစတားချီး ဆိုင်အမ်မင်းစစ်' ဖြစ်သည်။ ထီးရိုးဝါးသည် တည့်မတ်စွာပေါက်၍ ခိုင်ခံ့သော ဝါးမျိုးဖြစ်သည်။ အမြင့်ပေ ၃၀ မှ ၄၀ အထိရှိ၍၊ အချင်း ၁½ လက်မမှ ၂½ လက်မအထိရှိသည်။ ထီးရိုးဝါးကို ငါးများတံလုပ်ရာ၌လည်း အသုံးပြုကြသည်။

တပင်တိုင်ဝါးသည် နှစ်ပေါင်း ၃၀ တွင် တခါအပွင့်ပွင့်သည်ဟုဆိုသည်။ အပွင့်ပွင့်သောအခါ၊ တတောလုံး တချိန်တည်း ပွင့်ကြသည်။ တပင်တိုင်ဝါးပင်များ အသီး သီး

သည်။ ထိုအသီးများသည် အလျား ၃ လက်မမှ ၅ လက်မထိ ရှိ၍၊ အနံ ၂ လက်မမှ ၃ လက်မထိ ရှိသည်။ အစေ့ထဲမှ အသားကို စားနိုင်သည်။

တပင်တိုင်ဝါးကို ကရင်ဝါး သို့မဟုတ် ခရောင်း ဝါးဟူ၍လည်း ခေါ်ကြသည်။ တပင်တိုင်ဝါးအမည်ဖြင့် အခြားဝါး



အနှစ် ၃၀ တွင်မှ တကြိမ်သာပွင့်သော တပင်တိုင်ဝါးပင်များ

မျိုးများလည်း ရှိသေးသည်။ ထိုဝါးမျိုးတို့၏ ရုက္ခဗေဒအမည်များမှာ 'ဗမ်းဗူးဆား ဗီလိုဆူလာ'၊ 'ဂျိုင်ဂင်တိုကလိုအာ မက်ကရိုစတက်ချီယား'၊ 'ဒင်ဒရိုကယ်လေးမတ် လောင်ဂျီစပေးသပ်'၊ 'ဗမ်းဗူးဆား တာလဒါ'၊ 'ဗမ်းဗူးဆား လောင်ဂျီစပီကျူလေးတား'၊ 'မယ်လိုကနား ဟျူမီလစ်' တို့ဖြစ်ကြသည်။

**တပင်ရွှေထီး** (မြန်မာ ၈၉၂–၉၁၂)။ ။ကေတုမတီ တောင်ငူပြည်မှစ၍ အခြေတည်ပြီးလျှင်၊ မွန်မြန်မာစည်းလုံးရေးဖြင့် ဒုတိယ မြန်မာနိုင်ငံတော်ကြီး တည်ဆောက်နိုင်စေရန်အလို့ငှာ၊ ဦးစွာကြိုးပမ်းခဲ့သော မင်းကား မဟာရာဇဝင်အလိုအရ မင်းတရားရွှေထီးဟုတွင်သော တပင်ရွှေထီးမင်းပင် ဖြစ်လေသည်။

မြန်မာရာဇဝင်တို့တွင် ဂငယ်သုံးခု ဥသျှစ်ထုဟု ဆိုစမှတ်ပြုသော သက္ကရာဇ် ၈၈၈ ခုနှစ် (ခရစ် ၁၅၂၆ ခုနှစ်) တွင် အင်းဝပြည်ကို ရှမ်းများလွှမ်းမိုးသိမ်းပိုက်သဖြင့် အင်းဝပျက်ပြီးလျှင်၊ ရွှေနန်းကြော့ရှင် ဘုရင်နရပတိလည်း နတ်ရွာစံလေသည်။ ထိုအခိုက်တွင် ဟံသာဝတီ၊ ပုသိမ်၊ မုတ္တမစသော ဒေသတို့၌လည်း မွန်မင်းဆက်တို့ လွှမ်းမိုးလျက်ရှိကြကုန်သည်။ ထိုခေတ်၌ မြန်မာတို့မှာ အထက်တွင် ရှမ်းတို့ကဖိစီး၍၎င်း၊ အောက်တွင် မွန်တို့ကဖိစီး၍၎င်း၊ အလယ်တွင် အနေချောင်လျက်ကျန်ရှိသော တောင်ငူသို့ ဝင်ရောက်ခိုလှုံလာကြသည်။ သို့ဖြင့်ပင် တောင်ငူမြို့သည် မြန်မာတို့၏ စည်းလုံးညီညွတ်ရေးအတွက် မြော်လင့်အားထားရာဒေသဖြစ်လာလေရာ၊ မင်းကြီးညိုသည် သက္ကရာဇ် ၈၄၇ ခုနှစ် (ခရစ် ၁၄၈၅ ခုနှစ်) တွင် တောင်ငူပြည်ကြီးကို စတင်တည်ထောင်ခဲ့လေသည်။ (မင်းကြီးညို — ရှု။) မင်းကြီးညိုသည် ဟံသာဝတီပဲခူးကို သိမ်းသွင်းရန်ကြိုးပမ်းနေခိုက်တွင် ၈၉၂ ခုနှစ် (ခရစ် ၁၅၃၀ ခုနှစ်) တွင် နတ်ရွာစံလေသော်၊ မြန်မာနိုင်ငံတော်စည်းလုံးရေးကို ဆက်လက်ဆောင်ရွက်ရန်တာဝန်သည် တပင်ရွှေထီး၌ ကျရောက်ခဲ့လေသည်။

တပင်ရွှေထီးသည် မင်းကြီးညိုနှင့် ငွေယံကုန်း သူကြီးသမီးတို့ သင့်မြတ်ရာတွင် မြင်သော သားတော်ဖြစ်သည်။ သုသောဓိတ မဟာရာဇဝင်ကြီး၌ မွေးသက္ကရာဇ်ကို ၈၇၈ ခုနှစ်ဟု ပြသည်။ သက္ကရာဇ် ၈၉၂ ခုနှစ် (ခရစ် ၁၅၃၀ ခုနှစ်) ၌ မင်းကြီးညိုလွန်သော် တောင်ငူကို ဆက်လက်စိုးစံရသည်။ တပင်ရွှေထီးနှင့်ခေတ်ပြိုင်စိုးစံခဲ့သော မင်းများမှာ အင်းဝ၌ နောက်ဆုံးရှမ်းမင်းများဖြစ်သော သိုဟန်ဘွား၊ အုန်းဘောင် ခုန်မှိုင်းနှင့် မိုးဗြဲနရပတိတို့ ဖြစ်ကြ၏။ ဟံသာဝတီမွန်တို့ပြည်၌ကား သုရှင်တကာရွတ်ပိ (မြန်မာ ၈၈၈–၉၀၀) ဖြစ်လေသည်။

တောင်ငူကို အုပ်ချုပ်စိုးစံရသော အချိန်တွင် တပင်ရွှေထီးဘုရင်သည် အသက် ၁၄ နှစ်မျှသာ ရှိသေးသည်။ သို့သော် တပင်ရွှေထီး၏လက်ထက်တွင် မြန်မာနိုင်ငံတွင်းသို့ နှစ်များစွာကြာမျှ ဝင်ရောက်ကြီးစိုး လွှမ်းမိုးခဲ့ကြသော ရှမ်းမင်းများ၏ အင်အားအခြေအနေမှာ ညှိုးသက်ခဲ့ပြီဖြစ်သည်။ တောင်ငူသည်လည်း အထက်မြန်မာနိုင်ငံတလွှားမှ ဝင်ရောက်ခိုလှုံလာကြသော လူများဖြင့် အင်အားပြည့်တင်းလျက်ရှိ၏။ ထို့ပြင် အင်းဝပြည်ကြီး၏သော့ချက်ဖြစ်လျက် အထက်မြန်မာနိုင်ငံတွင် အချမ်းသာကြွယ်ဝဆုံးဖြစ်သော ကျောက်ဆည်နယ်ပယ်ကြီးသည်လည်း တပင်ရွှေထီး၏လက်တွင်းသို့ ရောက်ရှိနေခဲ့ပြီဖြစ်သည်။ အင်းဝမှ ဝင်ရောက် ခိုလှုံလာသူများတွင် ဆင်းရဲသား တောင်သူ လယ်သမားများသာမက၊ ဇာတိမာန်တက်ကြွလျက်ရှိသော မင်းမှုထမ်း သူရဲကောင်းများလည်း ပါဝင်ခဲ့၏။ ထို့နောက် ခမည်းတော် မင်းကြီးညိုလက်ထက်ကတည်းက သစ္စာကျိုးနွံစွာ အမှုထမ်းခဲ့ကြသော ဝန်ကြီး မှူးကြီးများသည် တပင်ရွှေထီး၏ လက်ထက်သို့ ရောက်သောအခါတွင် ဆက်လက်၍ သစ္စာကျိုးနွံစွာ အမှုထမ်းခဲ့ကြသည်။ ထို့ပြင်

ယောက်ဖတော် ဘုရင့်နောင် (နောင်အခါ ဟံသာဝတီ ဆင်ဖြူများရှင်) ကလည်း သစ္စာကျိုးနွံစွာဖြင့် တောင်ငူနိုင်ငံတော်ကြီးတည်မြဲရေးကို ရှပ်ရှပ်ချွံချွံလုပ်ဆောင်ခဲ့ပေသည်။ ဤ အခြေအနေများကြောင့်၊ တပင်ရွှေထီး သည် ခမည်းတော်မင်းကြီးညို စတည်ထောင်ရန် အစပျိုးခဲ့သော နိုင်ငံတော်ကြီးကို ဗဟိုပြု၍ မြန်မာနိုင်ငံတော်ကြီးတည်ထောင်ရန် အစပျိုးပေးနိုင်ခဲ့ခြင်း ဖြစ်ပေသည်။

အောက်မြန်မာနိုင်ငံ ဟံသာဝတီ မွန်တို့ပြည်ကို တပင်ရွှေထီးသည် ၈၉၆ ခုနှစ်မှအစပြု၍ လုပ်ကြံတိုက်ခိုက်ခဲ့၏။ ဟံသာဝတီဘုရင် သုရှင်တကာရွတ်ပိလည်း ပဲခူးမြို့တော်မှနေ၍ အစီအမံကောင်းလှသော အမတ်ကြီး ဗညားကျန်း၊ ဗညားလောတို့၏အကူအညီဖြင့် ရှပ်ရှပ်ချွံချွံတိုက်ခိုက်၏။ ထိုကြောင့် တပင်ရွှေထီးဘုရင်သည် အကြိမ်ကြိမ်တိုက်ခိုက်ပါသော်လည်း၊ ပဲခူးမြို့တော်ကို ၉၀၀ ပြည့်နှစ်ရောက်မှသာ အောင်မြင်လေတော့သည်။ ထိုနှစ်တွင် တပင်ရွှေထီးဘုရင်၏ ဥပါယ်တံမျဉ်ကြောင့် အစီအမံကောင်းလှသော ဗညားကျန်း၊ ဗညားလောတို့သည် သုရှင်တကာရွတ်ပိ၏ ကွပ်မျက်ခြင်းကို ခံကြရကား၊ ပဲခူး၏အင်အားလည်း ပျော့ညံ့သွားလေသည်။ ဤအခါတွင်မှ တပင်ရွှေထီးဘုရင်လည်း ပဲခူးမြို့တော်ကို အလွယ်တကူချီတက်သိမ်းပိုက်နိုင်ခဲ့လေသည်။ ပဲခူးကို အောင်မြင်ပြီးသည့်နောက် မွန်တို့၏ ဘုရင်အဖြစ်ဖြင့် မွန်ဓလေ့အတိုင်း ရာဇာဘိသိက်ခံယူသည်။ ဟံသာဝတီ ပဲခူးကိုအောင်မြင်ပြီးနောက်၊ တပင်ရွှေထီးဘုရင်သည် ပြည်မြို့ကို နှစ်ကြိမ်တိုင်တိုင် လုပ်ကြံတိုက်ခိုက်သေး၏။ သို့သော် ၉၀၃ ခုနှစ်တွင်မှ လုံးဝအောင်မြင်သည်။

၉၀၂ ခုနှစ်တွင် ချီတက်လုပ်ကြံသော မုတ္တမတိုက်ပွဲမှာမူ ၇ လကျော်မျှ ကြာလေသည်။ တပင်ရွှေထီးဘုရင်သည် သံလွင်မြစ်ညာမှနေ၍ ထန်းပင်တပြန်ခန့် မြင့်မားသော မီးဖောင်ကြီးများ၊ မြို့ရိုးတပြန်ထက် ကျော်လွန်သော ခံတပ်ဖောင်ကြီးများကို ဆောက်လုပ်မျှောချကာ ရန်သူများဖက်မှ ကူညီတိုက်ခိုက်လျက်ရှိသော ပူတကေ (ပေါ်တူဂီ) သင်္ဘော ၇ စင်းကို ခဲယဉ်းပင်ပန်းစွာ ကြံစည်တိုက်ခိုက်ဖျက်ဆီးပစ်နိုင်ပြီးလျှင် မုတ္တမမြို့ကို အလိုပြည့်လေသည်။

ထိုနောက် ၉၀၅ ခုနှစ်တွင် တပင်ရွှေထီးသည် အထက်မြန်မာနိုင်ငံတလွှားကို ချီတက်တိုက်ခိုက်သိမ်းပိုက်လျက် ပုဂံတွင် ရပ်နားကာ အထက်မြန်မာနိုင်ငံဘုရင်အဖြစ် ရာဇာဘိသိက်သွန်းလောင်းခံယူလေသည်။ ၉၀၇ ခုနှစ်တွင် ပဲခူးသို့ ပြန်ရောက်သောအခါ၊ တပင်ရွှေထီးဘုရင်သည် မွန်မြန်မာနှစ်ဦးစလုံး၏ ဘုရင်အဖြစ် ထပ်မံ၍ ရာဇာဘိသိက် သွန်းလောင်းခံယူခဲ့ပြန်လေသည်။

နောက်တနှစ်တွင် ရခိုင်ပြည်နှင့် ယိုးဒယားပြည်တို့ကို ချီတက်တိုက်ခိုက်ခဲ့သည်။ တပင်ရွှေထီးသည် သံတွဲနှင့်တောင်စဉ်ခုနှစ်ခရိုင်တို့ကို သိမ်းသွင်းပြီးသော်၊ မြို့ဟောင်းကို ဝန်းရံမိသည်။ သို့ရာတွင် ရဟန်းတို့၏ ဖြန်ဖြေမှုကိုလက်ခံ၍ တပ်ခေါက်ကာပြန်ခဲ့သည်။ ယိုးဒယားဦမှု အယုဒ္ဓယပြည်ကို ဝိုင်းမိသော်လည်း အလိုမပြည့်ခဲ့ချေ။

ယိုးဒယားမှအပြန် လမ်းခရီးတွင် တပင်ရွှေထီးသည် ဗရင်ဂျီ (ပေါ်တူဂီ) တဦးနှင့်ပေါင်းဖက်မိလေသည်။ ထိုသူအားတပင်ရွှေထီးသည် ကိုယ်လုပ်မောင်းမယ်တဦးနှင့်စုံဖက်ကာ အလွန်အကျူးမြှောက်စားခဲ့၏။ ထိုသူ ဆက်သသော မီးပေါက်သေနတ်ကို လွန်စွာမြတ်နိုးလျက် ထိုသူနှင့်အတူ တောလိုက်ခဲ့၏။ ထိုသူ စီမံဆက်သသော အစားအစာနှင့် သေရည်သေရက်များကိုလည်း နှစ်ခြိုက်စွာသုံးဆောင်ခဲ့၏။ ယင်းအခါမှစ၍ တပင်ရွှေထီးသည် မင်းကျင့်တရား၊ ကိုယ်ကျင့်တရားများပျက်ပြားကာ နိုင်ငံတော်အုပ်ချုပ်စီမံရေးတွင်လည်း အမှားမှား အယွင်းယွင်း လစ်ဟင်းခဲ့လေသည်။ ယောက်ဖတော် ဘုရင့်နောင် ဖျောင်းဖျသည်ကိုလည်း မနာယူချေ။ ထိုအခါ ဝန်ကြီး မှူးကြီးများက ဘုရင့်နောင်အား တိုင်းပြည်အုပ်ချုပ် မင်းပြုလုပ်ရန် တိုက်တွန်းခဲ့ကြ၏။ ဘုရင့်နောင်လည်း အရှင်၏သစ္စာကို ကျိုးနွံစောင့်သိကာ ဝန်ကြီး မှူးကြီးများနှင့်တိုင်ပင်လျက် ဘုရင်နှင့်တကွ နိုင်ငံတော်အလုံးကို ထိန်းသိမ်း အုပ်ချုပ် စီမံဆောင်ရွက်ခဲ့၏။ ဘုရင်တဆူ မင်းမူပြုလုပ်ရန် တိုက်တွန်းချက်ကိုကား ငြင်းပယ်ခဲ့လေသည်။

ထိုနောက် တပင်ရွှေထီးဘုရင်လည်း ဇာတာတော် မသန့်သဖြင့် မအူပင်နယ်၊ ပန်းတနော်ဖက်တွင် စစ်တောင်းစားသမိန်စောထွတ်၊ စောလကွန်းအိန် အစရှိသော မွန်ဝန်ကြီးမှူးကြီးများ၏အရံအစောင့်ဖြင့် ယာယီစံမြန်းလျက်နေ၏။ ၉၁၂ ခုနှစ်တွင် ဒဂုံ၊ ဒလမြို့များကို သိမ်းယူကာ မွန်ရဟန်းလူထွက် သမိန်ထောလည်း ခြားနား ပုန်ကန်လေသည်။ ထိုသူပုန်ကို နှိမ်နင်းရန်အတွက် ဘုရင့်နောင်လည်း တပင်ရွှေထီးဘုရင်၏အပါးမှ ခွာသွားခဲ့ရ၏။ ဤတွင် အခွင့်ကောင်းကိုရှာ၍ ကြံစည်ရင်းရှိသော စစ်တောင်းစားသမိန်စောထွတ်လည်း တပင်ရွှေထီးဘုရင်အား ဆင်ဖြူတော်ပေါ်သည်ဟု ဥပါယ်တံမျဉ်ဖြင့် တောတွင်းသို့လှည့်ပတ်ခေါ်ယူ၍ ညအချိန်ရောက်သော်၊ ညီဖြစ်သူလက်ဝဲဒေးမှူးအား လုပ်ကြံသတ်ဖြတ်စေသည်။ ထိုကြောင့် တပင်ရွှေထီးဘုရင်လည်း ၉၁၂ ခုနှစ်တွင် လွန်လေသည်။

တပင်ရွှေထီးဘုရင်၏လက်ထက်၌ ထူးခြားမှတ်သားဖွယ်အကြောင်းတရပ်မှာ လူမျိုးခြား ဖြစ်သော ပေါ်တူဂီများသည် မြန်မာဘုရင်များ လက်အောက်တွင် တပင်ရွှေထီးဘုရင်၏ လက်ထက်မှစ၍ ပဌမဆုံးအကြိမ် ဝင်ရောက်အမှုထမ်းခဲ့ကြခြင်းပင်ဖြစ်သည်။ ဂျိအာနီကယေးရိုဆိုသူ ဦးဆောင်သော ပေါ်တူဂီ ၇၀၀ ခန့်သည် မုတ္တမတိုက်ပွဲတွင်

ပါဝင်အမှုထမ်းခဲ့ကြသည်။ ဒီယိုဂိုဆိုးအရက် ဒီ မဲလိုး ဆိုသူ ဦးဆောင်သော ပေါ်တူဂီတပ်ဖွဲ့တဖွဲ့သည် ရခိုင်ပြည်နှင့်ယိုးဒယား ပြည်များသို့ ချီတက်တိုက်ခိုက်ရာတွင် လိုက်ပါ အမှုထမ်းခဲ့ကြသည်။

ထိုနောက် တပင်ရွှေထီးလက်ထက်၌ အထူးခြားဆုံးသော မှတ်သားဖွယ် အကြောင်းရပ်မှာ မြန်မာနိုင်ငံတော်ကြီး အဖြစ် သိမ်းသွင်းစည်းလုံးရန်ကြံရွယ်လျက် မွန်လူမျိုးများနှင့် ရောနှောသွေးစည်းပုံပင် ဖြစ်သည်။ မိမိရန်သူများပင် ဖြစ်လင့်ကစား အောင်နိုင်ပြီးသောအခါများတွင် တပင်ရွှေထီးဘုရင်သည် ထိုသူများကို ရန်သူဟုသဘောမထားခဲ့ချေ။ ဟံသာဝတီ ပဲခူးကို အောင်မြင်ပြီးနောက်၊ မိမိ၏လက်တွင်းသို့ ကျရောက်ခဲ့သော မွန်လူမျိုး မှုထမ်း ရာထမ်းများအား နှိပ်ကွပ်ခြင်းမပြုဘဲ၊ ယင်းတို့၏ ရာထူး အဆောင်အယောင်များကို ပြန်လည်ပေးအပ်ကာ ချီးမြှင့်သူကောင်းပြုခဲ့၏။ ပဲခူးမြို့တော်ရှိ လှပ၍ ကျက်သရေရှိလှသော မွန်ဘုရင်များစံမြန်းသည့် နန်းတော်နှင့် အဆောက်အအုံကြီးများကိုလည်း ဖျက်ဆီးခြင်းမပြုစေဘဲ အမှတ်အသား အဖြစ်ကျန်ရှိစေခဲ့၏။ မုတ္တမ၊ ပုသိမ်၊ မြောင်းမြ စသည်တို့တွင်လည်း မွန်အဆက်အနွယ်များကိုပင် ပြန်လည်ပေးအပ်ကာ အုပ်ချုပ်စေခဲ့သည်။ မွန်ဘုရင် သုရှင်တကာရွတ်ပိ လွန်ပြီးနောက်၊ မိမိလက်အောက်သို့ အလုံးအရင်းနှင့်ဝင်ရောက်ခစားထမ်းရွက်ကြကုန်သော မွန်ဝန်ကြီး မှူးကြီးနှင့် လက်အောက်ငယ်သား အများအပြားတို့ကိုလည်း တပင်ရွှေထီးဘုရင်သည် မြို့စား၊ ရွာစားများ ပေးအပ်ခြင်း၊ ရာထူးအဆောင်အယောင်များ ပေးအပ်ခြင်းပြုလုပ်၍ ချီးမြှင့်မြှောက်စားခဲ့၏။ မွန်ပြည်နယ်အတွင်းရှိ စေတီပုထိုးများတွင်လည်း ထီးတင်လှူခြင်း၊ ရွှေသင်္ကန်းကပ်လှူခြင်းများပြုလုပ်ခဲ့၏။ ရွှေတိဂုံစေတီတော်ကြီးကိုလည်း ကိုယ်အလေးချိန်နှင့်စက်၍ ရွှေများကပ်လှူပူဇော်၏။ ထီးတော်တင်ပွဲကိုလည်း ခြိမ့်ခြိမ့်မွှမ်းမျှ စီရင်ခင်းကျင်း၏။ ထီးတင်ပွဲပြုလုပ်စဉ်၌ပင် မွန်မြန်မာ ရဟန်းတော်များ၏ စည်းဝေးဆွေးနွေးပွဲကြီး ကိုလည်း ခုနစ်ရက်တိုင်တိုင် ကျင်းပစေပြီးလျှင် ပစ္စည်းလေးပါးဖြင့် ထောက်ပံ့လှူဒါန်းခဲ့သည်။ ထိုနောက် မိမိမြှောက်စားသိမ်းပိုက်ထားသော မွန်မင်းသမီးများအားလည်း မြန်မာမင်းသမီးများ ဝတ်စားဆင်ယင်လေ့ရှိသည့်အတိုင်း ပြောင်းလဲဝတ်စား ဆင်ယင်ခြင်းမပြုစေဘဲ၊ မွန်မင်းသမီးများဝတ်စား ဆင်ယင်လေ့ရှိသည့်အတိုင်းသာ ဆက်လက်၍ ဝတ်စားဆင်ယင်စေရန် ခွင့်ပြုခဲ့သည်။ ထိုနောက် မိမိကိုယ်တိုင်လည်း ၉၀၇ ခုနှစ်တွင် ဟံသာဝတီ ပဲခူးမြို့တော်၌ ရာဇာဘိသေက ခံယူသောအခါ ဦးခေါင်းဆံကို မွန်လူမျိုးတို့ထားလေ့ရှိသော ဆံပုံအတိုင်း ဖြတ်ညှပ်စေ၍ မွန်ဘုရင်များ၏ အဆောင်အယောင် ဖြစ်သော သမိန်တင့်တစ်ခေါ် ဦးဗောင်းမကိုဋ်ကို ဆောင်းလျက် ရာဇာဘိသေကခံယူသည်။ အခမ်းအနား၌လည်း မြန်မာဘုရင်တို့၏အဆောင်အယောင် မင်းခမ်းမင်းနားအကုန်၊ မွန်ဘုရင်တို့၏ အဆောင်အယောင် မင်းခမ်းမင်းနားအကုန်ကို လက်ဝဲလက်ျာနှစ်ဖက်ရံ၍ ခင်းကျင်းစေခဲ့လေသည်။

ဤသို့လျှင် တပင်ရွှေထီးဘုရင်သည် မွန်လူမျိုးများနှင့် ရောနှောကာ မွန်လူမျိုးတို့ ဓလေ့ထုံးစံ အမှုအရာများကို လိုက်နာကျင့်သုံးလျက် မွန်နှင့်မြန်မာသွေးစည်းခြင်းပြုလုပ်ခဲ့ပေသည်။ တပင်ရွှေထီးဘုရင် လွန်သော်၊ ဒုတိယ မြန်မာနိုင်ငံတော်ဟု ခေါ်ဆိုသင့်သော တောင်ငူနိုင်ငံတော်ကြီးကို ယောက်ဖတော် ဘုရင့်နောင်က ဆက်လက်၍ တိုးချဲ့ တည်ဆောက်ခဲ့ပေသည်။

**တပေါင်းလ**။ ။မြန်မာ့လများတွင် ၁၂ ကြိမ်မြောက်လသည် တပေါင်းလဖြစ်လေသည်။ ပဋ္ဌမလဝက်သည် ဆောင်းရာသီစက်မှ မလွတ်သေးချေ။ ဒုတိယလဝက်သို့ ရောက်မှသာနွေရာသီစက်သည်စတင်လေသည်။ ထို့ကြောင့် တပေါင်းလသည် ဆောင်းတဝက် နွေတဝက်လဖြစ်၍၊ 'နွေပူလို့ ညချမ်း၊ တပေါင်းလ လသရမ်း' ဟုလူတို့ဆိုစမှတ်ပြုကြသည်။

၂၇ လုံးသောနက္ခတ်များ စုပေါင်းထွက်ပေါ်ခြင်းကြောင့်၎င်း၊ ထန်းရည်များပေါင်းစပ်ကျို့ချက်သဖြင့် ထန်းပေါင်း ဟူသော စကားမှ ရွေ့ရှားလာခြင်းကြောင့်၎င်း တပေါင်းလဟုခေါ်တွင်သည်ဟုဆိုသည်။ ဗေဒင်အလိုအားဖြင့်ကား တပေါင်းလသည် မိန်ရာသီဖြစ်၏။ မိန်ရာသီ၏အရုပ်မှာ ငါး ၂ ကောင်ဖြစ်သည်။ စန်းယှဉ်နက္ခတ်ကား ဥတ္တရ ဘရဂုဏ္ဏီတည်း။ သရဖီကို ရာသီပန်းအဖြစ် အသိအမှတ်ပြုကြ၏။

ယင်းလတွင် မြစ်များ ချောင်းများ ရေစစ်ကာ သောင်ခုံ သဲပြင်များပေါ် ထွန်းသဖြင့် သဲပုံစေတီတည်သော ရာသီပွဲများ ကျင်းပလေ့ရှိသည်ဟု စာဟောင်း ပေဟောင်းများ၌ အဆိုရှိခဲ့၏။ ထိုလ၌နေထွက်ချိန်မှာ ၆ နာရီ ၁၀ မိနစ်ဖြစ်၍၊ နေဝင်ချိန်မှာ ၅ နာရီ မိနစ် ၅၀ ဖြစ်သည်။ နေ့တာ အနည်းငယ်တို၍ ညတာရှည်သည်။

တပေါင်းလသည် ဆောင်းကြွင်း နွေဦးလ ဖြစ်သဖြင့် လောက သဘာဝအလုံးသည် သစ်ပင်များရွက်ဟောင်းစွန့်၍ ရွက်သစ်လွှန့်ကာ အညွန့်အညှောက်များပေါ် ထွက်ခြင်းဖြင့် တင့်တယ်သာယာလှပေသည်။ မြန်မာစာပေလောကတွင် ရှေးစာဆိုအများသည် တပေါင်းလကို အထူးဖွဲ့ဆိုရေးသားခဲ့ကြလေသည်။ အင်းဝခေတ် ရဟန်းစာဆို ရှင်ဥတ္တမကျော်သည် သူ၏တောလားကဗျာကြီး၌ တပေါင်းလ၌ တင့်တယ်သာယာပုံကို 'လေခမြေသက်။ စျာန်ဝိတက်သို့၊ သစ်ရွက်ယော်ယီ၊ ဣန္ဒနီဝယ်၊ သိဂီတဝက်၊ ဖက်၍ဆေးစုံ၊ ခြယ်

သောပုံသို့၊ ရဂုံမြိုင်တွင်း၊ တောလုံးလင်းသား ' ဟု ခြီးကျူးဖွဲ့ဆိုခဲ့၏။ ရှင်အုံးညိုကလည်း တပေါင်းလ၏ ကြည်နူးရှုချင်ဖွယ်ကောင်းပုံကို ဂါထာ ၆၀ ပျို့တွင် ကာဠုဒါယီအမတ်မြတ်စွာဘုရားအား လျှောက်ကြားသည့်ဟန် ဖွဲ့နွဲ့စပ်ဆိုခဲ့၏။ ကုန်းဘောင်ခေတ် ပြဇာတ်ဆရာကြီးဦးကြင်ဥကမူ 'ရှစ်ခွင်တိုင်း၊ မှုန်မှိုင်းတဲ့ပတ်လည်။ ။သဇင်ကြွင်းငယ်နှင့်၊ အင်ကြင်းသန္တာညွန့်ငယ်တို့၊ ဖူးကွန့်ကိုက်စည်။ ။ဘမရာရွှေပိတုန်းငယ်တို့၊ ချွေသုံးကြဝတ်ရည်၊ ဆွတ်ကြည်ဘွဲ့ဖော်ကွဲ့။ ။ယင်းသည့်နွေဆိုင်၊ ရသေ့သူတော်တိုင်မှ၊ ဉာဏ်မခိုင်ချာန်ယိုင်လျှောရတယ်၊ ရာသီတွင်ခါညီပြောပေပ၊ ကြော၍သာမြဲ။ ' ဟု တပေါင်းလ၏စာပန်းချီကို ရွေးချယ် သီကုံးခဲ့ပေသည်။



တမာပင် အခက်အရွက် အပွင့်များ

**တမာပင်။** ။ရုက္ခဗေဒအလိုအားဖြင့် တမာပင်သည် 'မီလီယေစီအီး' မျိုးရင်းတွင် ပါဝင်၍၊ ယင်းကို 'အဇက်ဒီရက်ခတာ အင်ဒီကာ' ဟုခေါ်သည်။ မြန်မာများကယင်းကို သဘော်တမာခါးဟုလည်း ခေါ်ကြသေးသည်။ တမာပင်သည် အမြဲစိမ်း အပင်မျိုးဖြစ်၏။ အမြင့်မှာ ပေ ၅၀ ရှိ၍၊ အရွက်များနှင့်အုပ်အုပ်ဆိုင်းဆိုင်းရှိသည်။ ရွက်တံတခုတွင် အစိမ်းရင့်ရောင် ရှိသော အရွက်ကလေးများ ၁၀ တွဲခန့်ပါရှိသည်။ ယင်းတို့သည် ရွက်လွှဲများဖြစ်ကြသည်။ ငှက်မွေးပုံသဏ္ဍာန်ရှိ၍၊ ခွေးသွားစိတ်ကဲ့သို့ အနားများရှိသည်။ တမာပွင့်သည် ငယ်၍ ချိုမွှေးသောအနံ့ရှိသည်။ တမာသီးသည် ဆီးသီးကဲ့သို့ အခွံအတွင်း၌ အစေ့တစေ့တည်းရှိသော အသီးမျိုးဖြစ်သည်။ အရွယ်မှာ ပဲလုံးအကြီးစားခန့်ဖြစ်သည်။ တမာခေါက်သည် မွဲပြာတွင် အဖြူညှင်းပြောက်ထနေသော အရောင်အသွေးရှိသည်။ ဒေါင်လိုက်ရွေ၍ကျနေသော အစင်းများလည်း ရှိသည်။



အလုံးစုံဆေးဖက်ဝင်သော တမာပင်

တမာပင်သည် အတော်အသင့်လျင်မြန်စွာ ကြီးပြင်းလာနိုင်သော အပင်မျိုး ဖြစ်သည်။ တမာပင်သည် နုံးမြေကိုပိုမိုနှစ်သက်သော်လည်း၊ မည်သည့်မြေမျိုးတွင်မဆိုဖြစ်ထွန်းနိုင်သည်။ ရေငွေ့ကိုလည်း များများမလိုချေ။ ထိုကြောင့်မိုးခေါင်ရေရှားရပ်ဝန်း၌ လမ်းဘေးတွင်စိုက်ပျိုးရန် အသင့်တော်ဆုံးဖြစ်သည်။ တမာပင်ကို စိုက်ပျိုးရန်အကောင်းဆုံးနည်းမှာ ပျိုးခင်းတွင် မျိုးစေ့များကို ပျိုးပြီးလျှင်၊ ပေါက်လာသော အပင်ပေါက်ကလေးများကို အလိုရှိသော နေရာသို့ ရွှေ့ပြောင်းစိုက်ပျိုးခြင်းဖြစ်သည်။ မိုးတွင်း၌ မှည့်လာသော မျိုးစေ့များ မြေပေါ်သို့ မကြွေကျမီ စိုက်ပျိုးသင့်သည်။ အဘယ်ကြောင့်ဆိုသော် မျိုးစေ့များသည် လျင်မြန်စွာ ပျက်စီးသွားတတ်ခြင်းကြောင့်ဖြစ်သည်။ မျိုးစေ့များ

ကို ပျိုးသည့်အချိန်သည် မိုးရွာနိုင်သောအချိန်ဖြစ်လျှင်၊ ရေလောင်းပေးရန်မလိုချေ။ တမာပင်ကို လမ်းဘေးတွင်စိုက်ပျိုးလျှင် တပင်နှင့်တပင်ကို ပေ ၃၀ စီ ခြားထားသင့်သည်။

တမာပင်ကို မြန်မာနိုင်ငံနှင့်အိန္ဒိယနိုင်ငံတွင် အနှံ့အပြားစိုက်ပျိုးကြသည်။ ပြည်မြို့မြောက်ပိုင်းတွင် အလေ့ကျပေါက်သည်။ တမာသားသည် အရောင်တင်ဆေး စွဲလွယ်သဖြင့် အိန္ဒိယနိုင်ငံတွင် ယင်းကို အိမ်ထောင်ပရိဘောဂ ပြုလုပ်ရာ၌ အသုံးပြုကြသည်။ အိန္ဒိယနိုင်ငံတွင် တမာခေါက်ကို စင်ကိုးနာအစား အဖျားပြတ်ဆေးအဖြစ် အသုံးပြုသည်။ မြန်မာနိုင်ငံတွင် တမာပင်ကို ဆေးဖက်ဝင်သဖြင့် စိုက်ပျိုးကြသည်။ တမာခေါက်ကို အားတိုးဆေးဖော်ရာတွင်၎င်း၊ တမာသီး တမာရွက် တမာဆီကို အင်းဆက်ပိုးသတ်ဆေးနှင့်အားကြွဆေးဖော်ရာ၌၎င်း၊ တမာပွင့်နှင့်တမာစေးကို အနာအကင်းသေစေသောဆေးနှင့် အစာကြေဆေးဖော်ရာ၌၎င်း အသုံးပြုကြသည်။ တမာဆီကို သန်ကျဆေးအဖြစ်လည်း အသုံးပြုသည်။ တမာရွက်ကို ကြိတ်၍အုံလျှင် ဝဲခြောက်နှင့် ပြည်တည်သော အဖုအပိမ့်တို့ ပျောက်ကင်းစေနိုင်သည်။

**တမူးမြို့**။ ။တမူးမြို့သည် အထက်ချင်းတွင်းခရိုင်၊ တမူးမြို့နယ် မြို့အုပ်ရုံးစိုက်ရာ မြို့ဖြစ်သည်။ အာသံပြည်၊ မဏိပူရနယ်နှင့်နီးကပ်စွာတည်ရှိ၏။ မဏိပူရနယ်၏ နယ်နိမိတ်နှင့် တမိုင်သာသာခန့် ဝေးသဖြင့်၊ မြန်မာနိုင်ငံအဖို့ အရေးကြီးသော နယ်ခြားမြို့ကလေး တမြို့လည်းဖြစ်သည်။

တမူးမြို့မှ လောက်ချောင်းကိုဖြတ်၍ မဏိပူရနယ် အင်ဖာမြို့တော်သို့ မြင်းနှင့်သော်၎င်း၊ လားနှင့်သော်၎င်း သွားနိုင်သည်။ ၁၈၂၅–၂၆ ခုနှစ်လောက်က အိန္ဒိယပြည်၏ စစ်သေနာပတိ၊ ဗိုလ်ချုပ်မှူးဆာဝီလျံ ဗဒ္ဓဝုဆိုသူသည် တပ်သားတစုနှင့်အတူ မဏိပူရနယ် အင်ဖာမြို့မှ တမူးမြို့သို့ အဆိုပါ မြင်းစီးလမ်းကျဉ်းကလေးအတိုင်း ၅ ရက်တိတိ ခြေလျင်လျှောက်၍ ရောက်လာခဲ့ဘူးသည်။ ထိုအချိန်ကတည်းကပင် အဆိုပါ တမူးမြို့ အင်ဖာလမ်းသည် မြန်မာနိုင်ငံနှင့် အိန္ဒိယနိုင်ငံတို့၏ ကူးသန်းဆက်သွယ်ရေးတွင် အရေးပါအရာရောက်လိမ့်မည်ကို သတိပြုမိခဲ့ကြလေသည်။ သို့သော် ထိုစဉ်က ထိုလမ်းကို ဖောက်လုပ်ရန် အကြောင်းမပေါ်ပေါက်ခဲ့ချေ။

ဒုတိယကမ္ဘာစစ်ကြီးဖြစ်ပွား၍ မြန်မာနိုင်ငံမှ ဗြိတိသျှစစ်တပ်များဆုတ်ခွာခဲ့စဉ်က၎င်း၊ ၁၉၄၂–၄၅ ခုနှစ်များအတွင်း ဗြိတိသျှစစ်တပ်များ မြန်မာနိုင်ငံကို ပြန်လည်သိမ်းပိုက်ရန် တိုက်ခိုက်ကြိုးပမ်းခဲ့ကြစဉ်က၎င်း ထိုတမူးအင်ဖာလမ်းသည် အဓိကလမ်းမကြီး အဖြစ်သို့ ရောက်ရှိလာခဲ့လေသည်။

ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ အိန္ဒိယနိုင်ငံမှ မြန်မာနိုင်ငံသို့ ဝင်ရန်ခရီးလမ်းမှာ နှစ်လမ်းမျှသာရှိခဲ့၏။ တလမ်းမှာ ပင်လယ်ဖက်မှဝင်ရန်ဖြစ်၍၊ အခြားတလမ်းမှာ တမူးအင်ဖာလမ်းမှ ဝင်ရန်ဖြစ်သည်။ မြန်မာနိုင်ငံမှ အိန္ဒိယနိုင်ငံသို့ ထွက်ခွာရန်လမ်းမှာလည်း အဆိုပါ တမူး အင်ဖာလမ်း တလမ်းတည်းသာ ရှိလေသည်။ ရှေးဦးစွာ ချင်းတွင်းမြစ်အတိုင်း ကလေးဝမြို့အထိ ဆန်တက်ပြီးလျှင်၊ ထိုမှတဆင့် ကဘော်မြစ်ဝှမ်း တမူးမြို့အထိ ရောက်အောင်သွားရ၏။ ထိုနောက် တမူးမြို့မှနေ၍ တောအဆင့်ဆင့်ကို ဖြတ်ကျော်ကာ မဏိပူရနယ် အင်ဖာလွင်ပြင်သို့ ဆင်းသက်ရောက်ရှိနိုင်ပေသည်။ ၁၉၄၂ ခုနှစ်က ဗြိတိသျှစစ်တပ်များသည် ကလေးဝမြို့မှ တမူးမြို့အထိ မော်တော်ကားလမ်းကို ဆင်များဖြင့် ဖောက်လုပ်၍ ထိုတမူးအင်ဖာလမ်းအတိုင်း မြန်မာနိုင်ငံမှ ဆုတ်ခွာထွက်ပြေးခဲ့ကြလေသည်။ ထိုနောက် ၁၉၄၂–၄၅ ခုနှစ်များအတွင်း၌ တမူးအင်ဖာလမ်းကို လမ်းမကြီးအဖြစ် ဗူးလဒိုဇာခေါ် မြေဖို့စက်ကြီးများဖြင့် ဖောက်လုပ်ကာ မြန်မာနိုင်ငံအတွင်းသို့ အမှတ် ၁၄ ဗြိတိသျှတပ်မကြီးသည် ပြန်လည်ဝင်ရောက် တိုက်ခိုက်ခဲ့ကြလေသည်။

ဂျပန်စစ်တပ်များသည် မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးနောက်၊ အိန္ဒိယနိုင်ငံကို ဆက်လက်သိမ်းပိုက်ရန် ကြိုးစားခဲ့ကြရာတွင်၊ အထက်ဖော်ပြရာပါ ကဘော်မြစ်ဝှမ်းနှင့်တမူးအင်ဖာလမ်းတလျှောက်၌ တိုက်ပွဲများ အကြီးအကျယ်ဖြစ်ပွားခဲ့ကြ၏။ သို့သော် အဆိုပါနေရာများ စစ်တလင်းဖြစ်ခဲ့ကြရသည်မှာ ထိုအကြိမ်သည် ပဌမအကြိမ် မဟုတ်သေးချေ။ ခရစ် ၁၆ ရာစုနှစ်ခေတ်ကတည်းက ဘုရင့်နောင်မင်းတရားကြီးသည် ထိုတမူး အင်ဖာလမ်းအတိုင်း စစ်ချီ၍ အာသံပြည် မဏိပူရကို သွားရောက် တိုက်ခိုက်ခဲ့ဘူးသည်။ ၁၈၁၂ ခုနှစ်တွင်လည်း ဘိုးတော်ဘုရားသည် မဏိပူရထီးနန်းဆက်ခံရေးကိစ္စတွင် ကြားဝင်ဆုံးဖြတ်ခဲ့ပြီးနောက်၊ ကဘော်မြစ်ဝှမ်းကို သိမ်းပိုက်ခဲ့ဘူးလေသည်။

ထို့ကြောင့် အဆိုပါ တမူး အင်ဖာလမ်းမကြီးနှင့် ဆက်စပ်၍ တမူးမြို့သည် မြန်မာနိုင်ငံနှင့်အာသံပြည် မဏိပူရနယ် စပ်ဒေသတွင် အရေးကြီးသော မြို့ကလေးတမြို့အဖြစ် တည်ရှိခဲ့ပေသည်။ တမူးမြို့နယ်တခုလုံးသည် တောင်ထူထပ် ပေါများသဖြင့် ခန်းပတ်နှင့်ယုချောင်းတလျှောက်၌သာ လူနေအိမ်ခြေရှိသည်။ နေထိုင်သူများမှာ ရှမ်း၊ ချင်းနှင့် မြန်မာလူမျိုးများ ဖြစ်ကြ၏။ ၁၉၅၃ ခုနှစ်၌ ကောက်ယူသော သန်းကောင်စာရင်းအရ တမူးမြို့တွင် လူဦးရေ ၁၆၈၇ ယောက် ရှိလေသည်။

**တမန်သည်မြို့**။ ။တမန်သည်မြို့သည် မြန်မာနိုင်ငံ နာဂ တောင်တန်းခရိုင်၊ ဟုမ္မလင်း ခရိုင်ခွဲတွင် အပါအဝင်ဖြစ်

သည်။ ယခင်က အထက်ချင်းတွင်းခရိုင် လေးခရိုင်ခွဲ၊ ဟုမ္မလင်းမြို့နယ်တွင် ရွာကြီး ၉ ရွာအဝင်အပါ အခွန်တော်တိုက်နယ်တခုဖြစ်ခဲ့၏။ လွတ်လပ်ရေးရပြီးနောက်၊ တမန်သည်မြို့ကို နာဂတောင်တန်းခရိုင်ထဲတွင်ထားရှိသည်။တမန်သည်မြို့တွင် ပြည်သူ့ဆေးရုံတရုံရှိ၏။ ရှေးအခါက တမန်သည်မြို့တွင် ထမန်းလူမျိုးစစ်စစ်များသာ နေထိုင်သည်ဟု ဆိုလေသည်။ ထိုထမန်းလူမျိုးသည် လူစင်စစ်မှ တမန်းကျားအဖြစ်သို့ ပြောင်းနိုင်သည်ဟု ပြောစမှတ်ရှိလေသည်။

၁၉၁၁ ခုနှစ် သန်ကောင်စာရင်းအရ တမန်သည်မြို့တွင် အိမ်ခြေ ၇၅ အိမ်မျှသာရှိ၍၊ လူဦးရေ ၄၂၆ ယောက်ခန့်သာ ရှိလေသည်။ ယခင်က တောင်တန်းဒေသကို အုပ်ချုပ်ရန် နယ်ခြားဝန်ထောက် ရုံးစိုက်ခဲ့သောမြို့ဖြစ်၏။ တမန်သည်မြို့မှ ကုန်ကူးသန်းသွားလာရန်အတွက် မြစ်ကြောင်းခရီးကို အသုံးပြုနိုင်လေသည်။ ထိုရေကြောင်းခရီးအပြင်၊ ဟုမ္မလင်းမြို့ တဖက်ကမ်းအရောက် ဖောက်လုပ်ထားသော လမ်းတခုလည်း ရှိသည်။

**တရရှူး။** ကြံ့သူတော် — ရှု။

**တရား။** ။တရား ဆိုသည်မှာ ဘုရားဖြစ်သည်မှစ၍၊ ပရိနိဗ္ဗာန်စံလွန်တော်မူသည်အထိ၊ ၄၅ ဝါပတ်လုံးလူနတ်ဗြဟ္မာသတ္တဝါတို့အား ဟောကြားတော်မူအပ်သော ဒေသနာတော် (ဝါ) စကားတော်ကိုဆိုသည်။ ယင်းတရားတော်မှာ မဂ်လေးပါး၊ ဖိုလ်လေးပါး၊ နိဗ္ဗာန်၊ ပရိယတ်ဟူ၍ဆယ်ပါး ရှိသည်။ တနည်း၊ ၄၅ ဝါပတ်လုံး ဟောကြားတော်မူအပ်သော တရားတော်သည် ဝိမုတ္တိရသအားဖြင့် တပါးသာ ရှိသည်။ တနည်း၊ ဓမ္မဝိနယအားဖြင့် နှစ်ပါးရှိသည်။ ယင်းနှစ်ပါးတို့တွင် သုတ္တန်ပိဋကတော်နှင့် အဘိဓမ္မာပိဋကကား ဓမ္မ၊ ဝိနည်းပိဋကကား ဝိနယဖြစ်သည်။

တနည်း၊ ပဌမ ဗုဒ္ဓဝစန၊ မဇ္ဈိမ ဗုဒ္ဓဝစန၊ ပစ္ဆိမ ဗုဒ္ဓဝစန အားဖြင့် သုံးပါးရှိသည်။ ယင်းသုံးပါးတို့တွင် 'အနေကဇာတိသံသာရံ' စသော နှစ်ဂါထာသည်၎င်း၊ 'ယဒါဟဝေပါတုဘဝန္တိဓမ္မာ' စသော သုံးဂါထာသည်၎င်း ပဌမ ဗုဒ္ဓဝစနဖြစ်၏။ 'ဟန္ဒဒါနိဘိက္ခဝေအာမန္တယာမိ' စသော စကားသည် ပစ္ဆိမ ဗုဒ္ဓဝစနဖြစ်၏။ ထိုဗုဒ္ဓဝစနနှစ်ခု၏အကြား၌ ၄၅ ဝါပတ်လုံး ဟောတော်မူအပ်သော တရားတော်တို့ကား မဇ္ဈိမ ဗုဒ္ဓဝစနဖြစ်သည်။

တနည်း၊ ဝိနည်းပိဋက၊ သုတ္တန်ပိဋက၊ အဘိဓမ္မာပိဋက အားဖြင့် သုံးပါးရှိသည်။ ယင်းသုံးပါးတို့တွင် ဘိက္ခုဝိဘင်း၊ ဘိက္ခုနီဝိဘင်း၊ မဟာဝါ၊ စူဠဝါ၊ ပရိဝါ ဤငါးကျမ်းတို့ကား ဝိနည်းပိဋကဖြစ်သည်။ ဗြဟ္မဇာလသုတ်စသော သုံးဆဲ့လေးသုတ်ရှိ ဒီဃနိကာယ်၊ မူလပရိယာယသုတ်စသော တရာငါးဆယ်နှစ်သုတ်ရှိ မဇ္ဈိမနိကာယ်၊ ဩဃတရဏသုတ်စသော ခုနစ်ထောင်ခုနစ်ရာခြောက်ဆဲ့နှစ်သုတ်ရှိ သံယုတ္တနိကာယ်၊ စိတ္တပရိယာဒါနသုတ်စသော ကိုးထောင်ငါးရာငါးဆယ်ခုနစ်သုတ်ရှိ အင်္ဂုတ္တရနိကာယ်နှင့် ခုဒ္ဒကပါဌ၊ ဓမ္မပဒ၊ ဥဒါန်း၊ ဣတိဝုတ်၊ သုတ္တနိပါတ်၊ ဝိမာနဝတ္ထု၊ ပေတဝတ္ထု၊ ထေရဂါထာ၊ ထေရီဂါထာ၊ ဇာတ်၊ နိဒ္ဒေသ၊ ပဋိသမ္ဘိဒါမဂ်၊ အပဒါန်၊ ဗုဒ္ဓဝင်၊ စရိယာပိဋကဟူသော ဤဆဲ့ငါးကျမ်းရှိ ခုဒ္ဒကနိကာယ်တို့ကား သုတ္တန်ပိဋကဖြစ်သည်။ ဓမ္မသင်္ဂဏီ၊ ဝိဘင်း၊ ဓာတုကထာ၊ ပုဂ္ဂလပညတ်၊ ကထာဝတ္ထု၊ ယမိုက်၊ ပဋ္ဌာန်း ဤခုနစ်ကျမ်းတို့ကား အဘိဓမ္မာပိဋကဖြစ်သည်။

တနည်း၊ ဒီဃ နိကာယ်၊ မဇ္ဈိမ နိကာယ်၊ သံယုတ္တ နိကာယ်၊ အင်္ဂုတ္တရ နိကာယ်၊ ခုဒ္ဒက နိကာယ်အားဖြင့် ငါးပါးရှိ၏။ (နိကာယ်ငါးပါး — ရှု။)

တနည်း၊ သုတ္တ၊ ဂေယျ၊ ဝေယျာကရဏ၊ ဂါထာ၊ ဥဒါန၊ ဣတိဝုတ္တက၊ ဇာတက၊ အဗ္ဘုတဓမ္မ၊ ဝေဒလ္လ အားဖြင့် အင်္ဂါကိုးပါးရှိသည်။

တနည်း၊ ဓမ္မက္ခန္ဓာအားဖြင့် ရှစ်သောင်းလေးထောင် ရှိသည်။ (ဓမ္မက္ခန္ဓာ — ရှု။)

တရားဂုဏ်တော်ခြောက်ပါး၊

(၁) အစ၊ အလယ်၊ အဆုံး သုံးပါးလုံး၌ ကောင်းခြင်း

(၂) ကျင့်ဆောင်သူတို့အား ယခုဘဝ၌ပင် ကောင်းကျိုးကို ကိုယ်တွေ့မျက်မြင်ခံစားရခြင်း

(၃) ကျင့်ဆောင်သူတို့အား အချိန်အခါမလင့် ကောင်းကျိုးကို ကိုယ်တွေ့မျက်မြင်ခံစားရခြင်း

(၄) လာပါ၊ ရှုပါ၊ ကျင့်ကြံပါဟုခေါ်ဆောင် တိုက်တွန်းလောက်အောင် ကောင်းကျိုးကို ခံစားရခြင်း

(၅) ကျင့်ဆောင်သူတို့အား ကိုယ်သန္တာန်တွင် ရရှိပေါက်ရောက်အောင် ကောင်းကျိုးကို ဆောင်ယူပေးခြင်း

(၆) ပညာရှိ သူတော်ကောင်းတို့ ကိုယ်သန္တာန် အသီးသီး၌ ကောင်းကျိုးကို ထင်ထင်ရှားရှား သိမြင်ခံစားရခြင်း။

ဦးကြီးဖေ

**တရားစီရင်ရေး။** ။ပြည်ထောင်စုမြန်မာနိုင်ငံ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေပုဒ်မ ၁၄၁ တွင် 'တရားသူကြီးအားလုံးသည် ဤအခြေခံဥပဒေနှင့် တရားဥပဒေများကိုသာလိုက်နာ၍၊ မိမိတို့၏တရားစီရင်မှု အလုပ်ဝတ္တရားများကို လွတ်လပ်စွာဆောင်ရွက်နိုင်ရမည်' ဟု တိကျစွာသတ်မှတ်ထားသဖြင့်၎င်း၊ တရားလွှတ်တော်ချုပ် တရားဝန်ကြီးနှင့် လွှတ်တော် တရားဝန်ကြီးများကို ခန့်အပ်ရာ၌ တရားဝန်ကြီးတို့သည် 'မျက်နှာကြီးငယ်၊ မရှယ်မထောက်၊ ဆန္ဒ၊ ဒေါသ၊ ဘယာဂတိတို့ကိုမလိုက်၊ ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ

ထမ်းရွက်ပါမည်’ ဟု သစ္စာပြုစေရန် ဖွဲ့စည်းအုပ်ချုပ်ပုံ အ အခြေခံ ဥပဒေ ၁၃၉ က သတ်မှတ်ထားသဖြင့်၎င်း၊ ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း၌ တရားစီရင်ရေးကို မည်သည့်အာဏာပိုင်၊ မည်သည့်အဖွဲ့အစည်းကမျှ ချုပ်ချယ်ပိုင်ခွင့်မရှိကြောင်းထင်ရှားပေသည်။ ထိုသို့ ချုပ်ချယ်ပိုင်ခွင့်မရှိသည့်အတိုင်းလည်း၊ တရားစီရင်ရေး ဝတ္တရားများကိုဆောင်ရွက်သောသူတို့သည် အခြားသူများထံမှ ညွှန်ကြားချက်တို့ကို တောင်းခံရန်အခွင့်မရှိ၊ တောင်းခံ၍ ထိုညွှန်ကြားချက်အတိုင်း ဆောင်ရွက်ခြင်းလည်း မပြုလုပ်ရဟု တရားလွှတ်တော်ချုပ်က အတိအလင်းဆုံးဖြတ်ခဲ့ပေသည်။

တရားစီရင်ရေး အာဏာကို ပြည်ထောင်စု မြန်မာနိုင်ငံဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ တရားရုံးများအားသာမဟုတ်ဘဲ၊ အခြားပုဂ္ဂိုလ်၊ အဖွဲ့အစည်းတို့အားလည်း၊ ပါလီမန်ဆိုင်ရာ လွှတ်တော်နှစ်ရပ်က ပြဋ္ဌာန်းသော အက်ဥပဒေဖြင့် လွှဲအပ်နိုင်သည်။ ထိုသို့လွှဲအပ်ခြင်း ခံရသောသူသည်၎င်း၊ အဖွဲ့အစည်းသည်၎င်း၊ သာမန်အားဖြင့် တရားသူကြီး၊ သို့တည်းမဟုတ်၊ တရားရုံးမဟုတ်စေကာမူ၊ တရားစီရင်ရေးအာဏာကို သုံးစွဲရာ၌ အခြားတရားသူကြီးနှင့် တရားရုံးများနည်းတူပင်၊ တရားလွှတ်တော်ချုပ်၏ ကြီးကြပ်မှု အာဏာအတွင်းသို့၎င်း၊ အချို့အချို့သော ကိစ္စတို့တွင် တရားလွှတ်တော်၏ကြီးကြပ်မှုအာဏာအတွင်းသို့၎င်း သက်ဆင်း ရောက်ရှိလာသည်။ ထိုတရားစီရင်ရေး အာဏာကိုအပ်နှင်းခြင်းခံရသောပုဂ္ဂိုလ်သည် နိုင်ငံတော်သမတပင်ဖြစ်စေ၊ အစိုးရအဖွဲ့ဝင် ဝန်ကြီးပင်ဖြစ်စေ၊ ကျေးရွာလူကြီးပင်ဖြစ်စေ၊ တရားစီရင်ရေးအာဏာကို သုံးစွဲသည့် ကိစ္စတို့၌ တရားလွှတ်တော်ချုပ်၏ကြီးကြပ်မှုကိုခံယူရ၏။ တရားစီရင်ရေးအာဏာ၏ ပမာဏကို ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေတွင် သတ်မှတ်ထားခြင်း မရှိသော်လည်း တရားစီရင်မှုအာဏာ၏အဓိပ္ပါယ်အကျယ်အဝန်းကို ၁၉၄၇ ခုနှစ် တရားလွှတ်တော်ချုပ်၏ စီရင်ထုံးဖြင့် သတ်မှတ်ထားသည်။ သတ်မှတ်ထားပုံမှာ ပြည်ထောင်စုမြန်မာနိုင်ငံသားတို့၏ အခွင့်အရေးနှင့်စပ်လျဉ်းသော ပြဿနာတရပ်ရပ်ဆိုင်ရာ ဆုံးဖြတ်ပိုင်ခွင့်အာဏာ အပ်နှင်းခြင်းခံရသောသူသည် (ဝါ) အဖွဲ့သည် ပြည်ထောင်စုသားတို့၏ အခွင့်အရေးပြဿနာများကို အဆုံးအဖြတ်ပေးရာ၌ တရားစီရင်ရေးအာဏာကို သုံးစွဲသည်ဟု ယူဆရမည်ဟူလေသည်။

ထိုကြောင့် ရံဖန်ရံခါ နိုင်ငံတော်သမတအမည်ဖြင့် ချမှတ်သော အမိန့်များကို တရားလွှတ်တော်ချုပ်သို့ရှေ့တော်သွင်းစာချွန်တော်အမိန့်ကို တောင်းခံခြင်းအားဖြင့်၊ ပယ်ဖျက်ရန် လျှောက်ထားခဲ့သည်တို့ကို တွေ့ရ၏။ လျှောက်ထားသည့်အခါတွင်ထိုသို့လျှောက်ထားသည့်အတိုင်းနိုင်ငံတော်သမတ၏အမိန့်ကို တရားလွှတ်တော်ချုပ်က ပယ်ဖျက်သင့်သည့်ကိစ္စတွင် ပယ်ဖျက်သည်ကိုလည်းတွေ့ရ၏။ ထိုသည်တို့ကားပြည်ထောင်စု မြန်မာနိုင်ငံ၌ တရားလွှတ်တော်ချုပ်၏ အာဏာအတွင်းမှ နိုင်ငံသားအားလုံး၏ အထွတ်အထိပ်နေရာကိုရရှိထားသော နိုင်ငံတော်သမတသည်ပင်လျှင် တရားစီရင်ရေးအာဏာကို သုံးစွဲရာ၌ မလွန်ဆန်နိုင်ကြောင်းထင်ရှားစေသည်။ (တရားရုံးများ — လည်းရှု။)

ဒေါက်တာ ဦးအေးမောင်

**တရားရေးဌာန**။ ။တရားရုံးများသည် တရား စီရင်ရာ၌ လွတ်လပ်စွာ စီမံဆောင်ရွက်ခွင့်ရှိစေရမည်ဟု ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေက သတ်မှတ်ထားသည်။ ထိုသို့သတ်မှတ်ထားသည့်အပြင်၊ တရားလွှတ်တော်နှင့် တရားလွှတ်တော်ချုပ်မှအပ အခြားတရားရုံးများတို့ကို ပါလီမန်က အက်ဥပဒေဖြင့်တည်ဆောက်ရမည်ဟု တဖန်သတ်မှတ်ထားပြန်သည်။ ထိုသို့ဖြစ်သဖြင့် နိုင်ငံတော်အစိုးရ၏ အုပ်ချုပ်ရေးဌာနတရပ် အနေဖြင့် တရားရေးဝန်ကြီးဌာနရှိရန် လိုပေသည်။ သို့မှသာလျှင်၊ အစိုးရကိုယ်စားတာဝန်ယူ၍ ပါလီမန်တွင် ဆောင်ရွက်ရာ၌သော်၎င်း၊ ထိုပါလီမန်က အတည်ပြုပြီးသော အက်ဥပဒေအရ စီမံခန့်ခွဲရာ၌သော်၎င်း၊ ဆောင်ရွက်နိုင်သော ဌာနတခုရှိမည်ဖြစ်သည်။ သို့အတွက် တရားရေးဝန်ကြီးတဦးပါဝင်သော အစိုးရအဖွဲ့ကို ပြည်ထောင်စုမြန်မာနိုင်ငံတွင် ဖွဲ့စည်းရလေသည်။

တရားရေးဝန်ကြီးဌာနသည် တရားရုံးများနှင့် ဆက်စပ်လျက်ရှိသော အကျဉ်းထောင်ဌာနများကိုလည်း ကြီးကြပ်အုပ်ချုပ်ရသည်။ ဤနေရာတွင် အကျဉ်းထောင် (ဝါ) တရားရုံးများ၏ပြစ်ဒဏ် စီရင်ခြင်းခံရပြီးသည့်နောက် ချုပ်နှောင်ခြင်းခံနေရသော သူများကို သာမန်အားဖြင့်ထားရာအရပ်နှင့် တရားရုံးများ၌ အစစ်ဆေးခံနေစဉ်အတွင်း ထုတ်ယူကာ စုံစမ်းစစ်ဆေးနေခိုက်တွင် ချုပ်နှောင်ထားသူတို့ကို သီးခြားထားရှိသော အချုပ်ခန်းမျိုးကို ခွဲခြားရန်လိုသည်။ ပြစ်ဒဏ် စီရင်ခြင်းမခံရသေးသော သူတို့ကိုသာလျှင် ချုပ်နှောင်ထားရာဖြစ်သော အချုပ်ခန်းသည် ယေဘုယျအားဖြင့် တရားရေးဝန်ကြီးဌာနလက်အောက်၌မဟုတ်ဘဲ၊ ပြည်ထဲရေးဝန်ကြီးဌာန၏လက်အောက်၌သာ တည်ရှိ၏။

တရားရေးဝန်ကြီးဌာန၏ တရားရုံးများနှင့် သက်ဆိုင်သော ပဓာန လုပ်ငန်းများမှာ တရားလွှတ်တော်ချုပ်နှင့် တရားလွှတ်တော်တို့က အမည်တင်သွင်းသော စက်ရှင်နှင့် လက်ထောက်စက်ရှင်တရားသူကြီးလောင်းတို့အား စီစစ်ခန့်အပ်ရန် နိုင်ငံတော်သမတ၏အမိန့်ကိုခံယူခြင်း၊ စက်ရှင်တရားသူကြီးများ နေရာဌာနပြောင်းရွှေ့ရေး၊ ခွင့်ပေးရေးကို ဆောင်ရွက်ခြင်း၊ တရားရုံးများ၌ လိုက်ပါဆောင်ရွက်သော ရှေ့နေ ရှေ့ရပ်များ၏ အရည်အချင်းကို သတ်မှတ်ခြင်း၊

တရားမ၊ ရာဇဝတ်ဥပဒေများကို ပြုပြင်ပြောင်းလဲရာ၌ ရှေ့နေချုပ်ဌာန၏အကြံဉာဏ်ကိုရယူ၍၊ သက်ဆိုင်ရာ ဥပဒေပြုပြင်ရန် ပါလီမန်လွှတ်တော်နှစ်ရပ်သို့ အကြံပေးတိုက်တွန်းခြင်း၊ နိုင်ငံတော်အစိုးရ ရှေ့နေချုပ်၊ လက်ထောက် ရှေ့နေချုပ်၊ လွှတ်တော်အစိုးရရှေ့နေစသည်တို့ ခန့်အပ်ခြင်း၊ခွင့်ပေးခြင်း၊ နုတ်ပယ်ခြင်း၊ နယ်အသီးအသီးအတွက် အစိုးရရှေ့နေများခန့်အပ်ရာ၌ နိုင်ငံတော်ရှေ့နေချုပ်၏ ထောက်ခံချက်ကို တောင်းယူ၍ ဆောင်ရွက်ခြင်း စသည်တို့ဖြစ်၏။ စက်ရှင်တရားသူကြီးနှင့် အထူးတရားသူကြီးအောက်ငယ်သော တရားမတရားသူကြီးတို့၏ရာထူးတိုးမှု၊ နေရာပြောင်းမှုတို့မှာ တရားရေးဝန်ကြီးဌာန အာဏာအတွင်းသို့ လက်ရှိဥပဒေအရ မရောက်ပဲ၊ တရားလွှတ်တော်၏ အာဏာအတွင်း၌သာ တည်ရှိလေသည်။

အကျဉ်းထောင်များတွင် စည်းကမ်းသေဝပ်မှု၊ အုပ်ချုပ်မှု၊ စီမံခန့်ခွဲမှုတို့၌ တရားရုံးများက သေဒဏ်မှအစ ငွေဒဏ်အထိ ချမှတ်သော အပြစ်ဒဏ်တို့ကိုစီစစ်၍၊ လျှော့ပေါ့သင့်သည်ထင်က နိုင်ငံတော်သမတအား ထောက်ခံစာတင်သွင်း လျက်လျှော့ပေါ့နိုင်ခြင်း၊ အကျဉ်းထောင်တရပ်ရပ်၌ နှောင်ဖွဲ့ခြင်းခံနေရသော အကျဉ်းသားတဦးအား ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ အခြား အကျဉ်းထောင်တရပ်သို့ ပြောင်းရွှေ့စေရန် အမိန့်ချမှတ်ခြင်း၊ စသည်တို့သည် တရားရေးဝန်ကြီးဌာန၏နေ့စဉ်လုပ်ငန်းများပင်ဖြစ်၏။ အကျဉ်းထောင်များအတွင်းရှိ ချုပ်နှောင်ခံနေရသော သူတို့၏ကျန်းမာရေး၊ နေရေးထိုင်ရေးကိစ္စတို့ကိုလည်း တာဝန်ယူလုပ်ကိုင်ဆောင်ရွက်ရ၏။ မြန်မာနိုင်ငံ၌ ပြည်ထဲရေးဝန်ကြီးနှင့် တရားရေးရာ ဝန်ကြီးတို့သည် သီးခြားဌာနလက်ကိုင် ဝန်ကြီးများဖြစ်ကြသော်လည်း၊ ဗြိတိန်နိုင်ငံ၌မူ ပြည်ထဲရေးနှင့် တရားရေး နှစ်ဌာနကို တပေါင်းတည်းပြု၍၊ ဝန်ကြီး တဦးတည်းက ဆောင်ရွက်သည်ကိုတွေ့ရ၏။

ပါလီမန်လွှတ်တော်နှစ်ရပ်၏ ညီလာခံကိစ္စများနှင့်ပါလီမန်လွှတ်တော်အမတ်လောင်းများ၏ အရည်အချင်းကို စစ်ဆေးခြင်း၊ ထိုအရည်အချင်းတို့ပျက်ယွင်းသည်ဟုတွေ့ရပါက ဥပဒေနှင့်အညီ အရေးယူဆောင်ရွက်ရန် နိုင်ငံတော်သမတအား ထောက်ခံခြင်းဟူသောလုပ်ငန်းသည် တရားရေးဌာန၏ လုပ်ငန်းဖြစ်၏။

တရားစီရင်ရာ၌ အထက်တွင်ဖော်ပြသကဲ့သို့ ပြစ်ဒဏ်ချမ်းသာခွင့်လျှော့ပေါ့ပေးရန် နိုင်ငံတော်သမတသို့ တောင်းခံနိုင်သည်မှအပ၊ ရာဇဝတ်တရားရုံးတရပ်ရပ်မှ တရားသေလွှတ်လိုက်သည့် ရာဇဝတ်မှုကိုမူ တရားလွှတ်တော်သို့ အရေးယူရန် နိုင်ငံတော်သမတ၏ အခွင့်ကို တောင်းခံနိုင်ပိုင်ခွင့် ရှိသည်မှတပါး အခြားအာဏာမရှိ၊ တည်ဆဲဖြစ်သော အက်ဥပဒေအချို့အချို့တွင် အချို့အချို့သော ရာဇဝတ်ပြစ်မှုတို့အတွက် ရာဇဝတ်ကြောင်းဖြင့် တရားခံကို တရားစွဲဆိုရာတွင်၊ နိုင်ငံတော်သမတ၏ခွင့်ပြုချက် သဘောတူညီချက်ရရှိမှသာလျှင် တရားရုံးများက စစ်ဆေးစေရမည်ဟု သတ်မှတ်လျက်ရှိပေသည်။ ဤသို့သော ကိစ္စများတွင် နိုင်ငံတော်သမတ၏ သဘောတူညီချက်၊ ခွင့်ပြုချက်တို့ကို ရယူရန်နှင့်ထုတ်ပြန်နိုင်ရန်တို့မှာ တရားရေးဝန်ကြီးဌာန၏ ဝတ္တရားဖြစ်ပေသည်။

ဒေါက်တာ ဦးအေးမောင်

**တရားရုံးများ။** ။ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း၌ တရားစီရင်ရေးဆိုင်ရာ အလုပ်ဝတ္တရားများနှင့်အာဏာများကို အသုံးပြုဆောင်ရွက်ရသော သူတို့သည် ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံဥပဒေ ပုဒ်မ ၁၃၃ နှင့်အညီသော်၎င်း၊ ထိုဥပဒေပုဒ်မ ၁၅၀ နှင့်အညီသော်၎င်း၊ ခန့်အပ်ခြင်းခံရသူများသာလျှင်ဖြစ်ကြ၍၊ ထိုပုဒ်မများတွင်ပါဝင်သော ပြဋ္ဌာန်းချက်တို့ကို သိရန်လိုပေသည်။

ပုဒ်မ ၁၃၃ တွင် 'ပြည်ထောင်စုနိုင်ငံတဝန်းလုံး၌၊ တရားစီရင်ရေးကိစ္စကို ဤအခြေခံဥပဒေအရသော်၎င်း၊ တရားဥပဒေအရသော်၎င်း၊ တည်ထောင်ထားသော တရားရုံးများတွင်ဤအခြေခံဥပဒေနှင့်အညီ၊ သို့တည်းမဟုတ်တရားဥပဒေနှင့်အညီ ခန့်ထားသော တရားသူကြီးများက စီမံအုပ်ချုပ်ရမည်' ဟူ၍၎င်း၊ ပုဒ်မ ၁၅၀ တွင် 'ဤအခြေခံဥပဒေအရ ခန့်ထားသော တရားသူကြီးသော်၎င်း၊ တည်ထောင်ထားသော တရားရုံးသော်၎င်း မဟုတ်စေကာမူ၊ ကန့်သတ်ထားသည့် တရားစီရင်ရေးဆိုင်ရာ အလုပ်ဝတ္တရားများကိုဖြစ်စေ၊ အာဏာများကိုဖြစ်စေ၊ သုံးစွဲဆောင်ရွက်စေရန် တရားဥပဒေဖြင့် ကျနစွာ လွှဲအပ်ခြင်းခံရသောသူ၏ သို့တည်းမဟုတ် အဖွဲ့၏သုံးစွဲဆောင်ရွက်မှု၌ ခိုင်လုံခြင်းရှိသည်ကို ဤအခြေခံဥပဒေရှိ မည်သည့်ပြဋ္ဌာန်းချက်ကမျှ ပျက်ပြယ်အောင်မပြုရ' ဟူ၍၎င်း ပြဋ္ဌာန်းထားလေသည်။

ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ တည်ထောင်ထားသော တရားရုံးများသည် တရားလွှတ်တော်ချုပ်နှင့် တရားလွှတ်တော်တို့ပင်ဖြစ်၏။ တရားလွှတ်တော်ချုပ်သည် သာမန်အားဖြင့် အယူခံရုံးအဖြစ်ဆောင်ရွက်လျက် တရားဝန်ကြီးတို့သည်လည်း သာမန်အားဖြင့် အယူခံအာဏာများကို သုံးစွဲကြရ၏။ ထိုအယူခံအာဏာများမှ အပဖြစ်သော တရားလွှတ်တော်ချုပ်၏ အထူးအာဏာတို့မှာ၊ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေတွင် နိုင်ငံသားတို့ ရရှိပိုင်ဆိုင်စေရမည်ဟု သတ်မှတ်ထားသော မူလအခွင့်အရေးများကို ကာကွယ်ပိုင်ခွင့်၊ ကာကွယ်ပေးနိုင်ရန်အာဏာတို့ဖြစ်ကြ၏။ တရားဥပဒေနှင့်အညီမဟုတ်ဘဲ ချုပ်နှောင်ခြင်းခံနေရသော ပြည်ထောင်စုနိုင်ငံသားတဦးသည် ရှေ့တော်သွင်း စာချွန်တော်အမိန့်ကို တရားလွှတ်တော်တွင် တောင်းခံနိုင်ခွင့်ရှိ၏။

ထိုအမိန့်မျိုးကို တရားလွှတ်တော်ချုပ်ကလည်း ထုတ်ပေးရန် အာဏာရှိ၏။ အလားတူပင် အာဏာပေး စာချွန်တော်အမိန့်၊ တားမြစ်ရေး စာချွန်တော်အမိန့်၊ အာဏာပိုင်မေး စာချွန်တော်အမိန့်၊ အမှုခေါ် စာချွန်တော်အမိန့်ဖြင့် နိုင်ငံသားတို့၏ မူလအခွင့်အရေးများကို ကာကွယ်ပေးနိုင်ရန် တရားလွှတ်တော်ချုပ်၌အာဏာရှိ၏။

တရားလွှတ်တော်ကား အယူခံရုံးသက်သက်မဟုတ်။ ရန်ကုန်မြို့တော် နယ်နိမိတ်အတွင်း၌ ဖြစ်ပွားသော ရာဇဝတ်မှု၊ တရားမမှုတို့ကို တရားလွှတ်တော်သည် မူလစစ်ဆေးရေးရုံးအဖြစ် စီရင်နိုင်ခွင့်အာဏာရှိ၏။ ထိုနယ်နိမိတ်အတွင်း၌ ဖြစ်ပွားသော သေးငယ်သော ရာဇဝတ်မှု၊ တရားမမှုတို့ကို ရန်ကုန်မြို့ရှိ အခြားရာဇဝတ်ရုံး၊ တရားမရုံးများက စစ်ဆေးစီရင်နိုင်ရန် ဥပဒေဖြင့် သတ်မှတ်ထား၍၊ ယေဘုယျအားဖြင့် ထိုရုံးများက စီရင်ပိုင်ခွင့်ရှိသော်လည်း၊ တရားလွှတ်တော်က ထိုအမှုကိစ္စများကို စစ်ဆေးစီရင်လိုက စီရင်ပိုင်ခွင့်အာဏာရှိ၏။ မူလစီရင်ပိုင်ခွင့်ရုံးအနေနှင့် သာမန်အားဖြင့် ရန်ကုန်မြို့ နယ်နိမိတ်အတွင်း၌သာ တရားလွှတ်တော်သည် အာဏာပြန့်နှံ့သော်လည်း၊ အယူခံရုံးအနေဖြင့်ကား နိုင်ငံတဝန်းလုံးသို့အာဏာပြန့်နှံ့၏။ ၁၉၄၇ ခုနှစ် ပြည်ထောင်စု တရားစီရင်ရေး အက်ဥပဒေပုဒ်မ ၂၁ တွင်သော်၎င်း၊ ပုဒ်မ ၂၃ တွင်သော်၎င်း၊ တရားလွှတ်တော်သည် တရားလွှတ်တော်ချုပ်မှတပါး ပြည်ထောင်စုအတွင်းရှိ ကျန်တရားမရုံး၊ ရာဇဝတ်တရားရုံးများတို့မှ အယူခံဝင်နိုင်ရန်ဖြစ်သော အယူခံတရားရုံးဖြစ်ရမည်ဟု အတိအလင်းပြဋ္ဌာန်းထား၏။

တရားလွှတ်တော်ချုပ်နှင့် တရားလွှတ်တော် နှစ်ရပ်တို့၏ လက်အောက်၌ ရာဇဝတ်ကျင့်ထုံး ဥပဒေအရ သော်၎င်း၊ ၁၉၅၀ ပြည့်နှစ် တရားရုံးများ အက်ဥပဒေအရ သော်၎င်း၊ တည်ထောင်ထားသော ရာဇဝတ်ရုံးများ၊ တရားမရုံးများ ရှိကြ၏။ သီးသန့်သော ကိစ္စများအတွက် ရံဖန်ရံခါ အက်ဥပဒေတို့ဖြင့် တည်ထောင်ထားသော တရားရုံးများလည်း ရှိကြ၏။ ဥပမာအားဖြင့် ကောက်ပဲသီးနှံရောင်းဝယ်ရေးအဖွဲ့၏ ဆန်စပါးအရောင်းအဝယ်တို့၌ အငြင်းပွားမှုများကို ဆောလျင်စွာ ပြီးပြတ်နိုင်စေရန်၊ ၁၉၅၁ ခုနှစ် အထူးတရားရုံး အက်ဥပဒေဖြင့် တည်ထောင်ထားသော အထူးတရားရုံးသော်၎င်း၊ ရာဇဝတ်မှုကြီးများကို ဆောလျင်စွာပြီးပြတ်နိုင်စေရန် ၁၉၄၇ ခုနှစ် အထူးရာဇဝတ်ခုံတော်အဖွဲ့ ဥပဒေအရ ဖွဲ့စည်းသောခုံများသော်၎င်း ရှိကြ၏။

မူလစစ်ဆေးရေး ရာဇဝတ်ရုံးအနေဖြင့် တရားလွှတ်တော်သည် ရန်ကုန်မြို့ နယ်နိမိတ်အတွင်း၌ ဖြစ်ပွားသော ရာဇဝတ်မှုကြီးများကို အာဏာပိုင်၏။ ထိုသို့သောအမှုမျိုးကို စစ်ဆေးရာ၌ တရားဝန်ကြီးတဦးနှင့်ဂျူရီလူကြီး ၉ ဦးတို့က ဆောင်ရွက်ရ၏။ အမှုအဖြစ်အပျက်၏ အဆုံးအဖြတ်သည် ဂျူရီလူကြီးများ၏ဝတ္တရားနှင့်အာဏာအတွင်းဖြစ်၍၊ ဂျူရီလူကြီး ၉ ဦးတို့က စုံညီဆုံးဖြတ်ချက်ကို တရားဝန်ကြီးသည် ပယ်ဖျက်ပိုင်ခွင့်မရှိချေ။ ထိုအဆုံးအဖြတ်အတိုင်း တရားဝန်ကြီးက စီရင်ရ၏။ ဂျူရီလူကြီး ၉ ဦးစလုံးသဘောတူညီမှုမရရှိခဲ့လျှင်၊ အဆုံးအဖြတ်ကို တရားဝန်ကြီးက လက်မခံဘဲ နေလိုက နေနိုင်၏။ သို့သော် ထိုသို့လက်မခံဘဲနေခဲ့လျှင်၊ အမှုကို အခြားဂျူရီလူကြီး ၉ ဦးရှေ့တွင် တဖန်ပြန်၍ အမှုစစ်ဆေးရန်အမိန့်ချမှတ်ရ၏။ တရားဥပဒေနှင့် စပ်လျဉ်းသော ပြဿနာတို့ကို ဂျူရီလူကြီးတို့အာဏာမပိုင်။ တရားဝန်ကြီးကသာ အဆုံးအဖြတ်ပေးရ၏။ သာမန်အားဖြင့် ထိုသို့သောရုံးက ချမှတ်သော အမိန့်ကို အယူခံနိုင်ခွင့်မရှိ။ ထိုသို့ တရားလွှတ်တော်က အရေးပိုင်သော အမှုကြီးမျိုးသည် ရန်ကုန်မြို့တော်အပြင်အပ၌ ဖြစ်ပွားခဲ့သည်ရှိသော်၊ ထိုအမှုမျိုးကို စက်ရှင်တရားရုံးများက စစ်ဆေးစီရင်ရ၏။ မော်လမြိုင်မြို့မှအပ အခြားဒေသတို့၌ ဖြစ်ပွားသောအမှုတို့ကို စစ်ဆေးရာ၌ စက်ရှင်တရားသူကြီးသည် တရား ဥပဒေအချက်အလက်တို့ကိုင်၎င်း၊ အမှုအခြင်းအရာ အဖြစ်အပျက်ကိုသော်၎င်း၊ စီရင်ရ၏။ မော်လမြိုင်မြို့ မျူနီစီပယ်အတွင်း၌ ဖြစ်ပွားသော အမှုတို့အတွက်မူ၊ စက်ရှင်တရားသူကြီးသည် ဂျူရီလူကြီးများအကူအညီဖြင့် အမှုအခြင်းအရာကို စီစစ်ရ၏။ သို့သော် တရားလွှတ်တော်၌ ဆောင်ရွက်သော ဂျူရီလူကြီးများ၏ အာဏာအခွင့်အရေးတို့နှင့် မော်လမြိုင် စက်ရှင်တရားရုံး၌ ဆောင်ရွက်ရသော ဂျူရီလူကြီးတို့၏ အခွင့်အာဏာတို့သည် ထပ်တူထပ်မျှမဟုတ်ချေ။ စက်ရှင်ရုံး၌ ဂျူရီလူကြီးများ တညီတညွတ်တည်း အဆုံးအဖြတ်ပေးသော်လည်း၊ ထိုအဆုံးအဖြတ်ကို စက်ရှင်တရားသူကြီးက လုံလောက်သောအကြောင်းရှိသည်ဟု ထင်မြင်ပါက လက်မခံဘဲနေပိုင်၏။

တရားလွှတ်တော်သည်သော်၎င်း၊ စက်ရှင်တရားရုံးသည်သော်၎င်း၊ ထိုသို့သော မူလတရားစီရင်ရေး ရာဇဝတ် အာဏာကို သုံးစွဲရာ၌ လက်အောက်တရားရုံးတရပ်ရပ်မှ ကနဦးစစ်ဆေးပြီးနောက် ထိုရုံးတို့သို့တင်ပို့သောအမှုတို့ကိုသာ စစ်ဆေးပိုင်ခွင့်ရှိ၏။ ဦးတိုက် လျှောက်လွှာများကိုသော်၎င်း၊ ရဲအဖွဲ့မှ တိုက်ရိုက်တင်သွင်းသော အမှုများကိုသော်၎င်း၊ စစ်ဆေးရန်အာဏာမရှိ။ (ဤအစီအစဉ်ကို မဟာမိတ်စစ်တပ်များ မြန်မာပြည်ကို ဂျပန်တို့လက်မှ ပြန်လည် သိမ်းပိုက်သည့်အခါတွင် ပြည်တွင်းအခြေအနေအရ ခေတ္တရပ်သိမ်း၍ အထူးရာဇဝတ်တရားသူကြီးများကို ခန့်အပ်၍ ရာဇဝတ်မှုကြီးများကို စစ်ဆေးစေခဲ့သည်။ ထိုယာယီအစီအစဉ်မှာ ယနေ့တိုင်ပင် တည်မြဲ၍နေသေး၏။)

တရားလွှတ်တော်နှင့် စက်ရှင်တရားရုံးများမှအပ အခြား ရာဇဝတ်ရုံးများမှာ၊ ခရိုင်ရာဇဝတ်တရားသူကြီး၊ နယ်ပိုင်

ရာဇဝတ်တရားသူကြီး၊ မြို့ပိုင်ရာဇဝတ်တရားသူကြီးနှင့် ရာဘက်တရားသူကြီးများ ဖြစ်ကြ၏။ တရားလွှတ်တော်သည်သော်၎င်း၊ စက်ရှင်တရားသူကြီးသည်သော်၎င်း၊ယာယီအစီအစဉ်ဖြင့် ခန့်အပ်ထားသော အထူးတရားသူကြီးသည်သော်၎င်း၊ သေဒဏ်သတ်မှတ်နိုင်သော အာဏာကိုရရှိကြသဖြင့်၊ အမှုအမျိုးအမည် အကန့်အသတ်မရှိဘဲ စစ်ဆေးပိုင်ခွင့်ရှိကြ၏။ ခရိုင်ရာဇဝတ်တရားသူကြီးနှင့် နိုင်ငံတော်သမတက အထူးအာဏာ အပ်နှင်းခြင်းခံရသော တရားသူကြီးတို့မှာကား ထောင်ဒဏ် ၇ နှစ်အထိသာလျှင် အပြစ်ပေးပိုင်ခွင့်ရှိကြ၏။ သေဒဏ်စီရင်ထိုက်သော အမှုတို့ကို ထိုတရားသူကြီးတို့က အာဏာမပိုင်ကြချေ။ အခြားတရားသူကြီးတို့မှာ ပဌမတန်းတရားသူကြီးဖြစ်လျှင် ထောင်ဒဏ် ၂ နှစ်အထိ အပြစ်ပေးနိုင်၏။ ဒုတိယတန်းတရားသူကြီးဖြစ်လျှင် ထောင်ဒဏ် ၆ လအထိ အပြစ်ပေးနိုင်၏။ တတိယတန်း တရားသူကြီးဖြစ်လျှင် တလထက် မပိုသော အပြစ်ဒဏ်ကို သတ်မှတ်နိုင်၏။

တရားလွှတ်တော်သည် ရန်ကုန်မြို့အတွင်းရှိ ရာဇဝတ်ရုံးများထံမှသော်၎င်း၊ မြန်မာနိုင်ငံအတွင်းရှိ စက်ရှင်တရားရုံးများထံမှသော်၎င်း၊ အခြားရုံးများမှထောင်ဒဏ် ၄ နှစ်ထက်ပိုမိုသက်မှတ်သော အမှုများတွင်သော်၎င်း၊ အယူခံစစ်ဆေးပိုင်ခွင့်ရှိ၏။ စက်ရှင်တရားရုံးများသည် မိမိတို့အာဏာသက်ရောက်ရာ နယ်နိမိတ်အတွင်းရှိ တရားရုံးများရှိ ပဌမတန်းရာဇဝတ်တရားသူကြီးများနှင့် ၄ နှစ်ထက်မပိုသော အပြစ်ဒဏ်စီရင်ခြင်းခံရသည့် အမှုများတွင် အယူခံစစ်ဆေးပိုင်ခွင့်ရှိ၏။ ဒုတိယတန်းနှင့်တတိယတန်းအာဏာရ တရားသူကြီးတို့၏စီရင်ချက်များကိုမူ ခရိုင်ရာဇဝတ်တရားသူကြီးက အယူခံ လက်ခံပိုင်ခွင့်ရှိ၏။

တရားမမှုများအတွက်မှာမူ တရားလွှတ်တော်သည် ရန်ကုန်မြို့အတွင်း တန်ဘိုးငွေ ကျပ်တသောင်းထက် ပိုသော အမှုများကို မူလစစ်ဆေးမှုအနေဖြင့် လက်ခံစစ်ဆေး၍၊ ထိုအမှုများမှ၎င်း၊ တရားမခရိုင်ရုံးများမှ မူလစစ်ဆေးမှုများမှသော်၎င်း၊ တရားမမြို့နယ်တရားသူကြီး၊ တရားမနယ်ပိုင်တရားသူကြီးရုံးအမှုများမှသော်၎င်း၊ ဒုတိယအယူခံမှုအဖြစ်ဖြင့် လက်ခံစစ်ဆေးပိုင်ခွင့်ရှိ၏။ တရားမ ခရိုင်တရားရုံးသည် မိမိ၏အာဏာ သက်ရောက်ရာနယ်အတွင်း၌ ဖြစ်ပွားသော ကျပ်တသောင်းထက်ပို၍ တန်ဘိုးရှိသော အမှုများကို မူလစစ်ဆေးမှုအနေဖြင့် စီရင်ရပြီးလျှင် ထိုအောက် တန်ဘိုးရှိသော အမှုများကို တရားမနယ်ပိုင်တရားရုံး၊ သို့မဟုတ် မြို့နယ်တရားမရုံးများမှ တက်ရောက်လာသော အယူခံများအဖြစ်ဖြင့် စီရင်ရ၏။

တရားလွှတ်တော်ချုပ်မှုကား ပြည်ထောင်စုမြန်မာနိုင်ငံတဝန်းလုံး၌ အပြီးသတ်အယူခံရုံး ဖြစ်သဖြင့် အလွန်ကျယ်ပြန့်သော အယူခံအာဏာရှိပေ၏။ သာမန် အယူခံအာဏာသာမက၊ အထူးအယူခံအာဏာရှိသဖြင့် မည်သည့်အယူခံမှုမျိုးကိုမျှ ထိုရုံးတော်သည် အာဏာမပိုင်ဟုမဆိုနိုင်။ အယူခံ ဝင်ခွင့်ပြုသင့်၊ မပြုသင့်ကိုသာလျှင် ထိုရုံးက စီစစ်လျက် တရားတိမ်းစောင်းခြင်းမဖြစ်စေရန် ထိန်းသိမ်းရပေသည်။

ဒေါက်တာဦးအေးမောင်

တရော်ပင်။ ။ရုက္ခဗေဒအလိုအားဖြင့် တရော်ပင်မျိုး၌ မျိုးကွဲများစွာရှိသည်။ ယင်းတို့အနက် 'ဂရူးဝီးယား အေရှားတစ်ကား' ကို ကြက်တရော်ဟူ၍၎င်း၊ ကုက်တရော်ဟူ၍၎င်း၊ 'ဂရူးဝီးယား အီလာတို့စတီမွိုက်ဒီ' ကို



တရော်ပင်၏ အခက်အရွက်နှင့် အဖူးအပွင့်များ

ပင်တရော်ဟူ၍၎င်း ခေါ်ကြသည်။ ယင်းတို့ကို မြန်မာနိုင်ငံနေရာအနှံ့အပြား၌ တွေ့ရသည်။ တရော်ခေါက်များမှ ချွဲကျိသော အရည်ထွက်သည်။ အထူးအားဖြင့် တရော်ခေါက်ကို ထုပြီးနောက် ရေတွင်စိမ်၍ ခေါင်းလျှော်ရသည်။ ခေါင်းလျှော်ရည်လုပ်ရာ၌ တရော်ခေါက်ကို ကင်ပွန်းသီးနှင့်ရောစပ်၍ လုပ်လေ့ရှိကြသည်။ သကြားချော်ချက်ရာ၌လည်း တရော်ခေါက်ကို အသုံးပြုတတ်ကြသည်။ တရော်ပင်မျိုးသည် ဆေးဖက်ဝင်၏။ အချို့အပင်မျိုးမှ အခေါက်ကို အဟာရဖြေဆေးအဖြစ်ဖြင့် အသုံးပြုကြသည်။ အချို့အပင်မျိုး၌ အသီးသည် ချုပ်သောသတ္တိရှိသည်။ အချို့၌ကား အရွက်သည် အရေပြားရောဂါအတွက် ကောင်း၏။

တရော်အမည်ဖြင့် အပင်တမျိုးရှိသေးသည်။ ထိုတရော်ပင်မျိုးကို ရုက္ခဗေဒ အလိုအားဖြင့် 'အက်စီကေးရီးယား အာဂယ်လေ့ခါး' ဟုခေါ်သည်။ မျိုးရင်းမှာ 'ယူဖေဘီယေစီအီး' ဖြစ်သည်။ ပင်လတ်စား အပင်မျိုး ဖြစ်၍ ရေတက် ရေကျရှိသော ဒေသများတွင် ပေါက်ရောက်သည်။ ထိုအပင်မှ တရော်ရည်မှာ အမြုပ်ထသည်။ သစ်သားအနံ့မှာ ဆိုးရွားသည်။ အသားပျော့၍ အဖြူရောင်ရှိသည်။ ကြာရှည်မခံပေ။ ယင်းကို ပေါ့ပါးသော အကြမ်းထည် ပရိဘောဂပစ္စည်းများ လုပ်ရာ၌၎င်း၊ သေတ္တာများပြုလုပ်ရာ၌၎င်း အနည်းအကျဉ်းအသုံးပြုကြသည်။ မီးခြစ်ဆံများ လုပ်ရန်အတွက်လည်း ကောင်းမွန်သည်ဟုဆိုသည်။

**တယော**။ ။တယောသည် ကြိုးတပ်တူရိယာတွင် အပါအဝင်ဖြစ်သည်။ (တူရိယာ — ရှု။) မူလက တယောသည် ယနေ့ ကျွန်ုပ်တို့အသုံးပြုနေကြသော တယောလောက် သာယာနာပျော်ဖွယ်ရှိသော အသံကိုမပေးနိုင်ချေ။ သို့ရာတွင် ခရစ် ၁၆၀၀ ပြည့်နှစ်လောက်က ပေါ်သောတယောလုပ်သမား နီကိုလော အားမားတီနှင့် အန်တိုးနီးယပ်စထရားဒီဗဲရီယပ်တို့လက်ရာကောင်းခြင်းကြောင့်၊ ယခုအခါ တယောသံသည် အလွန်သာယာ နာပျော်ဖွယ်ရှိလေသည်။ တယောလုပ်ရာ၌ လက်ရာကောင်းသဖြင့် နာမည်ကျော်ကြားသော အခြားပုဂ္ဂိုလ်မှာ ဂျူဇက်ပေ ဂွါနီယဲရီဖြစ်လေသည်။

တယောသံကောင်းမကောင်းမှာ အသုံးပြုသော သစ်သားအပေါ်၌တည်သည်။ တယောလုပ်ရန် သစ်သားကို အသားသေအောင် နှစ်ချီထားရသည်။ သစ်သားအမျိုးအစားကိုလည်း အထူးရွေးချယ်ရသည်။ သို့မှသာလျှင် တယောလုပ်ရာ၌ပါဝင်သော သစ်သားအစိတ်အပိုင်းတို့သည် ခုံးခြင်း၊ အက်ခြင်း၊ လိမ်ခြင်း၊ ကွဲခြင်းမဖြစ်ဘဲရှိနိုင်သည်။ တယောလုပ်ရာ၌ သစ်သားအစိတ်အပိုင်း အမျိုးပေါင်း ၇၀ ကျော်မျှဖြင့်ပြုလုပ်ရသည်။ လိုရာပုံစံအတိုင်း သစ်သားကို ခွဲခြမ်းစိတ်ဖြာ၍၊ အပိုင်းအစတို့ကို အံကျအောင် ကော်ဖြင့် ဆက်စပ်ရသည်။ အပြီးသတ်၌ တယောကို အရောင်တင်ပေးရသည်။

တယောတွင် ပါဝင်သော အစိတ်အပိုင်းတို့တွင် အရပ်စကားဖြင့် တယောအိုးဟုခေါ်သော ကိုယ်ထည်သည် အရေးအကြီးဆုံးဖြစ်သည်။ တယောကိုယ်ကို ပါးလွှာသော ပျဉ်ပြားဖြင့် ပြုလုပ်ရသည်။ တယောကိုယ်၌ ကျောပိုင်းနှင့်ဝမ်းပိုင်းဟူ၍ရှိသည်။ ထိုကျောပိုင်းနှင့်ဝမ်းပိုင်းကို ဘေးပတ်လည်၌ သစ်သားဘောင်ဖြင့် ဆက်စပ်ထားလေရာ၊ ထိုဘောင်ကို ဘေးပတ်ဟုခေါ်သည်။ ပျဉ်နှစ်ချပ်ကို အရှည်လိုက်စပ်၍ ကျောပိုင်းကိုလုပ်ရမြဲဖြစ်သည်။ သို့သော်တခါတရံ ပျဉ်တချပ်တည်းနှင့်စပ်၍လုပ်သည်လည်း ရှိသည်။

တယော၌ သေးသွယ်သော လည်တံရှိ၏။ လည်တံအထက်ပိုင်း၌ အောက်ဖက်သို့ အနည်းငယ်ကော့၍ဆင်းသော ခေါင်းပိုင်းရှိသည်။ ထိုခေါင်းပိုင်း၏ ဘေးတဖက်တချက်တွင် အပေါက်နှစ်ခုစီရှိရာ၊ ပေါင်းလေးပေါက်ဖြစ်သည်။ ထိုလေးပေါက်တွင် သော့ဟူသော တယောကြိုးချည်တံ လေးခု ရှိသည်။ လည်တံထိပ်မှစ၍ ဝမ်းပိုက်၏ သုံးပုံတပုံကျော်အထိ ရောက်၍၊ ရှည်လျားသော လက်ပေါက်ပျဉ်သည် ဝမ်း၌ကပ်လျက်တည်ရှိသည်။ ကိုယ်ထည်၏ ခါးလယ်မှာ အတွင်းသို့ ဝိုက်နေသည်။ ဝိုက်နေသော နှုတ်ခမ်းတဖက် တချက်တွင် သံချိတ်သဏ္ဍာန်လေပေါက်တပေါက်စီရှိသည်။ ဝမ်းပိုက်၏ အဆုံးပိုင်းတွင် ကိုယ်ထည် သုံးပုံတပုံ နီးပါးမျှရှည်သော မြီးပိုင်းရှိသည်။ မြီးပိုင်းနှင့်လက်ပေါက်ပျဉ်အကြားတွင် ကြိုးခုံရှိသည်။ သော့လေးချောင်းမှစ၍ ချည်လိုက်သော တယောကြိုး လေးချောင်းသည် လက်ပေါက်ပျဉ် တ





သစ်စပေါင်း ၇၀ ကျော်ကို အံကျကော်ဖြင့်ဆက်ပြီးနောက် ပုံပေါ်လာသောတယောကို အသားသေအောင်နေလှမ်းပြီးလျှင် (ဝဲ) အပြီးသတ် အဆင့်အဖြစ် အရောင်တင်ယူရသည် (ယာ)

လျှော်ဆ် ဆင်းသွားပြီးလျှင်၊ ကြိုးခုံကိုကျော်ကာ မြီးပိုင်း၌ တဖန်ချည်လျက်သားရှိရသည်။ အသံအတင်းအလျော့ လိုရာကို သော့လှည့်ကာ ကြိုးညှိပေးရသည်။ တရော ကိုယ်ထည်အတွင်း၌ အသံသြဇာဖြစ်စေသော အသံထောက်ပါရှိသည်။ ထိုအသံထောက်သည် ကြိုးခုံညာဖက် အောက်နားတွင်ရှိ၍၊ ဝမ်းပိုက်နှင့်ကျောကို အံကျအောင် ထောက်လျက်ရှိသည်။ အသံထောက်ကို နေရာအတိအကျထောက်မထားလျှင်၊ တရောသံပျက်သည်။

ရှေးအခါက တရောကြိုးများကို သိုးအူနှင့် အခြားတိရစ္ဆာန်အူတို့ဖြင့် ပြုလုပ်ခဲ့ကြ၏။ သို့သော် ကာလပေါ် တရောများ၌ကား၊ ပဌမကြိုးကို သတ္တုဖြင့်ပြုလုပ်ကြသည်။ တတိယနှင့်စတုတ္ထကြိုးကိုရင်း၊ ရံဖန်ရံခါ ဒုတိယကြိုးကိုရင်း၊ ငွေနန်း ကြေးနန်း ဒန်သတ္တုနန်းဖြင့် ကွပ်ထားသော တိရစ္ဆာန်အူကြိုးဖြင့် ပြုလုပ်ကြသည်။

တရောကို ထိုးတံဖြင့် ထိုးရ၏။ ထိုးတံသည် ၂၇ လက်မခန့်ရှည်၏။ ထိုးတံ၌ မြင်းမြီးမျှင်ပေါင်း ၁၅၀ ခန့်ကိုစုစည်း၍ ဆွဲချည်ထားသည်။ ယခုခေတ်သုံး ထိုးတံကို ဖရန်ဆွာတူးအတ်ဆိုသူ ပြင်သစ်လူမျိုးတဦးက ခရစ် ၁၇၀၀ ပြည့်နှစ်နောက်ပိုင်းတွင် တီထွင်ခဲ့သည်။ ထိုတီထွင်ချက်ကြောင့် ရှေးက ထိုးတံကို ခပ်ကွေးကွေး ပြုလုပ်ကြသော်လည်း၊ ယခုအခါ ထိုးတံကို ခပ်စန့်စန့်ပြုလုပ်ကြသဖြင့်၊ အနည်းငယ်ရှည်လျား ပေါ့ပါးလာလေသည်။

တရောထိုးရာ၌ တရောမြီးပိုင်းကို ဗယ်ပခုံးပေါ်တွင်တင်၍ မေးဖြင့်ညှပ်ပြီးလျှင်၊ ဗယ်ဖက်လက်သည် လက်ပေါက်ပျဉ်ကို တရော၏ လည်တံအောက်မှလျှို၍ ကိုင်ရသည်။ လက်လေးချောင်း၏ထိပ်သည် ကြိုးလေးချောင်းကို လိုရာ၌ နှိပ်ပေးရသည်။ လက်မမှာ ထိန်းရုံသာ ထိန်းပေးရ၏။ တရောထိုးတံကို ကြိုးခုံရှေ့ တလက်မခန့်တွင် ကြိုးခုံနှင့်မျဉ်းပြိုင်ထားကာ တရောကြိုးပေါ်တင်၍ ရှေ့တိုးနောက်ငင်ဆွဲရသည်။ ထိုအခါ ထိုးတံ၏ မြင်းမြီးသည် ကြိုးဖြင့်ထိ၍ အသံထွက်လေသည်။

တူရိယာသံစုံ တီးဝိုင်းကြီးများတွင် တရောထိုးသူသည် ခေါင်းဆောင်ဖြစ်သည်။ ထိုတူရိယာသံစုံတီးဝိုင်း တဝိုင်းလုံးကိုမူ အသံ အကျယ် အတိုး အနှေး အမြန် စသည်တို့၌ တူရိယာသမားများအားလုံး သဘောပေါက်အောင် နည်းပြရသော စည်းပြခေါင်းဆောင်က ခေါင်းဆောင်ပြုရ၏။

တပင်တိုင်အတီးဖက်တွင် တရောသည် ခေတ်အစားဆုံးတူရိယာဖြစ်၍၊ ကြိုးတပ်တူရိယာများတွင်လည်း မူလဘူတဖြစ်၏။ ရိုးရာဂီတတို့ကို တီးမှုတ်ရာ၌ တရောသည် အဓိကဖြစ်၏။ သို့ရာတွင် ယခုခေတ် ကာလပေါ် ကပွဲတီးဝိုင်းများ၌မူကား၊ တရောကို များစွာမသုံးကြချေ။ အဘယ်ကြောင့်ဆိုသော်၊ တရောသည် ရှေးခေတ် ရိုးရာဂီတဆိုင်ရာ ရိုးရာယဉ်ကျေးမှုတို့ကို ဖော်ထုတ်ပေးရာ၌ အဓိကဖြစ်သောကြောင့်တည်း။

တရောကို နှစ်ပရိစ္ဆေဒကြာရှည်စွာ အသုံးပြုလေလေ၊ အသံပို၍ကောင်းလေလေဖြစ်၏။ နှစ်ချို့တရောတို့သည်အလွန်တန်ဖိုးရှိ၏။ အထက်ကဖော်ပြခဲ့သော အားမားတီ၊ စထရားဒီဗဲရီယပ်၊ ဂွါနိယဲရီတို့ပြုလုပ်ခဲ့သော တရောများသည် ယခုခေတ်၌ ပေါင်ထောင်သောင်းများစွာ အဖိုးထိုက်ပေသည်။

အရှေ့တိုင်းနိုင်ငံများနှင့် အစ္စလမ်အယူဝါဒ ထွန်းကားသော နိုင်ငံများတွင် တရောများသည် လည်တံရှည် တရောများ ဖြစ်ကြသည်။ တရုပ်နိုင်ငံသုံး ဟူချင်ဟု ခေါ်သော တရောမှာ ဝါးကိုယ်ထည်နှင့်သေးသွယ်သော လည်တံရှိသည်။ ဝါးကိုယ်ထည်၏ တဖက်ကို အသံအလို့ငှာ မြွေရေခွံဖြင့် ကျက်ထားသည်။ ထိုးတံမှာ တရောနှင့်သီးခြားမဟုတ်၊ တရောကြိုးဖြင့် ထွေးရောယှက်တင် ဆက်ထားသည်။ ဂျပန်တရောမှာမူကြိုး ၃သုံးချောင်းတပ်သော ကိုကျူခေါ် တရောဖြစ်၏။ မလ္လာယုကျွန်းဆွယ်နှင့် ဗာလီကျွန်းတို့တွင် အုန်းမှုတ်ခွံကို သားရေဖြင့် ကျက်ထားသော ကိုယ်ထည်တွင် လည်တံရှည်တပ်ထားသော တရောကို အသုံးပြုလေ့ရှိကြသည်။ ယင်းတရောမျိုးတွင် အလွန်ရှေးကျသော တရောတို့၌ တရောကြိုးတချောင်းသော်၎င်း၊ နှစ်ချောင်းသော်၎င်းပါ၏။ အိန္ဒိယနိုင်ငံရှိ ဇာတ်နိမ့်သူ လူမျိုးတို့ အသုံးပြုသော တရောမှာမူ၊ ကိုယ်ထည်၏ကျောဖက်၌ လုံးဝန်း၍၊ ဝမ်းဖက်တွင် ခွက်နေပြီးလျှင်၊ အသံအလို့ငှာ သားရေဖြင့်ကျက်ထားသည်။ အချို့တရောတို့၌ တရောကြိုးသုံးလေးချောင်းကို ထုံးစံအတိုင်း တပ်ထားသည့်အပြင်၊ တရောဝမ်းပိုက်တွင် ကြိုးအပိုများမြှုပ်၍ထည့်ထားသည်။ သဘောမှာ မူလကြိုးမှ ထွက်ပေါ်လာသော အသံအလိုက် အပိုကြိုးများက မြည်ဟည်းစေရန်ဖြစ်လေသည်။ အချို့တရောတို့မှာ ကိုယ်ထည်သည် ပုလင်းပုံသော်၎င်း၊ ပန်းသီးပုံသော်၎င်း ရှိကြသည်။

မြန်မာနိုင်ငံ၌ကား တရောတူရိယာကို ကုန်းဘောင်ခေတ်တွင် သုံးစွဲတီးမှုတ်ကြောင်း အစောဆုံးတွေ့ရှိရ၏။ တရောပြားနှင့် အုန်းမှုတ်တရောဟူ၍ နှစ်မျိုးရှိ၏။ ကုန်းဘောင်ခေတ် တရောများကား ရှေးမြန်မာတရောစစ်စစ်များ ဖြစ်ကြ၍၊ ကြိုးသုံးချောင်းတပ်ဆင်ထား၏။ တရောထိုးနည်းမှာလည်း အနောက်နိုင်ငံ တရောများ ထိုးနည်းအတိုင်း မဟုတ်ဘဲ၊ တရောခေါင်းကို အပေါ်ထောင်လျက် ထိုးကြသည်။ တရောကြိုးများကို မြင်းမြီး၊ တိရစ္ဆာန်အူ၊ ပိုးကြိုးများဖြင့် ပြုလုပ်၏။ ရှေးမြန်မာ တရောပြားကို မွန်လူမျိုးများ၏ တီးဝိုင်းတွင် ယနေ့တိုင်တွေ့မြင်နိုင်သေးသည်။ အုန်းမှုတ်တရောကိုကား ရှမ်းပြည်နယ် အချို့အရပ်ဒေသများတွင် ယနေ့တိုင်တွေ့မြင်နိုင်လေသည်။



အိမ်ဖွဲ့နေလေ့မရှိသော သားစားတရန်တိုပင့်ကူ

သော တွင်းများ၌ထားပြီးလျှင် အပြင်သို့ထွက်သည့်အခါ၌ယူဆောင်သွားလေ့ရှိကြသည်။ တရန်တို ပင့်ကူငယ်များပေါက်လာသောအခါ မိခင်တို့၏ကျောပေါ်တွင် ရက်သတ္တတပတ်ခန့် မျှနေကြရသည်။ တရန်တိုပင့်ကူတို့သည် မြေတွင်တွင်းနက်နက်တူးကာ နေတတ်၍၊ တွင်းကို နူးညံ့သောပင့်ကူမျှင်ဖြင့် အနားကွပ်ထားလေ့ရှိသည်။ ယင်းတို့သည်အခြား ပင့်ကူတို့ကဲ့သို့ ပင့်ကူအိမ်များဖွဲ့၍ သားကောင်ကို ထောင်ဖမ်းလေ့မရှိချေ။ အမှိုက်သရိုက်၊ သစ်ရွက်ခြောက်များအကြား၌ ပုန်းအောင်း၍ သော်၎င်း၊ တွင်းထဲမှနေ၍သော်၎င်း သားကောင်ကို ချောင်းမြောင်းကာ ခုန်အုပ်၍ ဖမ်းဆီးတတ်သည်။ (ပင့်ကူများ — ရှု။)

**တရန်တိုပင့်ကူ။** ။တရန်တိုပင့်ကူ၏ ပါဏဗေဒအမည်မှာ 'လိုင်ကိုဆာ တာရန်တျူလာ' ဖြစ်သည်။ တာရန်တျူလာ ဟူသော အမည်မှာ ဣတလီနိုင်ငံရှိ တရန်တိုမြို့အမည်ကိုစွဲ၍ ခေါ်ခြင်းဖြစ်သည်။ ယင်းတို့ကို ဥရောပတိုက်တောင်ပိုင်း ဒေသများတွင်သာ တွေ့နိုင်၏။ သို့သော် ကမ္ဘာပေါ်ရှိ တိုင်းပြည် အသီးအသီးမှ ပင့်ကူ အကြီးစားများကိုလည်း ဤအမည်ဖြင့်ပင် ခေါ်ဝေါ်ကြသည်။ မြန်မာနိုင်ငံ၌ ပင့်ကူကြီးများကို ကျားပင့်ကူဟူ၍ခေါ်ကြသည်။

တရန်တိုပင့်ကူသည် ခြေထောက်တဖက်အစွန်းမှ အခြားတဖက်စွန်းသို့ ၈ လက်မမှ ၁၀ လက်မခန့်ထိရှိ၏။ ခြေလက်မှစ၍ တကိုယ်လုံး အမွေးစုတ်ဖွား ဖုံးအုပ်နေလျက် အလွန်အဆိပ်ပြင်းသည်။ ပိုးမွှားနှင့် သေးငယ်သော တိရစ္ဆာန်ကလေးများကို ဖမ်းဆီးစားသောက်သည်။ တောင်အမေရိကတိုက်ရှိ တရန်တိုပင့်ကူအချို့မှာ ငှက်ကလေးများကိုပင် ဖမ်းယူစားသောက်တတ်သည်။ လူကိုကိုက်လျှင်၊ အကိုက်ခံရသူမှာ ပြင်းစွာအဆိပ်တက်၍၊ အမွေးများစူးမိလျှင်လည်း စူးသည့်နေရာ၌ အခံရခက်အောင် နာကျင်ရောင်ရမ်းလာတတ်သည်။

ထိုပင့်ကူကြီးမျိုးကို အပူပိုင်းဒေသများတွင်တွေ့ရသည်။ အဆိပ်ပြင်းသည့်အတွက် တိုင်းရင်းသားများက အလွန်ကြောက်ရွံ့ကြသည်။

တရန်တိုပင့်ကူမများသည် ပိုးအိမ်များကို သူတို့၏အိမ်ဖြစ်

**တရုပ်စံကားပန်းပင်။** ။တရုပ်စံကားပန်းပင်သည် 'အဲ့ပေါ်ဆီနေးစီအီး' မျိုးရင်းတွင်ပါဝင်၍၊ ယင်းကို သိပ္ပံအမည်ဖြင့် 'ပလူမေးရိယာ အကျူတီဖိုးလိယား' ဟုခေါ်သည်။ တရုပ်စံကား ပန်းပင်ကို သဘော်စံကား ပန်းပင်ဟုလည်း ခေါ်သေးသည်။ တရုပ်စံကားဟုခေါ်ခြင်းမှာ တရုပ်နိုင်ငံ၌ မူလပေါက်ရောက်သော အပင်ဟု ယူဆခြင်းကြောင့် ခေါ်ဟန်လက္ခဏာရှိသည်။ ဟိန္ဒူဘာသာစကားအရ 'ဂူလချင်း' ဟုခေါ်သည်။ ဂူလချင်းဟူသောအဓိပ္ပါယ်မှာ 'တရုပ်ပြည်မှပန်း' ဟုအဓိပ္ပါယ်ရသည်။ မြန်မာတို့က တရုပ်စံကားဟု ခေါ်ခြင်းသည် ဟိန္ဒူတို့က ဂူလချင်းဟုခေါ်ဝေါ်သော 'သဘောသွားအတိုင်းပင် ဖြစ်သည်ဟု ယူဆဖွယ်ရှိသည်။ စင်စစ်ကား တရုပ်စံကားသည် မက္ကဆီကိုနှင့် ဂွါးတီမားလနိုင်ငံတို့၌ မူလအားဖြင့်ပေါက်သောပန်းပင် ဖြစ်၏။ ထိုဒေသတို့မှ အခြားနိုင်ငံတို့သို့ ပျံ့နှံ့လာပြီးလျှင် အိန္ဒိယနှင့် မြန်မာနိုင်ငံတို့သို့ ရောက်ရှိလာသည်ဟု ယူဆကြသည်။

တရုပ်စံကားပန်းပင်သည် အပင်ပုမျိုးဖြစ်သည်။ ပေ ၂၀ ထက် မြင့်သောအပင်များကို တွေ့ရခဲသည်။ အများအားဖြင့် အစဉ်အပွင့်ပွင့်လျက်ရှိသော်လည်း၊ ဒီဇင်ဘာလမှ မိုးရာသီတိုင်အောင် အရွက်ကြွေတတ်သည်။ မကြီးသေးသော အပင်ငယ်တို့၌သာ အရွက်မကြွေဘဲ စိုစိုပြည်ပြည်ရှိနေတတ်



ပွင့်တံတွင် အခိုင်လိုက်ပွင့်သော တရုပ်စကားပန်း

သောကြောင့် တနှစ်ပတ်လုံး ရှုချင့်စဖွယ်ရှိ၏။ အခေါက်မှာ မွဲပြာရောင်ဖြစ်၍ ချောမွတ်သော်လည်း၊ အပွေးတက်လျက်ရှိသည်။ အကိုင်းများသည် အဖျားဖက်ထွင် ရှူးမသွားဘဲ၊ တုံးတိတိရှိတတ်၏။ အပွင့်ပွင့်သည့် အခက်များပင်လျှင်အဖျားဖက်တွင် တုံးတိတိရှိသည်။ အသားများ လျက်တုတ်၍ဆတ်သော ပွင့်တံတွင် အပွင့်များသည် အခိုင်လိုက်စု၍ပွင့်တတ်သည်။ အပွင့်မှာ အဖြူရောင်ဖြစ်၍၊ ပန်းပွင့်၏အလယ်တွင် အဝါရောင်ရှိသည်။ ပွင့်ချပ် ၅ ခုပါရှိသည်။ ပွင့်ချပ်အောက်ခံတွင် ပန်းရောင်ထနေသည်ကို တခါတရံတွေ့ရတတ်သည်။ ပွင့်ချပ်များသည် အောက်ခြေတွင် တချပ်နှင့်တချပ် ထပ်လျက်ရှိ၍ ဝက်အူလိမ်သကဲ့သို့ တဖက်သို့လိမ်လျက်ရှိ၏။ ဝတ်ဆံဖိုများကိုမူ မမြင်နိုင်ချေ။ အချို့အပင်တွင် အနီရောင်ဖက်သို့လုနေသော လိမ်မော်ရောင်အပွင့်များ ပွင့်တတ်သည်။ တရုပ်စံကားပန်းတွင် အလွန်မွှေးကြိုင်သော အနံ့ရှိသည်။ အသီးမှာ ဦးချိုပုံသဏ္ဌာန်ရှိသော သီးတောင့်ဖြစ်သည်။ အလျား ၈ လက်မရှိသည်။ တွဲလောင်းကျနေသော အညှာတွင် အတွဲလိုက် သို့မဟုတ် အစုံလိုက် အသီးသီးသည်။ အိန္ဒိယနိုင်ငံတွင်တွေ့ရသော သီးတောင့်များ၌ အစေ့ကိုမတွေ့ရချေ။ မြန်မာနိုင်ငံ၌လည်း ယင်းအစေ့ကိုတွေ့ရခဲသည်။ တပေအထိရှည်သော အရွက်များသည် အကိုင်း၏အစွန်းပတ်လည်တွင် အပြည့်ပေါက်တတ်သည်။ အရွက်မှာချောမွတ်၍ အနံကျဉ်းသည်။ အရွက်များသည် ရွက်ဖျားဖက်ထက် ရွက်တံဖက်သို့ ပိုမို၍ရှူး၏။ ရွက်လယ်ကြောမှရွက်ကြောပြိုင်တို့သည် အလျားလိုက် ဖြာထွက်လျက်ရှိသည်။

တရုပ်စံကားပန်းပင်သည် ဆေးဖက်ဝင်၏။ အပင်မှရသည့် နို့ရည်နှင့်တူသော အစေးကို ရူမက်တစ်ဇင်ရောဂါပျောက်ဆေးအဖြစ် အသုံးပြုနိုင်သည့်ပြင် စန္ဒကူးဆီ၊ ပရုတ်တို့နှင့်ပေါင်း၍ ယားနာပျောက်ဆေးအဖြစ်လည်း အသုံးပြုနိုင်သည်။ တရုပ်စံကားပန်းပင်အခေါက်ကို နိုင်ငံအသီးအသီးတွင် အမျိုးမျိုးအသုံးချကြသည်။ အခေါက်ကို အဖျားဖြတ်ဆေး၊ အနာပျောက်ဆေးနှင့် ဝမ်းနုတ်ဆေးအဖြစ် အသုံးပြုလေ့ ရှိသည်။ အရွက်ကို မီးကင်ပြီးလျှင် ဖောရောင်နေသောနေရာတွင် အုံပေးပါက ဖောရောင်ခြင်းပျောက်ကင်းနိုင်သည်ဟုဆို၏။ အဖူးကို ကွမ်းရွက်နှင့်ရော၍ အဖျားဖြတ်ဆေးအဖြစ်လည်း အသုံးပြုတတ်ကြသည်။

**တရုပ်နံ့နံ့ပင်**။ ။တရုပ်နံ့နံ့ပင်သည် 'အက်ပီယမ်' မျိုးစုတွင်၎င်း၊ 'အမ်ဗဲလစ်ဖရီ' မျိုးရင်းတွင်၎င်း ပါဝင်သည်။ ရုက္ခဗေဒအမည်မှာ 'အက်ပီယမ် ဂရဲဗီအိုလင်း' ဖြစ်သည်။ တရုပ်နံ့နံ့ပင်သည် ဥရောပ၊ အာရှနှင့်အာဖရိကတိုက်တို့တွင် မူလပေါက်သော အပင်ဖြစ်သည်။ ထိုတိုက်ကြီးများရှိ ယဉ်ကျေးမှုရှေးကျသော ဒေသများတွင် ခရစ်သက္ကရာဇ်မတိုင်မီကပင်လျှင် တရုပ်နံ့နံ့ပင်ကို စိုက်ပျိုးခဲ့ကြသည်။ သို့သော် စိုစွတ်သောမြေတွင် အမြင့် ၆ လက်မမှ ၁၅ လက်မထိ သဘာဝအလျောက်လည်း ပေါက်တတ်သေးသည်။ တရုပ်နံ့နံ့ပင်တွင် ရွက်ညှာမြောက်မြားစွာရှိ၍၊ ငှက်မွေးပုံ အရွက်များရှိသည်။ အခက်အလက်များ ဖြာထွက်နေပြီးလျှင် အရွက်များဖြင့်ပြီးသော ပွင့်ညှာများရှိသည်။ ထိုပွင့်ညှာများသည် ၂ ပေမှ ၃ ပေထိရှိသည်။ ထိုပွင့်ညှာများ၏ထိပ်တွင် ရင်းတူထိပ်ညီအပွင့်ဖြူများပွင့်သည်။ ထိုအပွင့်များမှ အစေ့ (အသီး) ငယ်များဖြစ်လာသည်။

ဥရောပတိုက် မြောက်ပိုင်းနှင့်အာရှတိုက်ရှိ ညွန်ပျောင်းထူထပ်ရာဒေသတို့၌ အလေ့ကျပေါက်သော တရုပ်နံ့နံ့ပင်သည် ခါးသည့်အရသာရှိ၏။ ကြွမ်းတမ်းသော ပေါင်းပင်တမျိုးဖြစ်သဖြင့် စားသုံးရန် လုံးဝမသင့်လျော်ချေ။ သို့ရာတွင် ထိုနံ့နံ့ပင်အရိုင်းမျိုးကို လူတို့ဂရုတစိုက် စိုက်ပျိုးလာကြခြင်းကြောင့်၊ မကြာသေးမီ ရာစုနှစ်များအတွင်း စားသုံးနိုင်သော အပင်ဖြစ်လာလေသည်။ ၁၆၈၆ ခုနှစ်တွင်တရုပ်

နံနံပင်ကို ပဌမဦးစွာ စိုက်ပျိုးခဲ့သော်လည်း၊ ၁၇၀၀ ပြည့်နှစ်တိုင်အောင် လူအများမစားသုံးခဲ့ကြသေးချေ။ ၁၇၇၄ ခုနှစ်တွင် အမေရိကတိုက် မစ်ရှီဂန်ပြည်နယ် ကယ်လမာဇူး အနီးတွင် တရုပ်နံနံပင်ကို စတင်စိုက်ပျိုးခဲ့သည်။

တရုပ်နံနံပင်သည် အစေ့မှပေါက်သည့် တနှစ်ခံ သို့မဟုတ် နှစ်နှစ်ခံပင်ပျော့ဖြစ်သည်။ အလေးချိန် တအောင်စတွင် အစေ့ပေါင်း ၇၀,၀၀၀ ခန့် ပါဝင်၍၊ ထိုအစေ့များမှ အပင် ၁၀,၀၀၀ ခန့်ပေါက်လာနိုင်သည်။ နွေကူးဥတုအချိန်တွင် နံနံစေ့များကို ပျိုးထောင်ရသည်။ အပင်ပေါက်ကလေးများ ၆ လက်မခန့်ရှိလာသောအခါ နုတ်ယူပြီးလျှင်၊ ဇွန်လအတွင်း၌ ပြုပြင်ထားသောမြေယာသို့ ရွှေ့ပြောင်းကာ၊ အတန်းလိုက်စီ၍ စိုက်ပျိုးရသည်။ အစိုဓာတ်ရှိသော သစ်ဆွေး နုံးမြေပွတို့တွင် ကောင်းစွာဖြစ်ထွန်းသည်။ သို့သော် ရေဝပ်သောမြေကိုမူ မနှစ်သက်ချေ။ မြေဆီဓာတ်ကို စုတ်ယူသော အပင်ဖြစ်သဖြင့် မြေဆီလွှာတွင် မြေသြဇာများ ထည့်ပေးရသည်။ အပင် ၁၆ လက်မခန့်မြင့်လာသောအခါ အပင်၏ ထိပ်ပိုင်းကို လျော့လျော့ ချည်ထားပြီးလျှင် အတက်နှင့် အရွက်ကလေးများကို ဖြတ်တောက်ပစ်ရသည်။ ပင်စည်တွင် အဖြူရောင်ရှိနေစေရန် အပင်ကို မြေတောင်မြှောက်ပေးရသည်။ ဤသို့ပြုလုပ်ရာတွင် အပင်၏အလယ်ပိုင်းသို့ မြေကြီးများ မရောက်စေရန် သတိထားရသည်။ တရုပ်နံနံပင်စိုက်နည်း အမျိုးမျိုး ရှိသည့်အနက် စိုက်နည်းတနည်းတွင် တပင်နှင့်တပင်ကို ၆ လက်မစီခွာထား၍ တတန်းနှင့်တတန်းကို ၃ ပေမှ ၄ ပေထိ ခြားထားရသည်။ မြေကိုပွအောင်ပြုပြင်ပေးရသည့်ပြင် ပေါင်းလည်းရှင်းပေးရသည်။ အပင်ကို နေရောင်မထိစေရန်နှင့် ပင်စည်ဖြူနေစေရန် မြေတောင်မြှောက်ပေး၍၎င်း၊ ချပ်ပြားဖြင့်ဖြစ်စေ၊ ကောက်ရိုးဖြင့်ဖြစ်စေ ဖုံး၍၎င်း၊ ထားရသည်။ ရက်သတ္တပတ်နှစ်ပတ်မျှ ယင်းသို့ပြုလုပ်ပေးရသည်။ ဤသို့ပြုလုပ်ပေးခြင်းသည် အပင်ကိုနေရောင်မထိစေရန်ပင်ဖြစ်သည်။ နေရောင်ထိလျှင် အပင်တွင် အစိမ်းရောင်ဝင်လာသဖြင့် စားသုံးရာတွင် ကြမ်းတမ်း၍ အရသာခါးလာတတ်သည်။ အခြားစိုက်နည်းတွင် တပင်နှင့် တပင်ကို ပူးကပ်စွာ စိုက်ပြီးလျှင် တတန်းနှင့် တတန်းကို ၁၂ လက်မထက်မပိုအောင် ခြားထားရသည်။ တတန်းနှင့်တတန်း အကွာအဝေးကိုမူ အပင်၏အမျိုးအစား အရွယ် စသည်တို့ကို လိုက်၍ သင့်တော်အောင်ညှိထားရသည်။ အချို့တရုပ်နံနံပင်သည် ၁၂ လက်မမှ ၁၅ လက်မထိရှိ၍၊ အချို့မှာ ၂ ပေခွဲထက်ပင် မြင့်သည်။

တရုပ်နံနံပင်ကို ပါရာဆိုက်များ မကြာခဏဖျက်ဆီးတတ်သည်။ ထိုပါရာဆိုက်တို့သည် အရွက်များတွင် အဝါကွက်၊ သို့မဟုတ် မွဲပြာရောင်ကွက်ကဲ့သို့ အကွက်ပေါ်လာစေ၍ အရွက်တခုလုံးကို ဖျက်ဆီးပစ်ကြသည်။ ပင်စည်ကိုလည်း ဖျက်ဆီးသည်။ အပင်ကို ပိုးသတ်ကြေးနီမှုန့်ဖြူးပေးခြင်း သို့မဟုတ် ဗေါ်ဒိုးဆေး ဖျန်းပေးခြင်းအားဖြင့် ကာကွယ်နိုင်သည်။ ကျပ်ခိုးကို ထုံးမှုန့်နှင့်ရော၍လည်း မကြာခဏဖြူးပေးနိုင်သည်။

အဖြူမျိုး၊ အစိမ်းမျိုးဟူ၍ တရုပ်နံနံပင်နှစ်မျိုးရှိသည်။ အစိမ်းမျိုး၏ပင်စည်သည် ကြွပ်ဆတ်၍ ချိုသောအရသာရှိသည်။ ရောင်းဝယ်ရာတွင် အဖြူမျိုးထက် အစိမ်းမျိုးကို အတွေ့ရများသည်။ အထူးဂရုစိုက်၍ပျိုးထားသော နှစ်နှစ်သားအပင်မှ မျိုးစေ့အတွက် အစေ့ကိုရနိုင်သည်။

တရုပ်နံနံရွက်ညှာကို လက်သုတ်သုတ်၍၎င်း၊ ဟင်းသီးဟင်းရွက်ပြုတ်သကဲ့သို့ ချက်ပြုတ်၍၎င်း စားနိုင်သည့်ပြင် အစိမ်းလိုက်လည်း စားနိုင်သည်။ တရုပ်နံနံစေ့ကို အမှုန့်ကြိတ်၍ ဆားနှင့်ရောစပ်ထားလျှင် ဟင်းလျာစသည်တို့တွင် ခတ်ရန် နံနံစေ့အငန်မှုန့်ကိုရသည်။ တရုပ်နံနံပင်တွင် ထုံးဓာတ်၊ သံဓာတ်နှင့် ဗီတာမင်များ ပါရှိသည်။ တရုပ်နံနံစေ့ကို ကြာရှည်ဝမ်းချုပ်ခြင်းအတွက်သော်၎င်း၊ မိန်းမတို့တွင် ဖြစ်ပေါ်တတ်သော ဓမ္မတာသွေးမမှန်ခြင်းရောဂါများအတွက်သော်၎င်း အသုံးပြုနိုင်သည်။ အူတွင်းရောဂါများအတွက် ဆေးဖော်စပ်ရာတွင်လည်းအသုံးပြုနိုင်သည်။ ချွေးထုတ်ဆေးနှင့် ဆီးရှင်ဆေးဖော်စပ်ရာတွင်လည်း အသုံးဝင်လေသည်။



တရုပ်နံနံပင်

# ပြည်ကြီးတွင်လစ်၊ဂန္ဓာလရာဇ်

**တရုပ်နိုင်ငံသည် မြန်မာများအဖို့ တိုင်းသစ်ပြည်သစ်မဟုတ်ချေ။ ရှေးအထက်ကျော်ကာရီကစ၍ မြန်မာနှင့်တရုပ်တို့ ရင်းနှီးစွာ ကူးလူးဆက်ဆံခဲ့ကြသည်။ ကမ္ဘာ၏အနောက်ဖက်တလွှားတွင် အီဂျစ်နိုင်ငံ၏ ယဉ်ကျေးမှုသည် အလွန်ရှေးကျဘိသကဲ့သို့ အရှေ့တလွှားတွင် တရုပ်နိုင်ငံ၏ယဉ်ကျေးမှုသည်လည်း အလွန်ရှေးကျသည်။ ထိုမျှမကသေး ဗုဒ္ဓသာသနာကို အရင်းခံသော ယဉ်ကျေးမှုသည် တရုပ်နိုင်ငံတွင် ပျံ့နှံ့ခဲ့သည်မှာ ယနေ့တိုင်ပင် ထိုယဉ်ကျေးမှု၏ အငွေ့အသက်သည် မကုန်သေးချေ။ ကမ္ဘာကိုပြောင်းလဲစေခဲ့သော တီထွင်မှုကြီးအချို့ကို တရုပ်များကစတင်ခဲ့သည်။ ပုံစံအားဖြင့်ဆိုလျှင် ကြွေထည်၊ ပိုးထည်နှင့် ခဲယမ်းမီးကျောက်၊ စက္ကူ၊ ပုံနှိပ်စက်နှင့်ငွေစက္ကူတို့ဖြစ်သည်။ အုပ်ချုပ်မှုအတတ်နှင့်စာပေတွင်ရင်း၊ ပန်းချီ၊ ပန်းပုစသည့် အနုပညာတွင်ရင်း၊ တရုပ်နိုင်ငံသည် သမိုင်းခေတ်ဦးကပင် ခေါင်းဆောင်ဖြစ်ခဲ့သည်။**

**တရုပ်ပြည်သူ့သမတနိုင်ငံ။** ။တရုပ်ပြည်သူ့ သမတနိုင်ငံသည် ပမာဏအားဖြင့် အကျယ်ဝန်းဆုံးဖြစ်၍၊ လူဦးရေအားဖြင့်လည်း အများဆုံးဖြစ်သော နိုင်ငံတို့တွင် အပါအဝင်ဖြစ်၏။ ထိုနိုင်ငံကို ကျွန်ုပ်တို့သည် ရှေးအခါက ဂန္ဓာလရာဇ်ဟူ၍ရင်း၊ စိန့်တိုင်း (စိနရဋ္ဌ) ဟူ၍ရင်း၊ တရုပ်ပြည်ဟူ၍ရင်း ခေါ်ဝေါ်ခဲ့ကြ၏။ အများအားဖြင့် တရုပ်ပြည်ဟူ၍ခေါ်ဝေါ်လာခဲ့ကြသည်မှာ ယနေ့တိုင်ပင်ဖြစ်၏။ အနောက် ဥရောပနိုင်ငံတို့ကမူ တရုပ်ပြည်ကို ချိုင်းနားဟုခေါ်ကြသည်။ ချိုင်းနားဟူသောအခေါ်မှာ ကျွန်ုပ်တို့က စိန (စိန့်) ဟုခေါ်သည်နှင့်အတူတူပင်ဖြစ်၏။ ချိုင်းနား (ဝါ) စိနဟူသည်မှာ ချင်မင်းဆက် (ဘီစီ ၂၂၁–၂၀၇) ကိုအစွဲပြု၍ ခေါ်ခြင်းပင်ဖြစ်သည်။

တရုပ်လူမျိုးတို့ကမူ ယင်းတို့၏နိုင်ငံကို ချုံကူအိုဟူ၍ အတိုကောက်အားဖြင့်ခေါ်သည်။ အဓိပ္ပါယ်ကား မဇ္ဈိမဒေသဟူ၏။ တရုပ်ပြည်သူ့သမတနိုင်ငံသည် မထူထောင်ရသေးမီ ကာလက တရုပ်နိုင်ငံကို ချုံဟူအာ မင်ကူအိုဟုခေါ်သည်။ တရုပ်ပြည်သူ့သမတနိုင်ငံဟူ၍ ထူထောင်လိုက်သောအခါ ထိုနိုင်ငံသည် ချုံဟူအာ ဂျင်မင် ကွန်ဟိုကူအိုဟု အမည်တွင်လာ၏။

## တည်ရာဌာန

တရုပ်နိုင်ငံတွင် အာရှတိုက်၏လေးပုံတပုံမျှမက ကျယ်ဝန်းသော အာရှအလယ်ပိုင်းနှင့် အရှေ့ပိုင်းဒေသတို့ ပါဝင်လေသည်။ တရုပ်နိုင်ငံ၏ ကမ်းရိုးတမ်းသည် ကိုရီးယားနိုင်ငံနှင့်စပ်လျက်ရှိသော ယာလူးမြစ်ဝမှအစပြု၍ ဗီယက်နမ်နိုင်ငံနှင့်စပ်လျက်ရှိသော ပေလွန်းမြစ်ဝအထိ မိုင်ပေါင်း ၆၇၃၅ မိုင်မျှရှည်လျားသည်။

အရှေ့ဖက်ကမ်းခြေတွင် ပိုဟိုင်းပင်လယ်၊ ပင်လယ်ဝါနှင့် တရုပ်ပင်လယ်တို့ ရှိကြလေသည်။ တောင်ဖက်ကမ်းခြေ၌ တရုပ်တောင်ပိုင်းပင်လယ် ရှိလေသည်။ တရုပ်နိုင်ငံသည် ကိုရီးယားနိုင်ငံ၊ ရုရှနိုင်ငံ၊ အာဖဂနိစတန်နိုင်ငံ၊ အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ ဗီယက်နမ်နိုင်ငံတို့နှင့် နယ်နိမိတ်ချင်းစပ်လျက်တည်ရှိသည်။

## အကျယ်အဝန်းနှင့်လူဦးရေ

တရုပ်ပြည်သူ့သမတနိုင်ငံတွင် ပြည်နယ်ပေါင်း ၂၅ နယ်၊ ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရသော မွန်ဂိုးလီးယားဒေသနှင့်တိဗက်ပြည် ပါဝင်လေသည်။ အကျယ်အဝန်းအားဖြင့် စတုရန်းမိုင်ပေါင်း ၃,၇၀၀,၀၀၀ မိုင်ကျော်ရှိသည်။ ၁၉၅၃ ခု ဇွန်လတွင် ကောက်သော သန်ကောင်စာရင်းအရ၊ တရုပ်ပြည်သူ့သမတနိုင်ငံ၏လူဦးရေသည် ၆၀၁,၉၃၈,၀၃၅ ယောက်ဖြစ်သည်ဟုဆိုသည်။ ထိုလူဦးရေစာရင်းထဲတွင် တရုပ်ပြည်သူ့သမတနိုင်ငံက ပိုင်ဆိုင်ထိုက်သည်ဟုဆိုသော တိုင်းဝမ် (ဖေါ်မိုးဆား) ကျွန်း၏လူဦးရေ ၇,၅၉၁,၂၉၈ ယောက်၊ တရုပ်နိုင်ငံ၏ ပြင်ပတွင်နေထိုင်သော ကျောင်းသား အပါအဝင် တရုပ်အမျိုးသားလူဦးရေ ၁၁,၇၄၃,၃၂၀ ယောက်၊ နယ်စပ်ဒေသတွင် နေထိုင်ကြသော တရုပ်အမျိုးသားလူဦးရေ ၈,၃၉၇,၄၇၇ ယောက်ဟူသည်တို့ ပါဝင်လေသည်။ ထိုလူဦးရေတို့ကို ဖယ်ထား၍၊ တွက်ကြည့်လျှင်၊ လက်ရှိတရုပ်ပြည်သူ့သမတနိုင်ငံတွင်း၌ လူပေါင်း ၅၇၄ သန်းကျော်မျှတင်းနေထိုင်သည်ဟုဆိုရန်ရှိသည်။ ယင်းတို့အနက် ဟန်းလူမျိုးခေါ် တရုပ်ပြည်မကြီးအတွင်း လူများစုအဖြစ်ဖြင့် နေထိုင်ကြသော တိုင်းရင်းသားတို့ကား တရုပ်နိုင်ငံရှိလူဦးရေအားလုံး၏ ၉၃.၉၄ ရာခိုင်နှုန်းဖြစ်၍၊ ကျန်လူမျိုးစုတို့မှာမူ ၆.၀၆ ရာခိုင်နှုန်းဖြစ်လေသည်။ တရုပ်နိုင်ငံသည် ကျယ်ဝန်းသည့်အလျောက်၊ တိုင်းရင်းသားတို့သည်လည်း အမျိုးမျိုးဖြစ်သည်။ ဟန်းလူမျိုးတို့၌ပင်လျှင် ဆွေမျိုးစုအားဖြင့် ကွဲပြားခြားနားလျက်ရှိရာ၊ တနယ်နှင့်တနယ် ပြောဆိုကြသော ဘာသာစကားသည်ပင်လျှင် များစွာကွဲပြား ခြားနားလေသည်။ လူမျိုးစုတွင် ထင်ရှားသော တိုင်းရင်းသားတို့ကား ချူအန်း၊ ဝီးဂူး၊ ဟူအိ၊ ယိ၊ တိဗက်၊ မိယောင်၊ မွန်ဂို၊ ပုယိ၊ ကိုရီးယားဟူသော တိုင်းရင်းသားတို့ ဖြစ်ကြသည်။

## မြေမျက်နှာပြင်

တရုပ်နိုင်ငံ၏မြေမျက်နှာပြင်သည် တိဗက် ကုန်းပြင်မြင့်မှအစပြု၍ အရှေ့ဖက်သို့ နိမ့်လျှောသွားသည်။ မြောက်ဖက်

တွင် ဟွန်ဟိုခေါ် မြစ်ဝါမြစ်သည် မြေသြဇာထက်သန်လှသော ကုန်းပြင်မြင့်တို့ကို ဖြတ်သန်း၍၊ ပိုဟိုင်းပင်လယ်ထဲသို့ စီးဆင်းလေသည်။ တောင်ဖက်တွင်မူ ယန်ဆီမြစ်နှင့် ပုလဲမြစ်ဝှမ်းတို့သည် ပင်လယ်ကမ်းရိုးတန်းအရောက် တဖြေးဖြေး နိမ့်ဆင်းပြီးလျှင်၊ ဗာရုပ်ပင်လယ်နှင့် တောင်ပိုင်းတရုပ်ပင်လယ်တို့သို့ အသီးအသီးစီးဆင်းကြလေသည်။ တရုပ်နိုင်ငံရှိ တောင်တန်းတို့သည် များသောအားဖြင့် အနောက်မှ အရှေ့သို့တန်းလျက် တည်ရှိသည်။ သို့ရာတွင် ယူနန်ပြည်နယ်၌မူကား မြောက်မှ တောင်သို့တန်းလျက်ရှိသည်။ ခင်ဂန်တောင်တန်းကြီးသည် တောင်ဖက်တွင် အစပြု၍ အနောက်တွင်ဆုံးသည်။ သို့သော် ခင်ဂန်တောင်တန်းငယ်ကား တောင်ဖက်တွင်အစပြု၍ အရှေ့တွင်ဆုံးလေသည်။ ဆင်ကျီယန်ပြည်နယ်တွင် တီယင်ရှန်နှင့် အဲလတိုင် တောင်တန်းတို့သည် တရုပ်နိုင်ငံနှင့် ဆိုဗီယက်ရုရှနိုင်ငံတို့ကို ခွဲ၍ တည်ရှိကြသည်။ တိဗက်တောင်တန်းကား အနောက်မှ အရှေ့သို့ တန်းပြီးမှ၊ တဖြည်းဖြည်းတောင်ဖက်သို့ဝိုက်၍လာပြီးလျှင်၊ ယူနန်နယ်တွင်မူ မြောက်နှင့်တောင် သွယ်တန်းလျက်တည်ရှိသည်။ တိဗက်ကုန်းပြင်မြင့်တွင် အမြင့်ဆုံးသော နေရာကား ဧဝရက်တောင်ထိပ်ဖြစ်သည်။ (ဧဝရက်တောင်ထိပ် — ရှု။) ယင်းတောင်ထိပ်ကို တရုပ်နိုင်ငံတွင် ချိုမိုလုန်မားဟုခေါ်သည်။

တရုပ်နိုင်ငံရှိ မြစ်ကြီးနှစ်သွယ်ကား ယန်ဆီမြစ်နှင့် ဟွန်ဟိုမြစ် ဖြစ်သည်။ ယန်ဆီမြစ်သည် မိုင်ပေါင်း ၃၄၀၀ ကျော်မျှ ရှည်လျား၍၊ တရုပ်နိုင်ငံရှိ မြစ်တို့တွင် အရှည်ဆုံးမြစ်ဖြစ်သည်။ ကမ္ဘာပေါ်ရှိ အရှည်ဆုံးသော မြစ်တို့တွင်လည်း ဆဋ္ဌမြစ်ဖြစ်သည်။ ထိုမြစ်သည် တိဗက်ပြည်အနီး ကွန်လွန်တောင်တန်းတွင် မြစ်ဖျားခံ၍၊ ယူနန်၊ ဆီချွန်၊ ဟူပေ၊ ဟူနန်၊ ကျီယန်ဆီ၊ အန်ဟွီပြည်နယ်တို့ကို ဖြတ်သန်းကာ ပင်လယ်ထဲသို့ စီးဝင်လေသည်။

တရုပ်နိုင်ငံရှိ ယန်ဆီမြစ်အပြင် အရှည်ဆုံးမြစ်မှာမူ မိုင်ပေါင်း ၃၀၀၀ ကျော်မျှရှည်သော ဟွန်ဟိုမြစ်ဖြစ်သည်။ ထိုမြစ်ကို မြစ်ဝါဟုလည်းခေါ်သည်။ ယင်းသို့ခေါ်ခြင်းမှာ ရေစီးရာ၌ မြစ်ကြောင်းတွင်ပါလာသော အဝါရောင် နုံးမြေကို အစွဲပြုခေါ်ခြင်းဖြစ်သည်။ ဤမြစ်သည်လည်း ကွန်လွန်တောင်တန်းမှစီးဆင်းသော မြစ်ဖြစ်သည်။ လွန်ခဲ့သော နှစ်ပေါင်း ၃၀၀၀ အတွင်း မြစ်ဝါမြစ်သည် ရေလွှမ်းမိုးခဲ့သည်မှာ အကြိမ်ပေါင်း ၁၅၀၀ မျှ မကချေ။ မြစ်ကြောင်းလည်း ၂၆ ကြိမ်ထက်မနည်း ပြောင်းခဲ့သည်။ ရေလွှမ်းမိုးသည့်အခါတိုင်း ကောက်ပင်သီးနှံများ ပျက်စီးရုံမျှသာမက၊ လူအများလည်း သေကြေရသည့်အဖြစ်ကြောင့်၊ ဟွန်ဟိုမြစ်ကို တရုပ်နိုင်ငံအားဒုက္ခပေးသော မြစ်ဟူ၍ မှတ်ယူလေ့ရှိကြသည်။ ၁၉၅၅ ခုနှစ်မှစ၍၊ ဟွန်ဟိုမြစ်ရေလွှမ်းမိုးခြင်းကို ကာကွယ်ထိန်းသိမ်းနိုင်ရန်အလို့ငှာ ဟိုနန်နှင့်ကန်ဆုနယ်တို့တွင် ရေကာတာများတည်ဆောက်လျက်ရှိသည်။

တရုပ်နိုင်ငံတွင် အထက်ဖော်ပြရာပါ မြစ်တို့အပြင် ကမ္ဘာပေါ်တွင် အရှည်ဆုံးသော တူးမြောင်းဖြစ်သည့် တူးမြောင်းမဟာသည် နာမည်ကျော်ကြားလေသည်။ ထိုတူးမြောင်းကို မြောက်ဖက် ပီကင်းမြို့အနီးမှ တောင်ဖက် ဟန်ချောင်မြို့ထိ တူးဖောက်ထားသည်။ ထိုတူးမြောင်းသည် မိုင်ပေါင်း ၁၁၀၀ ကျော်မျှရှည်လျားသည်။ (တျန်ဆင်မြို့ — ရှု။)

## ရာသီဥတု

တရုပ်နိုင်ငံတွင် မြောက်ပိုင်းရှိ အလွန်အေးမြသောဒေသ၊ တောင်ပိုင်းရှိ အပူပိုင်းဒေသ၊ အရှေ့ပိုင်းရှိ ပင်လယ်သမုဒ္ဒရာနှင့်နီးစပ်သောဒေသ၊ အနောက်ပိုင်းရှိ ဆင်ကျီယန်နယ် သဲကန္တာရဒေသတို့ ပါဝင်ကြသဖြင့်၊ တရုပ်ပြည်၏ ရာသီဥတုသည် ဒေသအလိုက် အမျိုးမျိုး ကွဲပြားခြားနားလေသည်။ တရုပ်နိုင်ငံမြောက်ပိုင်း၌ ဆောင်းဥတုသည် ခြောက်လမျှ တာရှည်သည်။ ဆောင်းဥတု၌ ဆီးနှင်းကျသည့်အခါ၊ တောင်ပိုင်းဒေသ ကွမ်တန်၊ ကွမ်ဆီ၊ ဟူနန်၊ ကျီယန်ဆီပြည်နယ် လေးနယ်တို့၏စပ်ကြားရှိ နန်လင်တောင်တန်းအထိ ဆီးနှင်းကျတတ်သည်။ သာမန်အားဖြင့် တောင်ပိုင်းသည် အပူပိုင်းဒေသထဲတွင်ရှိသဖြင့်၊ အလွန်တရာပူလိမ့်မည်ဟုထင်မှတ်ရသည်။ သို့ရာတွင် တရုပ်ပြည်၏ အပူဆုံးဒေသမှာမူ ချုံကင်း၊ ဝူဟန်နှင့်နန်းကင်းမြို့များတည်ရှိရာ ယန်ဆီမြစ်ဝှမ်းတလျှောက် ဖြစ်လေသည်။ မြောက်ပိုင်းဒေသတို့တွင် မိုးပါး၍၊ မိုးရာသီမှာလည်း တိုတောင်းလှသဖြင့်၊ သွေ့သွေ့ခြောက်ခြောက် ရှိသည်။ တောင်ပိုင်းဒေသတို့၌ မိုးများစွာရွာသည်။ မုတ်သုန်လေသည် တရုပ်နိုင်ငံ၏ ရာသီဥတုကို ဖန်တီးသော လေဖြစ်သည်။ နွေဦးပေါက်ကာလလောက်မှစ၍ ပစိဖိတ်နှင့် အိန္ဒိယ သမုဒ္ဒရာတို့မှလာသော မုတ်သုန်လေသည် တရုပ်ပြည်ကုန်းမြေပြင်ပေါ်သို့ ဖြတ်သန်းတိုက်ခတ်လေသည်။ အေးသောကာလသို့ ကျရောက်သောအခါ လေသည် ကုန်းမှ သမုဒ္ဒရာရေပြင်သို့ အပြန်အားဖြင့် တိုက်ခတ်သည်။ ဤအချိန်တွင် ရာသီဥတု ခြောက်သွေ့လေသည်။ ထို့ကြောင့် ယေဘုယျအားဖြင့် ရာသီဥတုသည် နွေရာသီတွင် ပူ၍စိုစွတ်သည်။ ဆောင်းရာသီတွင် အေး၍သွေ့ခြောက်သည်။ ယူနန်ပြည်နယ်နှင့် ဆီချွမ်ပြည်နယ်တို့၌ကား ရာသီဥတုသည် တမျိုးဖြစ်သည်။ ယူနန်ပြည်နယ်သည် အပူပိုင်းဒေသတွင် ကျရောက်သော်လည်း၊ သမပိုင်းရာသီဥတုဒေသကဲ့သို့ အပူ အအေး ညီမျှသည်။ ဆီချွမ်ပြည်နယ်သည် ယူနန်ပြည်နယ်၏တောင်ဖက်သို့ကျသော်လည်း၊ မြောက်ဖက်၌ တောင်တန်းများကာဆီးလျက်ရှိခြင်းကြောင့်၊ ယူနန်ထက်အနည်းငယ်ပို၍နွေးသည်။

### သဘာဝဒေသများ

ရာသီဥတု၊ မြေပြင်ဇာနှင့် ပေါက်ရောက်သောအပင်တို့ကို လိုက်၍၊ တရုပ်နိုင်ငံကို သဘာဝဒေသများဖြင့် ပိုင်းခြားထားသည်။ တောင်ပိုင်းတွင် ပုလဲမြစ်ဝှမ်းဒေသ၌ မိုးများ၍၊ ပူနွေးသော ရာသီဥတုရှိသည်။ ဆောင်းဥတုတွင် ဆီးနှင်းမကျချေ။ ထိုဒေသ၌ ကောက်ပဲသီးနှံတို့ကို တနှစ်လျှင် သုံးသီးစိုက်၍ရသည်။ ဟင်းသီးဟင်းရွက်ကိုမူ ခုနစ်သီးအထိ စိုက်၍ရသည်။ ဆန်စပါး၊ ကြံပင်၊ ဆေးနှင့်အခြားအပူပိုင်းဒေသထွက် သီးနှံတို့သည် ဤဒေသ၌ထွက်သည်။

တရုပ်နိုင်ငံ၏အရှေ့ပိုင်းသည် တရုပ်နိုင်ငံ၏ ဗဟိုဒေသဖြစ်သည်။ ထိုဒေသသည် ယန်ဆီမြစ်ဝှမ်းဒေသဖြစ်သည်။ ပူနွေးစိုစွတ်သော ရာသီရှိရာ ဒေသတို့တွင် ဆန်စပါးစိုက်ပျိုးသည်။ ထိုဒေသထွက် ပိုး၊ ခြည်မျှင်နှင့်လက်ဖက်ခြောက်တို့သည် ကမ္ဘာတွင် ကျော်ကြားသည်။ လိမ်မော်၊ သံပုရာ၊ ရှောက်စသော အပင်မျိုးတို့ကို ထိုဒေသ၌ စိုက်ပျိုးကြသည်။ ရှမ်းဆီလည်း ဤဒေသမှထွက်သည်။ ဝါးမှာ အလွန်ပေါ၏။

တရုပ်နိုင်ငံမြောက်ပိုင်းရှိ သမပိုင်းဒေသသည်ကား မွန်ဂိုလီးယားပြည်နယ်မှ အရှေ့တလွှားဒေသဖြစ်၍၊ လိယောင်မြစ်ဝှမ်းအပါအဝင်ဖြစ်သည်။ ထိုဒေသ၏အနောက်ပိုင်းတွင် လိုအက်မြေဝါ ကုန်းပြင်မြင့် ရှိသည်။ ကန်ဆု၊ ရှန်ဆီ၊ ရှင်ဆီပြည်နယ်တို့သည် ထိုဒေသတွင်ပါဝင်၏။ လိုအက်မြေဝါ ကုန်းပြင်မြင့်၏ အရှေ့ဖက်၌ တရုပ်နိုင်ငံမြောက်ပိုင်းလွင်ပြင်တည်ရှိသည်။ ထိုလွင်ပြင်သည် ရှန်တွန်နှင့်လိယောင်တန်ကျွန်းဆွယ်တို့နှင့်စပ်လျက်တည်သည်။ ထိုဒေသ၌ဂျုံ၊ ဝါ၊ ပြောင်း၊ ပန်းသီး၊ ဆီးသီးစသော သီးနှံများထွက်သည်။

တရုပ်နိုင်ငံ၏ အရှေ့မြောက်ပိုင်းဒေသသည် အေးမြသော သမပိုင်းဒေသဖြစ်သည်။ ဆွန်ဂါရီမြစ်ဝှမ်းနှင့် ဟေးလွန်းကျီယန်မြစ်ဝှမ်းတို့ပါဝင်သည်။ ထိုဒေသ၏ ဗဟိုတွင် မြေသည် နက်၏။ ထိုမြေနက်၌ ပဲပိပင်စိုက်ပျိုးသည်။ ဟေးလွန်းကျီယန်မြစ်ဝှမ်းရှိ မြေသည် ဖြူပြာပြာမြေမျိုးဖြစ်သည်။ တောတောင်ထူထပ်သောဒေသဖြစ်၍၊ ထိုအရပ်မှ သစ်အမျိုးမျိုးရနိုင်သည်။ သားမွေးကောင်တို့ပေါများ၍၊ သားမွေးလည်း ရနိုင်သည်။

ဆီချွမ်ပြည်နယ်တခုလုံးသည် တရုပ်ပြည်၏ အနောက်တောင်ဒေသဖြစ်သည်။ တောတောင်ထူထပ်၍ စိုစွတ်သော အရပ်ဖြစ်ရာ၊ စိုက်ပျိုးရေးလုပ်ငန်း၌ အလွန်အရေးပါသဖြင့်၊ ထိုဒေသကို တရုပ်ပြည်၏ စပါးကျီဟု ခေါ်ဝေါ်လေ့ရှိကြ၏။ ထိုဒေသရှိ မြစ်ဝှမ်းနှင့်မြေနိမ့်ပိုင်းတို့သည် တရုပ်ပြည်တောင်ပိုင်းဒေသ၏သဘာဝနှင့်တူသည်။ သို့သော်တောင်ထိပ်နှင့် ကုန်းမြေမြင့်တို့၏ သဘာဝကား ထင်ရှူးတောပေါက်ရောက်ရာ အအေးပိုင်းဒေသ၏သဘာဝနှင့် အတူတူပင်ဖြစ်သည်။

တရုပ်နိုင်ငံတွင် သွေ့ခြောက်သော ဒေသကား မြောက်ဖက်ရှိ အတွင်းမွန်ဂိုးလီးယား ကိုယ်ပိုင်အုပ်ချုပ်ရေးဒေသမှသည် အနောက်မြောက်ဖက်ရှိ ဆင်ကျီယန်နယ် ဝီဂူးကိုယ်ပိုင်အုပ်ချုပ်ရေးဒေသအထိ ဖြစ်သည်။ မွန်ဂိုးလီးယား စတက်လွင်ပြင်တို့တွင် အိုးအိမ် အတည်တကျ မရှိသော တိရစ္ဆာန် ထိန်းကျောင်းမွေးမြူသူတို့သည် လှည့်ပတ်သွားလာနေထိုင်ကြသည်။ ဆင်ကျီယန်နယ်၌ ကန္တာရထဲရှိ အိုအေးစစ်တို့တွင် ဝါဂွမ်းစိုက်ပျိုးကြသည်။

ဆင်ကျီယန်နယ်၏ အရှေ့တောင်ဖက်တွင် ကမ္ဘာပေါ်၌ အမြင့်ဆုံးကုန်းမြေဖြစ်သော တိဗက်နိုင်ငံ တည်ရှိသည်။ တိဗက်နိုင်ငံသည် ပင်လယ်ရေမျက်နှာပြင်အထက် ပျမ်းမျှခြင်းအားဖြင့် ပေပေါင်း ၁၆,၀၀၀ မျှမြင့်သည်။ ထိုနယ်တွင် ဗြဟ္မပုတ္တမြစ် (အိန္ဒိယ)၊ သံလွင်မြစ် (မြန်မာ) နှင့် မဲခေါင်မြစ် (ယိုးဒယား) တို့မြစ်ဖျားခံသည်။ ဗြဟ္မပုတ္တမြစ်ကို တိဗက်နိုင်ငံ၌ စန်းပိုမြစ်ဟုခေါ်သည်။ ထိုမြစ်ဝှမ်း၌ သီးနှံစိုက်ပျိုး၍ရသည်။ ယခုအခါ ဂျုံ၊ အာလူး၊ မုန်လာဥ၊ ခရမ်းချဉ်၊ ဖရုံစသော ဟင်းသီးဟင်းရွက်တို့ကိုပင် တိဗက်နိုင်ငံ၌ စိုက်ပျိုးလာကြပြီဟု အဆိုရှိသည်။

### စိုက်ပျိုးရေး

တရုပ်နိုင်ငံတွင် အလွန်အေးမြ၍ မိုးနည်းပါးသော တောင်ပေါ်ပိုင်း ကုန်းပြင်မြင့်ဒေသတို့တွင် သဘာဝအားဖြင့်ပေါက်ရောက်သော မြက်ကိုသာ မှီခိုအားထားစရာရှိသည်။ ထိုကြောင့် ထိုဒေသတို့တွင် တိရစ္ဆာန်များကို အစားအစာနှင့်အဝတ်အလို့ငှာ ထိန်းကျောင်းကြသည်။ မွေးမြူသော တိရစ္ဆာန်တို့မှ နို့၊ အသား၊ သားမွေးနှင့်သာရေတို့ကို ရနိုင်သည်။ သဲကန္တာရများမှတပါး ကျန်ရှိသော နယ်တို့တွင် စိုက်ပျိုးရေးကို အကြီးအကျယ်လုပ်ကိုင်ကြသည်။ စိုက်ပျိုးရေးဒေသတို့ကို သဘာဝအလျောက် လေးနယ်ပိုင်းခြားနိုင်သည်။ ပဌမနယ်မှာ နွေဦးဂျုံ စိုက်ပျိုးရေးနယ်ဖြစ်သည်။ ဆောင်းတာရှည်၍ အေးမြသော ရာသီဥတုရှိရာ ကုန်းပြင်မြင့်အရပ်တို့နှင့် တရုပ်နိုင်ငံမြောက်ပိုင်းအရပ်တို့တွင် ဂျုံကိုသာ အဓိက စိုက်ပျိုးကြသည်။ ထိုအရပ်တို့၌ ဆောင်းဥတုတွင် ဘာမျှ မစိုက်ပျိုးနိုင်ကြချေ။ ထိုအရပ်တို့သည် အကြမ်းအားဖြင့် တရုပ်နိုင်ငံ၏ အရှေ့မြောက်မှ အစပြု၍ အနောက်မြောက်အထိ တည်ရှိသည်။ တိရစ္ဆာန်မွေးမြူနိုင်သော နေရာများဖြစ်၍၊ ထိုအရပ်တို့သည် သားမွေးများကို ထုတ်လုပ်ကြသည်။ ဒုတိယနယ်ကား ဆောင်းဥတု ဂျုံစိုက်ပျိုးရေးနယ်ဖြစ်သည်။ ထိုနယ်မှာ တရုပ်နိုင်ငံ အရှေ့မြောက်ပိုင်း ဟိုပေပြည်နယ်မှသည် တောင်ပိုင်း ယူနန်နှင့် ဆီချွမ်ပြည်နယ်အထိ ကျယ်ပြန့်သည်။ထိုနယ်တွင် အချို့နေရာ၌ တနှစ်လျှင် နှစ်သီး စိုက်ပျိုးနိုင်သည်။ တတိယနယ်မှာ

ဂျုံနှင့်ဆန် စိုက်ပျိုးရေးဒေသဖြစ်၏။ ထိုဒေသ၏သဘာဝမှာ မြောက်ပိုင်းနှင့်တောင်ပိုင်း စိုက်ပျိုးရေး သဘာဝနှစ်ခုကို ရောစပ်ထားသကဲ့သို့ရှိရာ၊ နွေဥတုတွင် စပါးစိုက်၍၊ ဆောင်းဥတုတွင် ဂျုံစိုက်သောအရပ် ဖြစ်လေသည်။ သီးနှံ မျိုးပေါင်းများစွာ ဖြစ်ထွန်း၏။ စတုတ္ထနယ်ကား စပါးစိုက်ပျိုးရေးနယ်သက်သက်ဖြစ်သည်။ များသောအားဖြင့် တောင်ပိုင်းအရပ်ဖြစ်၍၊ ထိုအရပ်တွင် နာမည် ထင်ရှားသော ဟူနန်၊ ဟူပေ၊ ဖူကျီယန်၊ ကွမ်တန်၊ ကွမ်ဆီ၊ ကွေချောင်၊ ယူနန်စသော ပြည်နယ်တို့ပါဝင်သည်။ ထိုအရပ်တွင် စပါးကို တနှစ် နှစ်သီးစိုက်ပျိုးလေ့ရှိကြ၏။ ရှောက်၊ သံပုရာ၊ လိမ်မော်စသော သစ်သီးတို့ကိုလည်း စိုက်ပျိုးကြသည်။

၁၉၄၉ ခုနှစ်တွင်ရှိသော လယ်ယာမြေအခြေအနေသည် ဤသို့ဖြစ်သည်။ လယ်ယာမြေကို ပိုင်ဆိုင်သူတို့သည် ၄၀ ရာခိုင်နှုန်းရှိသည်။ မိမိလုပ်ဖသော လယ်ယာမြေကို တစိတ်တဝက်မျှသာ ပိုင်၍၊ ကျန်လယ်ယာမြေတို့ကို သီးစားအဖြစ်ဖြင့် လုပ်ကိုင်သူတို့မှာ ၂၅ ရာခိုင်နှုန်းဖြစ်သည်။ လယ်သီးစားကား ၃၅ ရာခိုင်နှုန်းရှိသည်။ ၁၉၅၀ ပြည့်နှစ်ဇွန်လ ၃၀ ရက်နေ့တွင် မြေရှင်စနစ်ကို ဖျက်သိမ်း၍၊ မြေရှင်တို့ထံမှမြေများကို သိမ်းယူခဲ့ရာ၊ ၁၉၅၂ ခုနှစ်တွင် မြေယာစနစ်ပြုပြင်ပြောင်းလဲရေး အပြီးသို့ရောက်သည်။ ၁၉၅၅ ခုနှစ်တွင် ၆၀ ရာခိုင်နှုန်းမျှသော တောင်သူလယ်သမားတို့သည် လယ်ယာမြေ စုပေါင်းလုပ်ကိုင်ရေး စနစ်အရ လုပ်ကိုင်နိုင်လာကြသည်။ တရုပ်နိုင်ငံတွင် စိုက်ပျိုးနိုင်သော မြေအကျယ်အဝန်းသည် စတုရန်းမိုင်ပေါင်း ၁၉၂,၀၆၀ ရှိသည်ဟု ခန့်မှန်းကြသည်။ တရုပ်နိုင်ငံတွင် ဥယျာဉ်စိုက်ပျိုးခြင်း လုပ်ငန်းသည် အထူးအောင်မြင်သည်။ ၁၉၅၆–၆၇ ခုနှစ်ကာလအပိုင်းအခြားအတွက် ၁၂ နှစ် စိုက်ပျိုးရေးစီမံကိန်းအရ ၁၉၅၈ ခုနှစ်ကုန်လွန်လျှင်၊ တနိုင်ငံလုံး၏လယ်ယာမြေ ပြည်သူပိုင် စနစ်သည် ပြီးဆုံးလိမ့်မည်ဟု ခန့်မှန်းကြသည်။ စိုက်ပျိုးသော သီးနှံတို့မှာ စပါး၊ ဂျုံ၊ ပြောင်း၊ မုယော၊ အုတ်ဂျုံ၊ ပဲငပိပင်၊ ပဲအမျိုးမျိုး၊ ကန်စွန်းဥ၊ အာလူး၊ ဝါ၊ လက်ဖက်၊ ဆေး၊ ကြံစသည်တို့ဖြစ်သည်။ စိုက်ပျိုးရေးနှင့်အတူ အရေးကြီးသော လုပ်ငန်းတရပ်သည် ပိုးမွေးမြူရေးနှင့် တိရစ္ဆာန်မွေးမြူရေး လုပ်ငန်းဖြစ်လေသည်။ ၁၉၅၃–၅၇ ခုနှစ်အတွက် စိုက်ပျိုးရေး ငါးနှစ်စီမံကိန်းအရ၊ တရုပ်ပြည်သူ့အစိုးရသည် လယ်ယာထွက် ပစ္စည်းများကို တနှစ်လျှင် ၄ ရာခိုင်နှုန်းကျော်မျှ တိုးတက် လုပ်ကိုင်၍၊ နောက်ဆုံးတွင် မူလကထက် ၂၃ ရာခိုင်နှုန်းမျှ ပိုထွက်လိမ့်မည်ဟု ခန့်မှန်းထားသည်။

## တွင်းထွက်ပစ္စည်း

တရုပ်နိုင်ငံသည် သဘာဝပစ္စည်းကြွယ်ဝသည်။ ကျောက်မီးသွေး၊ ရွှေ၊ သံ၊ ကြေး၊ ခဲ၊ ငွေ၊ တန်စတင်၊ ပြဒါး၊ ခနောက်စိမ်း၊ ခဲမဖြူတို့သည် တရုပ်နိုင်ငံ အနောက်ပိုင်းတွင် ထွက်သည်။ သံကို ဟိုပေပြည်နယ်၊ ရှန်တုန်ပြည်နယ်နှင့် အခြားပြည်နယ်တို့တွင် တူးဖေါ် လုပ်ကိုင်ကြသည်။ ကျောက်မီးသွေးနှင့်သံ ရော၍ထွက်သောဒေသမှာ မန်ချူးရီးယားဒေသဖြစ်သည်။ ဟန်ကောင်အနီးရှိ သံသတ္တုတွင်းသည် ကမ္ဘာပေါ်တွင် အကြွယ်ဝဆုံးသော သတ္တုတွင်းဖြစ်သည်။ ရေနံကိုမူ ယန်ဆီမြစ်ဝှမ်း အထက်ပိုင်း၌၎င်း၊ တောင်ပိုင်း မန်ချူးရီးယားဒေသ၌၎င်း၊ ရှင်ဆီနှင့် ကန်ဆုပြည်နယ်များ၌၎င်း တူးဖေါ် လုပ်ကိုင်ကြသည်။ ခဲမဖြူကား ယူနန်ပြည်နယ်၌ထွက်သည်။ ရှေးအခါက တရုပ်နိုင်ငံတွင် ကမ္ဘာပေါ်၌ ခနောက်စိမ်းထွက်သော နှုန်း၏ ၆၀ ရာခိုင်နှုန်းမျှ ထွက်သည်။ ယခုအခါမှာမူ၊ ဗိုလစ်ဗီးယား၊ မက္ကဆီကို၊ အမေရိကန်ပြည်ထောင်စုနှင့် တောင်အာဖရိကတို့က တရုပ်နိုင်ငံထက် ပို၍ထွက်သည်။

တရုပ်ပြည်သူ့အစိုးရသည် ၁၉၅၃–၅၇ ခုနှစ်အတွက် စီးပွားရေးနှင့်လူမှုရေး ငါးနှစ်စီမံကိန်းအလိုငှာ ငွေပင်ငွေရင်း မြှုပ်နှံထားသည်မှာ တန်ဖိုးအားဖြင့် ရွှေချိန် အောင်စ သန်းပေါင်း ၇၇၀ ခန့်နှင့်ညီမျှသည်ဟုဆိုသည်။ ထိုစီမံကိန်းအရ စက်မှုလက်မှုဆိုင်ရာ အဆောက်အအုံ တည်ဆောက်ခြင်းသည် ၁၉၅၇ ခုနှစ်သို့ရောက်သော် ထိုမြှုပ်နှံထားသောငွေပင်ငွေရင်းတန်ဖိုး၏ ၅၈ ရာခိုင်နှုန်းမျှရှိမည်ဟု ဆိုသည်။ ထိုကြောင့် တရုပ်နိုင်ငံတွင် စက်မှုလက်မှုထုတ်လုပ်ခြင်း တန်ဖိုးသည် ၁၉၅၂ ခုနှစ်ကတန်ဖိုးနှင့် နှိုင်းစာကြည့်လျှင် ၁၉၅၇ ခုနှစ်၌ ၉၈ ရာခိုင်နှုန်းမျှတိုးတက်သည်။ အထူးသဖြင့် သံ၊ သံမဏိလုပ်ငန်း၊ လျှပ်စစ်ဓာတ်ထုတ်လုပ်ရေး၊ ကျောက်မီးသွေးလုပ်ငန်း၊ အင်္ဂတေလုပ်ငန်း၊ စက္ကူလုပ်ငန်း၊ အထည်အလိပ်ရက်လုပ်ခြင်းလုပ်ငန်း၊ သကြားလုပ်ငန်းတို့တွင် ရှေးကထက် တဆမှ သုံးဆအထိ တိုးတက်လျက်ရှိလေသည်။

## လမ်းပန်းဆက်သွယ်ရေး

၁၉၃၇ ခုနှစ် တရုပ် ဂျပန် စစ်မဖြစ်မီက တရုပ်နိုင်ငံ လမ်းပန်း ဆက်သွယ်ရေး၌ မီးရထားလမ်းသည် မိုင်ပေါင်း တသောင်းမျှသာ ရှိခဲ့သည်။ စစ်အတွင်း၌ကား စစ်လမ်းကြောင်းအဖြစ်ဖြင့် လမ်းများကို တရုပ်နှင့်ဂျပန်တို့သည် အပြိုင်အဆိုင် ဖောက်လုပ်ကြရလေသည်။ အထူးသဖြင့် ဒုတိယကမ္ဘာစစ်အတွင်း၌ ထိုကဲ့သို့ဒေသအနှံ့အပြားတွင် လမ်းဖောက်လုပ်ကြရသည်။ ထင်ရှားသော သာဓကနှစ်ရပ်မှာ မိုင်ပေါင်း ၆၉၀ ရှည်လျားသောကွန်မင်းမြို့မှ လားရှိုးမြို့သို့ဖောက်လုပ်ထားသည့် တရုပ်မြန်မာ လမ်းမကြီးနှင့်မိုင်ပေါင်း ၂၅၀၀ ရှည်လျားသော ဆီအန်မြို့မှ ရုရှနိုင်ငံရှိ ဆဲမီပလက်တင့်မြို့သို့ ဖောက်လုပ်ထားသည့် တရုပ်ရုရှ

လမ်းမကြီးတို့ဖြစ်လေသည်။ ချင်းကင်းမြို့မှအစပြု၍ ဆီချမ် ပြည်နယ်ကို အင်ကျိယန် ပြည်နယ်နှင့် ဆက်သွယ်ပေးသော မော်တော်ကားလမ်းမကြီးသည်လည်း မိုင်ပေါင်း ၂၅,၀၀၀ ရှည်လျားသည်။ တရုပ်နိုင်ငံနှင့် မြောက်ဗီယက်နမ်နိုင်ငံတို့လည်း လမ်းမကြီးဖြင့်အဆက်အသွယ်ပြုကြသည်။ တရုပ်နိုင်ငံကိုတိဗက်နိုင်ငံနှင့်ဆက်သွယ်ပေးသော လမ်းမကြီးနှစ်ခုသည် ၁၉၅၅ ခုနှစ်တွင် ဖောက်လုပ်ပြီးစီးခဲ့သည်။ ၁၉၅၄ ခုနှစ်၏အခြေအနေအရ တရုပ်နိုင်ငံရှိ လမ်းမကြီးများ အားလုံး၏မိုင်ပေါင်းသည် ဂဂ,၆၀၀ ကျော်ရှိလေသည်။

တရုပ်နိုင်ငံတွင် မီးရထားလမ်းတို့ကို ၁၈၇၆ ခုနှစ်၌ စတင်ဖောက်လုပ်ခဲ့သည်။ ၁၉၅၀ ပြည့်နှစ် ဇူလိုင်လ ၁ ရက်နေ့အထိ မီးရထားပြေးလျက်ရှိသော မီးရထားလမ်းများ၏မိုင်တွက်သည် ၁၃,၄၇၈ မိုင်မျှရှိသည်ဟု သိရသည်။ ၁၉၅၂ ခုနှစ်အထိ နောက်ထပ်မိုင် ၇၇ဂ မိုင် တိုး၍ဖောက်ခဲ့သည်။ ၁၉၅၇ ခုနှစ်တွင် မီးရထားလမ်းမိုင်ပေါင်း နောက်ထပ် ၁၇,၁၀၀ မိုင်မျှ တိုးလာလိမ့်ဦးမည်ဟု မှန်းဆထားသည်။ ယခုလက်ရှိ မီးရထားလမ်းတို့ကား (၁) ပီကင်း ကန်တုန် မီးရထားလမ်း၊ (၂) တျန်ဆင် ရှန်ဟိုင်း မီးရထားလမ်း၊ (၃) ဆိုဗီယက်နယ်ခြား၊ ဗလာဒီဗော့စတော့အထိ ရောက်သော အရှေ့မီးရထားလမ်း၊ (၄) မန်းချူးရီးယားတောင်ပိုင်းသို့ သွားသော မီးရထားလမ်း၊ (၅) ပီကင်းမှမန်ချူးရီးယားမြို့တော် ရှန်းယန်း (ရှေးအခေါ် မုကဒင်) သို့ သွားသော မီးရထားလမ်း၊ (၆) တောင်နှင့်မြောက်သို့ပြေးသော ပီကင်းမှဆိုဗီယက်ယူနီယန်ရှိ ဥလန်ဥဒေအထိပေါက်သောမီးရထားလမ်းသစ်ကြီး၊ (၇) အရှေ့အနောက်ဆက်သွယ်သော မီးရထားလမ်းသစ်ကြီး၊ (ဂ) ချင်တူးမှချူကင်းသို့ မီးရထားလမ်း၊ (၉) မွန်ဂိုးလီးယား အတွင်းပိုင်းသို့သွားသော လန်ချောင်မှ ပေါင်တောင်သို့ မီးရထားလမ်းဟူ၍ဖြစ်လေသည်။

### အမျိုးအနွယ်နှင့်စာပေ

တရုပ်နိုင်ငံတွင် ရှေးအကျဆုံးသော လူ၏အရိုးစုကို ပီကင်းမြို့တော်မြောက်ဖက် ဂူတခုတွင် တွေ့ရှိရ၍၊ ယင်းအရိုးစုကို ပီကင်းလူ၏ အရိုးစုဟု အမှတ်သညာ ပြုကြသည်။ ပီကင်းလူကို 'ဆင်နန်သရိုပပ် ပီကင်နင်ဆစ်' ဟူ၍ သိပ္ပံစံနစ်ဖြင့်ခေါ် ဆိုသည်။ ထိုပီကင်းလူတို့သည် ပလိုင်စတိုစင်းယုက်ဟူသောကာလအတွင်း၌ နေထိုင်ကြသော လူမျိုးများပင်ဖြစ်ဟန်တူသည်။ ယင်းလူမျိုးတို့သည် ကျောက်တုံး၊ အရိုးနှင့်ဦးချို တို့ကို လူသုံးကရိယာတန်ဆာပလာ အနေဖြင့် အသုံးပြုကြသည်။ မီးကိုလည်း အသုံးချတတ်ကြသည်။ ယခုခေတ် တရုပ်လူမျိုးများသည် ယင်းလူမျိုးတို့မှ ဆင်းသက်လာဟန်တူသည်။ ရှေးဟောင်း တရုပ်လူမျိုးတို့သည် တာရင်မြစ်ဝှမ်းကိုဖြတ်၍ အနောက်ဖက်မှလာခဲ့ကြသည်ဟု သမိုင်းပညာရှင်တို့က ဆိုကြသည်။ သို့ရာတွင် ယင်းတို့မူလ နေထိုင်ရာ ဒေသအမှန်မှာမူ ဟွန်ဟိုမြစ်ဝှမ်း အောက်ပိုင်းဖြစ်သည်ဟုလည်း ယူဆကြသည်။ ရှေးဟောင်း တရုပ်လူမျိုးတို့၏ လူမှုဖွဲ့စည်းရေးသည် အလွန်စည်းကမ်းကျနသည်။ အိမ်တွင် အိမ်ထောင်ရှင်ဖြစ်သော ဖခင်သည် အကြီးအမှူးဖြစ်၍၊ ထိုအိမ်၌ အတူတူနေထိုင်ကြသော သားမယား ဆွေမျိုးညာတိနှင့် မှီခိုသူဟူသမျှသည် အိမ်ထောင်ရှင်ယောကျ်ား၏ ခေါင်းဆောင်မှုကို ခံယူရသည်။ အိမ်ထောင်ရှင် ယောကျ်ားကလည်း သူ၏လက်အောက်ငယ်သား အားလုံးအတွက် တာဝန်ယူရလေသည်။

တရုပ်စာသည် ကျွန်ုပ်တို့မြန်မာစာ အရင်းအမြစ်ကဲ့သို့ပင် အသံတခုလျှင် အဓိပ္ပါယ်တခု ထွက်သော စာဖြစ်သည်။ စကားမှာမူ ဒေသအလိုက် အလွန်ကွဲပြားခြားနားသည်။ ဒေသန္တရအားဖြင့် ပိုင်းခြား၍ကြည့်လျှင် (က) ကန်တုန်စကား၊ (၂) ဟတ်ကာစကား၊ (၃) အေမွိုင်စကား၊ (၄) ဖူချောင်စကား၊ (၅) ဝင်ချောင်စကား၊ (၆) နင်ပိုစကား၊ (၇) ဝူစကား၊ (ဂ) မန်ဒရင် (ဝါ) ပီကင်း (ဝါ) ကွမ်ဟူအာစကားဟူ၍ အခြေခံရှစ်မျိုးရှိ၏။ တရုပ်စာရေးသားပုံမှာ အသံထွက်ကိုလိုက်၍ ဗျည်း သရတို့ဖြင့် ပေါင်းစပ်ရေးသားနည်းမဟုတ်ဘဲ၊ ရုပ်ပုံရေးဘိသကဲ့သို့ ရေးသားခြင်းဖြစ်သဖြင့်၊ ဒေသအားဖြင့် စကားပြောပုံ ကွဲလွဲသော်လည်း၊ စာမှာမူ ဒေသစာများအတွက် တခုတည်းသာဖြစ်လေသည်။ တရုပ်စာရေးသားရာ၌ မိမိဆိုလိုသော ဝတ္ထုပစ္စည်း၏ ပုံသဏ္ဌာန်ကို သရုပ်ဖော်၍ရေးသည်။ ပမာအားဖြင့် နေကိုရေးလိုသော် နေ၏သဏ္ဌာန်၊ လကိုရေးလိုသော် လ၏သဏ္ဌာန်၊တောင်ကိုရေးလိုသော် တောင်၏သဏ္ဌာန်ကို ရေးသည်။ ထိုသို့ရုပ်ပုံဖြင့် သရုပ်ဖော်ထားသော စာကို ကန်တုန်စကားဖြင့် အသံတမျိုး၊ ပီကင်းစကားဖြင့် အသံတမျိုး စသည်ဖြင့် ဒေသအလိုက် အသံအမျိုးမျိုး ထွက်သည်။ ထိုသို့ အသံအမျိုးမျိုးထွက်သော်လည်း၊ အနက်အဓိပ္ပါယ်အားဖြင့်ကား ကန်တုန်နယ်နှင့် ပီကင်းနယ်ရှိ နယ်သူနယ်သားတို့အတွက် အတူတူပင်ဖြစ်သည်။

### တရုပ်စာပေ

ရှေးဟောင်း တရုပ်စံပြစာပေတို့သည် ခရစ်တော်မပေါ်မီ နှစ်ပေါင်း ၁၅၀၀ ခန့်လောက်ကပင် ရှိနေသည်ဟု သမိုင်းပညာရှင်တို့က ဆိုကြသည်။ တရုပ်စာပေတွင် ရှေးဟောင်းစံပြစာပေတို့ကို ကျမ်းစုပေါင်း ငါးစုခွဲခြားပြသည်။ ပဌမအစုသည် ရှီချင်းခေါ် ကဗျာကျမ်းစုဖြစ်သည်။ ဘီစီ ၁၀၀၀–၇၀၀ အကြားတွင် ပြုစုထားသော ကဗျာများဖြစ်၍၊ ရှေးဟောင်း သီချင်းများဖြစ်ကြသည်။ ဂီတသဘော သက်ဝင်သော ကဗျာများဖြစ်၍၊ အလွန်တရာနှစ်လိုဖွယ်ရှိသည်။

















## တရုပ်နိုင်ငံလူမျိုးစုများ

တရုပ်နိုင်ငံသည် ကျယ်ဝန်းသည့် အလျောက် တိုင်းရင်းသား လူမျိုးစု အမျိုးမျိုး ကွဲပြားလျက်ရှိသည်။ ထင်ရှားသော တိုင်းရင်းသား အချို့တို့မှာ ဝဲမှယာ (အထက်) ဆံပင်ကို အလှပြင်နေသည့် မိယောင်အမျိုးသမီးနှစ်ဦး၊ စက်ချုပ်ပန်းထိုး အတတ်၌ကျွမ်းကျင်သူ တိဗက်လုံမပျို၊ ယာလုပ်သူ ပုယီလုံမပျို။ (အလယ်) ချူအန်းပျိုမြူမယ်များ၊ တိုင်ယင်အမျိုးသမီး၊ ဆန္ဒမဲပေးနေသည့် ကာဇတ်အမျိုးသမီး။ (အောက်) ပေအမျိုးသားနှင့် အမျိုးသမီး၊ အန်ယီအမျိုးသမီးနှင့်အဖေါ်။

ဒုတိယအစုသည် အီချင်းဟုခေါ်သော ဗေဒင်ကျမ်း ယတြာကျမ်း စသည်တို့ဖြစ်သည်။ ထိုကျမ်းများမှာ ဘီစီ ၁၁၀၀ ခန့်က ပြုစုသော ကျမ်းများဖြစ်သည်။ တတိယအစုဖြစ်သော ရှုချင်းမှာ ရာဇဝင်ကျမ်းဖြစ်သည်။ ရာဇဝင်ဟု ဆိုသော်လည်း ထိုကျမ်းတို့တွင် ဘုရင်တို့၏ အမိန့်တော်များ၊ ဩဝါဒများ၊ နီတိကျမ်းများပါဝင်သည်။ ထိုကျမ်းတို့ကို တရုပ်သမိုင်းပေါ်ဦးကာလမှစ၍ ဘီစီ ၇၀၀ ခန့်အတွင်း ပြုစုသည်ဟု ဆိုသည်။ စတုတ္ထအစုဖြစ်သော ချွန်ချီယူကျမ်းမှာ ဘီစီ ၇၂၂ ခုမှသည် ၄၈၁ ခုတိုင်အောင် မှတ်တမ်းတင်ထားသော သမိုင်းများဖြစ်လေသည်။ ပဉ္စမအစုမှာ မင်းခမ်းမင်းနားဆိုင်ရာ ရိုးရာထုံးစံတို့၏အကြောင်းကို ပြဆိုသည့် လီချီခေါ်ကျမ်းဖြစ်သည်။ ထိုကျမ်းစု ငါးစုသည် တရုပ်စာပေ၏အရင်းမူလဖြစ်သည်။

တရုပ်စာပေတွင် တန်မင်းဆက်၌ ပေါ်သော ကဗျာတို့သည် လွန်စွာကျော်စောသည်။ ခရစ် ၆၉၉–၇၅၉ ခုနှစ်တွင် ထင်ရှားသော ဝန်ဝေးခေါ် ကဗျာဆရာကြီးသည် ကဗျာအရာ၌သာ နာမည်ရသည်မဟုတ်၊ ပန်းချီအရာ၌လည်း နာမည်ရသည်။ ထိုပုဂ္ဂိုလ်သည် ဗုဒ္ဓအယူဝါဒကို လက်ခံသူဖြစ်၍၊ ဗုဒ္ဓဝါဒီ ဘုန်းကြီးကျောင်းတခုကိုပင်လျှင် တည်ထောင်ခဲ့သည်။ ခရစ် ၇၀၅–၇၆၂ ခုနှစ်တွင် ထင်ရှားသော ကဗျာဆရာမှာ လီပို (ဝါ) လီတိုင်ပိုဟုခေါ်သော ပုဂ္ဂိုလ်ဖြစ်သည်။ ထိုပုဂ္ဂိုလ်မှာမူ တာအိုအယူဝါဒ အခြေခံရှိသော ပုဂ္ဂိုလ်ဖြစ်၍၊ သူ၏ကဗျာတို့သည် အပေါ်ယံ၌ ဟာသရသမြောက်သည်ဟု ဆိုရသော်လည်း၊ နစ်နစ်နည်းနည်း ဖတ်ရှုကြည့်သောအခါ လွမ်းဆွတ်ဖွယ်ရာ ဖြစ်နေသည်ကို တွေ့ရသည်။ လီပိုနှင့်စင်ပြိုင်ထင်ရှားသော ကဗျာဆရာမှာ တူဖူ (ခရစ် ၇၁၂–၇၇၀) ဖြစ်သည်။ သူ၏ကဗျာတို့သည် လူ့ဘဝ၏ဒုက္ခတို့ကို သရုပ်ဖော်သော ကဗျာများဖြစ်သည်။ ကဗျာဆရာ ပိုးချူအီ (ခရစ် ၇၇၂–၈၄၆) ကား နန်းတွင်းကဗျာဆရာတဦးဖြစ်၍၊ ပျူခေတ်က မြန်မာနိုင်ငံမှ တရုပ်နိုင်ငံသို့ သွားရောက်သော မြန်မာဂီတအဖွဲ့အကြောင်းကို ရေးစပ်ခဲ့သော ကဗျာဆရာဖြစ်သည်။

တရုပ်ကဗျာတို့သည် တန်မင်းဆက်တွင် ထင်ရှား ကျော်စောခဲ့ပြီးသည့်နောက် ဆွန်မင်းဆက် (ခရစ် ၉၆၀–၁၂၇၉) ယွန်မင်းဆက် (ခရစ် ၁၂၆၀–၁၃၆၈) နှင့် ခရစ်နှစ် ၁၆၄၄ အထိဖြစ်သော မင်မင်းဆက်တို့တွင်လည်း ထင်ရှား ကျော်စောသည်။

တရုပ်စာပေ၌ သမိုင်းဆိုင်ရာ စာပေတို့သည် အရေးကြီးသည်။ တရုပ်သမိုင်းကို ကောင်းစွာမှတ်တမ်းတင်ခဲ့သူကား ဆူမာချီယန် (ဘီစီ ၁၄၅–၈၇) ဖြစ်သည်။ ထိုပုဂ္ဂိုလ်သည် ရှီချီခေါ် ရာဇဝင်ကျမ်းကိုပြုစုခဲ့သည်။ (ဆူမာချီယန် — ရှု။) ဆွန်မင်းဆက်သို့ရောက်သောအခါ သမိုင်းပညာရှင် ဆူမာကွမ် (အေဒီ ၁၀၆၆–၈၄) သည် ဘီစီ ၅ ရာစုနှစ်မှ အေဒီ ၁၀ ရာစုနှစ်အထိ ဖြစ်ပျက်ခဲ့သော နိုင်ငံသမိုင်းကို မော်ကွန်းတင်ခဲ့သည်။

ဟန်မင်းဆက် (ဘီစီ ၂၀၂ — အေဒီ ၉) မှစ၍ပင်လျှင် ရိုးရာစဉ်ဆက်အားဖြင့် ဖြစ်ထွန်းခဲ့သော ပြဇာတ်တို့ ရှိကြသည်။ သို့သော် ဆွန်မင်းဆက်သို့ရောက်မှပင်လျှင်၊ ပြဇာတ်တို့ကို အဖွဲ့ဖွဲ့၍ ကပြခြင်းပြုကြသည်။ ၁၁ ရာစုနှစ်တွင် ဇာတ်တို့ကို ကောင်းစွာ ခင်းကျင်းပြသလာကြသည်။ ယွန်မင်းဆက်နှင့် မင်မင်းဆက် ကာလအတွင်း၌ ပြဇာတ်သည် ဆက်လက်ဖွံ့ဖြိုးလာလေရာ ယနေ့တိုင်ဖြစ်ပေသည်။ ယခုခေတ်၌ ရှေးရိုးမှုမပျက်သော တရုပ်ပြဇာတ်တို့သည် အော်ပရာ ဇာတ်ပွဲများအဖြစ်ဖြင့် ကမ္ဘာတွင် ထင်ရှားလာသည့်အပြင်၊ အနောက်တိုင်း၏ စံနမူနာကိုယူ၍ ပြသော ခေတ်ပြဇာတ်တို့သည်လည်း တရုပ်နိုင်ငံ၌ များစွာခေတ်စားလျက်ရှိပေသည်။

ဆွန်မင်းဆက်၌ စကားပြေအရေးအသားသည် များစွာတိုးတက်လာပြီးလျှင်၊ ဝတ္ထုများလည်း ခေတ်စားလာခဲ့သည်။ တရုပ်ဝတ္ထုတို့သည် ဗုဒ္ဓမြတ်စွာဘုရား၏ ဇာတ်နိပါတ်ဝတ္ထုတို့ကို မှီး၍ ဖြစ်ပေါ်လာခြင်းပင်ဖြစ်သည်။ အိန္ဒိယစာပေတွင် တွေ့ရသော ရှေးသူဟောင်းပုံပြင်တို့ကို အတုယူ၍ ရေးသားသည်တို့လည်းရှိသည်။ ယွန်နှင့် မင်မင်းဆက်တို့တွင် ဝတ္ထုအရေးအသားသည် များစွာတိုးတက်လာလေသည်။ ထိုခေတ်တွင် မြောက်ပိုင်း ဆွန်မင်းတို့၏ အဂတိလေးပါးလိုက်စားသော အုပ်ချုပ်ရေးကို တော်လှန်သည့် ခိုးသား ၁၀၈ ဦး၏ အကြောင်းဖြစ်သော ‘ရှုဝိဟူချန်’ ဝတ္ထုသည် ကျော်စောထင်ရှားသည်။ သမိုင်းဆရာတို့က ထိုဝတ္ထုသည် ဆင်းရဲသားတရုပ်လူမျိုးတို့၏ တော်လှန်ရေးစိတ်ဓာတ်ကို ပြုစုပျိုးထောင်ပေးသည်ဟု ဆိုကြသည်။ ၁၄ ရာစုနှစ်တွင် ထင်ရှားသော ဝတ္ထုမှာ ‘ဆန်ကူအို’ ခေါ် သုံးပြည်ထောင် ရာဇဝင်ဝတ္ထုဖြစ်သည်။ ၁၆ ရာစုနှစ်မှစ၍ ရှေးဟောင်းပုံပြင်များနှင့် အလားတူသောဝတ္ထုများ ခေတ်စားလာပြီးနောက်၊ တစတစနှင့် ဘဝ၏အခြေမှန်ကို သရုပ်ဖော်သော ဝတ္ထုများ ထွန်းကားလာသည်။

၂၀ ရာစုနှစ်တွင် တရုပ်နိုင်ငံသည် ယဉ်ကျေးမှုအရာ၌ တဆင့်ထက်တဆင့် တိုးတက်လာသည်။ ၁၉၁၁ ခုနှစ်မှစ၍ စာပေ၏လှုပ်ရှားမှုတို့သည် ပိုမိုအရေးပါ၍ လာခဲ့လေရာ၊ တရုပ်လူမျိုးတို့၏ တော်လှန်ရေးခေတ်တွင် အမည်ရင်းအားဖြင့် ချူရှုဂျင်၊ ကလောင်အမည်အားဖြင့် လူရွှန်းဟု တွင်သော စာရေးဆရာသည် များစွာထင်ရှားခဲ့သည်။ လက်ရှိခေတ်၌ကား ဝတ္ထုရေးဆရာ၊ ကဗျာဆရာ၊ ပြဇာတ်ဆရာဖြစ်သော ကူအိုမိုးရိုးသည် တရုပ်ပြည်သူ့နိုင်ငံတွင် စာပေကိစ္စတို့၌ ခေါင်းဆောင်ဖြစ်သည်။



ဘီစီ ၁၇၆၆–၁၁၂၂ ရှန်ယင်မင်းဆက်ခေတ်က ကျောက်စိမ်းတန်ဆာပလာ

သုခုမပညာရပ်များ

ပိသုကာအတတ်၊ ပန်းချီအတတ်နှင့် ရုပ်ထုအတတ်တို့သည် သုခုမ ပညာရပ်တို့တွင် အဓိက အခြေခံများဖြစ်၍၊ တရုပ်ပိသုကာ၊ ပန်းချီနှင့်ရုပ်ထုကို တပေါင်းတည်းအကျဉ်းချုပ် ဖော်ပြပါမည်။

ယနေ့တိုင် မြေပြင်ပေါ်တွင် အထင်အရှားတည်ရှိနေသော တရုပ်နိုင်ငံတံတိုင်းကြီးသည် ရှေးဟောင်း ပိသုကာအတတ် ပြောင်မြောက်ပုံကို ပြဆိုပေသည်။ ဘီစီ ၂၂၈ ခုနှစ်တွင် တရုပ်ဧကရာဇ်ဘုရင် ရှီဟွန်တီးသည် တရုပ်ပဒေသရာဇ်နယ်ပယ်တို့ ကွဲပြားခြားနားရသည်ကို တစုတပေါင်းတည်းဖြစ်အောင် စည်းရုံး၍၊ ပြင်ပရန်သူတို့ မဝင်လာနိုင်ရလေအောင် တရုပ်တံတိုင်းကြီးကို တည်ဆောက်ခဲ့လေသည်။ ထိုတံတိုင်းကြီးအပြင်၊ မြို့တိုင်း၌ရှိသော မြို့ရိုးတို့သည်လည်း တရုပ်ပိသုကာအတတ်တွင် အရေးကြီးသော တည်ဆောက်မှုများဖြစ်သည်။ ပီကင်းမြို့တော်၏ မြို့ရိုးသည် ယနေ့တိုင် ထင်ရှားတည်ရှိပေသည်။

တရုပ်ပိသုကာတို့သည် အိုးအိမ် ဗိမာန် တည်ဆောက်ရာ၌ အဆောက်အအုံ၏အုတ်ခုံကို ပုရန်ကိုင်၍ လုပ်ဆောင်သော်လည်း၊ အဆောက်အအုံ၏ ကိုယ်ထည်ကိုမူ သစ်သားဖြင့် တည်ဆောက်လေ့ရှိသည်။ ဤစနစ်ဖြင့် နန်းတော်၊ မြို့တံခါး၊ ဘုရားကျောင်း၊ တန်ဆောင်းတို့ကို တည်ဆောက်လေ့ရှိသည်။ ပုံစံအားဖြင့် ပီကင်းနန်းတော် တံခါးမကြီး၊ တိယင် အန် မင် အဆောက်အအုံ၊ နွေရာသီ နန်းတော် အဆောက်အအုံများ၊ ပဟိုရ်စင်နှင့် ၁၃ ရာစုနှစ်တွင် တည်ဆောက်သော ကောင်းကင်ဘုံဟု ခေါ်သည့် နန်းတော်စသည်တို့ ဖြစ်လေသည်။

ယင်းအဆောက်အအုံတို့အပြင်၊ တရုပ်လက်ရာကို ကောင်းစွာဖော်ပြသော ပုထိုးများလည်းရှိသည်။ ယင်းတို့သည် များသောအားဖြင့် မြတ်စွာဘုရားကို အထိမ်းအမှတ်ပြုသော ပုထိုးများဖြစ်သည်။ ယင်းတို့ကို တည်ဆောက်ရာ၌ များသောအားဖြင့် ဘုံ ၇ ဆင့်၊ ၈ ဆင့်၊ ၉ ဆင့်တည်ဆောက်သည်။ သို့သော် စေတီပမာ တဆင့်တည်းဖြင့် ပြီးသော ပုထိုးများသည် အရင်းမူလဖြစ်ဟန်တူသည်။ ပီကင်းမြို့အနီးရှိ ဘုံ ၇ ဆင့်ပုထိုးနှင့်ဟန်ချောင်မြို့ရှိ ဘုံ ၉ ဆင့်ပုထိုးတို့သည် ထင်ရှားသော ပုထိုးများဖြစ်သည်။

ထို့ပြင် တန်တား တည်ဆောက်ခြင်းသည် တရုပ်နိုင်ငံ၌ ရှေးအထက်ကျော်ကာရီကပင်လျှင် အလွန် တိုးတက်လျက်ရှိပေသည်။ ပီကင်းမြို့အနီးရှိ မာကိုပိုလို တန်တားသည် ကမ္ဘာ့သမိုင်း၌ပင်လျှင် ထင်ရှားသည်။ ဟိုပေနယ် ချာအိုဆိအင်မြို့အနီးရှိ ကျောက်တန်တားမှာမူ ယခုခေတ် ပိသုကာနှင့် အင်ဂျင်နီယာ ပညာရှင်တို့ကပင်လျှင် ချီးကျူးရသော တန်တားဖြစ်သည်။ ထိုတန်တား၌ ပေါင်းကူး အရှည် ၁၂၃ ပေရှိသည်။

တရုပ်ပန်းချီသည် ဟန်မင်းဆက်ကပင်လျှင် အတတ်ပညာအရာ၌ ပြောင်မြောက်ခဲ့သည်။ ပန်းချီများကို နံရံ၌၎င်း၊ အုတ်ခုံများ၌၎င်း၊ ပိုးသားပေါ်၌၎င်း ရေးခြယ်လေ့ရှိသည်။ တန်မင်းဆက်သို့ ရောက်သောအခါ ပန်းချီအတတ်သည် ဖွံ့ဖြိုးတိုးတက်လာသည်။ ဘုရားကျောင်း တန်ဆောင်းနံရံ

တို့တွင် ပန်းချီ ဆေးရေးခြင်းသည် များစွာ ပြန့်ပွားလာလေသည်။ ဗုဒ္ဓမြတ်စွာဘုရား၊ ဘုရားလောင်း ဗောဓိသတ်၊ လောကပါလနတ်၊ ဘီလူး ရက္ခိုသ် စသည်တို့ကို ဆေးရေးခြယ်သည်။ သို့သော် ၈ ရာစုနှစ်သို့ ရောက်သောအခါ ရှုမျှော်ခင်းတို့ကို အများအပြားရေးသည်။ ထိုခေတ်တွင် အထက်က ပြဆိုခဲ့သော ကဗျာဆရာကြီး ဝန်ဝေးသည် ရှုမျှော်ခင်းတို့ကို မင်ဖြင့်ရေးခြယ်ရာ၌ ထင်ရှားခဲ့သည်။ ဆွန်ခေတ်တွင်မူ ရှုမျှော်ခင်းရေးသော ပန်းချီသည်သာလျှင် ပို၍ထင်ရှားလာလေသည်။ ထိုခေတ်တွင် ပိုးဖျင်လိပ်ပေါ်၌ ရေးသော ရှုမျှော်ခင်းတို့သည် အလွန်တရာမှ နှစ်လိုဖွယ်ရှိသည်။ ယွန်မင်းဆက်၊ မင်မင်းဆက်၊ ချင်မင်းဆက်တို့၌လည်း ပန်းချီအတတ်သည် များစွာ တိုးတက်လာခဲ့သည်။

ရှေးအကျဆုံးသော ရုပ်တုနမူနာတို့ကို အန်ယန်နယ် ရှန် (ဝါ) ယင်မင်းဆက် (ဘီစီ ၁၇၆၆–၁၁၂၂) တို့၏ သင်းချိုင်းဂူများတွင် တွေ့ရှိရသည်။ ဇီကွက်ရုပ်၊ ကျားရုပ်၊ လိပ်ရုပ်တို့ကို အများဆုံးထုလုပ်၍၊ ရံဖန်ရံခါ လူရုပ်တို့ကိုလည်း ထုလုပ်ကြသည်။ ကျောက်ကို အသုံးများသော်လည်း၊ ကြေးညိုရုပ်တုများလည်း အတော်ပင်တွင်ကျယ်သည်။ ဘီစီ ၅၀၀ ခန့်သို့ရောက်သောအခါ ကြေးညိုဖြင့် ထုလုပ်သော လူရုပ်များကို အဆောက်အအုံတို့၌ တန်ဆာဆင်ရန် အသုံးပြုလာကြသည်။ ဟန်မင်းဆက်တွင် ရုပ်ထုအတတ်သည် ပိသုကာအတတ်နှင့်ယှဉ်၍ ဖွံ့ဖြိုးလာလေသည်။ ငှက်ရုပ်၊ နဂါးရုပ်၊ ကျားရုပ်တို့ကို အဆောက်အအုံတို့ကို တန်ဆာဆင်ရန်အတွက် ထုလုပ်ကြသည်။ မြောက်ပိုင်းနှင့်တောင်ပိုင်း မင်းဆက်ခေတ်သို့ ရောက်လာသောအခါ၊ ဗုဒ္ဓသာသနာသည် တရုပ်နိုင်ငံသို့ ပျံ့နှံ့လာလေရာ၊ ဗုဒ္ဓဆင်းတုတော်များကို ထုလုပ်ခြင်းသည်ခေတ်စားလာခဲ့သည်။ ထင်ရှားသော သာဓကမှာ မြောက်ပိုင်း ဝေမင်းဆက် (အေဒီ ၃၈၆–၅၃၄) တွင် ဝေမင်းတို့၏ မြို့တော် တာတုန်အနီးရှိ ယွန်ကန်းလိုဏ်ဂူတို့တွင် ထုလုပ်ထားသော ရုပ်ပွားတော်များဖြစ်သည်။ ထိုခေတ်မှစ၍၊ ဆူအီမင်းဆက် (အေဒီ ၅၉၀–၆၁၈) အထိ ဗုဒ္ဓဆင်းတုတော် ထုလုပ်ခြင်းများ ခေတ်စားလာပြီးနောက်၊ တန်မင်းဆက်သို့ ရောက်သောအခါ ဗုဒ္ဓသာသနာဆိုင်ရာ ရုပ်ထုအတတ်သည် အထွတ်အထိပ်သို့ ရောက်လေသည်။ ထိုခေတ်တွင် လိုဏ်ဂူတွင်း၌ ရုပ်ပွားတော် ထုခြင်းလုပ်ငန်းသည် ဆက်လက်၍ တွင်ကျယ်ခဲ့ပြီးလျှင်၊ တုန်ဟွန် လိုဏ်ဂူသည် အဓိကရ ဖြစ်လာခဲ့သည်။ ယင်းခေတ်မှလွန်သော်၊ ရုပ်ထုသုခုမပညာရပ်၏ ဗဟိုမဏ္ဍိုင်ဌာနသည် ဆီချွမ်နယ်သို့ ပြောင်းသွားဟန်လက္ခဏာရှိသည်။ ဆွန်မင်းဆက်၊ ယွန်မင်းဆက်နှင့်မင်မင်းဆက်တို့တွင် ဆီချွမ်နယ်၏ ရုပ်ထုပညာသည် ထင်ပေါ်ကျော်ကြားလာသည်။ တန်မင်းဆက်ခေတ်မှလွန်သော်၊ ကျောက်ဖြင့် ရုပ်တုထုခြင်းသည် မှေးမှိန်လာ၍ သစ်သား ပန်းပုထုခြင်း၊ ရွှံ့စေးရုပ်လုပ်ခြင်းနှင့် ကြေးညိုရုပ်တု ထုခြင်းတို့ ခေတ်



ဘီစီ ၁၇၆၆–၁၁၂၂ ရှန်ယင်မင်းဆက်ခေတ်က ပူဇော်ပသပွဲသုံး ကြေးညိုအိုး



ဘီစီ ၆၀၀–၂၅၀ ခန့်က ရွှေခေါင်းရိုး

စားလာလေသည်။ ဟိုပေနယ်ရှိ ပေ ၇၀ မြင့်သော ကျွန်ယင်ရုပ်တုသည် ယနေ့တိုင် အဓိကရဖြစ်သည်။ ယွန်မင်းဆက်ခေတ်၌ တိဗက်နယ်မှ ဗုဒ္ဓသာသနာသည် တရုပ်နိုင်ငံ၌ ထွန်းကားလာလေရာ၊ ရုပ်တုထုခြင်း နည်းနာနိသျှတို့တွင် တိဗက်သြဇာဝင်လာလေသည်။ ထိုရုပ်ထုနည်းနာတို့သည် မင်နှင့်ချင်မင်းဆက် ခေတ်တလျှောက်တွင် သိသာထင်ရှား၏။ ထိုခေတ်တို့၌ ခါးသေးရင်ချီသော ကိုယ်နေကိုယ်ထားသည် ခေတ်စားလာခဲ့သည်။

## ကြွေထည်လုပ်ငန်း

တရုပ်နိုင်ငံ၏ ကမ္ဘာကျော် လုပ်ငန်းတရပ်သည် ကြွေထည်လုပ်ငန်းဖြစ်သည်။ (ကြွေထည်လုပ်ငန်း — ရှု။) တရုပ်ကြွေထည် လုပ်ငန်းသည် တရုပ်လူမျိုးတို့၏ သမိုင်းတည်စကပင် ထွန်းကားခဲ့သည်ဟု ယူဆရန်ရှိ၏။ ရှေးခေတ်များကပင်လျှင် တရုပ်ကြွေထည်တို့သည် နိုင်ငံအရပ်ရပ်သို့ ပျံ့နှံ့လျက်ရှိခဲ့သည်။ ကိုရီးယားနိုင်ငံတွင် ဟန်မင်းဆက်ခေတ်ပေါ်သော ကြွေထည်တို့ကိုတွေ့ရ၏။ ဂျပန်နိုင်ငံတွင် တန်မင်းဆက်ခေတ်၌ပေါ်သော ကြွေထည်ကို နာရာမြို့၌ တွေ့ရ၏။ တန်မင်းဆက်ခေတ် မီးပြင်းတိုက်သော ကြွေထည်ကို ခရစ် ၇၃၇ နှင့် ၇၇၃ ခုနှစ်အကြားတွင် မက်ဆိုပိုတေးမီးယားပြည်၌တွေ့ရ၏။ ဆွန်နှင့်မင်မင်းဆက်ခေတ် ကြွေထည်အပြာရောင်မျိုးကို ဖိလိပိုင်နိုင်ငံ၊ အင်ဒိုနီးရှားနိုင်ငံ၊ မလေးနိုင်ငံ၊ အိန္ဒိယနိုင်ငံတို့၌တွေ့ရ၏။ ဤသည်ကို ထောက်ရှု၍ ရှေးခေတ်မှ ယခုခေတ်တိုင် တရုပ်ကြွေထည်သည် ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့ရောက်ရှိနေသည်ကို သိသာပေသည်။ တရုပ်လူမျိုးတို့က ယင်းတို့၏ အိုးဖုတ်လုပ်ငန်းကို မြေစေးဖြင့်ဖုတ်သောအိုး၊ ကျောက်စေးဖြင့်ဖုတ်သောအိုး၊ ကြွေဖြင့်လုပ်သောအိုးဟု သုံးမျိုးသုံးစားခွဲခြားထားသည်။ ထိုလုပ်ငန်းတို့တွင် စဥ့်ကိုင်ခြင်း၊ ကြွေရေသုတ်ခြင်းတို့လည်း ပါဝင်သည်။ မြေစေးလုပ်ငန်းတွင် အုတ်နှင့် အုတ်ကြွပ်လုပ်ငန်းသည် အဓိကဖြစ်သည်။ တရုပ်တံတိုင်းကြီးကို တည်ရာ၌ အုတ်အများအပြားပါဝင်သည်။ ဟန်မင်းဆက် သင်းချိုင်ဂူများတွင် အုတ်ကြွပ်များကိုတွေ့ရသည်။ ယခုခေတ်သစ်တရုပ်နိုင်ငံတွင် ပြည်နယ်တိုင်း၌ ကြွေလုပ်ငန်းကိုတွေ့နိုင်သည်။ ခေတ်အလျှောက် ယခုအခါ ရေချိုးခန်းအတွက်



ဟန်မင်းဆက်ခေတ်က ကျောက်စိမ်းမြင်းရုပ်မှ



ခရစ် ၅၁၈ ခု ဝေမင်းဆက်ခေတ်က ကြေးရုပ်ပွားတော် ၂ ဆူ

ကြွေစလုံ၊ ကြွေစည်ပိုင်း၊ ကြွေမိလ္လာအိုး စသည်ဖြင့် လုပ်ဆောင်လျက်ရှိသည်။

### တရုပ်နိုင်ငံသမိုင်း

တရုပ်နိုင်ငံသမိုင်းသည် ရှေးနှစ်ပေါင်း ၄၀၀၀ ကျော်က စတင်ခဲ့သည်ဟုဆိုကြသည်။ သို့သော် ရှေးဟောင်းသမိုင်းတို့တွင် အဖြစ်အပျက်မှန်နှင့် ရှေးဟောင်း ထုံးတမ်းပုံပြင်တို့ ရောနှောလျက်ရှိသည်။ တရုပ်နိုင်ငံရှိ သမိုင်းပညာရှင်တို့ကမူ တိုင်းနိုင်ငံကို ရှေးဦးတည်ထောင်သော မင်းဆက်သည် ဆီယာမင်းဆက် (ဘီစီ ၂၂၀၀-၁၇၀၀) ဖြစ်သည်ဟု ဆိုကြသည်။ သို့ရာတွင် ရှန် (ဝါ) ယင်မင်းဆက်သို့ ရောက်မှပင်လျှင် ဃမိုင်းကို စာနှင့်ပေနှင့် မှတ်တမ်းတင်သည်ဟု သိရသည်။ ထိုကြောင့် အကြမ်းအားဖြင့် တရုပ်နိုင်ငံ၏ ရာဇဝင်အမှတ်အသားသည် ဘီစီ ၁၇၀၀ မှ အစပြုသည်ဟု ပညာရှင်အများက ယူဆကြသည်။ ထိုခေတ်တွင် စာပေတို့မှာ ကြေးညိုရုပ်တုဌ်သော်၎င်း၊ လိပ်ခွံဌ်သော်၎င်း၊ အရိုးဌ်သော်၎င်း၊ ထုထွင်းထားသော စာပေများဖြစ်သည်။ ထိုနောက် ရှန်မင်းဆက်နောက်ဆုံးဘုရင်ကို ချူမင်းဆက် (ဘီစီ ၁၁၂၂-၂၅၅) တည်ထောင်သော ဘုရင်က အောင်နိုင်လိုက်လေသည်။ ချူမင်းဆက် တရုပ်နိုင်ငံသည် လယ်ယာစိုက်ပျိုးရေးကို အဓိကထားသော နိုင်ငံဖြစ်ရာ ထိုခေတ်တွင် လယ်ယာသုံးပစ္စည်းကရိယာ လက်နက်တို့သည့် ဖွံ့ဖြိုးတိုးတက်လာသည်။ ဘီစီ ၄၀၃ ခုနှင့် ၂၂၁ ခုနှစ်အကြားတွင် ပြည်နယ်များ စစ်ခင်းနေကြသောကာလဖြစ်၍၊ စီပွားရေးနှင့် လူမှုရေးတို့တွင် အပြောင်းအလဲ ခဏခဏဖြစ်ခဲ့သည်။ ဤသို့ပြောင်းလဲမှုများရှိနေသည့်ကာလ၌ပင်လျှင် ချူမင်းဆက်၏ ရှေးဟောင်းစံပြစာပေသည် နောင်လာနောက်သားတို့အလို့ငှာ အခိုင်အမာဖြစ်လာလေသည်။ ထိုအချိန်တွင် တရုပ်ယထာဘူတပညာရှင် ကွန်ဖူးဇီးနှင့် လောင်ဇူတို့ပေါ်ပေါက်သည်။ ကွန်ဖူးဇီးသည် အထက်ကပြဆိုခဲ့သည့် တရုပ် ရှေးဟောင်း စံပြစာပေကျမ်း အစုငါးစုကို တည်းဖြတ်ပြုစုခဲ့၏။

ချင်မင်းဆက် (ဘီစီ ၂၂၁-၂၀၇) တို့၏ခေတ်တွင် ဘုရင်ရှီဟွန်တီး (ဘီစီ ၂၄၆-၂၁၀) သည် ပဒေသရာဇ်နယ်ပယ်တို့ကို တပေါင်းတည်းပြု၍၊ ရှေးဦးဖြစ်သော တရုပ် အင်ပိုင်ယာနိုင်ငံကို တည်ထောင်ခဲ့လေသည်။ ထိုမင်းသည် တရုပ်တံတိုင်းကြီးကို စတင်တည်ဆောက်ခဲ့သူဖြစ်၏။ သို့ရာတွင် ရှေးဟောင်းအစဉ်ကိုဖျက်၍၊ မိမိကိုယ်တိုင် စတင်ထူထောင်သော အစဉ်သစ်ကို တည်ဆောက်စိမ့်သောငှာ အတွေးအခေါ်ဆိုင်ရာ တရုပ်ကျမ်းစာအားလုံးတို့ကို မီးရှို့ဖျက်ဆီးခဲ့သဖြင့်၊ ကျော်စောကိတ္တိညံ့ဖျင်း၍ လာလေသည်။ ထိုမင်းလွန်သော်၊ ချင်မင်းဆက်ပြတ်လေ၏။



ဝေမင်းဆက်ခေတ်က ချင်းခေါ် တရုပ်စောင်းကိုတီးနေပုံ

ဟန်မင်းဆက် (ဘီစီ ၂၀၈-အေဒီ ၂၂၀) သည် တရုပ်အင်ပိုင်ယာကို အခြေစိုက်နိုင်သော မင်းဆက်ဖြစ်သည်။ ထိုမင်းဆက်ခေတ်၌ ကုန်သွယ်ရေးသည် အထူးကောင်းမွန်လာ၍၊ တရုပ်နိုင်ငံထွက် ကုန်ပစ္စည်းများသည် ရောမအင်ပိုင်ယာနိုင်ငံသို့ပင်လျှင် ရောက်ရှိသည်။ ထိုခေတ်တွင် စက္ကူကို စတင်လုပ်သည်။ ထိုကြောင့် ရာဇဝင်သမိုင်းပုံပြင်များ၊ အဘိဓာန် ကျမ်းများ၊ ရှေးဟောင်း စံပြ စာပေများကို ပညာရှင်တို့ ရေးသားပြုစုနိုင်ကြသည်။ သမိုင်းဆရာကြီး

## ဒုတိယကမ္ဘာစစ်အပြီး၌ တူးဖော်ရရှိသည့် ရှေးဟောင်းတရုပ်ပစ္စည်းများ





ဝဲမှယာ။ ဆီချွန်ပြည်နယ် တောင်ပိုင်းနှင့်မြောက်ပိုင်းမင်းပြိုင်ခေတ် ချိန်တူမြို့မှ ကျောက်ဆင်းတုတော်၊ ကန်တုန်နယ်မှ အရှေ့ပိုင်းဟန်မင်းဆက်ခေတ် ကြွေထည်နေအိမ်ပုံ၊ ရှင်ဆီပြည်နယ်မှ တန်မင်းဆက်ခေတ် ကြွေကုလားအုပ်ရုပ်





ဝဲမှယာ။ ဆဲယန်နယ်မှ ဟန်မင်းဆက်ခေတ် အနီဆေးရောင်ခြယ် ကြွေစပျစ်ရည်အိုး၊ ကန်ဆုပြည်နယ်မှ နှစ်ပေါင်းလေးထောင်ငါးရာကျော်ခန့်က အသုံးပြုခဲ့သော ကြွေအိုး၊ ဆီချွန်ပြည်နယ် ဟန်မင်းဆက်ခေတ် ကြွေခွေးရုပ်



ရဟန္တာတပါး
တန်မင်းဆက်ခေတ်က တရုပ်အိုးထိန်းသည်ကြီးတဦး စဉ်ကိုင်ပြီး ဖုတ်ယူခဲ့သော ရဟန္တာတပါးရုပ်တုတော်

ဆူမာချီယန်သည် ဤခေတ်တွင်ပေါ်ပေါက်ခဲ့သည်။ (ဆူမာချီယန် — ရှု။) ဗုဒ္ဓသာသနာသည်လည်း တရုပ်နိုင်ငံသို့ ရောက်ရှိလာသည်။ ထိုကြောင့် တရုပ်နိုင်ငံမှ ခရီးသည်တို့သည် အိန္ဒိယနှင့်အဆက်အသွယ်ရှိလာကြသည်။ ထိုနောက် တရုပ်အင်ပိုင်ယာသည် သုံးစုကွဲလေ၏။ ထိုသုံးစုကွဲသော ခေတ်ကို သုံးပြည်ထောင်ခေတ် (အေဒီ ၂၂၀ – ၃၁၆) ဟုခေါ်သည်။ ထိုသည်မှစ၍ တရုပ်အင်ပိုင်ယာသည် ပြည်နယ်အစိတ်စိတ် ကွဲလာသောကြောင့်၊ တောင်ပိုင်းနှင့် မြောက်ပိုင်းမင်းဆက် (အေဒီ ၃၁၇–၅၈၁) ဟူ၍ မင်းဆက် နှစ်ခု ပြိုင်၍ ပေါ်ထွန်းလာခဲ့လေသည်။ ထိုခေတ်အတွင်း၌ ဗုဒ္ဓသာသနာသည် တရုပ်နိုင်ငံ၌ နေရာမလပ်ပျံ့နှံ့လာလေသည်။ ခရစ် ၆ ရာစုနှစ်အတွင်း လျန်ဘုရင်၏သားစဉ်မြေးဆက်ခေတ်တွင် တရုပ်နိုင်ငံ ချီယင်ကန်မြို့တွင် ဗုဒ္ဓဝါဒီ ဘုန်းတော်ကြီးကျောင်းများ ၅၀၀ ခန့်ရှိ၍၊ သံဃာ တသိန်းမျှရှိသည်ဟုဆိုသည်။ ဗုဒ္ဓသာသနာနှင့်ယှဉ်၍ ရုပ်ထုနှင့်ပန်းချီ သုခုမပညာရပ်တို့လည်း တိုးတက်ဖွံ့ဖြိုးလာခဲ့၏။

ခရစ် ၅၈၁ နှင့် ၆၁၈ ခုနှစ်အတွင်းတွင် ဆူအီမင်းဆက် ထွန်းကားသည်။ ထိုခေတ်၌ တရုပ်အင်ပိုင်ယာကို ပြန်လည်စည်းရုံးသည်။ အင်ပိုင်ယာ၏အင်အား တိုးတက်လာသည်နှင့် အင်ပိုင်ယာ၏ အကျယ်အဝန်းကို အရှေ့ အနောက် တောင်မြောက်တည်းဟူသော နယ်လေးရပ်တို့၌ ချဲ့ထွင်လာသည်။ တရုပ်တံတိုင်းကြီးကို ပြန်လည်၍ ခိုင်ခံ့အောင် ဆောက်သည်။ အနောက်၌ မြို့တော် ချန်အန်၊ အရှေ့၌ မြို့တော် လိုယန်ဟူ၍ရှိရာ၊ ထိုနှစ်မြို့စလုံး၏ ရိက္ခာအင်အားကို တိုးတက်အောင်ဖြည့်သည်။ သို့သော် မကြာမီ၊ ထိုမင်းဆက်သုန်း၍၊ တန်မင်းဆက် (အေဒီ ၆၁၈–၉၀၇) စိုးမိုးလာလေသည်။ ထိုခေတ်တွင် တရုပ်နိုင်ငံသည် နိုင်ငံဖွဲ့စည်းရေးအားဖြင့် အထွတ်အထိပ်သို့ရောက်သည်ဟု သမိုင်းဆရာတို့က ဆိုကြသည်။ အဘယ်ကြောင့်ဟူမူ၊ ဤခေတ်သို့ရောက်ခါမှ ပြည်နယ်ကို ကျနစွာ ခွဲခြားသတ်မှတ် အုပ်စိုးသည်။ မြေယာတို့ကို မျှတအောင် ခွဲဝေပေးသည်။ ပညာရေးကို ပြည်သူပြည်သားအားလုံး ရနိုင်အောင် ဆောင်ရွက်ပေးသည်။ တရုပ်နိုင်ငံတော် ဝန်ထမ်းသို့ မှူထမ်းရာထမ်းအဖြစ်ဖြင့် ဝင်ရောက်နိုင်စေရန်အလို့ငှာ၊ စာမေးပွဲ စစ်ဆေးသောစံနစ်ကို စည်းကမ်းတကျ ချမှတ်သည်။ သာသနာရေးကိုလည်း အားပေးသည်။ ဆည်မြောင်း တာတမံတို့ကို ပြုစု၍၊ လယ်ယာစိုက်ပျိုးရေးကို အထောက်အကူဖြစ်စေသည်။ ဥပဒေတို့ကိုပြုစုသည်။ နိုင်ငံခြားဆက်ဆံရေးတို့လည်း ကျယ်ဝန်းလာလေသည်။ ဆူအီနှင့်တန်မင်းဆက်ခေတ်တွင် သုခုမပညာရပ်များ ထွန်းကား၍၊ သစ်သားဗလောက်ဖြင့် ပုံနှိပ်သော စာပုံနှိပ်စက်များပေါ်ပေါက်လာခဲ့လေသည်။

ထိုနောက် တန်မင်းဆက်တို့ပျက်စီး၍၊ ခရစ် ၉၀၇ မှ ၉၇၉ ခုနှစ်အထိ ကာလတွင် တရုပ်နိုင်ငံ၌ မင်းဆက်အမျိုးမျိုး ပြောင်းခဲ့သည်။ နိုင်ငံကြီးသည်လည်း ဆယ်ပြည်ထောင်မျှ ကွဲပြားသွားပြန်သည်။ ထိုအခြေကို တဖန် ဆွန်မင်းဆက် (အေဒီ ၉၆၀–၁၁၂၇) တို့က ပြန်၍အဓတ်ဆည်ခဲ့ရာ၊ တရုပ်နိုင်ငံသည် တစုတပေါင်းတည်း ဖြစ်လာပြန်သည်။ သို့ရာတွင် နောက်ပိုင်းကာလသို့ ရောက်သောအခါ ပြည်တွင်း၌ မကြာခဏ သူပုန်ထသည့်အပြင် ပြည်ပဖြစ်သော ခီတန်လူမျိုး၊ ချူချင်လူမျိုးနှင့်မွန်ဂိုလူမျိုးတို့သည် တရုပ်နိုင်ငံကို ထိပါးနှောင့်ယှက်လာကြသည်။ ၁၁၂၇ ခုနှစ်တွင် ခီတန်တို့သည် ဆွန်မင်းဆက်တို့၏နေပြည်တော်ကို သိမ်းပိုက်လိုက်



တန်မင်းဆက်ခေတ်က တမျိုးကောင်းသမီးတဦး



ကွန်ယင်ခေါ် အဝလောကိတ ဘုရားလောင်းနတ်သား
၁၃ ရာစုနှစ်တွင်းက တရုပ်ပန်းပုဆရာကြီးတဦး လက်ရာ



ဆွန်မင်းဆက်ခေတ်က ကြွေခွက်

ခုနှစ် ကာလအတွင်းတွင် မင်မင်းဆက်တို့ စိုးမိုးလေသည်။ ဤခေတ်တွင် စက်မှုလက်မှုတို့ ထွန်းကား လာလေသည်။ အထူးသဖြင့် ပင်လယ်ကူးသင်္ဘောများ တည်ဆောက်ကြ၍၊ ပင်လယ်ရေကြောင်းဖြင့် ကုန်ကူးသန်းခြင်းသည် တွင်ကျယ်လာသည်။ ၁၅၁၆ ခုနှစ်တွင် တရုပ်နိုင်ငံသို့ ပေါ်တူဂီလူမျိုး သင်္ဘောသားကုန်သည်တို့ ဆိုက်ရောက်လာကြသည်။ ထို နောက် တစတစနှင့် စပိန်၊ ဒပ်ချနှင့်အင်္ဂလိပ်လူမျိုးတို့သည် တရုပ်နိုင်ငံနှင့် ဆက်သွယ်လာကြလေသည်။ ၁၇ ရာစုနှစ် အလယ်ပိုင်းသို့ ရောက်လာသောအခါ၌မူကား၊ ပြည်တွင်း ဆူပူလှုပ်ရှားမှုများ ပေါ်များလာ၍၊ နောက်ဆုံးတွင် မြောက် ပိုင်းမှ မန်ချူးမင်းဆက်တို့သည် ခရစ် ၁၆၄၄ ခုနှစ်မှအစပြု၍ ၁၉၁၁ ခုနှစ်တိုင်အောင် တရုပ်နိုင်ငံတွင် မင်းပြုလေသည်။ ထိုမင်းဆက်ကို ချင်းမင်းဆက်ဟုခေါ်သည်။

ချင်းမင်းဆက်တို့ အုပ်စိုး၍ နှစ်ပေါင်း ၁၅၀ မျှကြာ လေသည်။ ခရစ် ၁၂၇၉ ခုနှစ်၌ကား မွန်ဂိုဘုရင် ဂျင်ဂစ်ခန် သည် တရုပ်နိုင်ငံ တခုလုံးကို ဝင်ရောက်သိမ်းပိုက်လေ၏။ (ဂျင်ဂစ်ခန် — ရှု။)

ဂျင်ဂစ်ခန်၏မင်းဆက်တို့သည် တရုပ်နိုင်ငံသမိုင်းတွင် ယွန်မင်းဆက် (အေဒီ ၁၂၇၉–၁၃၆၈) အဖြစ်ဖြင့် ထင်ရှား ကျော်ကြားလာလေသည်။ ယွန်မင်းဆက်၏ ပဌမကေရာဇ် ဘုရင်မှာ ဂျင်ဂစ်ခန်၏မြေး ကူဗလိုင်ခန်ဖြစ်သည်။ (ကူဗ လိုင်ခန် — ရှု။) ထိုခေတ်တွင် စစ်ကြောင့်ပေါ်ပေါက်လာ သော အသစ်အဆန်း တိုးတက်မှုတို့ရှိသည်။ ပုံစံအားဖြင့် ဂျင်ဂစ်ခန်နှင့်ကူဗလိုင်ခန်တို့၏ စစ်ချီရေးကြောင့် တရုပ်အင် ဂျင်နီယာအတတ် ဖွံ့ဖြိုးလာသည်။ အနောက် အာရှတိုက် စစ်ပွဲများတွင် အသုံးပြုသော မီးပုံ့ မီးကျည် လက်နက်တို့ကို ထိုခေတ်၌ တီထွင်သည်။ ဂျပန်တိုက်ပွဲအတွက် သင်္ဘောများ လည်း တည်ဆောက်သည်။ ငွေစက္ကူလည်း ထိုခေတ်က ပေါ်ခဲ့သည်ဟုဆိုသည်။ ကူဗလိုင်ခန်လက်ထက်တွင် တရုပ် နိုင်ငံ၌ လွတ်လပ်စွာသာသနာပြုနိုင်ခွင့်ရှိသည်။ သာသနာ ရေးဆိုင်ရာ ဝါဒတရားပွဲများကို ကျင်းပလေ့ရှိသည်။ ထိုသို့ သာသနာမျိုးစုံကို အားပေးမှုကြောင့်၊ ခရစ်ယန်သာသနာ၊ အစ္စလမ် သာသနာနှင့် ဗုဒ္ဓ သာသနာတို့သည် အတူတကွ ယှဉ်၍ ထွန်းကားခဲ့သည်။ ထိုခေတ်၌ မာကိုပိုလိုသည် တရုပ် နိုင်ငံသို့ရောက်ခဲ့သည်။ စာပေအနုပညာအားဖြင့်၊ ထိုခေတ် သည် ဝတ္ထုနှင့်ပြဇာတ် ထွန်းကားသောခေတ်ဖြစ်သည်။

ကူဗလိုင်ခန်လွန်လေသော် ယွန်မင်းဆက်သည် တဖြည်း ဖြည်း တန်ခိုးရှိန်စော် ညှိုးဖျင်းလာ၍၊ ခရစ် ၁၃၆၈–၁၆၄၄



ဆွန်မင်းဆက်ခေတ်က ကြွေအိုးတမျိုး









တရုပ်ပိသုကာလက်ရာမွန်များ

အထက်အောက်။ (ဝဲ) ပီကင်းမြို့တော်ရှိ ပဟိုရ်စင်၏မျက်နှာစာနှင့် ပဟိုရ်စင်အမိုးရှိ တရုပ်ပိသုကာလက်ရာများ။ (ယာ) နွေရာသီနန်းတော်ရှိ ဂန္ဓကုဋိတိုက်နှင့် နွေရာသီနန်းတော်တွင်းရှိ ဆောင်တော်ကူးမှ တရုပ်ပိသုကာလက်ရာများ

သောအခါ၊ တရုပ်နိုင်ငံသို့ ဥရောပနှင့်အမေရိကန်နိုင်ငံတို့မှ လူအမျိုးမျိုးတို့ ရောက်လာ၍၊ တရုပ်တို့နှင့် ရောင်းဝယ် ဖောက်ကားကြလေသည်။ ထိုခေတ်က ကြေးငွေအမြတ် အများဆုံးရနိုင်သော ကုန်ပစ္စည်းမှာ ဘိန်းဖြစ်သည်။ နိုင်ငံခြားသားတို့က ဘိန်းကုန်ကူးခြင်းကို တရုပ်အစိုးရတို့က ပိတ်ပင်သော်လည်း မရချေ။ ၁၈၄၀ ပြည့်နှစ်တွင် တရုပ် အစိုးရ အရာရှိတဦးက ဗြိတိသျှလူမျိုး ကုန်သည်တို့ပိုင်သော ဘိန်းကို ရှာဖွေဖမ်းဆီးသည်မှအစပြု၍ ၁၈၄၂ ခုနှစ်တိုင် အောင် ဘိန်းစစ်ပွဲကြီးသည် နှစ်နှစ်ကြာမျှဖြစ်ပွားခဲ့သည်။ ၁၈၄၂ ခုနှစ်တွင် တရုပ်နှင့်ဗြိတိသျှတို့သည် နန်ကင်စာချုပ် ချုပ်ဆိုကာ စစ်ပြေငြိမ်းကြသည်။ သို့ရာတွင် တရုပ်တို့သည် ထိုစာချုပ်ကို မမျှတဟု ယူဆကြသည်။ ထို့နောက်၌ကား အမေရိကန်၊ ပြင်သစ်နှင့်ရုရှတို့သည် တရုပ်နိုင်ငံ၌ ကယ်မည့် သူမရှိ ဖြစ်နေသည့်အခြေတွင် ဗြိတိန်နှင့်အလားတူ အခွင့် အရေးများ တောင်းဆို၍၊ တရုပ်ကမ်းရိုးတန်းတလျှောက် အရေးကြီးသော သင်္ဘောဆိပ်ကမ်းမြို့တို့ကို ယင်းတို့ပိုင် ဒေသအဖြစ် သတ်မှတ်သိမ်းပိုက်ကြသည်။ ထို့နောက် နိုင်ငံ ၌စီရင်အုပ်ချုပ်မှု လျော့လျည်းလာသည်နှင့်အမျှ နိုင်ငံခြား စွက်ဖက်မှုတို့ကလည်း များပြားလာလေရာ၊ ၁၈၅၁–၆၄ ခုနှစ်အတွင်းတွင် တိုင်ပင်သူပုန်ဟုခေါ်သော တောင်သူလယ် သမားတို့၏ ထကြွမှုကြီးဖြစ်ပေါ်လာသည်။ ထိုပုန်ကန်မှုကို မန်ချူးအစိုးရသည် ဗြိတိသျှနှင့် အမေရိကန်အကူအညီဖြင့် နှိမ်နင်းသည်။ ထို့နောက် နိုင်ငံခြားသားတို့ကို တိုက်ပွဲဆင် သည့် ဗောက်ဆာသူပုန်ထလေသည်။ ထိုသူပုန်ကို အမေရိ ကန်အပါအဝင် နိုင်ငံခြားစစ်တပ်တို့က နှိမ်နင်းလေသည်။ နိုင်ငံခြားစစ်တပ်တို့သည် ပီကင်းမြို့တော်ကို သိမ်းယူနိုင်သည့် အခြေသို့ ဆိုက်ရောက်ခဲ့သည်။ ထို့နောက် ၁၉၀၈ ခုနှစ် တွင် ကေရာဇ်ဘုရင် ကွမ်ရှုနှင့် ဘုရင့်မယ်တော် ဇူရှီတို့ကွယ် လွန်လေသည်။ ထို့နောက် ဒေါက်တာဆွန်ယတ်ဆင် ခေါင်း ဆောင်သော တရုပ်တော်လှန်ရေးအဖွဲ့သည် တော်လှန်ရေး ဖြင့် အာဏာသိမ်းပိုက်လေရာ၊ ၁၉၁၂ ခုနှစ်တွင် မန်ချူး ဘုရင်တို့၏ နောက်ဆုံးဖြစ်သော ကေရာဇ်ဘုရင် ပုယီသည် နန်းကျ၍၊ မန်ချူး (ချင်း) မင်းဆက်လည်း သုန်းလေ၏။

ဒေါက်တာ ဆွန်ယတ်ဆင်သည် တရုပ်သမတနိုင်ငံကို တည် ထောင်သောအခါ၊ လူထုက သူ့အား သမတ တင်မြှောက်ခဲ့ သော်လည်း၊ စစ်တပ်အင်အားကြီးမားသော ယွန်ရှီကိုင် အား သမတအပ်နှင်းခဲ့သည်။ သို့သော် ယွန်ရှီကိုင်သည် ဒေါက်တာ ဆွန်ယတ်ဆင်၏ လမ်းစဉ်ကို သွေဖည်၍၊ မိမိ ကိုယ်ကို မိမိ ကေရာဇ်ဘုရင်ဖြစ်အောင် ကြံဆောင်သည်။ များမကြာမီ ယွန်ရှီကိုင်ကွယ်လွန်၍၊ ဒေါက်တာ ဆွန်ယတ် ဆင်ပင် သမတဖြစ်လာသည်။ ၁၉၂၅ ခုနှစ်တွင် ဒေါက် တာဆွန်ယတ်ဆင် ကွယ်လွန်သော်၊ ချန်ကေရှိတ်သည် သမတဖြစ်လာလေသည်။ သူ၏လက်ထက်တွင် ကူအိုမင်တန် အဖွဲ့သည် တန်ခိုးအာဏာကြီးထွားလာသည်။ ဤအချက်ကို မြင်လေသော်၊ ဂျပန်တို့သည် တရုပ်နိုင်ငံကြီး စည်းလုံးညီ ညွတ်ခြင်းမရှိခင်၊ တရုပ်နိုင်ငံကို တိုက်ရန်ဟူသော ရည်ရွယ် ချက်ဖြင့် ၁၉၃၁ ခု၊ စက်တင်ဘာလမှစ၍ တရုပ်နိုင်ငံကို စစ် တိုက်လေသည်။ ထိုစစ်သည် ဒုတိယကမ္ဘာစစ်ဖြစ်ပွားသည် အထိ တငွေ့ငွေ့ရှိနေခဲ့သည်။ ဒုတိယကမ္ဘာစစ် ပြီးသော အခါ၊ ချန်ကေရှိတ်၏အစိုးရသည် မူလက ဂျပန်တို့ သိမ်း ပိုက်ထားသော မန်ချူးရီးယားပြည်နယ်၊ တိုင်းဝမ်ကျွန်း စသောနယ်တို့ကို ပြန်၍ရလေသည်။ သို့သော် ဒုတိယ ကမ္ဘာစစ်အပြီး၌ မော်စီတုံးခေါင်းဆောင်သော ကွန်မြူနစ် ပါတီသည် တဖြည်းဖြည်းလွှမ်းမိုးလာလေရာ၊ ၁၉၄၉ ခု စက် တင်ဘာလ ၂၁ ရက်နေ့တွင် ပီကင်းမြို့တော်ကို ဗဟိုပြု၍ အစိုးရအဖွဲ့ ဖွဲ့စည်းလာလေသည်။ ချန်ကေရှိတ်သည်လည်း တရုပ်ပြည်မကြီးမှ တိုင်းဝမ်ကျွန်းသို့ ဆုတ်ခွာလာပြီးလျှင်၊ တိုင်းဝမ်ကျွန်းကို တရုပ်အမျိုးသားအစိုးရတည်ရာ ဒေသ အဖြစ်ဖြင့် အုပ်စိုးလေသည်။ မော်စီတုံးကား တရုပ်ပြည် သူ့သမတနိုင်ငံကို တရုပ်ပြည်မ၌ တည်ထောင်ကာ၊ ဥက္ကဋ္ဌ အဖြစ်ဖြင့် အုပ်စိုးလေသည်။ (ဆွန်ယတ်ဆင်၊ ဒေါက်တာ။ ချန်ကေရှိတ်။ မော်စီတုံး — ရှု။)

**တလိုင်း**။ ။စာပေ ရေးသားရာတွင်သော်၎င်း၊ စကား ပြောဆိုရာတွင်သော်၎င်း၊ တလိုင်းဟူသောဝေါဟာရအစား မွန်ဟူ၍သာ ရေးသားခေါ်ဝေါ်ပြောဆိုရန် နိုင်ငံတော်အစိုး ရက ဆုံးဖြတ်ထားပါသည်။ ထို့ကြောင့် ယခုခေတ်တွင် တလိုင်းဟူသော ဝေါဟာရအစား မွန်ဟူ၍သာ ရေးသား ပြောဆိုလျက်ရှိသည်။ (မွန် — ရှု။)

**တလိုင်းကောင်**။ ။တလိုင်းကောင်ဟုခေါ်သော နုတ် သီးတိုင်ငှက်ကို ပါဏဗေဒအလိုအရ 'ပလူဗီအေးလစ် ဒိုမင် နီက' ဟုခေါ်သည်။ 'ကယ်ရာဒရိုင်အီဒီး' မျိုးရင်းတွင် ပါဝင်လေသည်။ အလျား ၁၀ လက်မရှိ၏။ ပျံသန်းသည့် အခါ အမြီးပိုင်းသည် မည်းနေသည်ဟု ထင်ရသည်။ မေ လအစ သားပေါက်ချိန်တွင် အမွေးများသည် ပို၍မည်း လာ၏။ ထိုပြင် ဦးခေါင်းထိပ်ရှိ အမွေးဖြူများသည်လည်း ပို၍ကျယ်ပြန့်လာသည်။ ထိုအမွေးဖြူများသည် မျက်စိအ ထက်မှ မျက်ခုံးမွေးထူထူကဲ့သို့ နောက်ဖက်သို့ ရှည်ထွက်၍ လည်ပင်းနှင့် ရင်အုပ်ထိ ရောက်လာသည်။ ကိုယ်အောက် ပိုင်းသည် မည်းနက်၍၊ ကျောဖက်ရှိ ရွှေရောင်တောက်နေ သည့် အပြောက်များသည် ပို၍ ထင်ရှားလာလေသည်။

တလိုင်းကောင်ငှက်များကို အုပ်လိုက်တွေ့ရလေ့ရှိသည်။ ထိုငှက်များသည် ခရီးဝေးပျံသန်း၍ ဒေသပြောင်းခြင်းမှာ



တလိုင်းကောင်

အထူးပင်အံ့သြဖွယ်ကောင်းလှပေသည်။ အမေရိကတိုက်မြောက်ပိုင်းတွင် ပေါက်ပွားကြသော တလိုင်းကောင်များသည် ထိုဒေသ၌ ဆောင်းဥတုဝင်လာသောအခါ၊ တောင်အမေရိကတိုက်အလယ်ပိုင်းနှင့် အာဂျင်တီးနားနိုင်ငံထိ မိုင်ပေါင်း ၂,၄၀၀ မျှရှိသော ခရီးကို သမုဒ္ဒရာပေါ်မှဖြတ်၍ ပျံသန်းကြသည်။ ထိုဒေသတွင် ဆောင်းဥတု၌ ကျက်စားကြပြီးလျှင် နွေဥတုရောက်လာသောအခါ မြောက်ဖက် နေရင်းဒေသများသို့ ပျံသန်းကြပြန်သည်။ အပြန်တွင် အလာလမ်းအတိုင်းမပျံကြဘဲ၊ ကုန်းမြေများပေါ်မှဖြတ်၍ ပျံသန်းကြခြင်းသည် ထိုငှက်များ၏ ထူးခြားချက်တရပ် ဖြစ်သည်။ မြန်မာနိုင်ငံသို့လည်း ဆောင်းဥတုတွင် တလိုင်းကောင်ငှက်အမြောက်အမြားပျံသန်းလာတတ်ကြပြီးလျှင် မေလလယ်လောက်တွင် ပြန်သွားတတ်ကြသည်။ ကမ္ဘာပေါ်တွင် တလိုင်းကောင် ငှက်မျိုးပေါင်း မြောက်မြားစွာရှိလေသည်။ မြောက်အမေရိကတိုက်တွင် ရှစ်မျိုးခန့်ရှိသည်ကိုတွေ့ရသည်။

တလိုင်းကောင်ငှက်၏ အော်သံသည် စူးရှသော်လည်း၊ နားထောင်ကောင်းသော နှစ်ဆင့် လေချွန်သံမျိုး ဖြစ်သည်။ ယင်းတို့သည် နွားစားကျက်နှင့် ကမ်းခြေရှိ ရွံ့ညွန်များတွင် ကျက်စားလေ့ရှိကြ၏။ ထွန်ပြီးစ လယ်ကွက်၊ စွတ်စိုသော မြက်ခင်းနှင့် ရိုးပြတ်တောများတွင် ကျက်စားရန်ကိုလည်း နှစ်သက်ကြသည်။ ပျံသန်းရာ၌ အတောင်ကို မှန်မှန်ခတ်၍ စုစုရုံးရုံး စည်းကမ်းသေဝပ်စွာပျံသန်းတတ်သည်။ မြေပေါ်တွင် ခေါင်းကို ဟန်တမျိုးဖြင့် ညိတ်၍ညိတ်၍ ပြေးရင်း အစာများကို လိုက်လံရှာဖွေစားသောက်ကြသည်။ ထိုပြင် လျှောက်ပြေးရာတွင် ကိုယ်ကို မြေပြင်နှင့်ညီလှမတတ် ထားတတ်ကြသည်။ သို့သော် ရပ်နားသောအခါတွင်မူ ကိုယ်ကို ပို၍တည့်မတ်စွာ ထားသည်။ အထူးသဖြင့် သူတို့အဖို့ ဘေးရန်ရှိမည်ဟု စိုးရိမ်ရသောအခါများတွင် ကိုယ်ကိုတည့်မတ်စွာ ထားတတ်ကြသည်။ တလိုင်းကောင်၏အစာများမှာပိုးမွှားကောင်များ၊ သစ်ပင်အစိုအညှောက်နှင့်ဗယ်ရီသီးများ ဖြစ်သည်။ ပင်လယ်ကမ်းနား၌ ကျက်စားသောအခါတွင်မူ၊ ခရု၊ ပက်ကျိ၊ ကနန်းမှစ၍ပင်လယ်ပိုးကောင်များကို ရှာဖွေစားသောက်ကြသည်။

**တလည်းပင်။** ။တလည်းပင်သည် 'ပျူနီကာစီအီး' မျိုးရင်းတွင်ပါဝင်၍၊ ရုက္ခဗေဒအမည်မှာ 'ပျူနီကာ ဂရာနေတမ်' ဖြစ်သည်။ တလည်းပင်ကို ချုံပင်အနေနှင့်ရင်း၊ အပင်အနေနှင့်ရင်း တွေ့ရသည်။ တလည်းပင်သည် ရာသီလိုက် အရွက်ကြွေသောအပင် သို့မဟုတ် ချုံပင်ဖြစ်သည်။ အမြင့် ၁၅ ပေ မှ ၂၅ ပေထိရှိသည်။ အရွက်သည် ချောမွတ်၍ စိမ်းလဲ့လဲ့ အရောင်ရှိသည့်ပြင်၊ ဘဲဥပုံမှ လှံသွားပုံထိပုံအတိုင်း အချွန်အမျိုးမျိုးကွဲပြားသည်။ အလျား ၃ လက်မခန့် ရှိသည်။ အကိုင်းများတွင် ဆူးရှိသည်။ အခက်ကလေးတို့၏ အစွန်းတွင် လိမ္မော်ရောင် သန်းနေသည့် အနီရောင်ပန်းပွင့်များ ပွင့်သည်။ အချို့အပင်တွင် အဖြူရောင်အပွင့်လည်း ပွင့်တတ်သည်။ တလည်းသီးသည် အရွယ်အားဖြင့် လိမ္မော်သီးမျှရှိသည်။ သို့သော် လိမ္မော်သီး



အသီးများဖြင့်ဝေဆာလျက်ရှိသော တလည်းပင်

ထက် အလုံးထွားသည်ကိုသာ အများအားဖြင့်တွေ့ရသည်။ အချင်း ၃ လက်မမှ ၄ လက်မထိရှိ၍၊ ယောင်ယောင်မျှသာ ထင်ရှားသောအမြောင်း ခြောက်မြောင်းရှိသည်။ အခွံသည် မာ၍ချောမွတ်သည့်ပြင် အဝါ၊ အနီနှင့်ရွှေဖလားရောင်ဟူ၍ အရောင်အမျိုးမျိုးရှိသည်။ တလည်းသီးအတွင်း၌ အခန်းအများရှိသည်။ ထိုအခန်းများ၌ အနားများရှိသည့် ရှည်လျားလျားအစေ့များစွာ ပါရှိသည်။ ထိုအစေ့များကို ဖုံးနေသော အနီရောင်ရှိသည့် အပေါ်ယံအသားသည် အရည်ရွှမ်း၍ နှစ်သက်ဖွယ်ကောင်းသော ချဉ်ဖုံ့ဖြုံ့အရသာနှင့်လည်း ပြည့်စုံသည်။ ထိုအပေါ်ယံအသား၏အရောင်မှာ အဖြူလည်းဖြစ်နိုင်သည်။

တလည်းပင်သည် ပါးရှားနိုင်ငံ၊ အာရှတိုက်အနောက်ပိုင်းနှင့် အိန္ဒိယအနောက်မြောက်ပိုင်းဒေသများတွင် မူလပေါက်သော အပင်ဖြစ်သည်။ ပါးရှားနိုင်ငံမှတဆင့် အရှေ့ဖက်သို့ တရုပ်နိုင်ငံ၊ တောင်ဖက်သို့ အိန္ဒိယနိုင်ငံ၊ အနောက်ဖက်သို့ ဂရိတိုင်းပြည်၊ အာဖရိကတိုက်မြောက်ပိုင်း၊ စပိန်နှင့် ပေါ်တူဂီသို့ ပျံ့နှံ့လာသည်။ အိန္ဒိယနိုင်ငံအနောက်မြောက်ပိုင်း၊ ကက်စပျန် ပင်လယ် အနောက်တောင်ပိုင်းဒေသ၊ အာဖဂနိစတန်နိုင်ငံတို့တွင် အလေ့ကျပေါက်သည်။ တလည်းပင်သည် မူလက ချုံပင်မျှသာ ဖြစ်သော်လည်း၊ လူတို့ပြုပြင်စိုက်ပျိုးသဖြင့် ၁၅ ပေမှ ၂၅ ပေထိ မြင့်သောအပင် ဖြစ်လာသည်။ အပူပိုင်းဒေသနှင့်အပူလျော့ပိုင်းဒေသရှိ တိုင်းနိုင်ငံတို့၌လည်း တလည်းပင်ကို စိုက်ပျိုးသည်။ နုံးမြေ ထူထပ်သည့် မြေဆီလွှာတွင် ကောင်းစွာဖြစ်ထွန်းသည်။ အမေရိကန် ပြည်ထောင်စုတွင် တလည်းပင်ကို အနောက်တောင်ပိုင်းဒေသများ၌ စိုက်ပျိုးသည်။ မြန်မာနိုင်ငံသို့ အိန္ဒိယနိုင်ငံမှတဆင့် ပျံ့ပွါးလာရာ၊ မိုးခေါင်ရေရှားရပ်ဝန်း၊ ရှမ်းကုန်းပြင်မြင့်နှင့် မြန်မာနိုင်ငံအောက်ပိုင်းရှိ အချို့ဒေသတွင် ခြံဥယျာဉ်များ၌ စိုက်ပျိုးသည်။

အရှေ့တိုင်းနိုင်ငံများတွင် ရှေးအခါကစ၍ တလည်းသီးသည် စပျစ်သီး၊ သဖန်းသီးကဲ့သို့ပင် အရေးပါခဲ့သည်။ စပိန်လူမျိုးများက တလည်းပင်ကို ကမ္ဘာသစ်သို့ ယူဆောင်ခဲ့ကြဟန်ရှိသည်။ ဥရောပတိုက်၌ ချောက်သီးနှင့်လိမ်မော်သီးများမပေါ်သေးမီက ရောမလူမျိုးတို့နှင့် ဂရိလူမျိုးတို့သည် တလည်းသီးကို အလွန်နှစ်သက်ကြသည်။ အဆီးရီးယန်းလူမျိုးနှင့် အီဂျစ်လူမျိုးတို့ ကောင်းစားကြစဉ်အခါကလည်း တလည်းသီးသည် လုပတင့်တယ်ခြင်းကို သရုပ်ဆောင်သည့် အထိမ်းအမှတ် ဖြစ်ခဲ့သည်။ သူတို့၏စာပေများတွင် လုပသော တလည်းပွင့်များနှင့် တလည်းသီးများ အကြောင်းကို ဖော်ပြထားသည့်ပြင် ပန်းပုထုလုပ်ရာ၌လည်း တလည်းပန်း တလည်းသီးကို အထူးမွမ်းမံ ထုလုပ်ကြသည်။ တရုပ်နိုင်ငံတွင် တလည်းသီးသည် ဖွံ့ဖြိုးထွန်းကားခြင်းကို သရုပ်ဆောင်သော အထိမ်းအမှတ် ဖြစ်ခဲ့သည်။ ဂရိ လူမျိုးတို့တွင် တလည်းစေ့သည် မှောင်မိုက်ခြင်း၏ စွမ်းရည်ကို သရုပ်ဆောင်သော အထိမ်းအမှတ်ဖြစ်သည်။

တလည်းသီးတွင် ပါရှိသည့်အစေ့များကို ဖုံးအုပ်နေသော အပေါ်ယံအသားသည် အရသာရှိသော်လည်း၊ ပါးလွှာသောကြောင့် ယခုအခါ တလည်းသီးကို အသီးမှည့်အတိုင်း စားသုံးခြင်း နည်းပါးလာသည်။ မက္ကဆီကိုနှင့် ပါးရှားနိုင်ငံတို့တွင် တလည်းသီးမှအရည်ကိုညှစ်ယူ၍ ဖျော်ရည်ပြုလုပ်ကြသည်။ အီရန်နိုင်ငံတွင် ထိုအပေါ်ယံအသားကို ဝိုင်အရက်ချက်ရာတွင် အသုံးပြုသည်။ တလည်းသီးခွံ၊ အဝင်၏ အခေါက်နှင့်အမြစ်တို့မှ သားရေနယ်ရာ၌ အသုံးချနိုင်သော ဖန်ရည်ကို ထုတ်ယူကြသည်။ ထိုဖန်ရည်ကို ဘယဆေးဖော်စပ်ရာ၌လည်း အသုံးချသည်။

•

**တာကီစတန်**။ ။တာကီစတန်ဟူသော အမည်သည် အာရှအလယ်ဗဟိုဒေသကိုခေါ်သောအမည်ဖြစ်သည်။ ရှေးခေတ်က ထိုဒေသတွင် တူရကီလူမျိုးတို့ နေထိုင်ခဲ့ဘူးသည်ကို အစွဲပြု၍ တာကီစတန်ဟု ခေါ်ကြခြင်းဖြစ်သည်။ ထိုဒေသ၏တည်နေပုံမှာ၊ မြောက်သို့လားသော်ဆိုက်ဗီးရီးယားဒေသ၊ တောင်သို့လားသော် အီရန်၊ အာဖဂနိစတန်နှင့် တိဗက်နိုင်ငံများ၊ အနောက်သို့လားသော် ကက်စပျန်ပင်လယ်၊ အရှေ့သို့လားသော် မွန်ဂိုလီယန်သဲကန္တာရဟူ၍ဖြစ်သည်။ စင်စစ်အားဖြင့် တာကီစတန်ဒေသကို နယ်နိမိတ်ခြားနားသတ်မှတ်၍ မဖြစ်နိုင်ချေ။ ပထဝီဝင်သဘောအရ သတ်မှတ်သော ဒေသမျှသာဖြစ်ရာ၊ အနောက်ဖက်တွင် ထိုဒေသသည် ဆိုဗီယက်ရုရှနိုင်ငံ၏နယ်နိမိတ်ထဲတွင် ကျရောက်နေ၍၊ အရှေ့ဖက်တွင် တရုပ်ပြည်သူ့သမတနိုင်ငံ၏နယ်နိမိတ်ထဲတွင် ကျရောက်နေသည်။ တောင်ဖက်၌ပင်လျှင် အာဖဂနိစတန် နိုင်ငံ၏ နယ်နိမိတ်ထဲတွင် တပိုင်း တစ ကျရောက်နေသေး၏။ ထိုဒေသသည် အာရှအလယ်ဗဟိုတွင် တောင်တန်းကြီးများဝန်းရံနေသော ပေ ၁၀,၀၀၀ ခန့်မြင့်သည့် ကုန်းမြင့်ဒေသ ဖြစ်လေသည်။

ရှေးပဝေဏီက တာကီစတန်သည် ဥရောပတိုက်နှင့် အာရှတိုက်အရှေ့ပိုင်းကို ဆက်သွယ်ပေးသော ပြည်တပြည်ဖြစ်ခဲ့ဘူး၏။ ထိုစဉ်က ရှေးဟောင်းကုန်သွယ်လမ်းများသည် တာကီစတန်မှတဆင့်ဖြတ်၍သွားကြသည်။ ကျောက်မျက်ရတနာများ၊ ပိုးထည်များ၊ သစ်ကြံပိုး၊ ဖာလာ၊ ကရဝေးစသော အမွှေးအကြိုင်ဟင်းခတ်ပစ္စည်းများစသည့် ကုန်စည်တို့သည် အရှေ့နိုင်ငံများမှ အနောက်နိုင်ငံများသို့ တာကီစတန်မှတဆင့် ရောက်ကြရသည်။ မာကိုပိုလိုဟုအမည်တွင်သော ခရီးသည်ကြီးသည် တရုပ်ပြည်သို့သွားရာတွင် တာကီစတန်ကိုဖြတ်၍သွားခဲ့သည်။ ထိုပြင်လည်း အိန္ဒိယပြည်

မှ တရုပ်ပြည်သို့ ဗုဒ္ဓသာသနာပြန့်ပွားသည်မှာလည်း တာဂျီ
ကစ္စတန်ပြည်မှတဆင့် ပြန့်ပွားခြင်းပင်ဖြစ်၏။ ဒုတိယကမ္ဘာ
စစ်ကြီးအတွင်း၌ပင်လျှင်၊ ဆိုဗီယက်ရုရှနိုင်ငံမှလက်နက်တို့ကို
တရုပ်နိုင်ငံသို့ပို့ရာဝယ် တာဂျီကစ္စတန်ကိုဖြတ်၍ပို့ခဲ့ရသည်။

တာဂျီကစ္စတန်ကို ရုရှနိုင်ငံထဲရှိ အနောက် တာဂျီကစ္စတန်၊
တရုပ်နိုင်ငံထဲရှိ အရှေ့တာဂျီကစ္စတန်နှင့် အာဖဂနစ္စတန်နိုင်ငံထဲ
ရှိ အာဖဂန်တာဂျီကစ္စတန်ဟူ၍ သုံးပိုင်းပိုင်းခြားနိုင်လေသည်။
အနောက် တာဂျီကစ္စတန်သည် ကက်စပျန်ပင်လယ်မှ တီယင်
ရှန်တောင်တန်းအထိ တည်ရှိသည်။ ထိုဒေသတွင် ကာဇက်၊
တာ့ခမင်၊ ဥဇဗက်၊ ကိုယာဂစ်၊ တားဇစ်စသော ဆိုဗီယက်
ဆိုရှယ်လစ်သမတနိုင်ငံများပါဝင်ကြသည်။ ထိုဒေသ၏မြေ
မျက်နှာပြင်သည် အတန်ငယ်ပျံ့ပျူးသည်။ အနောက်နှင့်
မြောက်ဖက်တို့တွင် သဲမြေရှိသည်။ အရှေ့တောင်ဖက်၌ကား
တောင်တန်းများရှိကြသည်။ မြစ်တို့သည်တောင်တန်းများ
မှနေ၍ ထိုဒေသ၏အတွင်းသို့ စီးဝင်ပြီးလျှင်၊ သဲကန္တာရထဲ
တွင် ပျောက်ကွယ်သွားစမြဲဖြစ်၏။ ထိုဒေသ၌နေထိုင်ကြ
သော လူမျိုးတို့သည် မွတ်စလင်များဖြစ်ကြသည်။ ထိုလူ
မျိုးတို့သည် ယာထွန်ခြင်း၊ တိရစ္ဆာန်မွေးခြင်းဟူသော လုပ်
ငန်းတို့ဖြင့် အသက်မွေးကြသည်။ ယာလုပ်ငန်းအတွက် တူး
မြောင်းများဖြင့် ရေသွယ်ကြရသည်။ ဂျုံ၊ ဆန်၊ ပြောင်း၊
ဝါဂွမ်းစသည်တို့ကို စိုက်ပျိုး၍ ရနိုင်သည်။ ထူးခြားသော
မြို့များမှာ အယ်လမာအာတာ၊ ဆမာကန်း၊ တက်ရှကင့်၊
ဗူခါးရား၊ အက်ရှခါဗတ်စသော မြို့များဖြစ်ကြလေသည်။

အရှေ့ တာဂျီကစ္စတန်သည် အာရှတိုက်၏ အလယ်ဗဟိုတွင်
တည်ရှိ၍၊ အနောက်တာဂျီကစ္စတန်မှ အရှေ့ဖက်သို့လားသော်၊
ဂိုဗီသဲကန္တာရနှင့်တိဗက်နိုင်ငံအထိ တည်ရှိသည်။ မြောက်
ဖက်၌ တီယင်ရှန်တောင်တန်း ကာဆီးလျက် ရှိနေပြီးလျှင်၊
တောင်ဖက်တွင်ကား ကွန်းလွန်တောင်တန်း တည်ရှိနေလေ
သည်။ ယခုအခါ အရှေ့တာဂျီကစ္စတန်သည် တရုပ်ပြည်သူ့
နိုင်ငံ ဆင်ကျီယန် ပြည်နယ်ထဲတွင် အဝင်အပါ ဖြစ်သည်။
ရာသီဥတုသည် အနောက် တာဂျီကစ္စတန်ထက် ပိုမို ဆိုးရွား
သည်။ ကုန်းမြေပြင်သည် ပင်လယ်ရေမျက်နှာပြင် အထက်
ပေ ၃၀၀၀ ၌ တည်ရှိလေသည်။ တောင်ဖက်တွင် တောင်
တန်းတို့သည် အမြင့်ပေ ၂၀,၀၀၀ ကျော်လေသည်။ လူမျိုး
တို့၏အနွယ်မှာ အာရိယန်နှင့် တူရာနီယန် နှစ်မျိုးရောသော
အနွယ်ဖြစ်သည်။ ကိုးကွယ်ရာအယူဝါဒမှာမူ မွတ်စလင်
အယူဝါဒဖြစ်၏။ ယာလုပ်ခြင်း၊ တိရစ္ဆာန်မွေးမြူခြင်းနှင့်
အမဲလိုက်ခြင်းတို့မှာ ထိုဒေသလူမျိုးများ၏ အဓိကလုပ်ငန်း
များဖြစ်ကြလေသည်။ ဥရမ်ချီ၊ ကက်ရှဂါ နှင့် ခိုတန်မြို့များ
သည် ထိုဒေသ၏ မြို့ကြီးများဖြစ်၏။

တောင်ပိုင်းတာဂျီကစ္စတန်ကား အာဖဂနစ္စတန်နိုင်ငံ၊ မဇာ
ပြည်နယ်တွင် ပါဝင်သောနိုင်ငံဖြစ်သည်။ အကျယ်အဝန်း
အားဖြင့် စတုရန်းမိုင်ပေါင်း ၅၇,၀၀၀ ကျယ်သည်။ မြေ
မျက်နှာပြင်မှာ တောတောင်ထူထပ်၍၊ မညီမညွတ်ရှိသည်။




တာဂျီကစ္စတန် တည်နေရာပြ မြေပုံ



တာကီစတန်နယ် တက်ရှကင့်မြို့၏ ရှုခင်းတရပ်

လူမျိုးတို့မှာကား ပါးရှင်းနှင့် ဥဇဗက်နွယ်သော လူမျိုးများ ဖြစ်သည်။ ထိုဒေသတွင် ကြေး၊ သံ၊ ခဲနှင့်ရွှေထွက်သည်။

တာကီစတန်၏သမိုင်းကား ဤသို့ဖြစ်၏။ ခရစ်တော်မွေးဖွားသောခေတ်ကပင်လျှင် တာကီစတန်သည် တရုပ်အင်ပိုင်ယာနယ်ထဲတွင် ကျရောက်လျက်ရှိလေသည်။ ခရစ် ၅၀၀ ပြည့်နှစ်လောက်တွင် တူရကီလူမျိုးတို့က ဆမာကန်းနှင့်ဗူခါးရားမြို့တို့ကို သိမ်းပိုက်လိုက်ကြသည်။ ခရစ် ၆၀၀ ပြည့်နှစ်လောက်တွင်မူ တိဗက်သည် အရှေ့တာကီစတန်ကို အောင်မြင်လေသည်။ သို့ရာတွင် တရုပ်တို့က ထိုနယ်ကိုပြန်သိမ်းလိုက်သည်။ ခရစ် ၁၀၇၃ ခုနှစ်တွင် တူရကီလူမျိုးများကတဖန် တာကီစတန်ကို သိမ်းပိုက်ကြပြန်သည်။ ၁၂၀၀ ပြည့်နှစ်၌မူကား ဂျင်ဂစ်ခန်သည် ထိုနယ်ကို လွှမ်းမိုးခဲ့လေသည်။ ၁၄ ရာစုနှစ် တဝိုက်၌ကား တာကီစတန်သည် မွတ်စလင်ယဉ်ကျေးမှု အချက်အခြာဌာန ဖြစ်လာခဲ့လေသည်။ ထိုနောက် ရုရှတို့သည် ဆိုက်ဗီးရီးယားဒေသကို အောင်နိုင်လိုက်သောအခါ၊ ၁၈ ရာစုနှစ်လောက်၌ တာကီစတန်သည် ဇာဘုရင်၏သစ္စာတော်ခံနယ် ဖြစ်လာခဲ့လေသည်။ ဤသည်တွင် ရုရှနိုင်ငံ တာကီစတန်ပြည်နယ်ဟူ၍ ဖြစ်ပေါ်လာခဲ့သည်။ ၁၈၈၇ ခုနှစ်တွင် အင်္ဂလိပ်နှင့်ရုရှတို့ နှစ်ဦးသဘောတူ အာဖဂနိစတန်ပိုင် တာကီစတန်နှင့်ရုရှပိုင် တာကီစတန်တို့ကို ခွဲဝေပိုင်းခြားကြလေသည်။ ၁၉၂၄ ခုနှစ်တွင် ဆိုဗီယက်ရုရှအစိုးရသည် တာကီစတန်ကို ပြည်နယ်ငါးခုခွဲ၍ ကိုယ်ပိုင်အုပ်ချုပ်ခွင့် ပေးလေသည်။ အရှေ့တာကီစတန်နယ်မှာမူ သမိုင်းတလျှောက်လုံးလိုလိုပင် တရုပ်ပိုင်နယ် ဖြစ်ခဲ့၏။ သို့သော် အစ္စလမ်အယူဝါဒ ပျံ့နှံ့သောအခါတွင်မွတ်စလင်တို့သည် သီးခြားတိုင်းနိုင်ငံတည်ထောင်ရန် အကြိမ်ကြိမ် ကြိုးပမ်းကြ၏။ ၁၈၇၂ ခုနှစ်နှင့် ၁၈၇၆ ခုနှစ်အကြားတွင် ယာကွပ်ဗက်ဘုရင်လက်ထက်၌ သီးခြားလွတ်လပ်သည်ဟု ဆိုရအံ့သောအခြေသို့ ဆိုက်ခဲ့သေးသည်။ သို့သော်နှောင်းအခါများ၌မူ တရုပ်နိုင်ငံသည် ထိုဒေသကို ပိုင်မြဲပိုင်လေသည်။

**တာတမံ။** ။ရေလွှမ်းမိုးသော အန္တရာယ်တို့ကို ကာကွယ်ရန်အလို့ငှာသော်၎င်း၊ ရေလှောင်ကန်အတွက်ပေါင်ခတ်ခြင်း ဆည်ဖို့ခြင်း အလို့ငှာသော်၎င်း၊ လမ်းပန်း ဆက်သွယ်ရေး အလို့ငှာသော်၎င်း၊ မြေကြီးကိုဖို့၍ပြုပြင်ထားသော ကုန်းမြင့်တန်းကို တာတမံဟုခေါ်၏။ အင်းထဲ၌ငါးများကို ဖမ်းရန်အတွက် လယ်ကန်သင်းကဲ့သို့ မြေဖို့ကာပေါင်ခတ်ထားခြင်းကို တမံဟုခေါ်သည်။ တမံတုတ်သည်၊ တမံဖို့သည်ဟု ဆိုကြသည်။ တမံအကြီးစားမျိုးကို တာဟုခေါ်လေသည်။

တာတမံ အမျိုးမျိုးရှိသည်။ ယင်းတို့မှာ နဂိုမြေပြင်ပေါ်တွင် မြေကြီး ထပ်မံဖို့တင်ကာ အပေါ်မှမြေကို မာအောင်ပြုလုပ်၍၊ နံဘေးတဖက်တချက်ကို ဆင်ခြေလျှောဖြစ်အောင်ပြုလုပ်ထားသော မီးရထားတာလမ်း၊ ရေစီးအားကို တားဆီးရန်နှင့် ရေပိုများကိုလှောင်ထားနိုင်ရန်ပြုလုပ်ထားသော ရေကာတာနှင့်၊ မြေကြီးဖို့တင်၍နံရံများတိုင်များစသည်ဖြင့် ခိုင်ခံ့အောင် ဖန်တီးထားသော တာရိုးဆည်ရိုးဟူ၍ ဖြစ်ကြ၏။

မြေနိမ့်ပိုင်း သို့မဟုတ်ချိုင့်ဝှမ်းတခုကိုဖြတ်၍မီးရထားလမ်း ဖောက်ရမည့် အခါတွင် ဖြစ်စေ၊ မီးရထားလမ်းကို ပြေနိုင်သမျှ ပြေပြေဖောက်ရန်အတွက် ဖြစ်စေ၊ အထူးသဖြင့်ရေဝပ်သော လွင်ပြင်ကျယ်ကြီးများတလျှောက် ရထားလမ်းကိုမြင့်၍ ဖောက်လုပ်ရမည့်အခါတွင် ဖြစ်စေ၊ မီးရထား တာလမ်းကို ဖို့ရ၏။ လမ်းဖောက်မည့်နေရာတဖက်တချက်တွင် ကျင်းများတူး၍ မြေကို သယ်ယူဖို့တင် ဆောက်လုပ်ရလေသည်။ ကျောက်ကျိုးကျောက်ပဲ့များ၊ ကျောက်စရစ်ခဲများနှင့် သဲကောင်းကောင်းတို့သည် တာဖို့ရာတွင်သုံးရန် အကောင်းဆုံးပစ္စည်းများဖြစ်ကြ၏။ အပေါ်ယံမြေလွှာနှင့်ရွှံ့စေးတို့ကို သုံးလျှင် စရိတ်ကြီး၍ဘေးအန္တရာယ်လည်း ဖြစ်စေတတ်၏။ အကြောင်းမူကား၊ အပေါ်ယံ မြေလွှာနှင့် ရွှံ့စေးတို့ သိပ်သွားသည့်အခါ တာရိုးသည် နိမ့်ကျသွားတတ်၍၊ မီးရထားလမ်းချော်နိုင်သောကြောင့်တည်း။ ထိုကြောင့်ပင် မီးရထား တာလမ်းကိုဖို့လုပ်ရာတွင် လိုသည့်အမြင့်၏ ၁/၂ မှ ၁/၃ အထိ တိုးမြှင့်ဆောက်လုပ်ရလေသည်။

တာတမံများတွင် ဆင်ခြေလျှောကို အပေါ်ယံ မြေလွှာလက်မအနည်းငယ်ဖို့ပေး၍ မြက်ပင်များ စိုက်ထားတတ်ကြ၏။မြက်ပင်တို့သည်မျက်နှာပြင်မြေလွှာကိုခိုင်ခံ့စေ၍၊ မိုးရေတိုက်စားခြင်းမှ ကာကွယ်ပေးလေသည်။ ရေငြိမ်အတွက် တမံဆည်ရိုး၏ဆင်ခြေလျှောကို ကျောက်တုံးတို့ဖြင့် လုပ်သင့်၏။ အကယ်၍ရေစီးလှိုင်းစသည်တို့၏ဒဏ်ကို ခံရမည်ဖြစ်လျှင်ကား တာတမံ၏ဆင်ခြေလျှောကို ကျောက်စရစ်ခဲများ ထည့်၍ဆောက်လုပ်သင့်၏။ သို့မဟုတ်ဆင်ခြေလျှောကို နံရံများ ကာထားအပ်ပေသည်။ ရေတက်ရေကျ ရှိသောနေရာမျိုးတွင် ရေကျသောအခါ တာတမံ၏ဆင်ခြေလျှောကို ရေတိုက်မစားရန် ကာကွယ်ထားရမည်။ တာတမံ၏ဆင်ခြေလျှောကို ၁၄ ဒီဂရီမှ ၃၇ ဒီဂရီအထိ အမျိုးမျိုးသင့်သလို ပြုလုပ်ပေးနိုင်ပေသည်။

ရေလှောင်ကန်၏တာရိုးကို မြေကြီး သို့မဟုတ် အလားတူပစ္စည်းနှင့်ပင် လုပ်သော်လည်း၊ အတွင်းဖက်၌ ကန်ကရစ် သို့မဟုတ် ကျောက်ခဲခံ၍ရေစိမ့်မထွက်နိုင်အောင် အလယ်၌ ရွှံ့စေးများ လောင်းထည့်ထား၏။ တာရိုး၏ ဆင်ခြေလျှောကိုလည်း လှောင်ထားသည့်ရေတိုးသောဒဏ်ကို ခံနိုင်အောင် ပို၍ခပ်ပြေပြေ လုပ်ထားရလေသည်။ မြန်မာနိုင်ငံ၌ ဟင်္သာတ၊ ပုသိမ်၊ မအူပင်ခရိုင်စသော ဧရာဝတီမြစ်ဝကျွန်းပေါ်ဒေသတဝိုက်တွင် ဧရာဝတီမြစ်ရေလျှံခြင်းမှ ကာကွယ်ရန် ရေကာတာများကို ဆောက်လုပ်ထားရ၏။ မြစ်ဝကျွန်းပေါ်ဒေသ မြောက်ဖက်စွန်းရှိကြံခင်းတာရိုးသည် ၆ မိုင်ရှည်၍ ကြံခင်းမြို့မြောက်ဖက် ကုန်းမြင့်တနေရာမှ စတင်လျက် ဧရာဝတီမြစ်အနောက်ဖက်ကမ်းတလျှောက်နှင့်ပြဒါးရှင်ချောင်းမြောက်ဖက်တလျှောက်၌ တည်ရှိလေသည်။



၄၇ မိုင်ရှည်သောမြန်အောင်ရေကာတာကို လှုသတ်ချောင်းဖက်မှ တစိတ်တဒေသမြင်ရပုံ

မြန်အောင်ရေကာတာမှာမြန်အောင်မြို့ မြောက်ဖက်မှ အစပြု၍၊ ဧရာဝတီမြစ် အနောက်ဖက်ကမ်းတလျှောက်နှင့် ငဝန်မြစ်ခေါ် ပုသိမ်မြစ် မြောက်ဖက်ကမ်းတလျှောက် လူတော်စုရွာအထိရောက်၏။ ၄၇ မိုင် ရှည်လေသည်။

ဟင်္သာတ မြောက်ဖက် ဧရာဝတီမြစ်မှ ငဝန်မြစ် ခွဲထွက်ရာ နေရာမှ အစပြုကာ ဧရာဝတီမြစ်၏အနောက်ဖက် ကမ်းတလျှောက် ပန်းတနော်အထိ တည်ရှိသော ဟင်္သာတ ရေကာတာသည် ၇၅½ မိုင်ရှည်၏။ ယင်းနှင့်တဆက်တည်းဖြစ်လျက် အနောက်ဖက် ခွဲထွက်သွားသော တာရိုးသည် ငဝန်မြစ်လက်ဝဲဖက်ကမ်းတလျှောက်တွင်တည်ရှိ၍၊ ၇၅ မိုင် ရှည်သည်။ ယင်းကို ငဝန် ရေကာတာဟု ခေါ်သည်။



၄၇ မိုင်ရှည်သောမြန်အောင်ရေကာတာကို ဗိုလ်ရုံဧရာဝတီကမ်းနဖူးဖက်မှ
တစိတ်တဒေသမြင်ရပုံ

ဧရာဝတီမြစ် အရှေ့ဖက်ကမ်း၌ ဓနုဖြူမြို့နှင့် မျက်နှာချင်းဆိုင်တွင် အဖြောက်မှ စံကင်းတိုင်အောင် ၁၅ မိုင်ရှည်သော စံကင်းဆကာကြီးရေကာတာရှိသည်။ ယင်း၏အောက်ဖက်ကျကျတွင်မူ ၅၄ မိုင်ရှည်သောညောင်တုန်းရေကာတာသည် ဧရာဝတီမြစ်ရိုးတလျှောက်နှင့် ပန်းလှိုင်မြစ်ရိုးတို့တလျှောက် တပိုင်းစီတည်ရှိသည်။ မအူပင်ကျွန်းအရှေ့၊ အနောက်နှင့် မြောက်ဖက်တို့တွင် ၇၇ မိုင်မျှရှည်လျားသောတာရိုး ရှိ၏။ ကျိုက်လတ်မြစ်နှင့်တိုးမြစ်များ ရေကြီးသည့်အခါ၊ သုံးခွကျွန်းကို ရေလွှမ်းမိုးခြင်းဘေးမှ ကာကွယ်ရန် အတွက်ဖို့လုပ်ထားသောသုံးခွကျွန်းရေကာတာသည် ၄၁½ မိုင်ရှည်၏။

ရွှေလောင်းရေကာတာမှာ မြောင်းမြခရိုင်၌ ရှိ၍၊ ၁၂½ မိုင်ရှည်၏။ လယ်ကေပေါင်း ၇,၀၀၀ ခန့်ကို ရေဘေးမှကာကွယ်ပေးသည်။ ဧရာဝတီမြစ်ရေကာတာများက ကာကွယ်ပေးထားသော မြေကေစုစုပေါင်းမှာ ၉၇၉,၀၀၀ ခန့်ဖြစ်၏။

စစ်တောင်းရေကာတာမှာ ၄၇ မိုင်ရှည်၍၊ စစ်တောင်းမြစ်လက်တက် အိုင်ဒုန်ချောင်း လကျ်ာဖက်ကမ်းတလျှောက်နှင့် စစ်တောင်းမြစ် လကျ်ာဖက် ကမ်းတလျှောက်တွင် ဖို့ထား၏။ စစ်တောင်းမြစ်နှင့် ရန်ကုန်မန္တလေး မီးရထားလမ်းအကြား လယ်မြေကေ ၅၁,၀၀၀ ကို ရေဘေးမှ ကာကွယ်ပေးသည်။ ထိုပြင်ညောင်လေးပင်မှမဒေါက်ထိ မီးရထားလမ်းကိုလည်း ကာကွယ်ပေး၏။

ပဲခူးခရိုင်ရှိ ဇွဲဘက်၊ မိုးရင်ကြီးတာရိုးမှာ မိုးရင်ကြီး ရေလှောင်ကန်ကို ကျိုးပေါက်မသွားစေရန် ကာကွယ်ထားသည်။ ဤရေလှောင်ကန်သည် နွေရာသီတွင် ပဲခူး စစ်တောင်းတူးမြောင်း၌ ကူးသန်းသွားလာနိုင်အောင် ဖန်တီးပေးရန်အတွက် ရေကိုသိုလှောင်ပေးသည်။ ပကိုင်တာရိုးသည် မြစ်ကျိုးမှ အနောက်ဖက်တလျှောက် ဖို့လုပ်ထား၍ ဇွဲဘက်၊ မိုးရင်ကြီးတာရိုးနှင့်တွေ့ဆုံပေါင်းစည်းလျက် ပဲခူးစစ်တောင်း တူးမြောင်း၏ မြောက်ဖက်တလွှားတွင် ရှိသောလယ်မြေအမြောက်အမြားကိုစစ်တောင်းမြစ်ရေဘေးမှ ကာကွယ်ပေး၏။ ပဲခူးမှ တာဝအထိ ပဲခူးမြစ် အရှေ့ဖက် ကမ်းတလျှောက် ဖောက်လုပ်ထားသော ရေကာတာငယ် တခုလည်း ရှိသေး၏။ တာဝနှင့်ပဲခူး စစ်တောင်းတူးမြောင်းမြောက်ဖက် လယ်မြေများကို ပဲခူးမြစ်ရေမလျှံအောင် ကာကွယ်ပေးသည်။

ဧလာမှ တောင်ဖက်တလျှောက်သို့ ဖို့လုပ်ထားသော ရမည်းသင်းတာကလေးမှာ ၇ မိုင် ရှည်၏။ ပေါင်းလောင်းမြစ် အနောက်ဖက် ကမ်းပေါ်တွင် တည်ရှိ၍၊ လယ်မြေကေပေါင်း ၅၀၀၀ ခန့်ကို ရေဘေးမှကာကွယ်ပေး၏။

ဖျာပုံနယ်ရှိ တမာတကောတာမှာ ၉ မိုင်ရှည်၍၊ တိုးမြစ်ဝမှ အစပြုကာ ပင်လယ်ကမ်းရိုးတန်းတလျှောက်တွင် လယ်ကေပေါင်း ၁၃,၀၀၀ ခန့်ကို ပင်လယ်ရေလျှံခြင်းမှ ကာကွယ်ပေး၏။

**တာတာရစ် အက်ဆစ်။** ။တာတာရစ်အက်ဆစ်သည် စပျစ်သီး၊ လိမ်မော်သီးစသော သစ်သီးများ၏အရည်တွင် ပါရှိသည်။ ဓာတုဗေဒသဘောအားဖြင့် ကာဗွန်၊ ဟိုက်ဒရိုဂျင်၊ အောက်ဆီဂျင်ဓာတ်တို့ဖြင့် ပေါင်းစပ်ဖွဲ့စည်းထားသော အရောင်ကင်း၍ အလင်းပေါက်သည့် ပုံဆောင်ခဲများဖြစ်၏။ တာတာရစ်အက်ဆစ်ကို သုံးမျိုးသုံးစား ခွဲခြားထားသော်လည်း၊ ဓာတု သင်္ကေတ ပုံသေ ရေးနည်းမှာ ($C_4H_6O_6$) ဟု တမျိုးတည်းပင် ဖြစ်သည်။ ထိုအက်ဆစ်ကို အခြားသောသစ်သီးများမှလည်း အနည်းအကျဉ်း ရနိုင်၏။ သို့ရာတွင် စပျစ်ရည်မှ အများဆုံးရရှိလေသည်။

စပျစ်ရည်ကို စည်ထဲတွင်ထည့်ထားစဉ် ကဇော်ပေါက်လာသောအခါ၊ စည်အတွင်းဖက်၌ မာသောချိုးများ တက်လာသည်။ ထိုချိုးမှာ 'အာဂေါ' သို့မဟုတ် 'ပိုတက်ဆီယမ် တားထရိတ် အက်ဆစ်' ဟုခေါ်သော ဓာတ်ဆားဖြစ်သည်။ ဤဓာတ်ဆားကို ရေတွင်ဖျော်ပြီးလျှင် တဖန်ပြန်၍ ပုံဆောင်ခဲဖြစ်စေသောအခါ၊ အနည်းငယ် သန့်လာသော ပုံဆောင်ခဲကိုရသည်။ ထိုတာတာတွင် ရှိနေသေးသော အညစ်အကြေးများကိုထုတ်ပြီးလျှင် ပို၍သန့်အောင်ပြုလုပ်သောအခါ၊ 'တာတာအဆီဖတ်' ဟုတွင်သောပစ္စည်းကို ရလေသည်။ 'တာတာအဆီဖတ်' သည် အလွန်အဖိုးထိုက်တန်၍ အသုံးဝင်၏။ ဤအဆီဖတ်ကို ဆိုဒီယမ် ဗိုင်ကာဗွန်နိတ်နှင့်ရောစပ်၍ ပေါင်မုန့် ကိတ်မုန့်များ ဖုတ်ရာတွင် ပွထစေသော ဖိတ်ကင်းပေါင်ဒါမှုန့်ကို ပြုလုပ်ရ၏။ (ဆိုဒါ — ရှု။) ထိုပြင် ဘယဆေးဖော်စပ်ရာ၌လည်း အသုံးပြု၏။ ဆေးဆိုင်များတွင် အများအစားရောင်းချသော တာတာရစ်အက်ဆစ်နှင့် အခြားဓာတ်ဆားများကို ဤအဆီဖတ်မှ ထုတ်ယူကြလေသည်။ ထိုအဆီဖတ်မှရသည့် အထူးထင်ရှားသော ဓာတ်ဆားနှစ်မျိုးမှာ 'ရိုရှယ်ဆား' ဟုခေါ်သော ဆိုဒီယမ် ပိုတက်ဆီယမ် တားထရိတ် ဓာတ်ဆားနှင့် 'တာတာ အီမက်တစ်' ဟုခေါ်သော ပိုတက်ဆီယမ် အန်တီမိုနိုင်တားထရိတ် ဓာတ်ဆားတို့ဖြစ်ကြသည်။ တာတာကို ဖြစ်စေ၊ တာတာအဆီဖတ်ကို ဖြစ်စေ ဆာလဖျူရစ် အက်ဆစ်နှင့် စိမ်သောအခါ၊ တာတာရစ် အက်ဆစ်ကိုရ၏။

တာတာရစ်အက်ဆစ်ကို သရက်ထည့် အပွင့်ရိုက်ခြင်း၊ ဆေးဆိုးခြင်း၊ ဓာတ်ပုံရိုက်ကူးခြင်း၊ ဘယဆေးဖော်စပ်ခြင်းတို့တွင်၎င်း၊ အဖျော်ယမကာနှင့် အရက်စသည်တို့တွင် အနံ့အရသာကောင်းမွန်စေသော ပစ္စည်းအဖြစ်ဖြင့်၎င်း အသုံးပြုလေသည်။

**တာတာလူမျိုး။** ။၅ ရာစုနှစ်လောက်တွင် ဂိုဗီ သဲကန္တာရ၏အရှေ့မြောက်ဖက်ဒေသ၌ နေထိုင်ကြသော မွန်ဂိုအဆက်အနွယ်တို့ကို တာတာလူမျိုးဟု ခေါ်သည်။ နောင်သောအခါ တာတာလူမျိုးတို့ကို ခီတန်လူမျိုးတို့က တိုက်ခိုက် နှင်ထုတ်လိုက်ရာ၊ တာတာတို့သည် တောင်ဖက်ဒေသတို့သို့ ရွှေပြောင်းနေထိုင်ခဲ့ရသည်။ ၉ ရာစုနှစ်သို့ ရောက်သောအခါ တာတာတို့သည် မွန်ဂိုအင်ပိုင်ယာနိုင်ငံကို တည်ထောင်ကြလေရာ၊ မွန်ဂိုလူမျိုးဟု တွင်လာကြသည်။ (မွန်ဂိုလူမျိုး — ရှု။) ၁၃ ရာစုနှစ်၌ ထိုမွန်ဂိုလူမျိုးတို့သည် တူရကီ၊ ရုရှအရှေ့ပိုင်း၊ ဖင်းလန်စသော တိုင်းပြည်များသို့ ချင်းနင်းဝင်ရောက်ကြလေသည်။ အနောက် ဥရောပအထိ



တူရကီအဆက်အနွယ် တာတာလူမျိုးတစု

မွန်ဂိုအင်ပိုင်ယာကို ချဲ့ထွင်ခဲ့သော ဂျင်ဂစ်ခန်နှင့် သူ၏ အဆက်အနွယ်တို့မှာ ကမ္ဘာ့သမိုင်းတွင် ထင်ရှားခဲ့သော မင်းများဖြစ်သည်။ (ဂျင်ဂစ်ခန် — ရှု။)

ယခုခေတ်၌ တာတာလူမျိုးဟူသည်မှာ အာရှတိုက်အနောက်ပိုင်းတွင် မှီတင်းနေထိုင်၍၊ တူရကီအဆက်အနွယ်ဖြစ်သော လူမျိုးတို့ဖြစ်သည်။ ယခုအခါ တာတာလူမျိုးတို့၏ မူလဇာတိမှာ ယင်းတို့နေထိုင်ရာ ဒေသကို အမှီပြု၍ အမျိုးမျိုး ရှိနေသည်။ တာတာလူမျိုး လူများစုမှာ မွတ်စလင်များ ဖြစ်ကြသည်။ ပြောသော ဘာသာစကားမှာလည်း တူရကီဘာသာစကားဖြစ်သည်။

**တာတာလူမျိုးစစ်ပွဲ**။ ။၁၃ ရာစုနှစ်သို့ရောက်သောအခါ ဂျင်ဂစ်ခန်ခေါင်းဆောင်သော တာတာလူမျိုး (မွန်ဂို) များသည် အင်ပိုင်ယာချဲ့ထွင်သောစစ်ပွဲများကို ကမ္ဘာအနှံ့အပြားနေရာများတွင် စတင် ခင်းကျင်း တိုက်ခိုက်ခဲ့ကြရာ၊ ဂျင်ဂစ်ခန်၏မြေးတော် ကူဗလိုင်ခန်၏လက်ထက်သို့ ရောက်သောအခါမှ အဆိုပါစစ်ပွဲများ ပြီးဆုံးခဲ့လေသည်။ ယင်းစစ်ပွဲများကို တာတာလူမျိုးစစ်ပွဲဟုခေါ်သည်။ (ဂျင်ဂစ်ခန်။ တာတာလူမျိုး — လည်းရှု။)

ဂျင်ဂစ်ခန်သည် ပဌမဦးစွာ သဘောကွဲလွဲလျက်ရှိသော ခေါင်းဆောင်များကို သိမ်းသွင်း၍၎င်း၊ အချို့ကို သုတ်သင်ရှင်းလင်းပစ်၍၎င်း မွန်ဂိုဟူသမျှကို တစည်းတလုံးတည်း ညီညွတ်အောင်ဆောင်ရွက်၏။ ထို့နောက် မွန်ဂိုနယ်နိမိတ်ကို ကျော်လွန်ကာ နယ်ပယ်ချဲ့ရာတွင်၊ တရုပ်နိုင်ငံ တန်တိုင်းကြီးကို ဖြတ်ကျော်၍ မြောက်ပိုင်းသို့ဝင်ရောက်တိုက်ခိုက်သည်။ ၁၂၁၁ ခုနှစ်တွင် တာတာစစ်သည်များသည် ယခုခေတ် ရှန်စီနှင့်ဟိုပေ့ပြည်နယ်များကို တိုက်ခိုက်အောင်မြင်ခဲ့ကြပြီးနောက်၊ ချင်မင်းများ၏မြို့တော် ယင်းချင်းကို ၁၂၁၅ ခုနှစ်တွင် သိမ်းပိုက်ခဲ့ကြလေသည်။ ၁၂၁၉ ခုနှစ်တွင် ကိုရီးယားနိုင်ငံလည်း ဂျင်ဂစ်ခန်၏ လက်အောက်ခံ ဖြစ်လာ၏။ ဂျင်ဂစ်ခန်သည် ၁၂၂၀ ပြည့်နှစ်တွင် အာရှတိုက်အလယ်ပိုင်းရှိ တာကီစတန်နိုင်ငံကိုလည်း အောက်ဇက်မြစ်ဝှမ်းအထိ ဝင်ရောက်တိုက်ခိုက်ခဲ့သည်။ ထို့နောက် တရုပ်ပြည်တောင်ပိုင်း ချင်နိုင်ငံ တခုလုံး နီးပါးမျှသည် ၁၂၂၃ ခုနှစ်တွင် ဂျင်ဂစ်ခန်ခေါင်းဆောင်သော တာတာများ၏လက်အောက်သို့ ကျဆင်းခဲ့ရလေသည်။ ဂျင်ဂစ်ခန်ဦးဆောင်သော တာတာစစ်သည်များသည် အိန္ဒိယနိုင်ငံ အိန္ဒုမြစ်ကမ်းသို့၎င်း၊ ပါးရှားနိုင်ငံတွင်းသို့၎င်း၊ ဥရောပတိုက် အရှေ့တောင်ပိုင်း ဒေသများသို့၎င်း ဝင်ရောက်တိုက်ခိုက်ခဲ့ကြသည်။ ၁၂၂၁ ခုနှစ်တွင်လည်း ရုရှနိုင်ငံတောင်ပိုင်း ဒိုးနက်မြစ်ဝှမ်းအထိ ဝင်ရောက်တိုက်ခိုက်ခဲ့ကြသေးသည်။

ဂျင်ဂစ်ခန်လွန်၍ သူ၏သား အိုဂါတိုင်း၏လက်ထက်သို့ ရောက်သောအခါ၊ တာတာများသည် အင်ပိုင်ယာချဲ့ထွင်သောစစ်ပွဲများကို ဆက်လက်ခင်းကျင်း တိုက်ခိုက်ခဲ့ကြလေသည်။ အိုဂါတိုင်းခေါင်းဆောင်သော တာတာစစ်သည်များသည် တရုပ်ပြည်မထဲသို့ ပိုမိုထိုးဖောက်ဝင်ရောက် တိုက်ခိုက်ခဲ့ကြ၏။ သူ၏လက်ထက် ၁၂၃၄ ခုနှစ်တွင်မှ တရုပ်နိုင်ငံတောင်ပိုင်း ချင်မင်းဆက်လည်း ပြတ်လေတော့သည်။ ခမည်းတော်ဂျင်ဂစ်ခန်၏လက်ထက်တွင် လက်အောက်ခံဖြစ်လာခဲ့သော ကိုရီးယားနိုင်ငံကိုလည်း အိုဂါတိုင်းသည် စစ်ပွဲခင်းကျင်းတိုက်ခိုက်၍ အပြီးအပိုင် သိမ်းပိုက်ခဲ့၏။ မှက်ဆိုပိုတေးမီးယား၊ ဂျော်ဂျီးယားပြည်နယ်နှင့်အာမီးနီးယားအစရှိသော အာရှတိုက်အနောက်တောင်ပိုင်း နိုင်ငံများနှင့် ဟန်ဂေရီ၊ ပိုလန် အစရှိသော ဥရောပ နိုင်ငံများကိုလည်း အိုဂါတိုင်းခေါင်းဆောင်သော တာတာစစ်သည်များ သွားရောက် တိုက်ခိုက်ခဲ့ကြလေသည်။ ၁၂၃၉ ခုနှစ်တွင်လည်း တာတာစစ်သည်များသည် ရုရှနိုင်ငံအလယ်ပိုင်း မောစကိုမြို့တော်အထိ ဝင်ရောက်တိုက်ခိုက် သိမ်းပိုက်ကြလေသည်။

ဂျင်ဂစ်ခန်၏ မြေးတော်ဖြစ်သူ မန်ဂူ၏ လက်ထက်တွင်ကား၊ တာတာများသည် ဗဂ္ဂဒက်မြို့၊ အလက်ပိုမြို့နှင့်ဒမက်စကပ်မြို့များကို တိုက်ခိုက်သိမ်းပိုက်ခဲ့ကြ၏။ တရုပ်ပြည်တွင်လည်း မန်ဂူနှင့်ကူဗလိုင်ခန်ခေါင်းဆောင်သော တာတာများသည် ၁၂၅၃ ခုနှစ်၌ နန်ချောင်ပြည်နယ်ကို တိုက်ခိုက်အောင်မြင်ခဲ့ကြ၏။ ထို့နောက် တာတာစစ်သည်များသည် တုံကင်းနယ်ထဲသို့၎င်း၊ မြောက်ဖက်ရှိ ကွမ်စီနှင့် ဟူနန်နယ်များထဲသို့၎င်း ဝင်ရောက်တိုက်ခိုက်ခဲ့ကြသေးသည်။

သို့သော် အကြီးကျယ်ဆုံးသော တာတာစစ်ပွဲများသည် ကူဗလိုင်ခန် လက်ထက်တွင် ပေါ်ပေါက်ခဲ့သည်ဟု ဆိုရပေမည်။ ကူဗလိုင်ခန်သည် မွန်ဂိုအင်ပိုင်ယာနိုင်ငံတော်ကြီးကို ကြောက်မက်ဖွယ် စစ်ပွဲများ ခင်းကျင်း၍ ချဲ့ထွင်ခဲ့သူ ဖြစ်သည်။ သူ၏လက်ထက် ၁၂၇၉ ခုနှစ်တွင် တရုပ်နိုင်ငံအလုံးသည် တာတာလူမျိုးတို့၏လက်တွင်းသို့ သက်ဆင်းခဲ့ရပေသည်။ (ကူဗလိုင်ခန် — လည်းရှု။) ဆွန်မင်းဆက်များ စိုးစံခဲ့သော ရှီအန်းယန်မြို့နှင့်ဖန်ချိန်မြို့နှစ်မြို့ကို ၁၂၆၈ ခုနှစ်မှ ၁၂၇၃ ခုနှစ်အထိ ငါးနှစ်တိတိ ဝန်းရံတိုက်ခိုက်ခဲ့သော စစ်ပွဲမှာ ကြီးကျယ်လှပေသည်။ ကူဗလိုင်ခန်ခေါင်းဆောင်သော တာတာစစ်သည်များသည် အနောက်တောင် အာရှတိုက်နှင့် အာရှတိုက်အလယ်ပိုင်းဒေသများကို၎င်း၊ ဥရောပတိုက် တစိတ်တဒေသကို၎င်း ချီတက်တိုက်ခိုက်သိမ်းပိုက်ခဲ့ကြသေး၏။ ထို့နောက် ၁၂၆၈ ခုနှစ်မှ ၁၂၈၁ ခုနှစ်အထိ ကူဗလိုင်ခန်သည် တာတာရေတပ် စစ်သည်အလုံးအရင်းဖြင့် ဂျပန်နိုင်ငံကို အကြိမ်ကြိမ် ချီတက် တိုက်ခိုက်ခဲ့သော်လည်း ကျူးရှူးကျွန်းပေါ် သို့ တက်ရောက်နိုင်ရုံမျှသာ အောင်မြင်ခဲ့၏။ တာတာစစ်သည်များသည် ၁၂၈၀ ပြည့်နှစ်နှင့်

၁၂၇၇ ခုနှစ်များတွင် အာနန်ပြည်တွင်းသို့ရှင်း၊ ၁၂၈၂ ခုနှစ်တွင် အင်ဒိုချိုင်းနားသို့ရှင်း ချင်းနင်းဝင်ရောက်တိုက်ခိုက်ခဲ့ကြသေးသည်။ သို့သော် အလိုမပြည့်ခဲ့ကြချေ။ အဆိုပါ ကူဗလိုင်ခန်၏လက်ထက် တာတာများ၏အန္တရာယ်ကို ခံစားလိုက်ကြရသည့်အထဲတွင် ဂျားဗားကျွန်း၊ ရိယူးကျူး ကျွန်းစုများနှင့်မြန်မာနိုင်ငံတို့လည်းပါဝင်ခဲ့ကြပေသည်။ မြန်မာနိုင်ငံကို ကူဗလိုင်ခန်၏တာတာစစ်သည်များသည် ၁၂၇၇ ခုနှစ်မှ ၁၃၀၁ ခုနှစ်အတွင်း ၅ ကြိမ်တိုင်တိုင် ဝင်ရောက်တိုက်ခိုက်ခဲ့ကြ၏။ (ငဆောင်ချမ်းတိုက်ပွဲ — ရှု။) ၃ ကြိမ်မျှ ရောဝတီ မြစ်ဝှမ်း အထိ ထိုးဖောက် ဝင်ရောက်နိုင်ခဲ့ကြ၍၊ ၂ ကြိမ်မျှ မန္တလေးမြို့တောင်ဖက်သို့ရောက်ခဲ့ကြသည်။ သို့သော် ကြာရှည်စွာ ခြေကုပ်ပြုလုပ်၍ တပ်စွဲကာ မနေနိုင်ခဲ့ကြချေ။

တာတာလူမျိုးစစ်ပွဲများသည် ကူဗလိုင်ခန်၏လက်ထက်၌ပင် အဆုံးသတ်ခဲ့လေသည်။

**တာပင်တိုင်ဆီ။** ။တာရပင်ဆီ — ရှု။

**တာဗီယမ်သတ္တု။** ။ဤဒြပ်စင်သည် ရှားပါးသော ခာတ်မြေအစုခေါ် ဒြပ်စင်အစုစာရင်းတွင် အလယ်၌ ပါရှိသော ဒြပ်စင်ဖြစ်သည်။ အလှည့်မှန်ဇယားကွက်ကို ကြည့်လျှင်၊ ဗေရီယမ် (နံပတ်စဉ် ၅၆) ပြီးသည့်နောက်၊ ဒြပ်စင်တခုတည်းကို မတွေ့ရတော့ဘဲ၊ ဒြပ်စင် ၁၅ မျိုးကို တွေ့ရပေမည်။ အက်တမ် နံပတ် ၅၇ မှ ၇၁ အထိရှိသော ဒြပ်စင် ၁၅ မျိုးမှာ ရှားပါးသော ခာတ်မြေပင်ဖြစ်သည်။ အခြားသော ဒြပ်စင်အစုများထက် ယင်းတို့သည် တခုနှင့်တခု အလွန်တူသောကြောင့် ဇယားကွက်တွင် နေရာလွတ်တခုတည်း၌ ထည့်သွင်းထားခြင်းဖြစ်သည်။

၁၇၉၄ ခုနှစ်တွင် ဖင်းလူမျိုး ဓာတုဗေဒပညာရှင် ဂက်ဒိုလင်ဆိုသူသည် ဆွီဒင်နိုင်ငံမှရသော တွင်းထွက်ပစ္စည်းတမျိုးတွင် ဒြပ်စင်အသစ်တခုကို တွေ့ရှိရသည်ဟု ထင်မှတ်လေသည်။ စင်စစ်အားဖြင့် ထိုတွင်းထွက်ပစ္စည်းတွင် ဒြပ်စင် တမျိုးတည်းမဟုတ်ဘဲ၊ ဒြပ်စင် တဒါဇင်ကျော် ပါဝင်သည်။ ထိုဒြပ်စင်များသည် တခုနှင့်တခုအလွန်တူကြသဖြင့် ဒြပ်စင်တမျိုးတည်းဟု ထင်မှတ်ရပေသည်။ ၁၈၂၆ ခုနှစ်တွင် ဒြပ်စင်ပေါင်း ၁၅မျိုးခန့်ရှိမည်ဟု ခန့်မှန်းထားခဲ့သည့် အနက် ၁၄ခု မြောက် ဒြပ်စင်ကိုတွေ့ရှိခဲ့သည်။ ၁၅ ခုမြောက် ဒြပ်စင်ကိုမူ၊ ရှားပါးသော ခာတ်မြေပါရှိသည့် တွင်းထွက်ပစ္စည်းများမှာ မတွေ့ရှိဘဲ၊ ယူရေးနီးယမ်း ကွဲထွက်၍ ဖြစ်ပေါ်လာသည့် ဒြပ်စင်များတွင်သာ တွေ့ရှိခဲ့သည်။

အထက်ပါ ဒြပ်စင်များကို ရှားပါးသော ဒြပ်စင်များဟု ခေါ်ကြသော်လည်း၊ စင်စစ်အားဖြင့် အားလုံးရှားပါးကြသည်မဟုတ်ချေ။ အချို့ကို ခဲကဲ့သို့ ကမ္ဘာမြေလွှာတွင် အနှံ့အပြားတွေ့ရသည်။ ရှားပါးသော ခာတ်မြေပါရှိသည့် တွင်းထွက်ပစ္စည်းများတွင် အခြား ဒြပ်စင်များအပြင် ရေဒီယမ်သတ္တုရှိသည့် သိုရီယမ်ကိုလည်း တွေ့ရသည်။ ထိုတွင်းထွက်ပစ္စည်းများကို စကန်ဒီနေးဗီးယား၊ ရုရှ၊ အိန္ဒိယ၊ အမေရိကန်၊ ဩစတြေးလီယားနိုင်ငံတို့တွင် တူးဖော်ရရှိသည်။ ဆီးရီးယမ်အဓိကထွက်ရာ ပင်ရင်းပစ္စည်းသည် မွန်နာဇိုက်သဲ (မီးစာကျောက်သဲ) ဖြစ်သည်။ ထိုသဲကို အိန္ဒိယတောင်ပိုင်း၊ ထရာဗင်ကိုပြည်နယ်မှ ရရှိလေသည်။

ရှားပါးသော ခာတ်မြေများကို ထုတ်ယူရာတွင် ပဌမဦးစွာ၌ ထိုခာတ်မြေများတစုလုံးကို တွင်းထွက်ပစ္စည်းတွင် ပါသည့် အခြားသော ဒြပ်စင်များမှ ခွဲထုတ်ယူရသည်။ ထိုသို့ ထုတ်ယူပြီးသော အခါမှ ရှားပါးသော ခာတ်မြေများကို တခုစီ တပင်တပန်းထုတ်ယူရသည်။ ဒြပ်စင်တို့သည် တခုနှင့်တခု အလွန်တူသဖြင့် ပျော်ဝင်သောနေရာတွင် အနည်းငယ်စီ ခြားနားချက်ကို အသုံးချပြီးလျှင် ခွဲထုတ်ယူရသည်။ ဒြပ်စင်တခုစီ၏ ဒြပ်ပေါင်းကိုရရှိအောင် အကြိမ်ပေါင်း ထောင်ချီ၍ သလင်းပွင့်ခံယူရသည်။ ရှားပါးသော ခာတ်မြေများကို ခွဲထုတ်ယူရန် သတ္တုကျောက်ရိုင်း အမြောက်အမြားကို အသုံးပြုမှသာ အလိုရှိသော ခာတ်မြေ အနည်းငယ်ခန့်ကို ရနိုင်သည်။ ရှားပါးသော ခာတ်မြေများကို ရှေးဦးစွာ ဆီးရီးယမ်ခာတ်မြေ၊ တာဗီယမ်ခာတ်မြေ၊ အစ်တာဗီယမ်ခာတ်မြေဟု အစုကြီးသုံးစုခွဲယူပြီးမှသာဆိုင်ရာဒြပ်စင်အသီးသီးကို ထုတ်ယူသည်။

ရှားပါးသော ဒြပ်မြေများတွင် အဖြူရောင် သို့မဟုတ် အဝါရောင်ရှိ၍၊ သတ္တုရောင်တောက်နေသည်။ ဂုဏ်သတ္တိများမှာ ကယ်လဆီယမ်နှင့် ဆင်တူသည်။ လေသလပ်ခံထားသောအခါ အရောင်မှိန်သွားသည်။ ရေနှင့်ဖြည်းညှင်းစွာ ခာတ်ပြောင်းလဲမှုဖြစ်ပြီးလျှင် ဟိုက်ဒရိုဂျင်ကို စွန့်ထုတ်ပေးသည်။ များစွာသော ဒြပ်စင်တို့တွင် အိုင်းယန်းနှင့်ကိုဗော့ကဲ့သို့ သံလိုက်ဂုဏ်များရှိကြသည့်ပြင်၊ အရောင်ရှိသော ဒြပ်ပေါင်းများကို ဖြစ်စေသည်။ ထိုဒြပ်စင်များသည် စက်မှုလက်မှုလုပ်ငန်း၌ များစွာအသုံးမဝင်ချေ။ အတွေ့ရအများဆုံးဖြစ်သော ဆီးရီးယမ်ကို မီးစာများပြုလုပ်ကြ၍၊ ထိုဒြပ်စင်၏ ဒြပ်ပေါင်းများကို ဆေးထိုးရာတွင် အသုံးပြုသည်။ ရှားပါးသော ခာတ်မြေများသည် အလွန်တောက်ပသည့် အလင်းရောင်ကိုပေးနိုင်စွမ်းရှိသဖြင့် ယင်းတို့ကို အရိပ်ပြစက်များတွင် အသုံးပြုသည်။ ထိုခာတ်မြေများကို သံနှင့်ရောပေးသောအခါ၊ မစ်ရှသတ္တုခေါ် သတ္တုစပ်တမျိုးကို ရသည်။ ထိုသတ္တုစပ်ဖြင့် ခာတ်မီးခြစ်များတွင် အသုံးပြုရန် မီးခြစ်ကျောက် ပြုလုပ်ယူသည်။

တာဗီယမ် အောက်ဆလိတ် သို့မဟုတ် ဆာလဖိတ်ကို မီး

ရှိလျှင် ပါရောက်ဆိုက်အမည်းဖြစ်လာသည်။ ထိုပါရောက်ဆိုက်ကို တွင်းထွက်အက်ဆစ်များနှင့်ရော၍၊ အပူတိုက် ပေးလျှင် အရောင်မရှိသလောက်ဖြစ်သော ပျော်ဝင်ရည်များဖြစ်လာသည်။ ထိုပျော်ဝင်ရည်များသည် စပက်ထရမ် (ရောင်စဉ်) တွင် အပြာရောင်နေရာ၌ အနည်းငယ်အရောင်မှိန်ခြင်းကြောင့် ထူးခြားသည်။

တာဗီယမ်သည် ရှားပါးသော ဓာတ်မြေများတွင် အလွန်အတွေ့ရနည်းသော ဒြပ်စင်ဖြစ်သည်။ သတ္တုဖြစ်သော်လည်း၊ ယခုအထိ သတ္တုသန့်သန့်ကို ခွဲထုတ်၍မရနိုင်သေးပေ။ အက်တမ်နံပတ်စဉ်နှင့် အက်တမ်အလေးဆတို့မှာ ၆၅ နှင့် ၁၅၉·၂ အသီးအသီးဖြစ်၍၊ သင်္ကေတမှာ (Tb) ဖြစ်သည်။ အချို့သောရှားပါးသည့် ဓာတ်မြေများနှင့်ခြားနားချက်တချက်မှာ ဒြပ်စင်၏ဒြပ်ပေါင်းများတွင် အရောင် ကင်းမဲ့ခြင်းပင်ဖြစ်သည်။ တာဗီယမ်ဟူသော အမည်သည် ရှားပါးသည့်ဓာတ်မြေများကို ပဌမဦးဆုံးတွေ့ရှိခဲ့ရာ ဆွီဒင်နိုင်ငံရှိ အစ်တာဗီရွာကို အစွဲပြု၍မှည့်ခေါ် ခြင်းဖြစ်သည်။

**တာဗိုင်ရဟတ်စက်။** ။လျှပ်စစ်ဓာတ်မီး ထွန်းညှိခြင်း၊ ကြေးနန်းဆက်သွယ်ခြင်းစသည့် လုပ်ငန်းတို့အတွက် လျှပ်စစ်ဓာတ်ကို ဓာတ်အားပေးရုံကြီးများမှရကြောင်းကို သိကြပေလိမ့်မည်။ (ဓာတ်အားပေးစက်ရုံ — ရှု။) အချို့ဓာတ်အားပေးစက်များသည် ရေအားကို အသုံးပြု၍ တည်ထားသောစက်များ ဖြစ်ကြသည်။ ထိုစက်တို့တွင် လုပ်အား (ပါဝါ) ကို ရေအားမှ ရကြသည်။ (ပါဝါ — လည်းရှု။)

ရေအားမှ လုပ်အားကိုယူရာ၌ တာဗိုင် ရဟတ်စက်သည် အရေးအကြီးဆုံးဖြစ်၏။ တာဗိုင်ရဟတ်စက်တွင် ရေရဟတ်စက်၊ ရေနွေးငွေ့ ရဟတ်စက်၊ လေရဟတ်စက်ဟူ၍ သုံးမျိုးရှိသည်။ (လေရဟတ်စက် — ရှု။) ထိုရဟတ်တို့မှ လုပ်အားသည် ထိုအငွေ့ အရည်တို့၏ အဟုန်ကိုအမှီပြု၍ ဖြစ်သည်။

တာဗိုင် ရဟတ်စက်သည် ဘီးတခုသာဖြစ်၍ ဘီး၏အနားကွပ်တွင် ဒံလက်များကို တပ်ဆင်ထားသည်။ ရေတံခွန်မှ ကျလာသောရေ သို့မဟုတ် ကျဉ်းမြောင်းသော အပေါက်မှ အရှိန်ပြင်းစွာနှင့် ထိုးထွက်လာသော ရေသည် ဘီး၏ဒလက်များနှင့်တိုက်မိသောအခါ ဘီးသည် ရေ၏တွန်းအားကြောင့်အရှိန်ပြင်းစွာလည်သည်။ ရဟတ်ကို ဒိုင်နမိုနှင့်ဝင်ရိုးတိုင်ချင်း ဆက်သွယ်ထားသဖြင့် ရဟတ်လည်သောအခါတွင် ဒိုင်နမိုလည်းလိုက်၍လည်သည်။ ထို့ကြောင့် ဒိုင်နမိုမှ လျှပ်စစ်စွမ်းအင် ထွက်လာခြင်းဖြစ်သည်။ ထိုသို့ ရဟတ်ဘီးကြီးတခုတည်းနှင့်ဒိုင်နမိုကို လှည့်ယူသည့်စံနစ် အပြင် ရေပန်းပြွန်တွင်း၌ ရဟတ်အများအပြားကို ဝင်ရိုးတိုင်တခုတည်းနှင့် ဆက်သွယ်ထား၍ ဒိုင်နမိုကို လှည့်ယူသည့်စံနစ်မျိုးလည်းရှိသေးသည်။ ဒုတိယစံနစ်မှ ဒလက်များသည် ပဌမစံနစ်မှ ဒလက်များလောက် လျင်မြန်စွာ မလည်နိုင်သော်လည်း၊ မှန်မှန်နှင့် ကြီးမားညီမျှသော လုပ်အားကို ဖြစ်စေနိုင်သည်။ (ရေအားသုံး လျှပ်စစ်စက်များ — ရှု။)

ရေနွေးငွေ့ တာဗိုင်ရဟတ်စက်မျိုးကို ရေအားမရနိုင်သော အရပ်များ၌ ဓာတ်အားပေးရုံကြီးများအတွက် အသုံးပြုကြသည်။ အပူကြောင့် ရေဘဝမှ ရေနွေးငွေ့ဘဝသို့ ပြောင်းလဲလာသော ရေနွေးငွေ့သည် အရွယ်ထု ကြီးလာသည်။ ထိုရေနွေးငွေ့ကို ထုတ်လွှတ်ပေးလျှင် အဟုန်ပြင်းစွာ နှင့် ထိုးထွက်လာကာ ရဟတ်များကို အလွန် ကြီးမားသော မြန်ရှိန်နှင့် လည်ပတ်စေနိုင်သည်။ (ရေနွေးငွေ့အားအင်ဂျင်စက် — ရှု။) ရေနွေးငွေ့တာဗိုင်ရဟတ်စက်ကို မီးသင်္ဘော၌ အသုံးပြုသောအခါတွင် ပန်ကာစက်များသည် ရဟတ်၏ အရှိန်အတိုင်း လိုက်၍ မလည်နိုင်သောကြောင့် ရဟတ်နှင့်ပန်ကာစက်တို့ကြားတွင် အရှိန်လျှော့မောင်းများ


(အထက်ပုံ) တာဗိုင်ရဟတ်စက်

(အောက်ပုံ) ရေနွေးငွေ့ဖြင့်လည်သော တာဗိုင်ရဟတ်စက်၏ ဝင်ရိုးတံ

ကို တပ်ဆင်ထားရလေသည်။ ယခုအခါ အချို့ပင်လယ်ကူး သင်္ဘောကြီးများကို လျှပ်စစ်ဓာတ်အားဖြင့် မောင်းနှင်ကြပြီဖြစ်သည်။ ထိုသင်္ဘောကြီးများထွင် တာဗိုင်ရဟတ်စက်ဖြင့် လျှပ်စစ်လုပ်စက်များကို လည်စေပြီးလျှင် ထိုစက်တို့မှ မိုတာစက်သို့ လျှပ်စစ်ဓာတ်အားပေးသွင်း၍ မိုတာစက်များကို လည်စေသည်။

**တာရပင်ဆီ**။ ။တာပင်တိုင်ခေါ် တာရပင်ဆီကို ထင်ရှူးပင်မျိုးအပါအဝင်ဖြစ်သော ကတော့ပုံ အသီးသီးသည့် အပင်အမျိုးမျိုးမှ ရနိုင်သည်။ တာရပင်ဆီ အမျိုးမျိုးရှိရာ၊ ထွက်သောတိုင်းပြည်ကိုလိုက်၍ ပြင်သစ် တာရပင်ဆီ၊ ရုရှတာရပင်ဆီ၊ ပါလက်စတိုင်း တာရပင်ဆီ၊ ဗင်းနစ် တာရပင်ဆီစသည်ဖြင့် အမည်အမျိုးမျိုး ကွဲပြားကြလေသည်။

ထိုအပင်အမျိုးမျိုးမှထုတ်ယူရရှိသောအဆီမှာ အဝါရောင်တာရပင်ဆီအရိုင်းဖြစ်၍ ထိုအဆီကို ပေါင်းခံခြင်းဖြင့် တာရပင်ဆီကိုရနိုင်သည်။ ထိုအပင်တို့၏ သစ်သားကို ပွတ်၍ ပေါင်းခံခြင်းဖြင့်လည်း တာရပင်ဆီကို ရနိုင်သည်။ တာရပင်ဆီသည် အရောင်ကင်း၍ မီးလောင်လွယ်သည်။ ပူသောအရသာရှိလျက် အနံ့မှာသင်းသည်။ ကန့်၊ ဖော့စဖေါရပ်၊ ထင်းရှူးဆီကဲ့သို့သော သစ်အဆီ၊ ကြက်ပေါင်စေးကဲ့သို့သော သစ်အစေးတို့သည် တာရပင်ဆီတွင် ပျော်ဝင်နိုင်သည်။ တာရပင်ဆီသည် ခြောက်လွယ်သည့်အတွက် ထွက်သမျှ တာရပင်ဆီ၏ ၇၅ ရာခိုင်နှုန်းမျှကို ခြယ်ဆေး နှင့် အရောင်တင်ဆီများတွင် သုံးကြသည်။ (ဆေးသုတ်ခြင်းနှင့် အရောင်တင်ခြင်း — ရှု။) ခြယ်ဆေးများပြစ်နေလျှင် တာရပင်ဆီနှင့် အရည်သွက်လာအောင်လုပ်ယူနိုင်သည်။ အဝတ်ပေါ်၌ ခြယ်ဆေးများပေကျံနေလျှင်လည်း ချွတ်ဆေးအဖြစ်အသုံးပြုနိုင်သည်။ ထိုပြင် ဘယဆေးနှင့်ပိုးသတ်ဆေးများတွင် ထည့်၍လည်း အသုံးပြုကြသေးသည်။

**တာရာကြီးကိုးလုံး**။ ။တာရာကြီး ကိုးလုံး ဆိုသည်မှာ အဿဝဏီအစ ရေဝတီအဆုံးရှိသော နက္ခတ် ၂၇ လုံးနှင့် အစဉ်အလိုက်ယှဉ်သည့် အဓိက နက္ခတ်ကြီးကိုးလုံးပင်ဖြစ်၏။ ယင်းတို့ကား၊ ကာက ကျီးတာရာ၊ ဟံသ ဟင်္သာတာရာ၊ ကက္ကဋ္ဌ ပုဇွန်တာရာ၊ တူလာ ချိန်တာရာ၊ စူဠာ ဆံကျင်တာရာ၊ ကေဝဋ္ဋ တံငါတာရာ၊ ဟတ္ထိ ဆင်တာရာ၊ အဿ မြင်းတာရာ၊ ဗကော ဗျိုင်းတာရာဟူ၍ အာကာသသျှတ္တရစသော လောကီစာငယ်များမှာ ပြဆိုသည့် အတွင်းတာရာ ကိုးလုံးတည်း။ ကျမ်းကြီးများမှာ တာရာဟူ၍အခြားမဆို။ နက္ခတ်နှင့် တာရာကား ပရိယာယ် အလဲအလှယ်ပင်တည်းဟူ၍ ဆိုသည်။ (နက္ခတ် — ရှု။)

ပါဠိအဘိဓာန်များ၌ တာရာကို တာရက ကူးဖြတ်၍သွားသော ကြယ်တာရာဟု အနက်ပေးသည်။ မိမိသွားလမ်းကို မစွန့်သောကြောင့် တာရာဟူ၍၎င်း၊ အဖန်တလဲလဲ တက်သည်ဖြစ်၍ မကုန်နိုင်သောကြောင့် နက္ခတ်ဟူ၍၎င်း၊တာရာနှင့် နက္ခတ်ကို ခွဲခြား၍ပြသည်။ လောကဒီပနီ၊ သာရတ္ထ ဒီပနီ၊ စန္ဒသူရိယဂတိ ဒီပနီစသော ကျမ်းတို့၌ နက္ခတ်တာရာတို့သည် မိဿ၊ ပြိဿစသော တဆယ့်နှစ်ရာသီစက်ဝန်းကိုမလွန်မူ၍၊ နှစ်လုံးတပါဒ်တည်းဟူသော ကိုးနဝင်းစီ အရေအတွက်အရ၊ တရာ့ရှစ်နဝင်းနှင့် နှစ်ဆယ့်ခုနစ်လုံးသော နက္ခတ်တို့သည် ကိုယ်မှိုသောစက်တွင်းကသာနေ၍၊ ယုဂန္ဓိုရ်တောင်ထိပ်၏အစွန်းနှင့်အမျှတွင် မြင့်မိုတောင်ကို လက်ျာရစ်၊ လိတ္တာနာရီခြောက်ဆယ်ဖြင့် တအသ်ာအရှိန်၌ ပတ်မိစေလျက် လှည့်ကြကုန်သည်ဟုဆို၏။ တဖန် မဟာသုတကာရီ မဃဒေဝလင်္ကာသစ်တွင် ‘အသီးအသီး၊ ရောင်ညီးညီးဖြင့်၊ကျီးနှင့်ဟင်္သာ၊ ကက္ကဋ္ဌာက၊ တူလာစူဠာ၊ တံငါ ဆင်မြင်း၊ ဗျိုင်းမယွင်းသား၊ ကိုးသင်းမဟာ၊ တွင်းတာရာတို့၊ နောက်ပါအညီ၊ သဝဏီက၊ သုံးစီနက္ခတ်၊ ပါဒ်တရာ့ရှစ်၊ နဝင်းစစ်၍၊ ဝန်းရစ်လက်ျာ၊ လစန္ဒာကို၊ ကမ္ဘာကျွန်းအောင်၊ ရံထွန်းပြောင်သို့’ ဟူ၍ဆိုလေသည်။.

**တာရာများ**။ ။နက္ခတ် — ရှု။

**တာရှန်းလူမျိုး**။ ။အလယ်ပိုင်း ချင်းလူမျိုးများတွင် အပါအဝင်ဖြစ်သော တာရှန်းလူမျိုးသည် ရှေးအခါက ချင်းလူမျိုးများထဲတွင် အင်အား အကြီးမားဆုံးနှင့် အာဏာအရှိဆုံး အုပ်စုတစုဖြစ်ခဲ့ဘူးသည်။ (ချင်းလူမျိုး — လည်းရှု။) ယင်းတို့၏ မူလဒေသမှာ ရှန်ကလဖြစ်၏။ ရွာအမည်ကို အစွဲပြု၍၊ ရှန်ကလလူမျိုးဟုလည်း ထင်ရှားသည်။ ယင်းတို့၏ ဖိုးဖွားဘိဘင်များသည် ထိုရွာ၏ကျောက်တုံးကြီးတခုထဲမှ ပေါက်ဖွားလာကြသောသူများ ဖြစ်သည်ဟု အစဉ်အလာ အယူရှိကြ၏။ နှစ်ပေါင်းများစွာကြာလတ်သော်၊ တာရှန်းလူမျိုး အချို့တို့သည် ဖလမ်းမြို့ အနောက်ဖက်တွင် ကလရှန်းရွာကိုတည်ထောင်၍ နေကြပြန်သည်။ ရွာအမည် ကလရှန်းမှ တာရှန်းဟူသောအမည် ဆင်းသက်လာသည်ဟုဆို၏။ များမကြာမီ ကလရှန်းရွာကို ဟားခါးချင်းများဝင်ရောက်တိုက်ခိုက်ခဲ့သဖြင့်၊ နှစ်ပေါင်းများစွာ ဟားခါးချင်းများလက်အောက်တွင် သုံ့ပန်းများအဖြစ် နေခဲ့ရပြီးနောက်၊ ယင်းတို့နှင့်စေ့စပ်ကျေအေးကာ ဖလမ်းရွာကို တည်ထောင်နေထိုင်ခဲ့ကြပြန်သည်။

ထိုနောက် မိမိတို့၏ ဆွေမျိုးသားချင်းများကိုသာ မကအခြားလူမျိုးတို့ကိုပါ ခေါ်ဆောင်၍ ဖလမ်း၌နေထိုင်စေ၏။ သို့သော် တာရှန်း (ရှန်ကလ) လူမျိုးအချို့တို့သည်ဖလမ်းသို့လိုက်ပါမလာဘဲ၊ အခြားအရပ်၌ သီခြားနေထိုင်ကြ၏။

# တာရှန်းလူမျိုး



ချင်းလူမျိုးများထဲ၌ ရှေးအခါကအင်အားကြီးမားဆုံး တာရှန်းလူမျိုး မိသားစု

တာရှန်းလူမျိုးစုတွင် ရှန်ကလ၊ ဇဟောင်၊ တလော်ဇမ်၊ ခွာလဆီးနှင့်ဝှန်လင့်ဟူ၍ ငါးမျိုးပါဝင်သည်။ ရှန်ကလလူမျိုးများအနက် ဖလမ်းရွာ၊ ဇောင်းတဲရွာ၊ ဆွန်းဟင်းရွာနှင့် ဇာ မွယ်ရွာတို့တွင် နေသူများ (မူလ ရှန်ကလ) နှင့် သီးခြား ရှန်ကလများဟူ၍ နှစ်မျိုးကွဲသွားပြန်၏။ ဇဟောင်လူမျိုးများလည်း ဤကဲ့သို့ပင်နှစ်မျိုးကွဲ၏။ ယင်းတို့အပြင် ကွန်လီ၊ ငွန်နှင့် မင်းလယ်တောင်အုပ်စုဟူ၍လည်း ရှိသေးသည်။

အုပ်ချုပ်ရာ၌ အကြီးအကဲ ငါးဦးပါဝင်သော အုပ်ချုပ်ရေးအဖွဲ့ရှိ၏။ အဖွဲ့ဝင်လူကြီးများကို ရွာများမှ မဲဆန္ဒဖြင့် တင်မြှောက်ရ၏။ သို့သော် များသောအားဖြင့် ဖလမ်းရွာမှပင် ရွေးကောက်ခံရသူများ၏။ အဖွဲ့ဝင်များသည် နေ့စဉ် နံနက်တိုင်း စုဝေး၍ ရပ်ရွာအမှုအခင်းများကို စီရင်ရ၏။ အဖွဲ့မှ ကြီးမှူး၍ ရွာများအပေါ်တွင် အခွန်အကောက်များ စည်းကြပ်တောင်းခံ၏။ တခါ၌သော် အခွန်အကောက်များ ကြီးလေးသဖြင့် သီးခြားရှန်ကလရွာ အပါအဝင် အချို့ရွာများသည် တော်လှန်ရန် စုဝေးကြလေသည်။ သို့သော် ဖလမ်းခေါင်းဆောင်များသည် တဖက်ကမ်းရှိ ငွန်လူမျိုး၊ မင်းလယ်တောင်ရှိ ထောလူမျိုးနှင့် ခွာလဆီးလူမျိုးများကို မိမိတို့ဖက်ပါအောင် သွေးဆောင်၍ ကူညီစေသည်။ အင်အားချင်း မမျှသောကြောင့် တော်လှန်လိုသော ရွာအားလုံးပင် ဖလမ်းလက်အောက်သို့ ရောက်ရှိလာပြီးလျှင် အုပ်ချုပ်ရေးအဖွဲ့သို့ အခွန်ဆက်လာရလေသည်။ ဤသို့ဖြင့် တာရှန်းလူမျိုးများသည် တဖြည်းဖြည်းနှင့် အခြားရွာများကို သိမ်းသွင်းနိုင်ခဲ့လေသည်။

ယင်းတို့သည် မြန်မာတို့နှင့်လည်း မဟာမိတ်ဖြစ်ခဲ့ဘူး၏။ ကွန်းကြီးခေါ် မြန်မာရွာကလေးကို ဟားခါးချင်းများ ဝင်ရောက်တိုက်ခိုက်ခြင်းကြောင့် တာရှန်းတို့သည် ဟားခါးရွာကလေးတရွာကို ဝင်ရောက်ဖျက်ဆီးလိုက်သည်။ ဗြိတိသျှတို့ မြန်မာပြည်မကို သိမ်းပိုက်ပြီးသည့်နောက်တွင် အင်အားကြီးမားနေသော တာရှန်းတို့အား အလွယ်တကူ မအောင်မြင်ဘဲရှိခဲ့၏။ ၁၈၉၁–၉၂ ခုနှစ် ရောက်မှသာလျှင် ဖလမ်းကို သိမ်းယူနိုင်လေသည်။ ၁၈၉၅–၉၆ ခုနှစ်တွင်ကား တာရှန်းလူမျိုးများ လက်နက်ချရပြီးနောက်၊ ဗြိတိသျှတို့သည် ယင်းတို့၏အင်အားနှင့်စည်းရုံးမှုကို ဖြိုခွဲခဲ့လေရာ၊ ယခုအခါ သာမန်ချင်းလူမျိုးအုပ်စုကလေးတခုအနေမျှသာ ကျန်ရှိ၍ တာရှန်း ရွာကလေးတွင်ပင် နေထိုင်လျက် ရှိကြသည်။ ရှေးကထက် ပိုမိုယဉ်ကျေးလာ၏။ လူဦးရေမှာ ၁၉၅၃ ခုနှစ် သန်ကောင်စာရင်းအရ ၁၉၈၇ ယောက်ရှိ၏။



ပြင်သစ်နိုင်ငံ၏မျိုးချစ်ခေါင်းဆောင်ကြီး တာလေရန်း ပေရီဂေါ

**တာလေရန်း ပေရီဂေါ** (ခရစ် ၁၇၅၄–၁၈၃၈)။ ။ပဋမ နပိုလီယန်ဘုရင်၏ လက်ထက်၌ ဥရောပတိုက်နှင့် စပ်လျဉ်းသော နိုင်ငံရေးတွင် နပိုလီယန်မှလွဲလျှင် ဦးစီးခေါင်းဆောင်ပုံနိုင်သူကား ပြင်သစ်လူမျိုး နိုင်ငံရေးခေါင်းဆောင် တာလေရန်း ပေရီဂေါဖြစ်လေသည်။ တာလေရန်း ပေရီဂေါသည် မင်းညီမင်းသားတဦးဖြစ်၍၊ နာမည်အပြည့်အစုံမှာ ချားမောရစ် ဒါ တာလေရန်း ပေရီဂေါဖြစ်၏။

တာလေရန်းပေရီဂေါသည် ပါရစ်မြို့တွင် ခရစ် ၁၇၅၄ ခုနှစ်၌ မွေးဖွားသည်။ ငယ်စဉ်က မတော်တဆ ထိခိုက် ဒဏ်ရာရသဖြင့် ခြေမသန်စွမ်းချေ။ အားလုံးသော ကိုယ်လက်အင်္ဂါတို့ အများနည်းတူသန်စွမ်းပါမူ၊ တာလေရန်းပေရီဂေါသည် စစ်သည်တဦးဖြစ်လာနိုင်သည်။ သို့ရာတွင် မိဖတို့က သူ့အား ခရစ်ယန်သာသနာ့ဘောင်သို့ ဝင်စေရန် ရည်စူးပညာသင်ကြားပေးသည်။ ထို့ကြောင့် ခရစ် ၁၇၇၅ ခုနှစ်တွင် သာသနာ့ဘောင်သို့ဝင်ရောက်ခဲ့သည်။ ခရစ် ၁၇၈၀ ပြည့်နှစ်တွင် ပြင်သစ်နိုင်ငံ သိက္ခာတင် ခရစ်ယန်သံဃာ့ကိုယ်စားလှယ်အဖြစ်ဖြင့် ရွေးချယ်ခြင်းခံရ၍၊ နောက်ကိုးနှစ်ကြာသောအခါ ဂိုဏ်းအုပ်ဖြစ်လာလေသည်။ ထိုနောက် ပြင်သစ်တော်လှန်ရေး စတင်ဖြစ်ပွားသောနှစ်တွင် ပြင်သစ်ပါလီမန် ပြည်သူ့ကိုယ်စားလှယ်ဖြစ်လာလေသည်။ ထိုအခါ နိုင်ငံတော်၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေကို ရေးဆွဲ

သောအဖွဲ့တွင် အဖွဲ့ဝင်အဖြစ်ဖြင့် ပါဝင်ဆောင်ရွက်၍၊ နိုင်ငံတော်၏အာဏာသည် ခရစ်ယာန်သံဃာအဖွဲ့ကို လွှမ်းမိုးသည်ဟူသော နိုင်ငံရေးအယူအဆကို လက်ခံပြီးလျှင်၊ ခရစ်ယာန်သံဃာအဖွဲ့ပိုင်ပစ္စည်းတို့ကို နိုင်ငံတော်က သိမ်းပိုက်ရမည်ဟူ၍ တောင်းဆိုခဲ့လေသည်။ ဤအချက်ကြောင့် ခရစ် ၁၇၉၁ ခုနှစ်တွင် ပုပ်ရဟန်းမင်းသည် တာလေရန်းကို ကြဉ်လိုက်လေသည်။ ထိုကြောင့် တာလေရန်းသည် ဂိုဏ်းအုပ်အဖြစ်မှ နုတ်ထွက်၍ နိုင်ငံရေးထဲသို့ ဝင်ရောက်လာခဲ့လေသည်။ နိုင်ငံရေးဆောင်ရွက်သည့်အခါ တာလေရန်းသည် ပြင်သစ်အမျိုးသားလွှတ်တော်ဥက္ကဋ္ဌ ဖြစ်လာခဲ့သည်။ သို့သော် ၁၇၉၂ ခုနှစ်တွင် သံတမန်အဖြစ်ဖြင့် အင်္ဂလန်ပြည်တွင် အမှုထမ်းစဉ်၊ သူ့အား မင်းညီမင်းသားတို့ကို ထောက်ခံသူဟု ယူဆ၍၊ တော်လှန်ရေးသမားတို့က ပြည်နှင်ဒဏ်ပေးခဲ့ရာ၊ အင်္ဂလန်ပြည်တွင် နှစ်နှစ်ခန့်မျှ ခိုဝင်နေထိုင်ခဲ့ရသည်။

ခရစ် ၁၇၉၆ ခုနှစ်တွင် ပြင်သစ်တော်လှန်ရေးမှာ ပြီးမီးသေသဘောသို့ ရောက်ခဲ့ရသဖြင့်၊ တာလေရန်းလည်း ပြင်သစ်နိုင်ငံသို့ ပြန်လာနိုင်ပြီးလျှင်၊ နိုင်ငံခြားရေးဝန် ဖြစ်လာလေသည်။ ထိုအခါ နပိုလီယန်သည် တန်ခိုးကြီးစ ပြုလာပြီဖြစ်၍၊ တာလေရန်းသည် နပိုလီယန်နှင့် အဆက်အသွယ်ပြုကာ နပိုလီယန်၏အကြံအစည်တို့ကို ကူညီအားပေးခဲ့လေသည်။ ဤအတွက်ကြောင့် နပိုလီယန် အထွတ်အထိပ်သို့ ရောက်သောအခါ၊ တာလေရန်းလည်း ဘုရင့်ဘဏ္ဍာတော်ဝန်ကြီးဖြစ်လာလေသည်။ သို့ရာတွင် ၁၈၀၇ ခုနှစ်တွင် နပိုလီယန်သည် ရုရှနှင့်စစ်ပြေငြိမ်းရပြီးလျှင်၊ တဖြည်းဖြည်း တန်ခိုးမှေးမှိန်လာသောအခါ၊ တာလေရန်းသည် နပိုလီယန်နှင့်ဆန့်ကျင်ဖက်ဖြစ်သော ဂိုဏ်းသားတို့၏ခေါင်းဆောင်ဖြစ်လာပြန်သည်။ ထိုအခါ နပိုလီယန်လည်း တာလေရန်းကို များစွာစက်ဆုပ်ရွံရှာ၍လာသော်လည်း၊ သူ၏အရည်အချင်းကို အသုံးမပြုဘဲ မနေနိုင်ခဲ့ချေ။ နောက်ဆုံးတွင် နပိုလီယန် နန်းကျသောအခါ၊ တာလေရန်းပင်လျှင် နန်းကျဘုရင်အတွက် စည်းကမ်းချက်တို့ကို ရေးဆွဲခဲ့သည်။ စင်စစ် တာလေရန်း၏ သံတမန်အဆက်အသွယ် ပရိယာယ် လိမ်မာမှုကြောင့် ဗီယင်နာကွန်ဂရက်က ပြင်သစ်နိုင်ငံအတွက် သက်ညှာစွာ စည်းကမ်းသတ်မှတ်ခဲ့လေသည်။

အဋ္ဌာရသမ လူဝီဘုရင်လက်ထက်သို့ရောက်သော်၊ တာလေရန်းသည် နိုင်ငံရေးရာတို့တွင် ပါဝင်ဆောင်ရွက်ခြင်း မရှိချေ။ လူဝီဘုရင်ကလည်း တာလေရန်းကို ပယ်ထားလေသည်။ သို့ရာတွင် ခရစ် ၁၈၃၀ ပြည့်နှစ်တွင် တော်လှန်ရေးကြောင့် လူဝီဘုရင် နန်းကျ၍၊ လူဝီဖိလစ် နန်းတက်သောအခါ၊ တာလေရန်းသည် အင်္ဂလန်ပြည်အတွက် ပြင်သစ် သံအမတ် ဖြစ်လာပြီးလျှင် ပြင်သစ်၊ ဗြိတိန်၊ စပိန်နှင့် ပေါ်တူဂီနိုင်ငံတို့ မဟာမိတ်ဖွဲ့စည်းရန် စေ့စပ်ရာ၌ အထမြောက်အောင်မြင်ခဲ့သည်။ ဤကား ဥရောပနိုင်ငံရေးတွင် တာလေရန်း နောက်ဆုံးဆောင်ရွက်ခဲ့သော အချက်ဖြစ်သည်။ ထိုနောက် တာလေရန်းသည် ခရစ်ယာန်သံဃာအဖွဲ့သို့ ပြန်ဝင်ပြီးလျှင်၊ နောက်ဆုံး၌ ကွယ်လွန်အနိစ္စရောက်လေသည်။ တာလေရန်း၏ နိုင်ငံရေးလမ်းစဉ်ကို ကြည့်လျှင်၊ ပရိယာယ်ဝေဝုစ်ကြွယ်ဝသည်ကို မြင်နိုင်သော်လည်း၊ ပြင်သစ်နိုင်ငံအဖို့ နိုင်ငံကို နာလှန်ထူအောင် နိုင်ငံချစ်စိတ်ဓာတ်နှင့် လွတ်လပ်ရေးမြတ်နိုးသော စိတ်ဓာတ်တို့ကို အရင်းခံ၍ ဆောင်ရွက်သွားသောကြောင့်၊ သူ့အား ပြင်သစ်နိုင်ငံ၏ မျိုးချစ်ခေါင်းဆောင်ဟု အများက အသိအမှတ် ပြုကြရလေသည်။

**တားနား, ဂျေ၊အမ်၊ဒဗျူ။** (ခရစ် ၁၇၇၅–၁၈၅၁)။ ရှုမျှော်ခင်းရေးဆွဲရာ၌ ကမ္ဘာ့ကျော်ကြားသော အင်္ဂလိပ် ရေဆေးပန်းချီဆရာ ဂျိုးဇက် မဲလာ့ ဝီလျံ တားနားသည် ၁၇၇၅ ခုနှစ် ဧပြီလ ၂၃ ရက်နေ့တွင် လန်ဒန်မြို့၌ ဖွားမြင်သည်။ သူ၏ဖခင်မှာ ဆတ္တာသည် တဦးဖြစ်သည်။ ဖခင်ဖြစ်သူသည် ပဌမဦးစွာ၌ သားဖြစ်သူအား စာသင်စေသော်လည်း၊ သားဖြစ်သူသည် စာထက် ပန်းချီကိုပို၍ စိတ်ထက်သန်သည်ကိုတွေ့ရသောအခါ၊ ပန်းချီအနုပညာကို သင်ကြားစေရန် အားပေးအားမြောက်ပြုလာလေသည်။ ၁၇၈၉ ခုနှစ်တွင် တားနား၏ ဖခင်သည် တားနားကို တော်ဝင် အနု



ပန်းချီကျော်တားနားကိုယ်တိုင်ရေး ၎င်း၏ပုံတူပန်းချီကား

ပညာတံခွန်ကျောင်း၌ အပ်နှံပေးသည်။ ထိုပြင် တားနားသည် ပန်းချီကျော် ဆာ ဂျော့ရှာ ရေးနော့ထံတွင်လည်း တပည့်ခံခဲ့ဘူးသည်။

တားနားသည် ငယ်စဉ်မှစ၍ ဆယ်နှစ်ခန့် ပန်းချီအတတ်ကို လေ့ရာတွင် မဂ္ဂဇင်းရုပ်ပုံရေးဆွဲခြင်းနှင့် ရေဆေးရောင်စုံခြယ်ခြင်းတို့၌ ထူးချွန်၍ တတ်မြောက်လာသည်။ တော်ဝင်အနုပညာတံခွန်ကျောင်းသို့ တက်ရောက်၍ ပညာသင်ရာ တနှစ်မျှကြာလျှင်ပင်၊ သူ၏ ပဌမပန်းချီကားကို တော်ဝင်အနုပညာတံခွန်ကျောင်း၌ ချိတ်ဆွဲခွင့်ရခဲ့သည်။ ထိုစဉ်က သူသည် အသက် ၁၅ နှစ်မျှသာ ရှိသေးသည်။ နောင်သောအခါ သဘာဝရှုခင်းရေးဆွဲရာ၌ ခေတ်ကိုဦးဆောင်နိုင်သူဖြစ်သည့်အလျောက် ခရစ် ၁၈၀၂ ခုနှစ်တွင် တော်ဝင်အနုပညာကျော် တဦးဖြစ်လာလေသည်။ နောင်သောအခါ တားနားသည် ရေဆေးကိုသာမက ဆီဆေးကိုပါ အသုံးပြုလာသည်။ သို့ရာတွင် သူသည် ဆီဆေးကို ဖေါ်စပ်ရာ၌ ကောင်းစွာနည်းမကျသောကြောင့် သူ၏ဆီဆေးကားတို့မှာ ကာလကြာရှည်စွာမခံချေ။ ထိုကြောင့် ရေဆေးကိုနိုင်သည့်အချက်၌သာ ကျော်စောထင်ရှားသည်။ တားနားသည် အင်္ဂလန်၊ ပြင်သစ်၊ ဆွစ်ဇာလန်နိုင်ငံတို့သို့ လှည့်ပတ်၍၊ ရှုမျှော်ခင်းများကိုရေးဆွဲခဲ့သည်။ ၁၈၄၃ ခုနှစ်တွင် ဂျွန် ရပ်စကင်က တားနား၏ ရေဆေးအကြောင်းကို စာတအုပ်တွင် ဖေါ်ပြ ဝေဖန်လိုက်ရာ၊ တားနားသည် အထူးနာမည်ကျော်ကြားလာလေသည်။ သို့သော် တားနားသည် ပန်းချီရေးဆွဲခြင်းမှတပါး အခြားကိုအာရုံမစိုက်ဘဲ၊ တကိုယ်တည်းနေလေ့ရှိသည်။ ခရစ် ၁၈၅၀ ပြည့်နှစ်တွင် သူ၏နောက်ဆုံးလက်ရာတခုကို ပန်းချီအသင်း၌ပြသပြီးနောက်၊ အသင်းအစည်းအဝေးများကို နောက်ထပ် မတက်ရောက်တော့ချေ။ လန်ဒန်မြို့ ချောင်ကျသော ရပ်ကွက်တခု၌ လူသိမခံဘဲ နေထိုင်ခဲ့လေသည်။ ၁၈၅၁ ခုနှစ် ဒီဇင်ဘာလ ၁၉ ရက်နေ့တွင် ထိုနေရာ၌နေထိုင်ယင်းပင် ကွယ်လွန်ခဲ့လေသည်။ သူကွယ်လွန်သောအခါ ငွေကြေးအမြောက်အမြား ကျန်ရစ်ခဲ့သည်။ ကျန်ရစ်ခဲ့သမျှတို့ကို ပန်းချီပညာရှင်တို့အား ထောက်ပံ့စေရန် တော်ဝင်အနုပညာတံခွန်အသင်းသို့ လှူဒါန်းခဲ့လေသည်။

# ရဟန်းမင်းအုပ်ချုပ်ခံတိုင်းပြည်

**တိဗက်ပြည်သည် အာရှတိုက်အလယ်ပိုင်းရှိ အလွန်မြင့်မားသော ကုန်းမြေပြင်ပေါ်၌ တည်ရှိသည်။ တောင်ဖက်၌ ဟိမဝန္တာတောင်တန်းသည် တိဗက်ပြည်ကို အိန္ဒိယနိုင်ငံမြောက်ပိုင်းမှ ပိုင်းခြားထားသည်။ တောင်ထူထပ်၍ လမ်းပန်းဆက်သွယ်ရေး မသာယာသဖြင့် နိုင်ငံခြားသားများ အရောက်အပေါက်နည်းသည်။ တိဗက်လူမျိုးတို့ ကိုယ်တိုင်ကလည်း ရှေးထုံးတမ်းစဉ်လာကို စွဲမြဲယုံကြည်သူများ ဖြစ်သည့်အားလျော်စွာ နှစ်ပေါင်းများစွာပင် ပြင်ပနိုင်ငံများနှင့်ဆက်သွယ်မှု ကင်းကွာခဲ့လေသည်။**

**တိဗက်ပြည်**။ ။တိဗက်ပြည်သည် အာရှတိုက် အလယ်ပိုင်း၊ ဟိမဝန္တာနှင့်ကွန်းလွန်းတောင်တန်းကြီးများအကြား၊ အနောက်ဖက် ကသ္မီရပြည်နယ်မှ အရှေ့ဖက် တရုပ်နိုင်ငံအထိ ရှည်လျားသော ကုန်းမြေမြင့်ပေါ်တွင် တည်ရှိသည်။ တောင်ဖက်တွင် အာသံ၊ ဘူတန်၊ ဆစ်ကင်နှင့် နီပေါပြည်တို့ရှိ၍၊ အနောက်ဖက်တွင် ကသ္မီရ၊ မြောက်ဖက်တွင် ဆင်ကျန်နယ်နှင့် အရှေ့ဖက်တွင် တရုပ်ပြည်နယ်များ ဖြစ်သော ကိုကိုးနော် (ချင်ဟိုင်း) နှင့် ဆီကန်နယ်တို့ ရှိကြသည်။ အကျယ် အဝန်းမှာ ၄၇၀,၀၀၀ စတုရန်းမိုင်ခန့် ဖြစ်၍၊ အရှေ့နှင့်အနောက် မိုင်ပေါင်း ၈၀၀၊ တောင်နှင့်မြောက် မိုင်ပေါင်း ၆၀၀ ရှိလေသည်။ လူဦးရေ ၃ သန်းခန့်ရှိသည်။ မြို့တော်မှာ လာဆာမြို့ဖြစ်၏။

တိဗက်ပြည်သည် ပေပေါင်း ၁၆,၀၀၀ ကျော်မြင့်သော လွင်ပြင်များနှင့်ပေပေါင်း ၂၀,၀၀၀ ကျော်မြင့်သော တောင်တန်းများဖြတ်သန်းလျက်ရှိသည့် ကုန်းမြေမြင့်ကြီးတခု ဖြစ်သည်။ အိန္ဒုမြစ်၊ ဗြဟ္မပုတ္တရမြစ်၊ ယန်ဆီမြစ်၊ မဲခေါင်မြစ်နှင့် သံလွင်မြစ်ဟူသော အာရှတိုက်ရှိ မြစ်ကြီးများ မြစ်ဖျားခံရာအရပ်လည်းဖြစ်သည်။ တိဗက်ပြည်သည် ဆီးနှင်းအစဉ်မပြတ်ကျ၍၊ ခြောက်သွေ့အေးမြသော တိုင်းပြည်ဖြစ်၏။ တိဗက်ပြည်မြောက်ပိုင်းသည် တောင်ပိုင်းထက် အထူးသဖြင့် အေး၍၊ ခြောက်သွေ့သဖြင့် သစ်ပင် ဝါးပင် ရှားပါး၏။ အတွင်းကျသော ချိုင့်ဝှမ်းများ၌ ဆားငန်အိုင် များစွာရှိသည်။ တောင်ပိုင်းရှိ ချိုင့်ဝှမ်းအရပ်ဒေသများတွင်ကား ထွန်ယက်စိုက်ပျိုးနိုင်သည်။ တိဗက်ပြည်တွင် မကြာခဏလိုပင် နှင်းများ သည်းထန်စွာကျ၍၊ လေပြင်းတိုက်တတ်သည်။ ထိုအခါ နှင်းမုန်တိုင်းသဖွယ်ဖြစ်တတ်၏။ အများအားဖြင့် နွေရာသီတွင် မိုးရွာသွန်း၍၊ တနှစ်လျှင် မိုးရေချိန် ၈ လက်မမှ ၁၀ လက်မအထိရွာသည်။ မြောက်ပိုင်းတွင် စာမရိနှင့်သိုးဆိတ်တို့စားသုံးရန်အတွက်ဖြစ်သော မြက်ပင်၊ ချုံဖုတ်များသာ ပေါက်ရောက်သည်။ တောင်ပိုင်းတွင်ကား စာမရိနှင့်သိုးဆိတ်များမွေးမြူခြင်းအပြင် မုယော၊ အုတ်ကျုံ၊ ဂျုံစသည်တို့နှင့်ခါးဥဖြူ၊ အာလူး၊ ပဲအမျိုးမျိုး၊ ရာသီဥတုဒဏ်ခံနိုင်သော ဟင်းသီးဟင်းရွက်တို့ကိုလည်း စိုက်ပျိုးကြသည်။ အများအားဖြင့် တိဗက်လူမျိုးတို့သည် နေထိုင်ရာအတည်တကျဟူ၍မရှိဘဲ၊ တနေရာမှ တနေရာသို့ ရွှေပြောင်းသွားလာနေထိုင်သူများဖြစ်ကြသည်။ အုပ်စုအလိုက် စခန်း




တိဗက်ပြည် တည်နေရာပြ မြေပုံ

သာသော နေရာတို့သို့လှည့်ပတ်သွားလာကာ စာမရီအမွေးများဖြင့် ပြုလုပ်ထားသော တဲများ ထိုး၍ နေထိုင်တတ်ကြ၏။ အစားအသောက်မှာလည်း များသောအားဖြင့် စာမရီမှရသော နို့နှင့် မုယောတို့ဖြစ်၏။ စာမရီ၏ချေးကို အခြောက်ပြုလုပ်၍၊ ထင်းဆိုက်ကြသည်။

တိဗက်လူမျိုးများသည် တနေရာမှ တနေရာသို့ စာမရီများ၊ မြည်းများ၊ ကုလားအုပ်များဖြင့် လှည့် လည် သွားလာလေ့ရှိကြသည်။ တရုပ်နိုင်ငံဖက်သို့ရင်း၊ အိန္ဒိယနိုင်ငံဖက်သို့ရင်း မြင့်မားမတ်စောက်သော တောင်ကြားလမ်းများကို ဖြတ်၍ ကူးသန်းသွားလာကြရ၏။ လမ်းမကြီးများ၊ မီးရထားလမ်းများဟူ၍ မရှိသည့်ပြင် ဘီးတပ်ယာဉ်ဟူ၍လည်း မရှိသလောက်ပင်ဖြစ်၏။ ကုန်တင်လား၊ မြည်း၊ စာမရီနှင့် မြစ်ချောင်းတွင်း၌ ဖောင်များဖြင့်သာ စာပို့ခြင်း၊ ကူးသန်းသွာလာခြင်း ပြုလုပ်နိုင်ကြလေသည်။ လာဆာမြို့တွင်ကား ယခုအခါတွင် လှိုင်းတိုအသံဖမ်းစက်ဖြင့် ကာလကတ္တားမြို့နှင့် ဆက်သွယ်၍၊ ကြေးနန်းသတင်းများကို ပို့ယူနေကြ၏။

အိုးလုပ်ခြင်း၊ သိုးမွေးထည်နှင့်ကော်ဇောများ ရက်လုပ်ခြင်း အစရှိသော အိမ်တွင်းလုပ်ငန်းများ ရှိသော်လည်း၊ မပြောပလောက်ချေ။ သားမွေး၊ ဆား၊ ရွှေ၊ သားရေစိမ်းနှင့် လက်ချားအစရှိသည်တို့ကို အိန္ဒိယနှင့်တရုပ်နိုင်ငံသို့ တင်ပို့ရောင်းချ၏။ တရုပ်နိုင်ငံမှ လက်ဖက်ခြောက်၊ ခြည်ထည်၊ ပိုးခြည်နှင့် အိန္ဒိယနိုင်ငံမှ ဆန်၊ ခြည်ထည်နှင့် အခြား ထုတ်လုပ်ပြီး ကုန်ပစ္စည်းတို့ကို ဝယ်ယူလေသည်။

တိဗက်ပြည်၏ ရှေးဦးသမိုင်းမှာ မရေရာလှချေ။ သေချာရေရာသော သမိုင်းဖြစ်စဉ်မှာ တရုပ်ခရီးသည်တစု လာရောက် လည်ပတ်ခဲ့သည့် ခရစ် ၆၅၀ ပြည့်နှစ်တွင်မှ အစပြုသည်ဟု ဆိုလေသည်။ ၁၃ ရာစု နှစ်ဦးလောက်တွင်ကား မွန်ဂိုဘုရင် ဂျင်ဂစ်ခန်က တိုက်ခိုက်သိမ်းပိုက်ခြင်း ခံခဲ့ရ၏။ သူ၏မြေးတော် ပဉ္စမ တရုပ်နိုင်ငံ၏ မွန်ဂိုကေရာဇ် ကူဗလိုင်ခန်သည် လာမာဝါဒီတဦးဖြစ်လာလေသည်။ ဤသို့ လာမာအယူကို ယူခြင်းကား၊ နိုင်ငံရေးအရ တိဗက်ပြည်ကို သိမ်းသွင်းရန် ရည်ရွယ်ရင်းဖြစ်သည်။ ထို့ကြောင့် ခရစ် ၁၂၇၀ ပြည့်နှစ်တွင် ကူဗလိုင်ခန်သည် လာမာဘုရင်ကို သူ၏နန်းတော်သို့ဖိတ်ခေါ်၍၊ တရုပ်နိုင်ငံသို့ လက်ဆောင်ပဏ္ဏာဆက်သရာ လက်အောက်ခံ တိဗက်ပြည်၏ဘုရင်အဖြစ်ဖြင့် ခြီးမြှင့်လိုက်လေသည်။ ထိုလာမာဘုရင်ကား သကျအနွယ်ဖြစ်၏။ ခရစ် ၁၃၆၀ ပြည့်နှစ်တွင် ထိုသကျအနွယ် လာမာဘုရင်တို့အဆက်ပြတ်၍၊ သိကျအနွယ် လာမာဘုရင် နန်းတက်၍ အုပ်စိုးရာ၊ သိကျလာမာဘုရင် နန်းဆက်တို့သည် နှစ်ပေါင်း



တိဗက်ပြည်လာဆာမြို့တော်ရှိ ဒလိုင်းလာမာစံကျောင်းတော်

၃၀၀ မျှ တိဗက်ပြည်ကို အုပ်စိုးနိုင်ခဲ့သည်။ ၁၅ ရာစု၏အစလောက်တွင် သိကျလာမာဘုရင်၏တူတော်သည် ယခုခေတ်အများသိကြသော ဒလိုင်းလာမာဟူသော အမည်ဖြင့် ထင်ရှားလာပြီးလျှင်၊ သူ၏အဆက်အနွယ်တို့ကို ဒလိုင်းလာမာဟု ခေါ်လာကြသည်။ ပဉ္စမ ဒလိုင်းလာမာ၏ ခေတ်တွင် ဒလိုင်းလာမာကို အကြံဉာဏ်ပေးသော တာရှိလာမာကို ခန့်အပ်လေရာ၊ ဒလိုင်းလာမာမင်းဆက်နှင့်အတူ တာရှိလာမာမင်းဆက်တို့လည်း ပေါ်ပေါက်လာလေသည်။ နောင်အခါတွင် တိဗက်ပြည်သည် တရုပ်တို့လက်အောက်သို့ ကျရောက်ခဲ့သော်လည်း၊ ၁၉၁၁ ခုနှစ် တရုပ်ပြည်တော်လှန်ရေး ဖြစ်ပွားစဉ် တရုပ်တို့အား တိုက်ထုတ်ခဲ့ကြသဖြင့်၊ ၁၉၁၃ ခုနှစ်မှစ၍ လွတ်လပ်သောနိုင်ငံ ဖြစ်လာခဲ့ပြန်၏။

၁၉၂၅ ခုနှစ်တွင် လာမာဂိုဏ်း နှစ်ဂိုဏ်းကွဲ၍၊ ဒလိုင်းလာမာနှင့် ပန်ချင်လာမာဂိုဏ်းဟု ဖြစ်ပေါ်လာသဖြင့်၊ တိဗက်ပြည်သူပြည်သားများက ဒလိုင်းလာမာကို တိုင်းပြည် အုပ်ချုပ်ရေး အတွက် ၎င်း၊ ပန်ချင်လာမာကို သာသနာရေးအတွက် ၎င်း အာဏာပိုင်များဟူ၍ ခွဲခြားကာ အသိအမှတ်ပြုခဲ့ကြလေသည်။

တရုပ်တို့သည် တိဗက်ပြည်တွင် ပြန်လည်၍ ဩဇာလွှမ်းမိုးရန် ကြိုးစားခဲ့သော်လည်း၊ မအောင်မြင်ခဲ့ချေ။ သို့သော် ၁၉၃၉ ခုနှစ်မှစ၍ တိဗက်နိုင်ငံ၌ တရုပ်ကိုယ်စားလှယ်တဦးကို ထားခွင့်ရလာလေသည်။

ပညာရေးတွင် သာသနာရေးလွှမ်းမိုးနေသဖြင့် ဘုန်းကြီးကျောင်းများ၌သာ ရဟန်းအဖြစ် ခံယူရန် သင်ကြားကြရလေသည်။ သာသနာရေး အရာရှိများနှင့် အစိုးရ အရာရှိများအတွက် လာဆာတွင် ကျောင်းတော်ကြီးနှစ်ကျောင်းရှိသည်။ သာမန်အားဖြင့်ကား ကလေးသူငယ်များသည် ရွာဘုန်းကြီးကျောင်းတွင် စာသင်ကြရ၏။ အနောက်နိုင်ငံပညာရေး ပို့ချပေးရန်အတွက် သာသနာပြု ကျောင်းများ တည်ထောင်နိုင်ရန် ကြိုးစားခဲ့ကြသော်လည်း၊ မအောင်မြင်ကြချေ။

တိဗက်ပြည်သူပြည်သားတို့၏ အယူဝါဒ၌ ရဟန်းမင်းကြီးအား ဘုရားလောင်းဝင်စားသူဟူ၍ ယူဆကြ၏။ ရဟန်းမင်းကြီးပျံလွန်လျှင် သူ၏ဝိညာဉ်သည် တိဗက်ပြည်၌ပင် ဝင်စားသည့်အတွက်၊ ရဟန်းမင်းကြီးဟောင်း ဝင်စားသည်ဟု ယုံကြည်ရသော မွေးစ ကလေးငယ်တယောက်ကို စုံစမ်း ရှာ

ဖွဲ့ပြီးနောက်၊ လာဆာမြို့သို့ခေါ်ဆောင်၍၊ ရဟန်းမင်းကြီးအဖြစ် တင်မြှောက်ကာ ရင်ခွင်ပိုက်အဖွဲ့ဖြင့် အုပ်ချုပ်စေလေသည်။ ထိုနောက် ထိုသူငယ်သည် ၁၈ နှစ်အရွယ်သို့ရောက်သော်၊ တိဗက်ပြည်အလုံးကို စိုးမိုးအုပ်ချုပ်ရသော အာဏာပိုင်မင်းအဖြစ်ကို ခံယူရလေသည်။

၁၉၃၃ ခုနှစ်တွင် ၁၃ ဆက်မြောက် ဒလိုင်းလာမာ ပျံလွန်ခဲ့ပြီးနောက်၊ အသက် ၅ နှစ်မျှသာရှိသေးသော ဒလိုင်းလာမာငယ်ကလေးကို တောရွာတရွာမှတွေ့ရှိခဲ့၍၊ ၁၉၃၉ ခုနှစ်တွင် လာဆာသို့ခေါ်ဆောင်ကာ ၁၉၄၀ ပြည့်နှစ် ဖေဖွာရီလတွင် ရင်ခွင်ပိုက်အဖွဲ့ဖြင့် အုပ်စိုးစေလျက် ၁၉၅၀ ပြည့်နှစ် နိုဝင်ဘာလ ၁၇ ရက်နေ့တွင်ကား ၁၄ ဆက်မြောက် ဒလိုင်းလာမာအဖြစ်ဖြင့် လုံးဝအာဏာလွှဲအပ်ပေးလိုက်လေသည်။ ၁၉၅၀ ပြည့်နှစ် အောက်တိုဘာလတွင် တရုပ်ပြည်သူ့သမတနိုင်ငံအစိုးရ၏ တပ်များသည် တိဗက်ပြည်တွင်းသို့ ဝင်ရောက်လာလေသည်။ ထိုနောက် ၁၉၅၁ ခုနှစ်တွင် တိဗက်ပြည်နှင့် တရုပ်နိုင်ငံတို့ နှစ်ဦးသဘောတူ စာချုပ်တရပ်ကို ပီကင်းမြို့တွင် ချုပ်ဆိုခဲ့လေသည်။

စာချုပ်အရ နိုင်ငံခြားရေးနှင့်ကာကွယ်ရေးကို တရုပ်အစိုးရက ကြိုးကိုင်၍၊ တိဗက်ပြည်ကမူ ပြည်တွင်းရေးတွင် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ရခဲ့လေသည်။ ၁၉၅၁ခုနှစ်တွင် တိဗက်ပြည်သည် တရုပ်နိုင်ငံ၏အစိတ်အပိုင်းတခုဖြစ်လာပြီဟူသော သဘောဖြင့် ဒလိုင်းလာမာနှင့်ပန်ချင်လာမာတို့ကို တရုပ်ပြည်သူ့သမတနိုင်ငံ၏ အတိုင်ပင်ခံ အဖွဲ့တွင် ပါဝင်စေခဲ့သည်။ ယခုခေတ် တိဗက်ပြည်ကို တရုပ်နိုင်ငံအတွင်း ကိုယ်ပိုင် အုပ်ချုပ်ခွင့်ရသော ပြည်နယ်အဖြစ် တည်ထောင်ရန်အတွက် ပြင်



ဟိမဝန္တာတောင်ခြေရင်းရှိ တိဗက်တောင်သူလယ်သမားမောင်နှံ



တိဗက် – အိန္ဒိယ ကုန်သွယ်ရေးတွင် အရေးပါသည့် တောင်ကြားလမ်း

ဆင်ရေး ကော်မတီတရပ် ဖွဲ့စည်းထားသည်။ ထိုအဖွဲ့တွင် ဒလိုင်းလာမာသည် သဘာပတိအဖြစ်ဖြင့်၎င်း၊ ပန်ချင်လာမာနှင့်တရုပ်ကွန်မြူနစ် ဗိုလ်ချုပ် ချန်ကူအိုဟူအာ (လက်ရှိ တိဗက်ပြည်၏တပ်မတော်ဗိုလ်ချုပ်ကြီး) တို့သည် ဒုတိယ သဘာပတိများအဖြစ်ဖြင့်၎င်း ဆောင်ရွက်ရမည်ဖြစ်၏။ အဖွဲ့တွင် အခြားအဖွဲ့ဝင် ၅၁ ဦးပါဝင်ရာ၊ တိဗက်ပြည်နယ်ဒေသဆိုင်ရာ အုပ်ချုပ်ရေးအဖွဲ့မှ ကိုယ်စားလှယ် ၁၅ ဦး၊ ပန်ချင်လာမာ၏ သာသနာရေးအဖွဲ့မှ ကိုယ်စားလှယ် ၁၀ ဦး၊ ချမ်ဒိုဒေသ၏ ပြည်သူ့လွတ်မြောက်ရေး ကော်မတီ အဖွဲ့မှ ကိုယ်စားလှယ် ၁၀ ဦး၊ တိဗက်ပြည်ပိုင်အစိုးရ၏ အစိုးရကိုယ်စားလှယ် ၅ ဦးနှင့် ထင်ရှားသော ဘုန်းတော်ကြီးကျောင်းများ၊ သာသနာ ဂိုဏ်းများနှင့် လူထု အဖွဲ့များမှ ကိုယ်စားလှယ် ၁၁ ဦးတို့ ပါဝင်မည်ဖြစ်လေသည်။ ထိုပြင် ထိုအဖွဲ့ကြီး လက်အောက်တွင် ဘဏ္ဍာရေးနှင့် စီးပွားရေးရာအဖွဲ့၊ သာသနာရေးအဖွဲ့ဟူ၍ အဖွဲ့ငယ်နှစ်ခုရှိမည့်အပြင်၊ ပြည်သူ့ရေးရာ၊ ဘဏ္ဍာရေး၊ တည်ဆောက်ရေး၊ ယဉ်ကျေးမှုနှင့် ပညာရေး၊ ကျန်းမာရေး၊ ပြည်သူ့လုံခြုံမှု၊ လယ်ယာစိုက်ပျိုးရေးနှင့် သစ်တောများထူထောင်ရေး၊ စက်မှုလက်မှု၊ ကုန်သွယ် ရောင်းဝယ်ရေးနှင့် လမ်းပန်း ဆက်သွယ်ရေးတည်း ဟူသော ဌာနခွဲ ၁၀ ခုရှိမည်ဖြစ်လေသည်။ ယခုအခါ တရုပ်ပြည်သူ့သမတနိုင်ငံသည် ခေတ်သစ်တိဗက်ပြည်ကို ခေတ်မီလာအောင်၊ လျှပ်စစ် ဓာတ်အားပေးရုံနှင့် လေယာဉ်ကွင်း ဆောက်လုပ်လျက် ရှိသည်။ လမ်းပန်း ဆက်သွယ်ရေးကိုလည်း တိုးချဲ့လျက်ရှိသည်။

**တိရစ္ဆာန်စရိုက်**။ ။တိရစ္ဆာန်တို့၏ စရိုက်ကို ဆင်ခြင်ကြည့်သော်၊ တိရစ္ဆာန်တို့သည် လူတို့ပြုမူကျင့်ကြံကြသကဲ့သို့ ပြုမူကျင့်ကြံကြလေသလောဟူ၍ တွေးထင်စရာအကြောင်းများကို တွေ့ရ၏။ တိရစ္ဆာန်တို့သည် နောင်ရေးကို မြော်တတ်သည့် လက္ခဏာရှိသည်။ ယင်းတို့အဖို့ သက်သာရာ သက်သာကြောင်းကို ရှာတတ်ကြသည်။ သတိရှိကြသည်။ အစုအဝေးနှင့်နေလျှင် အင်အားရှိသည်ကို သိကြသည်။ မိုးဥတုအတွက် အစာကို သိုလှောင်ထားတတ်ကြသည်။ အချိန်မလင့်မီ အပျက်ကို ပြုပြင်တတ်ကြသည်။ အရာခပ်သိမ်းသည် ကာလ ဒေသ အလိုက် ဖြစ်ပျက်တတ်သည့် သဘောကိုလည်း နားလည်ကြဟန်တူသည်။

အရိုးဆုံး တိရစ္ဆာန်ဖြစ်သည့် ပင့်ကူကိုကြည့်ပါ။ ပင့်ကူသည် အင်ဂျင်နီယာကဲ့သို့ ပင့်ကူအိမ်ကို ဖွဲ့တတ်သည်။ သွားရန်လမ်းကို တမျိုးလုပ်၍၊ ပိုးကောင်ဖမ်းရန် ထောင်ချောက်နေရာကို တမျိုးလုပ်တတ်သည်။ ပရွက်ဆိတ်ကို ကြည့်ပါဦး။ ပရွက်ဆိတ်တို့သည် နှင်းဆီပင်ကိုစားသည့် ပျကောင်များကို ဖမ်းဆီးကြသည်။ ထိုပျကောင်များကို မွေးထားပြီးလျှင်၊ ယင်းတို့မှရသော နို့ရေကို မှီဝဲကြသည်။ ပျဉ်များကို မျိုးပွားအောင် ကာကွယ်ပေးကြသည်။ ပျကောင်ကလေးများ ပေါက်လာသောအခါ၊ ထိုပျကောင်ကလေးများကို အစာရှိရာသို့ ခေါ်ဆောင်သွားကြသည်။ အစာဝကြသောအခါ ပြန်ခေါ်လာ၍ ထိန်းကျောင်းထားကြပြန်သည်။

လူတို့၌ တာတမံဖို့သော ဓလေ့မပေါ်ပေါက်သေးမီ ရှေးပဝေဏီကပင် ဗီဗာဖျံတို့သည် တာတမံ ဆောက်လုပ်ခဲ့ကြသည်။ ဗီဗာဖျံတို့သည် ချောင်းများကိုဖြတ်၍ တမံဆည်ကာ ရေတံခါးငယ်များကိုပြုလုပ်ခဲ့ကြသည်။ ထိုတမံ၌ ခိုအောင်းနေထိုင်ရန် အိမ်ကိုင်း၊ ဆောင်းဥတုအတွင်း အစာများသိုလှောင်ရန်ကျီကို၎င်း ဆောက်လုပ်ထားကြသည်။ ရေခဲသောအခါ အစာယူသွင်းနိုင်ရန် ရေတံခါးပေါက်ကိုလည်း ဖောက်လုပ်ထားကြသည်။

ပျားတို့သည် အုံဖွဲ့ကောင်းလောက်အောင် စည်းရုံးမှုရှိကြသည်။ လုံ့လကြီးစွာနှင့် အသိုက်အအုံ တည်ဆောက်ကြ၏။ အစာသိုလှောင်ကြ၏။ စည်းကမ်းကို လိုက်နာကြ၍၊ စည်းကမ်းပျက်သူများအား အပြစ်ဒဏ်ပေးကြ၏။ အသိုက်အအုံကို ချစ်ခင်သော စိတ်သည် လူတို့မြော်မှန်း၍ မရနိုင်လောက်အောင်ပင် ပျားတို့၌ရှိလေသည်။

ဤအံ့ဩဖွယ် တိရစ္ဆာန်စရိုက်ကို ဇာတိစိတ်ဟုခေါ်သည်။ ခွေးသည် တော၌ လမ်းပျောက်သောအခါ၊ ဇာတိစိတ်ကို သုံးလျက်၊ ခရီးဝေးကွာရာမှ အိမ်သို့ပြန်လာနိုင်သည်။ ပင့်ကူ၊ ပရွက်ဆိတ်၊ ဗီဗာဖျံ၊ ပျားနှင့်ခွေးတို့သည် လူသားများနှင့်မတူဘဲ၊ ကျိုးကြောင်းဆင်ခြင်တတ်ပုံ မရပေ။ သို့သော် ယင်းတို့၏ အတွေ့အကြုံအားဖြင့် သော်၎င်း၊ ရိုးရာ အတွေ့အကြုံအားဖြင့် သော်၎င်း ယင်းတို့အား အကျိုးဖြစ်ထွန်းစေမည့်အချက်တို့ကို ဇာတိစိတ်ဖြင့် သိကြသည်။

ဥမှပေါက်လာသော မိကျောင်းသည် ချောင်းကိုရှာ၍ ဆင်းသည်။ ဖားကိုရေမှဖမ်းယူ၍ ဝေးရာ၌လွှတ်လိုက်လျှင် ရေထဲသို့ပင်ပြန်လာသည်။ ပင်လယ်၌ မကြီးနိုင်သော ငါးရှဉ့်ငယ်သည် ဒီထသောချောင်းကို စွန့်၍ မြစ်ညာသို့ ဆန်တက်၏။ ဥအုရန် အချိန်တန်သောအခါမှာမှ ပင်လယ်သို့ ဆင်းလာသည်။

ခွံမာရေသတ္တဝါဖြစ်သော ခရင်းကောင်၌ မျက်စိမရှိပေ။ သို့ရာတွင် ခရင်းကောင်သည် ကျောက်တွင်ရှိသော မိမိနေရာကို မှတ်မိ၏။ ရေပြည့်သောအခါ ထွက်၍အစာရှာ၏။ ထိုနောက် နေရာရင်းသို့ပြန်လာတတ်သည်။ အင်္ဂလန်ပြည်ရှိ တောင်ထိပ်တခု၌ ပေါက်ပွားသော နိုက်တင်ဂေးငှက်သည် အာဖရိကတိုက်သို့ရောက်အောင် ပျံသွားတတ်သော်လည်း၊ အချိန်တန်လျှင် ထိုငှက်သည် မူလနေရာမှန်သို့ ပြန်လာနိုင်သည်မှာ ဇာတိစိတ်ကြောင့်ပင်ဖြစ်ပေမည်။ ခိုတကောင်သည် ရောမမြို့မှ အင်္ဂလန်ပြည်ရှိ နေရင်းအရပ်သို့ အရောက်



**ပင့်ကူ၏ စိတ်ဝင်စားဘွယ်ရာ စရိုက်**

ပင့်ကူသည် အင်ဂျင်နီယာကဲ့သို့အိမ်ဖွဲ့တတ်ရုံမျှမက သွားလမ်းကိုတမျိုး ပိုးကောင်ဖမ်းရန် ထောင်ချောက်နေရာကိုတမျိုး လုပ်တတ်သည်။

ခရီးမိုင်ပေါင်း ၁၀၀၀ ကို တလကြာမျှ ပျံသန်းခဲ့ဘူး၏။ လမ်းခရီးတွင် တောင်တန်းတတန်းနှင့် မိုင် ၂၀ ရှိသောပင်လယ်ကို ကျော်ဖြတ်ခဲ့ရလေသည်။

မြင်းသည် မျက်စိလည် လမ်းမှားသော သခင်ကို ညအချိန်၌ အိမ်သို့ပြန်ပို့နိုင်၏။ မြင်းသည် သခင်၏ အလောင်းကို သယ်ဆောင်လျက် အသွားအလာ ရှုပ်သော မြို့ကြီးကိုဖြတ်ကာ အရောက်ပြန်လာနိုင်၏။ ဖြောင်ကို သေတ္တာတွင်ထည့်ယူသွား၍၊ မိုင် ၁၀၀ ခရီး၌ လွှတ်လိုက်လျှင်၊ ထိုကြောင်သည် နေရပ်ဟောင်းသို့ ပြန်လာတတ်သည်။ စိန်ဗားနတ်ခွေးမျိုးသည် နှင်းထဲတွင်နစ်နေသော ခရီးသည်ကို ဖော်ယူပြီးလျှင် အကူအညီကို ခေါ်ပေးတတ်သည်။

နယူးဇီလန်ကျွန်းရှိ ဘေးအန္တရာယ်များသော ပယ်လိုရပ် ရေလက်ကြားရှည်တွင် လင်းပိုင်တကောင်သည် သင်္ဘောများကို အနှစ် ၂၀ ကြာမျှ လမ်းပြခဲ့ဘူးသည်။ ရေလက်ကြားရှည်အတွင်းသို့ သင်္ဘောဝင်လာလျှင် ထိုလင်းပိုင်သည် ခိုအောင်းနေရာမှ ရုတ်ခြည်းထွက်လာသည်။ ထိုနောက် သင်္ဘောရှေ့ကနေ၍ မှန်မှန်ကူးကာ လမ်းပြသွား၏။ ဘေးကင်းသောနေရာသို့ရောက်မှ ရေအောက်တွင် ပျောက်သွားတော့သည်။

ပါမောက္ခ ရိုမန်နီ၌ အမည်ကို ခေါ်လိုက်လျှင် ထူးတတ်သော ဖားတကောင်ရှိခဲ့ဘူးသည်။ ဆာဂျီးဇက်ဗင့်သည် ခေါင်းလောင်း ထိုးသောအခါ၊ ထို ခေါင်းလောင်း ထိုးရာသို့



**ထူးခြားသည့်ခွေး၏အသိဉာဏ်**

ခွေးသည် လူအကျိုးကို များစွာဆောင်သည့် တိရစ္ဆာန်ဖြစ်သည်။ စနစ်ကျစွာသင်ပေးပါက ပုံတွင်မြင်ရသောသိုးကျောင်းခွေးကဲ့သို့ သခင့်အကျိုးကို ကျေပွန်စွာ ကူညီဆောင်ရွက်နိုင်စွမ်းလေသည်။

လာကြသောငါးများလည်းရှိသည်။ အင်္ဂလန်ပြည် ဆဲလဗုန်းမြို့ အနီး၌ လိပ်တကောင်သည် အစာကျွေးသည့် မိန်းမကြီးထံ နံနက်တိုင်းသွားတတ်သည်။ ကြောင်ကို ချစ်ခင်သော မိကျောင်းလည်းရှိသည်။ မြွေတကောင်သည် သခင်နှင့် ခွဲနေရသောအခါ ညှိုးနွမ်းနေတတ်ပြီးလျှင် သခင်ပြန်လာသောအခါ မြူးထူးနေတတ်ကြောင်း အမှတ်အသားများရှိသည်။ မြင်းနှင့်ခွေးတို့ ချစ်ကျွမ်းဝင်ပုံကိုပင် ကြားသိဘူးကြပေလိမ့်မည်။

တောင်အာဖရိကတိုက် မက်တာဗီလီလန်နယ်ရှိ ကျွဲများသည် မူလက နေ့တွင်သာ အစာရှာခဲ့ကြသည်။ တခါသော်၊ ထိုကျွဲမျိုး၌ ပလိပ်ရောဂါ ကျရောက်ခဲ့၏။ ထိုအချိန်မှစ၍ ထိုကျွဲတို့သည် နဂိုဓလေ့ကိုပြောင်းလိုက်ကြပြီး၊ နေ့အခါတွင် အစာမရှာဘဲ၊ ညအခါ၌သာ အစာရှာကြ၏။ ဤသည်ကို ထောက်ရှုသော်၊ ယင်းကျွဲတို့သည် ပလိပ်ရောဂါပိုးကို သယ်ဆောင်သော စက်စီယင်တို့၏နေ့အခါပျံသန်းတတ်၍ ညအခါမှ ပျံတတ်ပုံကို သိလေသလောဟု တွေးတောဖွယ်ဖြစ်၏။

အချို့တိရစ္ဆာန်တို့သည် နောင်ရေးအတွက် ပူပန်၍ အစာကို သိုလှောင်ထားတတ်ကြသည်။ ငှက်ဘီလူးသည် အစာဖြစ်သော သားကောင်ကို ဆူးတော၌ထား၍၊ စားလိုသည့်အခါမှ လာ၍ စားတတ်သည်။ ရှဉ့်၊ ဗွတ်ကုလားနှင့် သစ်တောက်ငှက်တို့သည်လည်း နောင်ရေးအတွက် အစာကို သိုလှောင်တတ်ကြသည်။ အမေရိကတိုက်ရှိ မြီးသံပေးမြွေများသည် သင်းဖွဲ့၍ ထွေးနွေးစွာဆောင်းခိုတတ်ကြသည်။ သို့သော် အစာရှာဖွေချိန် ကျရောက်သောအခါ၊ သင်းခွဲလိုက်တတ်သည်။ သင်းဖွဲ့၍နေက အစာမလုံလောက်မည်ကို စိုးသောကြောင့် သင်းခွဲလိုက်ဟန်တူသည်။

တိရစ္ဆာန်လောကတွင် အချို့တိရစ္ဆာန်တို့ သားငယ်များကို စောင့်ရှောက်ပုံမှာ စိတ်ဝင်စားစရာ ကောင်းပေသည်။ မိကျောင်းသည် ဥများကို သဲပုတွင် မြှုပ်ထားခဲ့ပြီးနောက်၊ မိကျောင်းကလေးများ ပေါက်ချိန်တွင် သဲများကို ယက်၍ သားငယ်များကို ဖော်ပေးသည်။ နကျယ်ကောင်သည် မိမိအုခဲ့သော ဥမှ သားငယ်များမပေါက်မီ သေလေ့ရှိသည်။ သို့သော် နကျယ်ကောင်သည် မပေါက်သေးသော သားငယ်များအတွက် မိမိသေမီ ကိုယ်တိုင် အစာကို သိုလှောင်ထားပေးသည်။ ပင်းကွင်းငှက်သည် ညတာ ရှည်လျားသော အန္တာတိတ်ဒေသတွင် သိတင်းပတ်ပေါင်းများစွာ ဥများကို ခြေထောက်ဖြင့်ညှပ်လျက် ထွေးနွေးစွာထားတတ်သည်။

သိပ္ပံပညာရှင်တို့သည် တိရစ္ဆာန်စရိုက်များကို စနစ်တကျ လေ့လာနိုင်ရန် အားထုတ်လျက်ရှိကြသည်။ အနိမ့်တန်းစားသတ္တဝါများ၌ အလင်း၊ အပူ၊ အတွေ့ အထိစသော ပြင်ပအာရုံ ခံစားလိုစိတ်များရှိကြောင်းကို လေ့လာကြ၏။ ပိုးဖလံတို့သည် မီးရောင်ကို ရွှေတောင်ထင်လျက် တိုးမှားမိသောကြောင့်၊ သေပွဲဝင်ကြရကြောင်းကို သိပ္ပံပညာရှင်တို့ သိကြလေသည်။

# တိရစ္ဆာန်လောက

**ကမ္ဘာပေါ်တွင် တိရစ္ဆာန်အမျိုးပေါင်း သုံးသန်းကျော်မျှရှိသည်။ အချို့တို့ကို ပူသောဒေသ၌ တွေ့ရသည်။ အချို့တို့ကို အေးသောဒေသ၌ တွေ့ရသည်။ မြင့်သောတောင်ပေါ်၌ တိရစ္ဆာန်များကိုတွေ့ရသည့်နည်းတူ သမုဒ္ဒရာရေအောက်၌လည်း တွေ့ရသည်။ ထိုမျှလောက် များပြားသော တိရစ္ဆာန်တို့သည် ပုံပန်းသဏ္ဌာန်၊ အသွေးအရောင်၊ အလေ့အကျင့်၌ ကွဲပြားခြားနားကြမည်ဖြစ်သော်လည်း၊ တူညီသော အချက်များလည်း ရှိသေးသည်။ ထိုတူညီသော အချက်များကိုအခြေပြု၍ သိပ္ပံပညာရှင်တို့သည် တိရစ္ဆာန်လောကကို ဇီဝဗေဒနည်းအရ ရှစ်မျိုးခွဲခြားပြကြသည်။**

**တိရစ္ဆာန်လောက။** ။အပင်နှင့်တိရစ္ဆာန်တို့ ကွဲပြားခြားနားချက်အကြောင်းနှင့်စပ်လျဉ်း၍၊ သိပ္ပံပညာရှင်တဦးက ရေးသားဘူးသည်မှာ ‘အပင်ဟူသည် ရွေ့ရှားသွားလာခြင်းမပြုဘဲနေသော တိရစ္ဆာန်မျှသာဖြစ်၏’ ဟုလေသည်။ ထိုပညာရှင် ဆိုလိုရင်းမှာ အပင်သည် တိရစ္ဆာန်တို့ကဲ့သို့ ရွေ့ရှားသွားလာခြင်းကို မပြုသော်လည်း၊ ဇီဝဗေဒသဘောအရ အတူတူပင်ဖြစ်သည်ဟုဆိုလိုသည်။ သို့သော် ဤအဆိုသည် အကြမ်းအားဖြင့် မှန်သည်ဟု ဆိုရမည်ဖြစ်စေကာမူ၊ အခါခပ်သိမ်း မမှန်ချေ။ ပမာအားဖြင့် စပန်းရေမြှုပ်နှင့် သန္တာတို့သည် သူတို့၏ တသက်တာတွင် ရွေ့ရှားတွားသွားခြင်းမပြုကြပေ။ သို့ရာတွင် ယင်းတို့သည် ဇီဝဗေဒသဘောအားဖြင့် တိရစ္ဆာန်များသာလျှင်ဖြစ်ကြ၏။ (စပန်းရေမြှုပ်။ သန္တာ — ရှု။) အမြင့်တန်းစားသတ္တဝါတို့ကို အမြင့်တန်းစားအပင်တို့နှင့်ယှဉ်၍ ကြည့်လျှင်၊ တိရစ္ဆာန်နှင့် အပင်သဘာဝတို့ကို ခွဲခြားသိသာရန် မခဲယဉ်းချေ။ (အပင်ဘဝ — လည်းရှု။) သို့ရာတွင် ပင်လယ်မှိုကောင်စသော ကမ္ဘာဦး သတ္တဝါတို့ကို ကြည့်လျှင်၊ အပင်လော တိရစ္ဆာန်လောဟု ခွဲခြားရန်ခက်လှချေသည်။ သိပ္ပံပညာရှင်တို့သည် အနိမ့်တန်းစားသတ္တဝါမှ အမြင့်တန်းစားသတ္တဝါသို့ ဆင့်ကဲတိုးတက်လာကြသည်ဟု ယုံကြည်လေသည်။ ယင်းကဲ့သို့ အီဗော်လျူးရှင်းခေါ် ဆင့်ကဲ တိုးတက်ခြင်း၌ အခြေခံဖြစ်သော ဆဲတခုတည်းနှင့်ပြီးသည့် အနိမ့်တန်းစား သတ္တဝါကလေးများကို အပင်ဖြစ်သည်၊ တိရစ္ဆာန်ဖြစ်သည်ဟူ၍ ခွဲခြားရန်မှာ အထူးခက်သောကိစ္စဖြစ်သည်။

သို့သော် ဇီဝဗေဒနည်းအရ တိရစ္ဆာန်လောကကို ရှစ်မျိုး ခွဲခြား၍ပြထားသည်။ ယင်းတို့မှာ

(၁) ပရိုတိုဇွန်းကောင်။ ။ယင်းမှာ ခန္ဓာကိုယ်ဖွဲ့စည်းပုံ၌ ရိုးရိုးနှင့်ရှင်းရှင်းပင်ဖြစ်သည်။ မိုက်ကရိုစကုပ်နှင့်ကြည့်မှသာ ထင်ရှားစွာမြင်ရသည်။ အမီးဗား အကောင်ကဲ့သို့ ဆဲတခုတည်းနှင့်သာ ဖွဲ့စည်းထားသည်။ ဆဲတခု ထက်ပို၍ ဖွဲ့စည်းသည်လည်းရှိပါ၏။ သို့ရာတွင် ယင်းသို့ တခုထက်ပိုလာသည့်အခါ၊ ပိုလာသမျှသော ဆဲတို့သည် မူရင်းဆဲနှင့် အမျိုးအစားအတူတူပင် ဖြစ်သည်။

(၂) ပိုရစ်ဖာရာ။ ။စပန်းရေမြှုပ်များ အပါအဝင် တိရစ္ဆာန်များဖြစ်သည်။

(၃) ဆီးလင်းထရေတာ။ ။ငထီး၊ ပင်လယ်မှိုကောင်၊ သန္တာတို့ ပါဝင်သည်။

(၄) ဗားမီး။ ။တီမျိုးများဖြစ်သည်။ ယင်းတွင် အဆက်ရှိသည့် တီမျိုး၊ ချောမွတ်သည့် တီမျိုး၊ အခွံရှိသည့် တီမျိုး၊ တုတ်ကောင်စသည်တို့ ပါဝင်သည်။

(၅) ခရုမျိုး။ ။ယောက်သွား၊ ခရုပက်ကျိ၊ ပက်ကျိ၊ ကမာ၊ ရှပ်ကောင်၊ ကင်းမွန်စသည်တို့ ပါဝင်သည်။

(၆) အက်ခိနော့ဒါးမတာ။ ။ရေလက်ဝါးကောင်၊ ပင်လယ်ဖြူကောင်၊ ပင်လယ်မြွေစသည်တို့ ပါဝင်သည်။

(၇) အားသရော့ပိုဒါ။ ။ဗုဇ္ဇန်တုပ်၊ ကနန်း၊ ပင့်ကူ၊ ပျား၊ ပရွက်ဆိတ်၊ လိပ်ပြာ၊ ပိုးတောင်မာစသည်တို့ပါဝင်သည်။

(၈) ဗာတီဗရေးတား။ ။(က) ငါးများ (ခ) ကုန်းနေ ရေနေသတ္တဝါ (ဖား၊ နှူကောင်) စသည်တို့ ပါဝင်သည်။ (ဂ) တွားသွားသတ္တဝါ (မြွေ၊ ဖွတ်ပုတတ်၊ မိကျောင်း၊ လိပ်စသည်) (ဃ) ငှက် (င) နို့တိုက် သတ္တဝါတို့ ပါဝင်သည်။

အနိမ့်တန်းစား သတ္တဝါတို့၏ ဘဝမှ အခြေပြု၍၊ အမြင့်တန်း သတ္တဝါတို့၏ ဘဝဖြစ်စဉ်တိုကို လေ့လာသည့်ရှိသော်၊ တိရစ္ဆာန်တို့သည် များသောအားဖြင့် လှုပ်ရှားသွားလာတတ်သဖြင့်၊ လှုပ်ရှားသွားလာနိုင်စေသော ခြေလက်အင်္ဂါစုများရှိတတ်သည်။ သို့သော် အပင်တို့၌မူ ထိုအင်္ဂါစုများ မရှိသည်မှာ ထူးခြားသည်။ ထိုထက်ထူးခြားသော ကွဲပြားချက်လည်း ရှိ၏။ ယင်း ထူးခြားချက်မှာ အခြားမဟုတ်၊ အပင်တို့သည် လေ၊ ရေနှင့် မြေဩဇာတို့မှ ဓာတ်ပစ္စည်းကို အာဟာရအလိုငှာ စားသုံးကြ၍၊ တိရစ္ဆာန်တို့မှာ အပင်ကို သော်၎င်း၊ တိရစ္ဆာန်အချင်းချင်းကိုသော်၎င်း၊ နှစ်မျိုးစလုံး ကိုသော်၎င်း အစာအဖြစ်ဖြင့် စားသောက်လေ့ရှိသည်ဟူသော အချက်ပင်ဖြစ်၏။

ထိုကြောင့် ဘဝတည်မြဲရေးအတွက် လုံးပန်းကြရာ၌ တိရစ္ဆာန်တို့သည် အပင်ထက် ပိုမိုရက်စက်ကြမ်းကြုတ်သည်ဟု ဆိုရပေလိမ့်မည်။ တိရစ္ဆာန်တို့၏ဘဝတွင် အရေးကြီးသုံးပါးရှိသည်။ ယင်းတို့မှာ အစာ ရေစာ စားသောက်ရန်၊ အခြား တိရစ္ဆာန်များ စားမျိုခြင်းခံရသည့်ဘေးမှ လွတ်မြောက်စေရန်နှင့် တိရစ္ဆာန်မျိုးရိုး ပွားများစေရန်ဖြစ်သည်။ တိရစ္ဆာန်တို့သည် ထိုကိစ္စကြီးသုံးရပ်နှင့်ဆိုင်ရာတို့၌ အလိုပြည့်စေရန် မိမိတို့ကိုယ်ကို မိမိတို့ သပ္ပါယဖြစ်အောင် ဖန်တီးထားသည်တို့မှာ အံ့ဖွယ်ကောင်းလှပေသည်။ ပမာအားဖြင့် ပင်လယ်ငါးပျံ၌ရှိသော ဆူးတောင်တို့မှာ သေဘေးမှ လွတ်မြောက်အောင် ခုန်ပျံနိုင်စေရန် သဘာဝက ဖန်တီးပေးသကဲ့သို့ရှိသည်။ ခြသေ့နှင့် ကျားတို့တွင် သားကောင်များကိုဖမ်းယူရန်အတွက် ရှည်သောခြေသည်း၊ လက်သည်းနှင့် ချွန်ထက်သောသွားများ ရှိလေသည်။ စကန့်ကောင်၌ ရန်သူ တိရစ္ဆာန်များ မကိုက်နိုင်စေရန် ကာကွယ်ပေးသည့် အနံ့ဆိုးကို ထုတ်နိုင်သော အိတ်ရှိသည်။ ဖြူကောင်၌ ရန်သူကို ပယ်ရှားပေးသော ဖြူဆူးများရှိသည်။

ပတ်ဝန်းကျင်နှင့် သပ္ပါယ ဖြစ်အောင် ဖန်တီးတတ်သော သဘောကို ငှက်တို့တွင်လည်း တွေ့ရသည်။ မိတ်လိုက်ချိန်တွင် ငှက်တို့သည် "လှပျိုလှည့်" ရန်အလိုငှာ အမွေးအငတောင်များသည် တောက်ပသောအရောင်သို့ပြောင်းလာတတ်ကြသည်။ လိပ်ပြာအတောင်သည် ပတ်ဝန်းကျင်ရှိ အပင်တို့နှင့် ဆင်တူယိုးမှားရှိတတ်သည်။

ဘဝတည်မြဲရန်ကြိုးပမ်းကြရာ၌ သတ္တဝါတို့သည် ပတ်ဝန်းကျင်နှင့်သပ္ပါယဖြစ်အောင် ဖန်တီးခြင်းမပြုနိုင်လျှင်၊ ဘဝဆုံးရှုံးကွယ်ပျောက်ဖို့သာရှိချေမည်။ ပမာအားဖြင့်၊ သတ္တဝါတို့ သန်းနှင့်ချီ၍ ပေါ်ပေါက်လာသည် မှန်သော်လည်း၊ ဘဝတည်မြဲရန်ကြိုးပမ်းရေးအတွက် သတ္တဝါအများသည်ယယ်စဉ်ကပင်လျှင် တပါးသောသတ္တဝါ၏ အစာအလို့ငှာ သေကြေပျက်စီးကြရသည်။ ဤသို့မပျက်စီးခြင်းမရှိပါလျှင်လည်း၊ ဤလောကသည် မြောက်မြားလှစွာသော တိရစ္ဆာန်မျိုးစုံတို့အတွက် နေစရာတကွက်မျှပင် ရှိနိုင်လိမ့်မည်မဟုတ်ချေ။ ဤသို့ ဘဝတည်မြဲရေးအတွက် သပ္ပါယဖြစ်စေအောင် ဖန်တီးချက်တရပ်ကို သာဓကပြရလျှင်၊ တာဗော့ခေါ် ငါးမျိုး၏ အဖြစ်သနစ်တရပ်ကို ကြည့်ရာ၏။ ယင်းငါးသည် တခါဥ အုလျှင်၊ ဥပေါင်း ၈,၅၀၀,၀၀၀ အုရသည်။ ယင်းသို့ များများ အုစေကာမူ အဖတ်တင်၍ ကျန်ရစ်သောငါးမှာ ဥအုရခြင်းနှင့် စာကြည့်သော် မများချေ။ အကယ်၍ အုသမျှသော အဖတ်တင်မည် ဆိုပါက၊ ကမ္ဘာပေါ်တွင် ရှိရှိသမျှသော သမုဒ္ဒရာ၊ ပင်လယ်၊ အင်း၊ အိုင်၊ ချောင်းမြောင်းတို့သည် ဆယ်နှစ်အတွင်း တာဗော့ငါးတို့ဖြင့်သာ ပြည့်နှက်နေပေလိမ့်မည်။

တိရစ္ဆာန်တို့၏သက်တမ်းသည် ယင်းတို့၏အရွယ်ပမာဏနှင့် မျိုးဆက်ပြန့်ပွားခြင်းအပေါ်၌ တည်သည်ဟု ယူဆရန်ရှိသည်။ အရွယ်ပမာဏ အလွန်ကြီးမားသော်လည်း၊ သား

ပေါက်အလွန်နည်းပါးသော ဝေလငါးမျိုးမှာ အသက် ၇၀ အထိ ရှည်သည်။ ဆင်၏သက်တမ်းမှာ ၁၀၀ ဖြစ်၍ အသက် အရှည်ဆုံးဟု ဆိုရပေမည်။ အလွန်လျင်မြန်စွာ မျိုးပွားနိုင်သော အချို့ယင်မျိုးတို့သည် နာရီပိုင်း အနည်းငယ်မျှသာ အသက်ရှည်ကြသည်။ ကုန်းလိပ်၊ မိကျောင်း၊ မြွေစသော တိရစ္ဆာန်တို့ကား အလွန် အသက်ရှည်ကြသည်။

သိပ္ပံပညာရှင် အဆက်ဆက်တို့သည် နှစ်ပေါင်း ရာထောင်မျှ ဘဝ၏အကြောင်းကို လေ့လာကြသည်။ ဤသို့ နှစ်များစွာ လေ့လာခဲ့ပြီးသည့်နောက်မှ၊ ပညာရှိတို့သည် တိရစ္ဆာန်တို့မည်သို့ဆင်းသက်ပေါက်ပွားလာပုံကို အကြမ်းအားဖြင့် စံနစ်ပုံစံချ၍ ပြနိုင်ခဲ့ကြသည်။ ဆဲတခုနှင့်ပြီးသော အမီးဗားသတ္တဝါမှ လူသတ္တဝါထိ ဖြစ်စဉ်တို့မှာ တခုနှင့်တခု ဆက်စပ်နေသည်ကို သိမြင်လာကြသည်။ ဤဆက်စပ်မှုကို လေ့လာပြီးနောက်၊ တိရစ္ဆာန် မျိုးပေါင်း ၉၅၀,၀၀၀ မျှကို အမျိုးအစား ခွဲခြားနိုင်လာသည်။ သတ္တဝါတို့တွင် လူကို ထိပ်ဆုံးက ထားသည်။ ကိုယ်ခန္ဓာ ဖွဲ့စည်းပုံအားဖြင့် မျောက်၊ ဝံစသော သတ္တဝါတို့နှင့် အခြား နို့တိုက်သတ္တဝါတို့မှာ လူနှင့် နီးစပ်သည်။ သို့သော် ထိုသတ္တဝါတို့သည် အသိဉာဏ်အရာ၌ လူနှင့် များစွာကွဲပြားခြားနားလေသည်။



တိရစ္ဆာန်တို့ကျက်စားရာ နေရာခြောက်မျိုး

အထက်ပါပုံတွင် တိရစ္ဆာန်တို့ကျက်စားရာနေရာခြောက်မျိုးကို တွေ့မြင်ရပေမည်။ ရေနက်ပိုင်းတွင် ပင်လယ်အောက်ခင်း၌ အပင်ဟူ၍ ထင်မှားဘွယ်ရာ ဆန်းပြားသောသန္တာ၊ စပန်းရေမြှုပ်စသည့် တိရစ္ဆာန်တို့အပြင် ပင်လယ်ဖြူကောင်၊ ပင်လယ်ဘဲဝဲတို့ ကျက်စားကြသည်။ ရေတိမ်နှင့်ကမ်းပါးတို့တွင် ပင်လယ်မြွေ၊ ရေလက်ဝါးကောင်၊ ကနန်း၊ ဗုဇွန်၊ ယောက်သွားမိကျောင်း၊ စသည့်တိရစ္ဆာန်တို့ ကျက်စားကြ၍၊ ဝေလငါး၊ ငမန်း၊ ပင်လယ်လိပ် စသည်တို့မှာမူ ပင်လယ်ပြင်တွင် ကျက်စားကြသည်။ တိရစ္ဆာန်တို့ကျက်စားရာ အခြားနေရာတို့မှာ ရေချိုဒေသ၊ ကုန်းနှင့်လေတို့ ဖြစ်ကြသည်။

ဆင့်ကဲ ဖြစ်ခြင်း၌ ရှေးဦး သတ္တဝါမျိုးများမှသာ အမြင့်တန်းစား သတ္တဝါအဖြစ်သို့ တိုးတက် ဖြစ်ပေါ်လာကြသည်။ ပုံစံအားဖြင့် ကနန်းကဲ့သို့သော တိရစ္ဆာန်မှ ကျောရိုးရှိ တိရစ္ဆာန်မျိုးဖြစ်မလာနိုင်ချေ။ သို့သော် ရှေးဦးတိရစ္ဆာန်များမှ အမြင့်တန်းစားသတ္တဝါ အသစ်အသစ် တိုးတက် ဖြစ်ထွန်းလာနိုင်ငြားသော်လည်း၊ ယင်းတိရစ္ဆာန်များနှင့်အမျိုးဆက်စပ်နေသော အချို့တိရစ္ဆာန်မျိုးတို့မှာ များစွာပြုပြင်ပြောင်းလဲခြင်းမရှိဘဲ တည်နေလေသည်။ ပမာအားဖြင့် ရှေးဦး နို့တိုက်တိရစ္ဆာန်မျိုးမှ အမြင့်တန်းစားနို့တိုက်တိရစ္ဆာန်အမျိုးမျိုး ဆင့်ကဲဖြစ်ပေါ်လာကြစေကာမူ၊ ရှေးဦးနို့တိုက်တိရစ္ဆာန်မျိုးအချို့တို့၌ ဆင့်ကဲပြောင်းလဲမှု အနည်းငယ်မျှသာ ရှိပြီးလျှင်၊ ယခုခေတ်အထိပင် အနိမ့်တန်းစားသားပိုက်ကောင်အဖြစ်၌ တည်ရှိနေကြသေး၏။

တိရစ္ဆာန်တို့ ဆင့်ကဲဖြစ်လာပုံ သာဓကအချို့ကို လေ့လာ

ကြည့်ရှုလျှင် ဤသို့တွေ့ရလိမ့်မည်။ (အီဗော်လျူရှင်း — ရှု။) ကမ္ဘာဦးတွင် သက်ရှိတို့သည် ဆဲတခုတည်းသာ ရှိသော အပင်နှင့်တိရစ္ဆာန်များ ဖြစ်ကြသည်။ ထိုဆဲတခုတည်းမှ ဆင့်ကဲတိုးတက်၍ အထက်တန်းအမျိုးမျိုးဖြစ်လာကြသည်။ ခန္ဓာကိုယ်ဖွဲ့စည်းပုံ အရှင်းဆုံး ပရိုတိုဇွန်းကောင်များမှ အမျိုးထောင်ပေါင်းများစွာသော ပရိုတိုဇွန်းကောင်များ ဖြစ်လာကြသည်။ ထို့ပြင်လည်း မျိုးတူ ပရိုတိုဇွန်းကောင်တို့သည် ကိုလိုနီဖွဲ့လာသော အခြေသို့ တိုးတက်ပြောင်းလဲလာကြသည်။ ဆိုလိုရင်းမှာ ဆဲတို့သည် ကိုလိုနီအဖြစ် ဖွဲ့စည်းလာကြပြီကို ဆိုလိုပေသည်။ ထိုမှတဖန် ဟိုင်ဒြာကောင်နှင့်တူသော သက်ရှိများဖြစ်လာသည်။ ဟိုင်ဒြာကောင်သည် ရေချိုတွင်နေသော ပေါလစ်မျိုးစုဝင်ဖြစ်သည်။ ဟိုင်ဒြာတို့သည် မျိုးပွားရာ၌ ကွဲပွားခြင်းနည်းဖြင့်ပွားကြသည်။ ဟိုင်ဒြာကောင်နှင့်တူသော တိရစ္ဆာန်များမှ ထူးခြားသည့် ပေါလစ်များနှင့် ပင်လယ်ခူများ ဖြစ်လာသည်။ ယင်းတို့မှ ပို၍အဆင့်အတန်းမြင့်သည့် တိရစ္ဆာန်များပါ ဖြစ်လာသည်။

ဟိုင်ဒြာကောင်မှ ဆင့်ကဲတိုးတက်လာသော အကောင်တမျိုး ဖြစ်ပေါ်ခဲ့ဘူးသည်ဟု သိပ္ပံပညာရှင်တို့က ယူဆကြသည်။ ထိုအကောင်မျိုးသည် ဟိုင်ဒြာကောင်ထက် ကိုယ်ခန္ဓာဖွဲ့စည်းပုံ ရှုပ်ထွေး၏။ ထိုအကောင်မျိုးမှ အမြင့်တန်းစားသက်ရှိများ ဆင့်ကဲဖြစ်လာကြသည်သာမက၊ မျိုးပြားသော သက်ရှိများလည်း ဖြစ်လာကြသည်ဟုယူဆကြသည်။ ထိုအကောင်မျိုးမှာ တီမျိုးဖြစ်သည်။ သို့သော် ထိုတီမျိုးသည် ကျွန်ုပ်တို့ တွေ့မြင်နေကျဖြစ်သော တီကောင်မဟုတ်ဘဲ၊ တီကောင်လိုအကောင်တမျိုးသာဖြစ်သည်။ ထိုတီမျိုးသည် ရေကူး၏။ တွားသွား၏။ သို့သော် ကိုယ်ခန္ဓာ၌ အဆက်များမရှိချေ။

သက်ရှိတို့ ဆင့်ကဲဖြစ်စဉ်တွင် ကျောရိုးမဲ့သတ္တဝါမှ ကျောရိုးရှိသတ္တဝါသို့ မည်သည့်အခြေကစ၍ ဖြစ်လာသည်ဟူသော အချက်သည် မသဲကွဲသော အချက်တခုဖြစ်သည်။ ကျောတွင် နာဗ်ကြောအဖွဲ့နှင့် အခြားလက္ခဏာသစ်များပါရှိသည့် အသစ်ဖြစ်ပေါ်သော သက်ရှိ တမျိုးသည် အချိန်တချိန်၌ ပေါ်ပေါက်ခဲ့သည်ဟု သိပ္ပံပညာရှင်တို့က ယူဆကြသည်။ အသစ်ဖြစ်ပေါ်သော သက်ရှိကို သိပ္ပံပညာရှင် များက 'ကောဒိတ်' ဟုခေါ်သည်။ ကောဒိတ်တို့မှာ အဆက်ပါသော ကျောရိုး မရှိကြသေးသည့် သတ္တဝါများဖြစ်သည်။ ထိုကောဒိတ်တို့မှာ ဆင့်ကဲဖြစ်ပေါ်လာခြင်း၌ သိပ္ပံပညာရှင်တို့ ရှာဖွေစူးစမ်းရဦးမည့် ဘဝအဆက် တဆက်ဖြစ်သည်။ ကောဒိတ်တို့မှ ကျောရိုးရှိ သတ္တဝါများ၏ အနွယ်ဖြစ်သော အနိမ့်တန်းစား သက်ရှိအမျိုးမျိုးနှင့်ကျောရိုးတွင်အဆက်ပါသည့် ကျောရိုးရှိ သတ္တဝါစစ်စစ်များ ဖြစ်လာကြသည်။ အရိုးနုငါးမျိုးများက အရိုးမာသော ငါးမျိုးများ၊ အဆုတ်နှင့် ပါးဟက်ပါသော ငါးမျိုးများဖြစ်လာကြသည်။ ယင်းတို့မှ ကုန်းနေ ရေနေသတ္တဝါများ ဖြစ်လာပြီးလျှင်၊ တဖန် အမြင့်တန်းစားသတ္တဝါများ ဖြစ်လာကြသည်ဟူ၍ ပညာရှင်တို့က ယူဆကြသည်။

ဆင့်ကဲဖြစ်လာပုံကို ဖွတ်ပုတတ်မျိုးအားဖြင့်လည်း သာဓကဆောင်၍ ပြနိုင်ပေသည်။ ယခုခေတ်ရှိ ဖွတ်ပုတတ်မျိုးများသည် ကမ္ဘာဦးတွားသွားကောင်များနှင့် အလွန်နီးစပ်ကြသည်။ ဖွတ်ပုတတ်မျိုးမှ ထူးခြားသော တွားသွားကောင်များ ဖြစ်လာသည့်အပြင် ငှက်များလည်း ဖြစ်လာကြသည်။

တိရစ္ဆာန်များကို မျိုးခွဲရာတွင် တိကျ၍မပြောင်းလဲနိုင်သည့် စနစ်တခုရှိရန် အရေးကြီးပေသည်။ တတိုင်းပြည်နှင့် တတိုင်းပြည်တွင် တိရစ္ဆာန်တမျိုးတည်းကို ခေါ်ဝေါ်သ၍ အမည်သည် တူမည်မဟုတ်ချေ။ ထို့ကြောင့် သိပ္ပံပညာရှင်များက အပြည်ပြည်က နားလည်နိုင်သော အမည်များကို သတ်မှတ်ထားကြလေသည်။ ထိုသို့သတ်မှတ်ကြရာတွင် လက်တင်ဝေါဟာရများကို အသုံးပြုကြသည်။ မျိုးစိတ်တိုင်းကို အမည်နှစ်မျိုး ပေးထားကြသည်။ တမျိုးသည် ထိုတိရစ္ဆာန်မျိုးစိတ် ပါဝင်သော မျိုးစုအမည် ဖြစ်ပြီးလျှင်၊ အခြားတမျိုးမှာ မျိုးစိတ်အမည်ဖြစ်သည်။ ပုံစံအားဖြင့်၊ အိမ်ကြောင်ကို 'ဖဲလစ် ဒိုမက်စတီကပ်' ဟုအမည်ပေး၍၊ တောကြောင်ကို 'ဖဲလစ် ဆီလဗက်စတြစ်' ဟု အမည် ပေးကြသည်။ တဖန် ခြင်္သေ့ကို 'ဖဲလစ် လိုင်ယို' ဟုရင်း၊ ကျားကို 'ဖဲလစ် တိုက်ဂရစ်' ဟုရင်း အမည်ပေးကြသည်။

ကြောင်ကို ယင်းနှင့် အနီးစပ်ဆုံး တိရစ္ဆာန်များတွင် ပေါင်းကာ တမျိုးလုံးကို 'ဖဲလစ်' မျိုးစုဟု သတ်မှတ်ကြသည်။ ထိုမျိုးစုကို ကြောင်မြီးတိုကဲ့သို့ အခြားနီးစပ်သော မျိုးစုများတွင်ပေါင်းကာ ထိုမျိုးစုအားလုံးကို 'ဖဲလီဒီ' မျိုးရင်းဟု သတ်မှတ်ကြသည်။ ထိုမျိုးရင်းကို အခြားသားစားမျိုးရင်းများတွင် ပေါင်းကာ မျိုးရင်းအားလုံးကို 'ကာနီဗိုရာ' မျိုးစဉ်ဟု သတ်မှတ်ကြသည်။ မျိုးစဉ်များကို မျိုးပေါင်းခွဲနှင့် မျိုးပေါင်းများအဖြစ် သတ်မှတ်ကြသေးသည်။ နောက်ဆုံးတွင် မျိုးပေါင်းများကို မျိုးပေါင်းစုအဖြစ် သတ်မှတ်ထားကြသည်။ (အီဗော်လျူရှင်း။ ဇီဝဗေဒ။ ကာကွယ်ရောင်။ — လည်းရှု။)

**တိရစ္ဆာန်ဥယျာဉ်**။ ။တိရစ္ဆာန်ဥယျာဉ်သည် လူအများကြည့်ရှုနိုင်စေရန် တိရစ္ဆာန်အမျိုးမျိုးကို ပြသထားသော နေရာဖြစ်သည်။ ထိုဥယျာဉ်တွင် တိရစ္ဆာန်များကို သူတို့ဘာသာဘဝအတိုင်း လွတ်လပ်စွာနေထိုင်နိုင်ရန် တတ်နိုင်သမျှ စီမံဖန်တီးထားသည်။ တိရစ္ဆာန် ဥယျာဉ်တွင်



တိရစ္ဆာန်ဉယျာဉ်လှောင်အိမ်အတွင်းမှ ခြင်္သေ့မိသားစု

တိရစ္ဆာန်များကို မွေးမြူ၍ ပြသထားရခြင်း အကြောင်း အချက် များစွာပင် ရှိ၏။ အရေးအကြီးဆုံး အချက်မှာ တိရစ္ဆာန်များကို လူတို့ စိတ်ဝင်စားစေနိုင်ရန် ဖြစ်သည်။ နောက်တချက်မှာ သိပ္ပံပညာရှင်များသည် ထိုတိရစ္ဆာန်များ ကို လေ့လာခြင်းအားဖြင့် အရေးကြီးသော ဗဟုသုတများ ကို ရရှိစေနိုင်ရန်ဖြစ်သည်။ တိရစ္ဆာန်များ ပြုမူပုံကိုရှင်း၊ စားသောက်ပုံကိုရှင်း၊ မည်သို့ကြီးပြင်းလာပုံကိုရှင်း ကြည့်ရှု နေခြင်းအားဖြင့် လူတို့အတွက် အကျိုးရှိသော ဗဟုသုတ များစွာကို ရရှိနိုင်သည်။ အရေးကြီးသော သိပ္ပံတွေ့ရှိချက်များစွာပင် တိရစ္ဆာန်ဉယျာဉ်ရှိ တိရစ္ဆာန်များကို လေ့လာရာမှ ထွက်ပေါ်လာခဲ့သည်ဟု ဆို၏။ ထို့ကြောင့် တိရစ္ဆာန်ဉယျာဉ်သည် တိရစ္ဆာန်များအကြောင်းကို လေ့လာနိုင်သော စာသင်ကျောင်းကြီးသဖွယ် ဖြစ်ပေသည်။ တိရစ္ဆာန်ဉယျာဉ်သို့ လာရောက်သောသူတို့သည် တိရစ္ဆာန် လှောင်အိမ်များ၌ ကပ်ထားသောစာကို ဖတ်၍ရှင်း၊ လမ်းညွှန်စာအုပ်ကိုကြည့်၍ရှင်း၊ နားလည်သူတို့က ပြောပြသည်ကို နားထောင်၍ရှင်း တိရစ္ဆာန်အမည်များနှင့် ယင်းတို့၏ အကြောင်းအရာများကို သိနိုင်ကြသည်။ မိမိတို့နိုင်ငံ၌ ရှိသော တိရစ္ဆာန်များအကြောင်းကိုသာမက ကမ္ဘာအနှံ့အပြားမှ ရရှိထားသော တိရစ္ဆာန်များ၏အကြောင်းကိုပါ သိရှိနိုင်ကြလေသည်။

တိရစ္ဆာန်ဉယျာဉ်ကို ထိန်းသိမ်းရာတွင် အရေးအကြီးဆုံး အချက်မှာ တိရစ္ဆာန်များကို သင့်တော်သော အစားအစာများဖြင့် ကျန်းမာ သန့်ရှင်းစွာ ထားရှိနိုင်ရန်ပင် ဖြစ်သည်။ တိရစ္ဆာန်များကို လှောင်သည့်အခါ၊ လှောင်အိမ်ကြီးကြီး၌ လှောင်မှသာလျှင် ကောင်းသည်ဟု အများကထင်မှတ်ကြသော်လည်း၊ တတ်ကျွမ်း နားလည်သော တိရစ္ဆာန်ရုံစောင့်တို့၏ကိုယ်တွေ့၌ကား တိရစ္ဆာန်တို့ကို လှောင်အိမ်ငယ်များ၌ မွေးမြူခြင်းသည် လှောင်အိမ်ကြီးများတွင် မွေးမြူခြင်းထက် ပို၍ကောင်းမွန်၍ တိရစ္ဆာန်များလည်း ပို၍ကျန်းမာ၍ အသက်ရှည်ကြောင်း တွေ့ရလေသည်။ ထို့ပြင် တိရစ္ဆာန်များ၏ ဇာတိကိုလိုက်၍လည်း သင့်တော်သော နေရာထိုင်ခင်းများ စီမံပေးရပေသည်။ ပမာအားဖြင့် အအေးပိုင်းဒေသမှလာသော တိရစ္ဆာန်မျိုးအတွက် နွေရာသီ၌ အအေးဓာတ်ကိုဖန်တီးပေးရန်ပင်ဖြစ်သည်။ အစာကျွေးရာ၌လည်း လုပ်ရကိုင်ရလွယ်ကူစေရန် လတ်ဆတ်သောအစာအမျိုးမျိုးကို အလှည့်နှင့်ကျွေးမွေးရပေမည်။ သို့သော် အစာတမျိုးတည်းမှ တပါး အခြား မည်သည့်အစာကိုမျှ မစားသော တိရစ္ဆာန်မျိုး အတွက်မူ တသီးတခြား အထူးစီမံပေးရလေသည်။

အီဂျစ်နိုင်ငံ ရှေးဟောင်းသင်းချိုင်းဂူများ၌ တွေ့ရှိရသော စာတမ်းများအရ တောတိရစ္ဆာန်များကို လူတို့ဖမ်းဆီးမွေးမြူကြသော အလေ့အထမှာ နှစ်ပေါင်း ၄၀၀၀ ကျော်မျှကြာမြင့်ခဲ့ပြီဖြစ်သော်လည်း၊ တရုပ်နိုင်ငံတွင် ချူမင်းဆက် အစ ဘီစီ ၁၁၀၀ ပြည့်နှစ်လောက်က တည်ထောင်ခဲ့သော တိရစ္ဆာန် ဉယျာဉ်သည်သာလျှင် ကမ္ဘာတွင် ပဌမဦးဆုံးသော တိရစ္ဆာန်ဉယျာဉ်ဖြစ်သည်ဟု သုတေသီတို့က ယူဆကြသည်။ တိရစ္ဆာန်များကို ရှာဖွေစုဆောင်းရာ၌ ရှေးခေတ်က အလွန်ကျော်ကြားခဲ့သော ပုဂ္ဂိုလ်မှာ အီဂျစ်ဘုရင် ဒုတိယ တော်လမီ ဖြစ်သည်။ ဂရိနှင့် ရောမလူမျိုးများ၌လည်း ဤကဲ့သို့သော အလေ့အထရှိခဲ့ကြ၏။ ရောမဘုရင်ကြီးနီးရိုး (ခရစ် ၃၇–၆၈ ခုနှစ်) သည် ရောမမြို့ရှိ ရွှေအိမ်

ခေါ် မိမိစံအိမ်တော်၌ တိရစ္ဆာန်အမျိုးမျိုးကို မွေးမြူခဲ့လေသည်။ ရောမမြို့ကြီး ခေတ်တိမ်သွားပြီးသည့်နောက်၌ တိရစ္ဆာန်အမျိုးစုံ စုဆောင်းရာတွင် ကွန်စတင်တီနိုပယ်မြို့က နာမည်ရလာခဲ့၏။ နောင်အခါ၌ တိရစ္ဆာန်များ ရှာဖွေ စုဆောင်းခြင်းသည် ၁၈ ရာစုနှစ်ကုန်သည်အထိ ဆွေတော်မျိုးတော်များနှင့် မှူးမတ်များတို့အထဲတွင် ခေတ်စားသောအလေ့အထတခု ဖြစ်ခဲ့၏။ အင်္ဂလန်ပြည်၌ ပဌမဆုံးသော တိရစ္ဆာန်ဥယျာဉ်ကို ပဌမ ဟင်နရီဘုရင် (ခရစ် ၁၀၆၈–၁၁၃၅ ခုနှစ်) လက်ထက် အောက်စဖို့မြို့အနီး ဝုဒတော့အရပ်တွင် စတင်ဖွင့်လှစ်ခဲ့သည်။ ထိုနောက်မှ တတိယ ဟင်နရီဘုရင် (ခရစ် ၁၂၀၇–၁၂၇၂ ခုနှစ်) လက်ထက်တွင် ယင်းအရပ်မှ လန်ဒန်မြို့ မျှော်စင်ကြီးသို့ ၁၈၃၀ ခုနှစ်အထိ ပြောင်းရွှေ့ထားခဲ့လေသည်။

ထိုခေတ်က တိရစ္ဆာန်ဥယျာဉ်များ တည်ထောင်ထားရှိခြင်းမှာ သိပ္ပံပညာကို အားပေးသောသဘောသို့ မသက်ရောက်သေးချေ။ သို့သော် ပြင်သစ်နိုင်ငံ ပါရစ်မြို့၌ ၁၇၀၄ ခုနှစ်တွင် ဖွင့်လှစ်ခဲ့သော ဇာဒင်းဒါပလန့် အမည်ရှိတိရစ္ဆာန်ဥယျာဉ်မှာမူ သိပ္ပံပညာရပ်များကို သုတေသန ပြုလုပ်ရန်အတွက် သက်သက် ပဌမဦးဆုံး တည်ထောင်ထားသော တိရစ္ဆာန်ဥယျာဉ် ဖြစ်သည်။ ဤတိရစ္ဆာန်ဥယျာဉ်မျိုးကို အင်္ဂလန်ပြည်ရှိ တိရစ္ဆာနဗေဒအသင်းက ၁၈၂၈ ခုနှစ်တွင် လန်ဒန်မြို့၌ စတင်ဖွင့်လှစ်ခဲ့၍ဗက်ဖို့ရှိုင်းယားနယ် ဝှစ်စနိပ်အရပ်၌လည်း အလားတူ တိရစ္ဆာန်ဥယျာဉ်မျိုးကို ထပ်မံဖွင့်လှစ်ထားခဲ့သည်။ ထိုအခါမှစ၍ တိရစ္ဆာန်ဥယျာဉ်များ တည်ထောင်ဖွင့်လှစ်ခြင်းအလေ့အထမှာ ကမ္ဘာ့အရပ်ရပ်သို့ ပျံ့နှံ့ခဲ့လေသည်။

ရန်ကုန်မြို့ရှိ တိရစ္ဆာန်ဥယျာဉ်မှာ ဗြိတိသျှအစိုးရလက်ထက်က တည်ထောင်ထားခဲ့သော မြန်မာနိုင်ငံ၏ တခုတည်းသော တိရစ္ဆာန်ဥယျာဉ် ဖြစ်သည်။ ရန်ကုန် တိရစ္ဆာန်ဥယျာဉ်ကို မတည်ဆောက်မီ ၁၈၈၂ ခုနှစ်က တောရိုင်းတိရစ္ဆာန်များကို ဖမ်းဆီး၍ ယခု ရန်ကုန်မြို့ ပြည်သူ့ဆေးရုံကြီးနေရာတွင် ပြသထားခဲ့သည်။ ထိုစဉ်က ထိုနေရာမှာ ဖယ်ယာပြတိုက်နှင့် သစ်ပင်ပန်းမာလ် ကိုးပွားရေးအသင်းတိုက် တည်ရာဌာနဖြစ်သည်။ ၁၉၀၁ ခုနှစ်တွင်မူ ဝိတိုရိယဘုရင်မကြီး (ခရစ် ၁၈၁၉–၁၉၀၁ ခုနှစ်) နန်းသက် ၂၅ နှစ်မြောက် အထိမ်းအမှတ်အဖြစ် သီးခြားတိရစ္ဆာန်ဥယျာဉ်တခု တည်ဆောက်ရန်အတွက် လူထုထံမှကောက်ခံရရှိသော အလှူငွေ ၂၄၀,၀၀၀ ကျပ်ဖြင့် ကန်တော်ကြီးအနီးရှိ မြေရိုင်း ၆၁ ကေကို ရှင်းလင်း၍ ယခုလက်ရှိ တိရစ္ဆာန်ဥယျာဉ်ကို တည်ဆောက်ခဲ့ပြီးလျှင်၊ ၁၉၀၆ ခုနှစ် ဇန္နဝါရီလ၌ အင်္ဂလန်ပြည် ဝေလမင်းသားနှင့်ကြင်ယာတော် (နတ်ရွာစံ ပဉ္စမ ဂျော့ဘုရင် (ခရစ် ၁၈၆၅–၁၉၃၆ ခုနှစ်) နှင့်မေရီမိဖုရား) တို့က အခမ်းအနားဖြင့် ဖွင့်လှစ်ကာ ဝိတိုရိယဘုရင်မအထိမ်းအမှတ် ပန်းခြံနှင့် တိရစ္ဆာန်ဥယျာဉ်ဟု အမည်ပေးခဲ့သည်။ ထိုစဉ်အခါက သီပေါမင်းတရား၏ ဆင်ဖြူတော်သည်လည်း တိရစ္ဆာန်ဥယျာဉ်၌ရှိသည်ဟုဆိုသည်။ ထိုဆင်ဖြူတော်မှာ ခရစ် ၁၉၁၀ ပြည့်နှစ်တွင် သေဆုံးသည်။

ယခုအခါ တိရစ္ဆာန်ဥယျာဉ်ကို စည်ပင်သာယာအဖွဲ့၊ ကုန်သည်ကြီးအသင်းများ၊ သစ်တောဌာနစသော အသင်းအဖွဲ့ အစိုးရဌာနများ၏ ကိုယ်စားလှယ်များနှင့် နိုင်ငံတော်သမတက ခန့်အပ်ထားသည့်ပုဂ္ဂိုလ်များ ပါဝင်သော အုပ်ချုပ်ရေးအဖွဲ့က အုပ်ချုပ်၍ လယ်ယာစိုက်ပျိုးရေးနှင့် သစ်တောရေး ဝန်ကြီးဌာန လက်အောက်တွင် ထားရှိသည်။ ရန်ကုန်တိရစ္ဆာန်ဥယျာဉ် စည်ပင်ဖွံ့ဖြိုးရေးအတွက် ဥပဒေထားရှိရာ၊ ယခင်က ထိုဥပဒေကို ၁၉၀၈ ခုနှစ် ဝိတိုရိယဘုရင်မအထိမ်းအမှတ်ဥယျာဉ် ဥပဒေဟုခေါ်၍၊ ယခုအခါ၌မူ ၁၉၅၁ ခုနှစ် ရန်ကုန်မြို့တိရစ္ဆာန်နှင့်ပန်းမာလ် ဥယျာဉ် ပြင်ဆင်ချက် ဥပဒေဟု ခေါ်တွင်လေသည်။ တိရစ္ဆာန်



ပင်ဂွင်ငှက်၏ရယ်စချင့်ဖွယ်ဟန်ပန်သည် ရှုစားသူတို့အား ပျော်ရွှင်မှု ဖြစ်စေပေသည်။

ဥယျာဉ်အတွက် စရိတ် စကများကို ဝင်းပေါက်ဝင်ကြေးနှင့် အစိုးရအထောက်အပံ့ငွေများဖြင့် ကျခံရသည်။ တိရစ္ဆာန်များ ပိုမိုစုံလင်စွာထားရှိနိုင်ရန် နိုင်ငံအချင်းချင်း တိရစ္ဆာန်လဲလှယ်မှုများ၊ ဝယ်ယူမှုများကို ပြုလုပ်ကြရလေသည်။ (တိရစ္ဆာန်လောက၊ ဇီဝဗေဒ — လည်းရှု။)

**တိရစ္ဆာန်အော်သံများ**။ ။သတ္တဝါတို့သည် အများအားဖြင့် မိမိတို့၏အတွင်းစိတ်ခံစားချက်ကို အသံဖြင့် ဖော်ထုတ်တတ်ကြသည်။ ယင်းသို့ဖော်ထုတ်ရာတွင် သတ္တဝါတခုနှင့်တခု မတူကြရုံမက အမျိုးတူ သတ္တဝါများ၌ပင် အကြီးနှင့်အငယ်လိုက်၍ အသံကွဲပြားမှု ရှိသေးသည်။ အသံများပြုကြသည်ကို သတ္တဝါအလိုက် အမျိုးမျိုးမှည့်ခေါ်ကြရာတွင် လူအသံပြုသည်ကို စကားပြောသည်၊ အော်သည်၊ ဟစ်သည် စသည်ဖြင့်ခေါ်၍၊ တိရစ္ဆာန်များ အသံပြုကြသည်ကိုလည်း လူတို့က အောက်ပါအတိုင်း ခေါ်ဝေါ်မှတ်သားရပေသည်။

ခွေး ဟောင်သည်။ ကျား ဟိန်းသည်။ ဆင် အော်သည်။ ခြင်္သေ့ ဟောက်သည်။ ချေ ဟောက်သည်။ သမင် တောက်သည်။ မြင်း ဟီသည်။ ဆိတ် မြည်သည် နွား တွန်သည်။ မျောက် အူသည်။ စိုင် အော်သည်။ ဆတ် ဟည်းသည်။ ကျီး အာသည်။ ခို ညည်းသည်။ ချိုး ကူသည်။ ကြက်၊ ဒေါင်း၊ ကရဝိတ်၊ မြွေ တွန်သည်။ ရှဉ့် တုတ်သည်၊ အိမ်မြှောင် စုတ်ထိုးသည်။

ဤကဲ့သို့ တိရစ္ဆာန် အော်သံများကို မြန်မာ ဂန္ထဝင် တောလားရတုများ၌ အများအပြားတွေ့ရသည်။ အင်းဝခေတ် စာဆိုတော် ရှင်မဟာရဋ္ဌသာရ၏ 'အောင်ဇေယျတု' ချီ ရွှေစက်တော်သွား တောလားရတုလေးပိုဒ်၌ တောတိရစ္ဆာန်များ မြည်ကြပုံကို 'မြိုင်တောကျီးလည်း၊ သံကြီးအာအာ၊ ခါကတုတ်တုတ်၊ ရှဉ့်စုတ်စုတ်နှင့်၊ ဘုတ်ကအိမ့်အိမ့်၊ တဖိမ့်ဖိမ့်လျှင်' ဟူ၍ ရေးသားခဲ့သည်သာမက၊ တောင်ငူခေတ်တွင်လည်း 'စစ်ကိုင်း ထောင်သင်း၊ စလင်းလက်ျာ၊ ပြည်မှာနဝဒေး' ဟူ၍ ဘွဲ့သုံးမည်ရရှိခဲ့သော စာဆိုတော် ပြည်နဝဒေးကြီး၏ 'ထူးတလည်လျှင်' ချီ တောလားရတုသုံးပိုဒ်တွင် တိရစ္ဆာန်များအော်ကြပုံကို 'သံမြွက်ထွေငေါ်၊ ကျားဟိန်းသော်ကား၊ ထိုရော်မြိုင်ခွင်၊ သမင်ကတောက်၊ ဒေါင်းက ငေါက်၍၊ ဟောက်သည့် ချေငယ်၊ ဒရယ်ကပြူ၊ မျောက်ကအူလျက်၊ စိုင်မူဆော်သည်း၊ ဆတ်ကဟည်း၍၊ ဆင်လည်းကျည်ကျည်၊ နတ်ငြင်းသည်မူ' ဟူ၍ ဖော်ပြထားပြန်သည်။ ထိုမှတပါး ရှင်ဇယန္တာဘိဇေ၏ တောလားရတုပိုဒ်စုံ၌လည်း 'ပြောင်ဆည်ဟည်း၍၊ ဝက်လည်း ရတ်ရတ်၊ ရှဉ့်က တုတ်လျက်' စသည်ဖြင့် အလားတူ အရေးအသားများကို တွေ့ရလေသည်။

**တီတီတွတ်**။ ။တစ်တီတူး — ရှု။

**တီဗီရောဂါ**။ ။တျူဗာကယ်ပိုးစွဲနာ — ရှု။

**တီမိုရှင်းကို၊ အက်(စ်) ကေ**။ (ခရစ် ၁၈၉၅ ဖွား)။ ဆိုမြန် ကန်စတန်တီနိုဗျစ် တီမိုရှင်းကိုသည် ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ ဂျာမန်နာဇီ (နတ်ဆီ) တို့၏ လက်တွင်းမှ ရော့စတော့မြို့ကို ကယ်တင်၍ နာမည်ကျော်လာသော ဆိုဗီယက်ရုရှစစ်သူကြီးဖြစ်သည်။ ထိုပုဂ္ဂိုလ်သည် ၁၈၉၅ ခုနှစ်တွင် ဗက်ဆာရေးဗျနယ်တွင် တောင်သူလယ်သမားမျိုးရိုးမှ ဆင်းသက်ဖွားမြင်သည်။ ခရစ် ၁၉၁၅ ခုနှစ်တွင် ရုရှဇာဘုရင်၏တပ်မတော်တွင် ဝင်ရောက်အမှုထမ်းသည်။ ၁၉၁၇ ခုနှစ်တွင် ရုရှတော်လှန်ရေးတပ်မတော်တွင် ပါဝင်အမှုထမ်းလာခဲ့ရာ၊ ၁၉၂၁ ခုနှစ်တွင် တပ်မကြီးတတပ်ကို အုပ်ချုပ်ရသော စစ်သူကြီးဖြစ်လာသည်။ ၁၉၂၀–၃၀ ပြည့်နှစ်အတွင်းတွင် တီမိုရှင်းကိုသည် ဆိုဗီယက် စစ်တက္ကသိုလ်တွင် ဆက်လက်၍ စစ်ပညာကိုသင်ကြားပြီးလျှင်၊ ဒုတိယကမ္ဘာစစ်ကြီးအတွင်း၌ ပိုလန်နိုင်ငံ (၁၉၃၉ ခုနှစ်) နှင့် ဖင်းလန်နိုင်ငံ (၁၉၃၉–၄၀ ခုနှစ်) တို့ကို တိုက်ခိုက် သိမ်းပိုက်နိုင်ခဲ့သည်။ ထိုသည်မှစ၍ တီမိုရှင်းကိုသည် ကာကွယ်ရေးဌာနဝန်ကြီးအဖြစ်ဖြင့် ဆောင်ရွက်ရပြီးနောက်၊ ၁၉၄၁ ခုနှစ်၌ ဂျာမန် စစ်တပ်က ဆိုဗီယက်ယူနီယန်ကို ကျူးကျော် ဝင်ရောက်လာသောအခါ၊ တီမိုရှင်းကို၏ဂုဏ်သတင်းသည် ပျံ့နှံ့ကျော်စော လာခဲ့သည်။ ၁၉၄၄ ခုနှစ်တွင် ရူမေးနီးယားနှင့်ဗက်ဆာရေးဗျနယ်မှ ဂျာမန်နာဇီစစ်တပ်ကို မောင်းထုတ်နိုင်ခဲ့ပြီးလျှင်၊ ၁၉၄၅ခုနှစ်တွင် ကာကွယ်ရေး ဝန်ကြီးဌာနမှ နုတ်ထွက်၍ အနားယူခဲ့လေသည်။

**တီမျိုး**။ ။တီမျိုးသည် ပါဏဗေဒပညာအလို၌ တိရစ္ဆာန်လောက အတွင်းရှိ အနိမ့်တန်းစား သတ္တဝါမျိုး ဖြစ်သည်။ သို့သော် ထိုသတ္တဝါမျိုးတွင် တီကောင်သည် အဆင့်အတန်းအမြင့်ဆုံးသောသတ္တဝါ ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ယင်းသည် 'အန်နီလစ်ဒါ' မျိုးပေါင်းစုတွင် ပါဝင်၍၊ ကွင်းများဖြင့် ဆက်ထားသော ကိုယ်ရှိနေခြင်းကြောင့် ဖြစ်သည်။

တီမျိုးအစစ်၌ နီးတိုကော့ခေါ် အမာခံ အမြှောင်းသော်၎င်း၊ ကျောရိုးသော်၎င်း မရှိကြချေ။ အချို့ တီမျိုး၏ ခန္ဓာကိုယ်၌ အတွင်းပိုင်းအင်္ဂါများတည်ရာ အခေါင်းပါရှိသည်။ တုတ်ပြားကဲ့သို့သော အခြားတီမျိုးများတွင်မူ လျော့လျည်းသော တစ်ရှူး (အသားမျှင်) အတွင်း၌ အင်္ဂါများတည်ရှိကြသည်။ ယင်းတီမျိုးတွင် ခရုပက်ကျိမှာကဲ့သို့ သွားသွားနိုင်သော ခြေများသော်၎င်း၊ ပိုးကောင်များမှာ



တီကျစ်စာတို့ဖြင့် မြေဆီလွှာကို ဩဇာဓာတ်ကြွယ်ဝစေသော တီကောင်များ

တီကောင်ကို ကမ္ဘာ့အရပ်ရပ်၌ နွေး၍စိုထိုင်းသော နေရာတိုင်းတွင် တွေ့နိုင်၏။ တီကောင်၌ အစိတ်အပိုင်း သို့မဟုတ် ကွင်းများ ရှိသည်၊ အရောင်မှာ နီညိုရောင်ဖြစ်သည်။ တီကောင်၏ အရှည်သည် တလက်မ၏ ၂၅ စိတ် တစိတ်မှ ပေများစွာအထိ ရှိနိုင်သည်။ ကိုယ်ထည်မှာ သေးသွယ်၍ကျိုခဲ့သည့် အရှည်ဖြင့် စိုလျက်ရှိသည်။ ကမ္ဘာ့အပူပိုင်းဒေသများတွင် တီကောင်အရှည်ဆုံးကို တွေ့နိုင်သည်။ တီကောင်၌ မျက်စိများမရှိချေ။ သို့သော် အစိတ်အပိုင်းတိုင်း၌ အလင်းကိုသိနိုင်သောအစက် တစုံစီရှိသည်။

တီကောင်၌ အမွှင်လေးစုံရှိသည်။ အောက်ဖက်၌ နှစ်တန်းရှိ၍၊ ခန္ဓာကိုယ်၏ တဖက်တချက်စီတွင် တတန်းစီရှိသည်။ ထိုအမွှင်များက ကြွက်သားနှစ်မျိုးကို ကျွံရာတွင် အကူအညီပေးကြသည်။ ကြွက်သားတမျိုးက ခန္ဓာကိုယ်တွင် ပတ်လျက်တည်ရှိသည်။ မြေကြီးထဲသို့ တီကောင်ရွေ့ရှားရာ၌ တွင်းကိုဖြစ်စေသည်။ မြေတွင်း တူးရာတွင် အသံတိုးတိုးပြုသည်ဟု ဆိုသည်။ ထိုအသံဖြင့် တီကောင်ချင်းချင်း အဆက်အသွယ်လုပ်နိုင်သည်၊ မလုပ်နိုင်သည်ကိုမူ မသိရချေ။

တီကောင်သည် လွယ်ကူစွာ မဖယ်ရှားနိုင်သော မာသည့် မြေဆီလွှာအထပ်များကို စားပစ်သည်။ ဆွေးမြည့်နေသည့် ဟင်းသီး ဟင်းရွက် ပစ္စည်းများကို စားပြီးနောက် ညအချိန်ကျရောက်လျှင် မြေတွင်းထဲသို့ဆွဲသွင်းရန် သစ်ရွက်အစကလေးများကို ရှာဖွေတတ်သည်။ အစာကိုစားနေစဉ် မြေဆီလွှာနှင့် အခြား အသုံးမကျသည့် ပစ္စည်းများသည် အစာကြောင်းမှ ထွက်လာကြပြီးလျှင်၊ မြေကြီးပေါ်၌ တီကျစ်စာအဖြစ်ဖြင့် ကျန်ရစ်ခဲ့သည်။

တီကောင်သည် အများအားဖြင့် နွေး၍ မှောင်သည့် နေရာတွင် နေလေ့ရှိ၏။ နေပူရှိန်ကြောင့် ဖြစ်စေ၊ လေအေးကြောင့် ဖြစ်စေ တီကောင်သည် အင်အားချည့်နဲ့လာတတ်သည်။ မိုးသက်လေကြမ်းကျပြီးချိန်တွင် မြေကြီးပေါ်နှင့် လူသွားလမ်းများပေါ်၌ တီကောင်များကို မြင်ရတတ်သည်။ ထိုသို့မြေပေါ်၌ မြင်ရခြင်းမှာ တီကောင်များ၏ တွင်းများသို့ ရေဝင်၍ အတွင်းမှလေကို မိုးရေက ဖယ်ထုတ်ပစ်ခြင်းကြောင့် လေရရန်အတွက် မြေမျက်နှာပြင်သို့ ထွက်လာကြခြင်းဖြစ်သည်ဟု သိပ္ပံပညာရှင်များက ယုံကြည်ကြသည်။

တီကောင်သည် ဥမှပေါက်ပွား၏။ ဥများကို မာသည့်

ကဲ့သို့ အဆက်များရှိသော ခြေများသော်၎င်း မရှိကြချေ။ တီမျိုးတွင် မှန်ဘီလူးနှင့် ကြည့်မှသာ မြင်နိုင်သည့် အကောင်ကလေးများမှ ပေပေါင်း ၃၀ ရှိသည့် တုတ်ပြားကောင်များအထိ အရွယ်အမျိုးမျိုးရှိသည်။ ပါဏဗေဒအမည်အားဖြင့် 'နင်မတုတ်' ဟုခေါ်သော သန်ကောင်မျိုးများသည် တီမျိုးတွင် အပါအဝင်ဖြစ်၍၊ အရေအတွက်အများဆုံးဖြစ်သည်။ ထိုတီများအနက် အချို့သည် မှန်ဘီလူးနှင့်ကြည့်မှသာ မြင်နိုင်လောက်အောင် သေးငယ်ကြသည်။ ထိုတီများသည် သန်းနှင့်ချီ၍ ရေ၊ မြေဆီလွှာ၊ ဆွေးမြည့်နေသည့် အပင်နှင့်တိရစ္ဆာန်များတွင် နေထိုင်ကြသည်။ တီမျိုး အမြောက်အမြားသည် လူနှင့်တိရစ္ဆာန်တို့၏အရေးကြီးသော ပါရာဆိုက်များဖြစ်သည်။ ပါရာဆိုက် တီမျိုးများတွင် တုတ်ပြား၊ ပင်းဝမ်း၊ ချိတ်သန်၊ တြစ်ခိုင်းနာ၊ သန်ကောင်နှင့်ဖစ်လာရီတို့ ပါဝင်သည်။ ထိုတီမျိုးများကြောင့် လူ၌ ရောဂါကြီး အမြောက်အမြား စွဲကပ်တတ်သည်။

ပါဏဗေဒပညာရှင်များသည် တီမျိုးများကို အစိပ္ပါယ်သတ်မှတ်ဖော်ပြ၍၊ အမျိုးခွဲခြားရာ၌ များစွာဒုက္ခခံကြရလေသည်။ လင်နီးယပ်ဆိုသူကမူ ကျောရိုးမဲ့တိရစ္ဆာန်များကို နှစ်မျိုးခွဲခြားခဲ့သည်။ ထိုနှစ်မျိုးမှာ အင်းဆက်ပိုးကောင်နှင့်ဗားမီးတို့ဖြစ်သည်။ ဗားမီးအုပ်စုတွင် တီမျိုးနှင့်တူသည့် အကောင်များ၊ ယင်းတို့ထက် အောက်တန်းကျသည်တူသည့် အကောင်များ၊ ယင်းတို့ထက် အောက်တန်းကျသည့်အကောင် အမြောက်အမြား ပါဝင်သည်။ ယခုအခါ၌မူ သီးခြားတီမျိုးအစုများ ရှိနေပေပြီ။

တီမျိုးသည် အများအားဖြင့် မျိုးပေါင်းစု သုံးစုရှိသည့် အနက် တစုစုတွင်ပါဝင်သည်။ ထိုသုံးမျိုးမှာ တုတ်ပြားမျိုး (ဝါ) ပလက်တီဟယ်လမင်သီး၊ သန်ကောင်လုံး (ဝါ) နက်မာသယ်မင်သီး၊ အစိတ်အပိုင်းများရှိသော တီမျိုး (ဝါ) အန်နီလစ်ဒါတို့ဖြစ်သည်။ ထိုသုံးမျိုးအနက် အန်နီလစ်ဒါမျိုးမျိုးပေါင်းစုသည် အတန်းမြင့်ဆုံး တီမျိုး ဖြစ်သည်။ ထိုတီမျိုးတွင် မြွေ့များနှင့်တီကောင်များ ပါဝင်သည်။

နေရာများတွင် အုထားတတ်သည်။ ဥ၏အရွယ်မှာ မုန်ညင်းစေ့အရွယ်ခန့်ရှိသည်။ တီကောင်သည် နှစ်ပိုင်းပြတ်သွားလျှင် ခေါင်းပိုင်းမှ အမြီးသစ်တခု ထပ်၍ထွက်လာနိုင်သည်။

တီကောင်သည် မြေတွင်းတူးသည့်အလေ့ကြောင့် လယ်သမားများအား အလွန်ကူညီရာရောက်ပေသည်။ မြေဆီလွှာတွင် အပေါက်ငယ်ကလေးများ ပြည့်နှက်လျက် ရှိလျှင်၊ မြေကြီးအတွင်းသို့ လေနှင့်ရေငွေ့တို့ကို ပို၍သိုလှောင်ထားနိုင်သည်။ ဤအချက်သည် ကောက်ပဲသီးနှံတို့ ရှင်သန်စေရန် အထောက်အပံ့ပြုသည်။

ထို့ပြင် တီကျစ်စာများကြောင့် မြေဆီလွှာသည် မြေသြဇာ ကောင်းလာနိုင်သည်။ ထို့ကြောင့် သဘာဝပညာရှင်ကြီး ဂီးလဗတ် ဖိုက်က တီကောင်များသာမရှိလျှင် မြေကြီးသည် မြေသြဇာကင်း၍ အဖိုးမတန် ဖြစ်လိမ့်မည်ဟု ပြောဆိုခဲ့ခြင်းဖြစ်ပေသည်။ ' ချား ဒါဝင်ကလည်း ဥယျာဉ်မြေ တဧကလျှင် တီကောင်ပေါင်း ၅၃,၀၀၀ခန့်ရှိ၍၊ ယင်းတို့၏ကိုယ်တွင်းမှ မြေဆီလွှာ ၁၀ တန်မျှသည် နှစ်တိုင်းထွက်လျက်ရှိသည်ဟု ခန့်မှန်းခဲ့လေသည်။ မှန်းခြေအားဖြင့် မြေတဧက၏ အပေါ်လွှာ၌ တီကျစ်စာ တနှစ်လျှင် ၁၀ တန်မျှ ပြည့်နှက်လျက်ရှိနိုင်သည်။

**တီးဇယ်ပင်**။ ။တီးဇယ်ပင်သည် ဆူးလေပင်နှင့်တူသော သစ်နုပင်မျိုးဖြစ်သည်။ (ဆူးလေပင် — ရှု။) ရုက္ခဗေဒအလိုအားဖြင့် တီးဇယ်ပင်မျိုး ၃ မျိုးခန့်ရှိ၍၊ ယင်းတို့သည် 'ဒစ်ပစာကေစီအီး' မျိုးရင်းတွင် ပါဝင်ကြသည်။

တီးဇယ်ပင်များသည် ဥရောပတိုက်နှင့် အာရှတိုက် မြောက်ပိုင်းတွင် မူလပေါက်ရောက်ကြသည်။

တီးဇယ်ပင်၏အရွက်မှာ ရှည်၍ ရိုးတံမပါပေ။ ပင်စည်၌ဆူးများပါရှိသည်။ အပွင့်သည် သန်မာသော ပွင့်ခံရွက်များ နှင့် ဝိုင်းလျက်ရှိသည်။ အပွင့်မှာ လတ်ဆတ်၍၊ အတွင်း၌ အခေါင်းပါရှိသည်။ အရောင်မှာဖြူသည်။

သိုးမွေးထည်နှင့် အခြားအထည်မျိုးများ၌ အမွေးထလာအောင်ပြုလုပ်ရာတွင် တီးဇယ်အပွင့်ခြောက်များကို အသုံးပြုကြသည်။ ထိုအပွင့်ခြောက်များကို ၂ ခြမ်းခွဲ၍၊ ဒလိမ့်တုံးတွင် တပ်ဆင်ပြီးလျှင် အထည်များကို ထိုဒလိမ့်တုံးဖြင့် တိုက်ပေးကြသည်။ ဤသို့လျှင် တီးဇယ်ပင်မှာ သိုးမွေးနှင့်အခြားအထည်လုပ်ငန်း၌ အသုံးဝင်သောကြောင့် ကမ္ဘာ့အရပ်ရပ်တွင် တီးဇယ်ပင်ကို ကောင်းစွာစိုက်ပျိုးယူကြသည်။



စောင်လုပ်ငန်းတွင်အသုံးပြုရန် အခြောက်လှန်းထားသော တီးဇယ်ပွင့်များ

**တီးတိုး၊ မာရှယ်**။ (ခရစ် ၁၈၉၂ ဖွား)။ ။မာရှယ် တီးတိုးသည် ယူဂိုစလားဗီးယားနိုင်ငံ၏ သမတနှင့် အာဏာရှင်ခေါင်းဆောင်ကြီးဖြစ်သည်။ နာမည်ရင်းမှာ ဂျိုးဆက်ဗရော့ဇ်ဗစ်ဟု ခေါ်သည်။ တီးတိုးဟူသော အမည်ကိုမူ ယူဂိုစလားဗီးယား နိုင်ငံတွင် ကွန်မြူနစ်ပါတီ မြေအောက်လုပ်ငန်းများကို လုပ်ကိုင်နေစဉ်က ရရှိခဲ့ခြင်းဖြစ်ပေသည်။ ဇာတိအားဖြင့် ယူဂိုစလားဗီးယားနိုင်ငံ ဇာဂရက်မြို့အနီးရှိ ကွမ်ရိုဗက်ကလန်ဂျက် ရွာသား ဖြစ်ပြီးလျှင်၊ ၁၈၉၂ ခုနှစ် မေလ ၂၅ ရက်နေ့တွင် ဖွားမြင်သည်။ မိဘများမှာ တောင်သူ လယ်သမားများ ဖြစ်၍၊ ငယ်စဉ်က ကျေးရွာစာသင်ကျောင်းတွင် အခြေခံပညာများကို သင်ကြားခဲ့ပြီးနောက် အရွယ်ရောက်သော် ပန်းပဲအလုပ်ဖြင့် အသက်မွေးခဲ့သည်။

တီးတိုးသည် ပဌမကမ္ဘာစစ် (၁၉၁၄–၁၈ ခုနှစ်) အတွင်းက ဩစတြီးယား ဟန်ဂေရီစစ်တပ်၌ စစ်သားအဖြစ် ဝင်ရောက် အမှုထမ်းခိုက်တွင် ၁၉၁၆ ခုနှစ်၌ စစ်သုံ့ပန်းအဖြစ် ရုရှတို့၏ဖမ်းဆီးခြင်းကိုခံရပြီးလျှင် ရုရှနိုင်ငံသို့ရောက်ရှိသွားကာ ရုရှ အမျိုးသမီးနှင့် လက်ထပ်၍၊ ရုရှ တပ်နီတော်၌ ၁၉၂၁ ခုနှစ်အထိ စစ်မှုထမ်းခဲ့လေသည်။ ၁၉၂၃ ခုနှစ်တွင် ယူဂိုစလားဗီးယားနိုင်ငံသို့ ပြန်လာ၍၊ အလုပ်သမားခေါင်းဆောင်အဖြစ်ဖြင့် ကွန်မြူနစ်ပါတီ မြေအောက်လုပ်ငန်းများ

ကို လုပ်ကိုင်နေခိုက် ၁၉၂၈ နှင့် ၁၉၃၂ ခုနှစ်အတွင်းတွင် နိုင်ငံရေးလုပ်ငန်းများကြောင့် ထောင်ကျခဲ့သည်။ ၁၉၃၄ ခုနှစ်တွင် စပိန်နိုင်ငံ၌ ဖြစ်ပွားလျက်ရှိသော အမျိုးသားပါတီ အမည်ခံ ဖက်ဆစ်ဂိုဏ်းသားများနှင့် ရီပတ်ဗလစ်ကင်ပါတီ အမည်ခံ လက်ဝဲဂိုဏ်းသားတို့ တိုက်ခိုက်ကြသော စပိန်ပြည်တွင်းစစ်တွင် လက်ဝဲဂိုဏ်းသားများဖက်မှ ကူညီတိုက်ခိုက်ရန် လူမျိုးစုံပါဝင်သော အပြည်ပြည်ဆိုင်ရာ တပ်မဟာကို ပြင်သစ်ပြည် ပါရစ်မြို့၌ မိမိကိုယ်တိုင်ခေါင်းဆောင်၍ဖွဲ့စည်းပေးခဲ့၏။ ဒုတိယကမ္ဘာစစ် (၁၉၃၉-၄၅ ခုနှစ်) အတွင်း၌ ၁၉၄၁ ခုနှစ်တွင် ယူဂိုစလားဗီးယားနိုင်ငံသည် ဂျာမန်နှင့် ဣတလီတပ်များ လက်အောက်သို့ ကျရောက်ခဲ့ရလေရာ၊ တီးတိုးသည် ပြောက်ကျား တပ်များ ဖွဲ့စည်း၍၊ မိမိထက် စစ်အင်အား ပိုမိုကြီးမားသော ဂျာမန်နှင့် ဣတလီတို့အား အောင်မြင်စွာတော်လှန်နိုင်ခဲ့သည်။ ဤကဲ့သို့ နိုင်ငံအတွက် ရှုပ်ရှပ်ချချအောင်မြင်စွာ တိုက်ခိုက်နိုင်ခဲ့သဖြင့် တီးတိုးမှာ ကမ္ဘာကျော် တော်လှန်ရေးခေါင်းဆောင်ကြီးတဦး ဖြစ်လာလေသည်။

ယူဂိုစလားဗီးယားနိုင်ငံ၌ ရန်သူတို့ အရေးနိမ့်လာပြီဖြစ်သော ၁၉၄၄ ခုနှစ်တွင် တီးတိုးသည် မိမိဦးစီးသော အမျိုးသားလွတ်မြောက်ရေးကောင်စီကို အဝေးရောက် ဘုရင့်အစိုးရအဖွဲ့နှင့်အခိုက်အတန့်အားဖြင့် ပူးပေါင်းလိုက်၏။ သို့သော် ၁၉၄၅ ခုနှစ် ရွေးကောက်ပွဲ၌ မိမိပါတီက အပြတ်အသတ် အနိုင်ရသောအခါ၊ ယူဂိုစလပ်ဘုရင် ဒုတိယပီတာ (၁၉၂၃) အား နန်းစွန့်စေခြင်းဖြင့် ဘုရင်စံနစ်ကို ဖျက်သိမ်း၍၊ ယူဂိုစလားဗီးယားနိုင်ငံကို သမတနိုင်ငံအဖြစ် ကြေညာခဲ့သည်။ တီးတိုးသည် ယူဂိုစလားဗီးယားနိုင်ငံ ဝန်ကြီးချုပ်နှင့် ကာကွယ်ရေးဝန်ကြီး ရာထူးများအပြင် ကွန်မြူနစ်ပါတီ အထွေထွေ အတွင်းရေးမှူးချုပ် ရာထူးများကို ထမ်းရွက်ယင်း ယူဂိုစလားဗီးယားနိုင်ငံ ပြန်လည် ထူထောင်ရေး လုပ်ငန်းများကို လူထုနည်းဖြင့် စွမ်းလွန်းတမံ ဆောင်ရွက်ခဲ့သည်။

တီးတိုးသည် ဘုရင့်အစိုးရအဖွဲ့၏ အရံတပ်ဦးစီးဖြစ်သော မီးဟိုင်းလိုဗစ်နှင့် ယင်း၏ဘက်တော်သားတို့ကို ဖယ်ရှား၍၊ ၁၉၅၃ ခုနှစ်တွင် ယူဂိုစလားဗီးယားနိုင်ငံ၏သမတ ဖြစ်လာခဲ့သည်။ မိမိနိုင်ငံကို ကွန်မြူနစ်ဝါဒအရ အုပ်ချုပ်ခဲ့သော်လည်း၊ ရုရှနှင့်မပူးပေါင်းခဲ့ချေ။ ရုရှကလည်း တီးတိုး၏ ယူဂိုစလားဗီးယားနိုင်ငံကို ကွန်မင်ဖောင်အုပ်စုမှ ထုတ်ပယ်လိုက်လေသည်။ သို့ရာတွင် ယူဂိုစလားဗီးယားနိုင်ငံနှင့် ရုရှနိုင်ငံတို့ ပြန်လည်သင့်မြတ်စေရန် ၁၉၅၅ ခုနှစ် မေလ ၂၆ ရက်နေ့တွင် ရုရှဝန်ကြီးချုပ် ဗူလဂါနင်နှင့် ရုရှကွန်မြူနစ်ပါတီ အတွင်းရေးမှူးချုပ် ကရူးရှေးတို့သည် တီးတိုးထံ သွားရောက်၍စေ့စပ်ခဲ့ကြသည်။



ယူဂိုစလပ်သမတကြီး မာရှယ် တီးတိုး

မာရှယ် တီးတိုးသည် မြန်မာနိုင်ငံတော်အစိုးရ၏ ဖိတ်ကြားချက်အရ ၁၉၅၅ ခုနှစ် ဇန္နဝါရီလ ၆ ရက်နေ့ နံနက် ၈ နာရီ မိနစ် ၃၀ တွင် ယူဂိုစလပ် ကရေဗာ စစ်သင်္ဘော 'ဂလက်' ဖြင့် မြန်မာနိုင်ငံသို့ အလည်အပတ် ရောက်ရှိခဲ့သည်။ တီးတိုးသည် မြန်မာနိုင်ငံ၌နေထိုင်စဉ်အတွင်း ဟဲဟိုး၊ တောင်ကြီး၊ ညောင်ရွှေ၊ အင်းလေးစသော ရှမ်းပြည်နယ်ရှိ မြို့များနှင့် မေမြို့၊ မန္တလေး၊ ပုဂံ၊ ညောင်ဦး၊ ချောက်၊ မကွေးစသော မြန်မာနိုင်ငံအထက်ပိုင်းရှိ မြို့များသို့ လှည့်လည်ခဲ့သည်။ မြန်မာနိုင်ငံခရီးစဉ် တလျှောက်တွင် တီးတိုးအား လူထုက သောင်းသောင်းဖြဖြ ကြိုဆိုညှော်ခံကြသည်။ တီးတိုးသည် ရန်ကုန်မြို့၌ ရှိစဉ်၊ မြန်မာနိုင်ငံ သမတကြီး ဒေါက်တာဦးဘဦးနှင့် အမြတ်ဆုံးသော နိုင်ငံတော်ဘွဲ့တံဆိပ်တို့ကို အလဲအလှယ် ပြုသည်။ တီးတိုးက ဒေါက်တာဦးဘဦးအား ယူဂိုဆလပ်ကြယ်တံဆိပ် အပ်နှင်းသည်တွင်၊ ဒေါက်တာ ဦးဘဦးက တီးတိုးအား အဂ္ဂမဟာသီရိသုဓမ္မဘွဲ့ကို အပြန်အလှန် အပ်နှင်းလေသည်။ ၁၉၅၅ ခုနှစ် ဇန္နဝါရီလ ၁၆ ရက်နေ့ ရန်ကုန်တက္ကသိုလ် အထူးဘွဲ့နှင်းသဘင်

အခမ်းအနား၌ တီးတိုးအား ဂုဏ်ထူးဆောင် ဥပဒေပါရဂူဘွဲ့ အပ်နှင်းသည်။ ၁၉၅၅ ခုနှစ် ဇန်နဝါရီလ ၇ ရက်နေ့တွင် တီးတိုးသည် ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် 'ငြိမ်းချမ်းစွာ အတူကာ နေထိုင်ရေး' လမ်းစဉ်ကို ထောက်ခံကြောင်းဖြင့် မြန်မာနိုင်ငံတော် ဝန်ကြီးချုပ် ဦးနုနှင့်အတူ ပူးတွဲကြေညာချက် ထုတ်ပြန်ပြီးလျှင်၊ ယူဂိုစလားဗီးယားနိုင်ငံသို့ ပြန်လေသည်။

**တီးတုတ်**။ ။ဇီဝဗေဒအလိုအရ တီးတုတ်ငှက်ကို 'ကီတူးပါဇီလုံနင်ဆစ်' ဟုခေါ်သည်။ ယင်းသည် 'စတြစ်ဂျီဒီး' မျိုးရင်းတွင်ပါဝင်သည်။ တီးတုတ်ငှက်သည် ကိုယ်ထည်ကြီးမားတုတ်ခိုင်သည်။ ကိုယ်အလျား လက်မ ၂၀ ရှိသည်။ အမွေးအရောင်မှာ အညိုဖြစ်သည်။ ကိုယ်အောက်ပိုင်းရှိ အမွေးများသည် ပို၍အရောင်ဖျော့သည်။ အထူးသဖြင့် ရင်ပိုင်း၌ ထောင်လိုက် အမည်းစင်းများရှိသည်။ ဦးခေါင်းဖက်တွင် အပေါ်သို့ထိုးထွက်နေသော အမွေးစုများသည် နားရွက်နှင့်တူသည်။ မျက်စိများသည် ကြီး၍ဝိုင်းလျက် အဝါရောင်ရှိသည်။ ခြေများတွင် အမွေးမရှိချေ။ တီးတုတ် အဖိုနှင့်အမသည် ရုပ်ချင်းဆင်တူ၏။ နေဝင်ရီတရောအချိန်၌ တောထူထပ်ရာအရပ်တွင် တကောင်ချင်းတွေ့ရသည်။



ညဉ့်ငှက်မျိုးဝင် တီးတုတ်ငှက်

တီးတုတ်ငှက်ကို အိန္ဒိယနှင့်မြန်မာနိုင်ငံတို့တွင် တွေ့ရသည့်ပြင် သီဟိုဠ်ကျွန်း၌လည်း တွေ့ရသည်။ မြန်မာနိုင်ငံတွင် တောင်ခြေရှိ သစ်တောများ၌ နေလေ့ရှိသည်။ ကုန်းမြင့်များပေါ်တွင် နေဟန်မတူချေ။

ထိုငှက်သည် တောများတွင် နေလေ့ရှိပြီးလျှင် ချောင်းကြီး ချောင်းငယ်များသို့ လာရောက်ကျက်စားတတ်သည်။ ညဉ့်ငှက်ဖြစ်သဖြင့် နေ့အချိန်တွင်အိပ်၍၊ မှောင်စပျိုးသည့် အချိန်ကျမှ စားကျက်ရှိရာသို့သွားရောက်သည်။ တီးတုတ်ငှက်၏အော်သံသည် ကျယ်လောင်၍ လူတယောက်၏နှုတ်ခမ်းကိုပိတ်လျက် အူအူအူဟု မြည်သော အသံမျိုးနှင့် တူသည်။ ထိုအသံမျိုးကို သုံးခွန်းဆင့်အော်တတ်သည်။

တီးတုတ်ငှက်သည် ငှက်ကလေးများ၊ နို့တိုက်သတ္တဝါများ၊ ငါးနှင့် ကနန်းတို့ကို စားသောက်တတ်သည်။ ခြေသည်းများသည် အစာကို မြဲမြံစွာကိုင်ဖမ်းထားနိုင်ရန် ချွန်ထက်နေသည်။ ရေစပ်နားရှိ သစ်ကိုင်းပေါ်တွင် နား၍ အစာကို ရှာဖွေတတ်သည်။ ရေစပ်တွင်ဆင်း၍ ရေချိုးလျက် အမွေးအတောင်များကို ပွပြင်ပေးလေ့ရှိသည်။

ဒေသအလိုက် သားပေါက်ချိန် အမျိုးမျိုး ရှိသော်လည်း၊ များသောအားဖြင့် ဒီဇင်ဘာလနှင့် မတ်လကြားတွင် သားပေါက်တတ်သည်။ ဥများကို ကမ်းပါး ကျောက်ဆောင်များ၌ ဖြစ်စေ၊ သစ်ခေါင်းများ၌ ဖြစ်စေ အုတတ်သည်။ အသိုက်များကို ရေနှင့်နီးသော နေရာများတွင် ဖွဲ့လေ့ရှိသည်။ စွန်နှင့် လင်းတများ စွန့်ပစ်သွားသော အသိုက်ဟောင်းများကို ဆက်လက်၍ အသုံးပြုတတ်သည်။ တမြုံလျှင် ဥတလုံး၊ ၂ လုံးရှိတတ်သည်။ ဥမှာ ဖြူ၍ လုံးသယောင်ယောင် ရှိသည်။

စတြစ်ဂျီဒီး မျိုးရင်းဝင် တီးတုတ်ငှက်မျိုး များပြားစွာရှိ၏။ ယင်းတို့အနက် ထင်ရှားသော တီးတုတ်ငှက်မျိုးများမှာ ကုပ်ကလူငှက်၊ မြီးဝန်၊ တောလုံငှက်၊ ဇီကွက်တို့ဖြစ်ကြသည်။ ထိုငှက်များကို မြန်မာနိုင်ငံ အနှံ့အပြား၌ တွေ့ရသည်။ (ကုပ်ကလူငှက်။ မြီးဝန်။ တောလုံငှက်။ ဇီကွက်လည်း — ရှု။)

**တီးတိန်မြို့**။ ။ချင်းဝိသေသတိုင်း၏မြောက်ဖက်အစွန်ဆုံးတွင် တီးတိန်မြို့နယ် တည်ရှိသည်။ ချင်းဝိသေသတိုင်း မြောက်ပိုင်းခရိုင်တွင် အပါအဝင်ဖြစ်သည်။ မြောက်ဖက်၌ အိန္ဒိယနိုင်ငံ၏မဏိပူရပြည်နယ်နှင့် ဆက်စပ်နေ၍ တောင်ဖက်တွင် ချင်းဝိသေသတိုင်းရှိ ဖလမ်းမြို့နယ်နှင့်ဆက်နေ၏။ အင်္ဂလိပ်အစိုးရလက်ထက်က လက်ထောက်နယ်ခြားဝန်ထောက် အုပ်ချုပ်သော နယ်ဖြစ်၍၊ ယခုအခါ ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရလက်ထက်၌ကား နယ်ပိုင်ဝန်ထောက် အုပ်ချုပ်သောနယ် ဖြစ်လာသည်။

တီးတိန်နယ်ရုံးစိုက်ရာမြို့ကား တီးတိန်မြို့ဖြစ်၍၊ တိမ်ညင်းမြို့ဟုလည်း ခေါ်ဝေါ်ကြသည်။

ယင်းမြို့နယ်တွင် ကုကီ သို့မဟုတ် သာဒိုး၊ ကမ်ဟောင်၊ စုတ်တေးနှင့် စိယှင်ချင်းလူမျိုးများ နေထိုင်၏။ ကုကီချင်းမျိုးမှာ အာသံနယ်စပ်ဒေသတွင် အများအပြား နေထိုင်ကြလေသည်။

တီးတိန်မြို့နယ်တွင် ရွာပေါင်း ၇၅ ရွာပါဝင်သည့်အနက် စိယင်လူမျိုးတို့နေထိုင်သော ရွာ ၅ ရွာ၊ စုတ်တေးလူမျိုးတို့ နေထိုင်သောရွာ ၂၆ ရွာ၊ ကမ်ဟောင်လူမျိုးတို့နေထိုင်သောရွာ ၃၃ ရွာ၊ သာဒိုးလူမျိုးတို့နေထိုင်သောရွာ ၁၁ ရွာရှိလေသည်။ အကြီးဆုံးသောရွာများမှာ တီးတိန်၊ လိုဆိုး၊ တွန်းဇံရွာတို့ ဖြစ်လေသည်။ (ချင်းဝိသေသတိုင်း၊ ချင်းလူမျိုး — ရှု။)

၂၀ ရာစုအစလောက်က ဤမြို့နယ်တွင် လူဦးရေ ၁၆,၄၃၅ ယောက်မျှသာရှိ၍၊ စာရေးစာဖတ်တတ်သူ ၂၄၇ ယောက်သာ ရှိခဲ့သော်လည်း၊ ၁၉၅၃ ခုနှစ်သန်ကောင်စာရင်းအရ လူဦးရေ ၅၁,၁၅၂ ယောက်ရှိ၍၊ မြန်မာနိုင်ငံမှစေလွှတ်သော ဗုဒ္ဓသာသနာပြုအဖွဲ့၊ လူထုပညာရေးမှူးစသည်တို့၏ ကျေးဇူးကြောင့် ယခုအခါ စာရေးစာဖတ်တတ်သူ အတော်များလာလေပြီ ဖြစ်သည်။ တီးတိန်မြို့သည် ဖလမ်းမြို့နှင့် လမ်းအဆက်အသွယ်ရှိသည်။

**တီးတိန်လူမျိုး။** ။ချင်းလူမျိုး—ရှု။

**တူကန်းငှက်။** ။တူကန်းငှက်မျိုးကို တောင်အမေရိကတိုက်၊ အမွှေးနံ့မြစ်ဝှမ်း တလျှောက်တွင် အမြောက်အမြားတွေ့ရသည်။ ထိုငှက်၏ အဓိကထင်ရှားသော ကိုယ်အင်္ဂါအစိတ်အပိုင်းမှာ ကြီးသောနှုတ်သီးပင် ဖြစ်၏။ သူ၏နှုတ်သီးသည် ဦးခေါင်းနှင့် အဆမတန်ကြီးမား၍၊ ကိုယ်၏အချိုးအစားနှင့် မလိုက်ချေ။ ထိုသို့ကြီးမားသော နှုတ်သီးကိုသယ်ထားရသောကြောင့် တူကန်းငှက်သည် သန့်စွမ်းခြင်းမရှိချေ။ လျှာမှာလည်း နှုတ်သီးကဲ့သို့ပင် ထူးခြားလေသည်။ လျှာ၏နံဘေးတွင် အထစ်ကလေးများ ရှိသည်။ လျှာပြားသည်။ တူကန်းငှက်၏အမြီးနှင့်ကိုယ် ဆက်သောနေရာတွင် အရိုးလုံးရှိ၍၊ အမြီးကို ကျောက်ကုန်းပေါ်သို့ ဆတ်ခနဲမြှင့်တင်နိုင်သည်။ တူကန်းငှက်များတွင် ထိုကဲ့သို့ ထူးခြားသော နှုတ်သီးနှင့်လျှာ ရှိရသည်မှာ သစ်သီးကို သစ်ကိုင်းများအကြားမှ ဆွတ်ခူးနိုင်ရန်ဖြစ်သည်ဟု ယူဆရလေသည်။ တူကန်းငှက်၏ နှုတ်သီးမှာ ကြီးသော်လည်း အလေးချိန်ပေါ့သည်။ တူကန်း၏ အမွေးအတောင်များသည် အစိမ်းရောင် အရင့်စားဖြစ်၏။ များသောအားဖြင့် အဖြူရောင်၊ လိမ်မော်ရောင်၊ အနီနှင့် အပြာရောင်များ ရော



နှုတ်သီးကြီးမားထင်ရှားသော တူကန်းငှက်

ယှက်နေသည်ကို တွေ့ရလေသည်။ စိမ်းလဲ့၍ ဝါနေသော မျက်စိ ရှိသည့်ပြင်၊ မျက်ရစ်မှာ ပြာ၍ ကျယ်လေသည်။ မျက်လုံးပတ်လည်တွင် လိမ်မော်ရောင်အရေပြားရှိ၏။

တူကန်းငှက်များသည် ကမ္ဘာ့အနောက်ဖက် လုံးခြမ်းတွင်သာ နေသောငှက်များ ဖြစ်သည်။ အမွှေးနံ့မြစ်ဝှမ်းတွင် အများဆုံး ကျက်စားကြ၍၊ အမေရိကန် အလယ်ပိုင်းနှင့် မက္ကဆီကိုနိုင်ငံများတွင် တူကန်းငှက်အမျိုးအစား အချို့ကို တွေ့ရ၏။ စင်စစ်အားဖြင့် တူကန်းငှက်သည် ကမ္ဘာဟောင်းတွင်ရှိသော အောက်ချင်းငှက်နှင့် တူလေသည်။ ထိုငှက်၏ အစာမှာ ပိုးမွှားများ၊ တွားသွားကောင်များနှင့် အသီးအနှံများ ဖြစ်သည်။ မကြာမကြာပင် တူကန်းငှက်တို့သည် လိမ်မော်ခြံများသို့ လာရောက် ကျက်စားတတ်ကြသဖြင့် လိမ်မော်ခြံများ ပျက်စီးကြရလေသည်။ အသိုက်ကို သစ်ခေါင်းများ၌ ပြုလုပ်၍၊ ဥမှာ ဖြူဖွေးသည်။ အစာစားနေစဉ် ယင်း၏နှုတ်သီးသည် တချောက်ချောက်မြည်လျက်ရှိသည်။ အသံမှာ စူးရှ၍ သာယာခြင်းမရှိချေ။ တူကန်းငှက်သည် အစုကလေးများဖွဲ့ကာ နေထိုင်တတ်သည်။ ယဉ်ပါးလွယ်သော ငှက်မျိုးဖြစ်သည်။

**တူတူပုန်းတမ်းကစားခြင်း။** ။မြန်မာကလေးကစားနည်းများ — ရှု။

# ဝေါဟာရ နှင့် အသံလှယ်အမည်များ

ဤကျမ်းတွင် ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားသော အမည်များ မြောက်မြားစွာပါရှိသည်။ ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသောအမည်တို့ကို မူရင်းစကားနှင့်တကွ အောက်တွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။ ထုတ်ဝေပြီးအတွဲများတွင် ဖော်ပြပါရှိပြီးဖြစ်သော ဝေါဟာရများနှင့် အသံလှယ်အမည်များကိုမူ အောက်ပါစာရင်း၌ ထပ်မံဖော်ပြခြင်းမပြုပါ။

## ဝေါဟာရများ

| | |
|---|---|
| ကတိုးဆီ | Oil of Musk |
| ‘ ကဗျာနှင့်တေးသီချင်းများ ’ | ‘ Poems and Ballads ’ |
| ကရိုးအက် လူမျိုး | Croat |
| ကလဗက်ပင် | Calabash |
| ‘ ကလေး စွယ်စုံကျမ်း ’ | ‘ Children's Encyclopaedia ’ |
| ‘ ကလေးဘဝ ’ | ‘ Childhood ’ |
| ကလတ် တက္ကသိုလ် | Clark University |
| ကသ္မီရဆိတ် | Kashmir goat |
| ကာကွယ်ရေးတပ်ပေါင်းစု စစ်တက္ကသိုလ် | Defence Services Institute |
| ကီလကိုမန် ရဲတိုက် | Kilcoman Castle |
| ကုထုံးကုနည်း | Therapeutics |
| ကုဒ လူမျိုး | Kurds |
| ကယ်လဒိုးနီးယန်း တူးမြောင်း | Caledonian Canal |
| ကိုယ်ပူကျဆေး | Antipyretic |
| ကိုယ်ရည်ကိုယ်သွေး | Personality |
| ကုန်းဆယ်မန်ငါး | Landlocked Salmon |
| ကျောက်ကပ်စီးဂလင်း | Andrenal gland |
| ‘ ကျောင်းသား စွယ်စုံကျမ်း ’ | ‘ Student's Encyclopaedia ’ |
| ကြားသတ္တု | Semi-metal |
| ‘ ကြေးမုံပြင်ကြီး ’ | ‘ Speculum Majus ’ (Greater Mirror) |
| ကွဲပွားခြင်းနည်း | Fission, cell-division |
| ‘ ကွမ်ပတန် ရုပ်စုံ စွယ်စုံကျမ်း ’ | ‘ Compton's Pictured Encyclopaedia ’ |
| ကြွက်သားစွမ်းအင် | Mascular energy |
| ခေါင်းအုံးဇာ | Pillow lace |
| ချင်းနွတ် ဆယ်မန်ငါး | Chinook salmon |
| ချိုင်းနား ဗာကာ မြစ် | China Bakir River |
| ချိတ်သန် | Hookworm |
| ချမ်ဒိုဒေသ | Chamdo Area |
| ချွဲကျိမှို | Slime mould |
| ဂေဟာတွင်းစောင့်ရှောက်ရေး စံနစ် | Institutional care |
| ဂေါမိတ်ကသစ်ရေ | Hyacinth |
| ဂေါမိတ်နီ | Jacinth |
| ဂင့်-တနဒဇင် တူးမြောင်း | Ghent-Terneuzen Canal |
| ဂျာကွန် လူမျိုး | Jacun |
| ဂျူလှော်မျိုး | Jute |
| ‘ ငြိမ်းချမ်းစွာ အတူတကွ နေထိုင်ရေး ’ | ‘ Peaceful Co-existence ’ |
| ‘ ငြိမ်းချမ်းရေးဆေးတံ ’ | ‘ Peace pipe ’ |
| ငှက်မွေးပုံ | Pinnate |

စကဲမြစ် Scheldt River

စကော့ဘုရင်မ မေရီ Mary Queen of Scots

စပမ်းဝေလငါး Sperm whale

စားလဒ် Quotient

စီကွိုင်းယားပင် Sequoia

စေ့ဆော်တိုက်တွန်းမှု Motive

စေ့ဆော်တိုက်တွန်းမှု, နဂိုဇာတိပါ Motive, Innate

စက်စွမ်းအင် Mechanical energy

စစ်ဆေးလွှာ Questionnaire

စစ်ဆင်ရေး (စစ်ပရိယာယ်)
Strategy-Conduct of war

စစ်ဖွဲ့စည်းအုပ်ချုပ်ရေး
Organisation and administration for war

စစ်ဦးဆောင်ညွှန်ကြားရေး Direction of War

စည်းကမ်းသတ် အက်ဥပဒေ Limitation Act

စိတ်ကုပညာ Psychiatry

စည်းဝါးကိုက် ကိုယ်လက်လေ့ကျင့်ခြင်း Eurythmics

စိတ်ချောက်ချားရောဂါ Hysteria

စိတ်ခွဲခြားစိစစ်ရေးပညာ Psychoanalysis

' စိတ်ခွဲခြားစိစစ်ရေးပညာ ဂျာနယ် '
' Psychoanalytical Review '

စိတ်ညို့ပညာ Hypnotism

စိတ္တဗလချွင့်မဲ့သူ Mentally handicapped

စိတ်နုံ့ခြင်း Imbecility

စိတ်နှမ်းခြင်း Idiocy

စိတ်ပညာ, ကလေး Psychology, Child

စိတ်ပညာ, စက်မှုလက်မှု Psychology, Industrial

စိတ်ပညာ, ဇီဝကိစ္စ Psychology, Physiological

စိတ်ပညာ, တိရစ္ဆာန် Psychology, Animal

စိတ်ပညာ, ဖမ္မတာလွဲ Psychology, Abnormal

စိတ်ပညာ, ပညာရေး Psychology, Educational

စိတ်ပညာ, ယေဘုယျ Psychology, General

' စိတ်ပညာရေး အခြေခံသဘောတရားများ '
' Principles of Psychology '

စိတ်ပညာရှင် Psychologist

စိတ်လှုပ်ရှားမှု Emotion

စိတ်အားချို့တဲ့ခြင်း Mental deficiency

စိတ်အားပျော့ခြင်း Feeble-mindedness

စွေငှက် White-throated Babbler

စွဲလမ်းစိတ် Sentiment

စွဲလမ်းစိတ်, ပဓာန Sentiment, Self-regarding

စွဲလမ်းစိတ်, ဝတ္ထုမဲ့ Sentiment, Abstract

စွဲလမ်းစိတ်, ဝတ္ထုရှိ
Sentiment, Particular or Subjective

' စွမ်းအင်၏မပြောင်းစည်း '
' Law of conservation of Energy '

ဆခွဲကိန်းများ Factors

ဆတိုးကိန်း Multiple

ဆလမန္ဒာကောင် Salamander

ဆလိုးဝမ်းကောင် Slow-worm

ဆလော့က်ကောင် Sloth

ဆီနှင့်အဆီခဲ Fats and Oils

' ဆီဗတ်စတိုပိုမြို့မှ ပုံပြင်များ '
' Tales from Sevastopol '

ဆီလီနီယမ်ဓာတ်အိုး Selenium-cell

ဆီးမိုက် လူမျိုး Semitic race

ဆေးဝါးဖော်စပ်ပညာ Pharmacy

| | |
|---|---|
| ဆေးခြောက်ပင် | Hemp |
| ဆေးဝါးပညာရှင် | Pharmacist |
| ဆေးဝင်ပစ္စည်း | Drug |
| ဆေးစမ်း | Mineral spring |
| ဆေးမိုးယန် စစ်ပွဲ | The Samian War |
| ဆေးရှဲကျွန်းစု | Seychelles |
| ဆဲဗစ်ကျွန်း | Savage Island |
| ' ဆော်ဗန်း ကောလိပ်သစ် ' | ' La Nouvelle Sorbonne ' |
| ' ဆိုကရေးတီး၏လျှောက်လဲချက်များ ' | ' Apology of Socrates ' |
| ' ဆိုကရေးတီး၏အတ္ထုပ္ပတ္တိနှင့် သူ၏အယူဝါဒအကြောင်း ' | ' Memorabilia ' |
| ဆိုဒါမှုန့် | Soda ash |
| ဆိုယာသီ | Soya-bean |
| ဆက်စတန့်အင်သာတိုင်း | Sextant |
| ဆစ်ကြား | Internode |
| ဆတ်သွားဖူးပင် | Screw pine |
| ' ဆန်းစသော်တာ ' | ' The Crescent Moon ' |
| ဆံခြည်ပြန်လျှောက်သတ္တိ | Capillary attraction |
| ဆံပင်အူ | Medulla |
| ဆွေမျိုးစု | Clan |
| ဆွဲဆောင်ရ၍ရွေ့ရှားခြင်း | Induced Movement |
| ဆွန်ဂါရီ မြစ်ဝှမ်း | Sungari River Valley |
| ဇာရီမှု | Execution (Law) |
| ဇီဝဓာတုဗေဒ | Bio-chemistry |
| ' ဇီဝဗေဒ အခြေခံသဘောတရားများ ' | ' Principles of Biology ' |
| ဇီဝရူပဗေဒ | Bio-physics |
| ဇီဝရုပ်အဖြစ်အပျက် | Metabolism |
| ဇေးမန်တွေ့ချက် | Zeeman Effect |
| ဈေးရောင်းစက် | •Cash register |
| တရားရှုံး | Judgment debtor |
| တရားသူကြီးမှတ်စာ | Book of Judges |
| တရောကြီး | Violincello |
| တရောလတ် | Viola |
| တရုပ်နိုင်ငံ၏မြောက်ပိုင်းလွင်ပြင် | North China Plain |
| တရုပ်ပြည်သူ့ သမ္မတနိုင်ငံ အမျိုးသားကွန်ဂရက်၏အမြဲတမ်းကော်မတီ | The Standing Committee of the National People's Congress |
| တာတာအဆိဖတ် | Cream of tartar |
| တာဗိုင် ရဟတ်စက် | Turbine |
| တာရင်မြစ်ဝှမ်း | Tarim Basin |
| တူးတုအီးလာကျွန်း | Tutuila |
| ' တော ' | ' The Jungle ' |
| တောရပ် တောင်တန်း | Taurus Mountains |
| တိုက်ပွဲခင်းကျင်းရေး (သေနင်္ဂဗျူဟာ) | Tactics-Conduct of Battle |
| တောင်ယဉ်စွန်းတန်း | Tropic of Capricorn |
| တိုင်း ချူး ခေတ် | Tai Chu Period |
| တစ်ရှူးပညာ | Histology |
| တုတ်ပြား | Tapeworm |
| တုတ်ပြားမျိုး | Flatworm |
| တွင်းထွက်ပစ္စည်းပညာ | Mineralogy |
| တွန်ကင်ပဲ | Tonkin bean |
| တွန်းကာကျွန်းစု | Tonga |

| | |
|---|---|
| ထိုင်းဆေး | Narcotic |
| ဒယက်လူမျိုး | Dayak |
| ဒီကရီရသူ (ဝါ) ဇာရေးနိုင် | Decree-holder |
| ဒုတိယအယူခံမှု | Second Appeal |
| ဒေးဂုန်နတ်ပွဲ | Festival of Dagon |
| ဒေါ့တမွန့်-အမ်း-ဗေဇာ တူးမြောင်း | Dortmund-ems-Weser Canal |
| ဒိုင်းယက်လွှတ်တော် | Diet |
| ဒွမ်းစဒေးစစ်တမ်း | Domesday Book |
| ဓာတုဂုဏ် | Chemical properties |
| ဓာတုဖြစ်ပေါင်းစည်းမှု | Chemical composition |
| နဂါးစွယ် | Dragon's Teeth |
| နယူးယော့ပြည်နယ် တူးမြောင်း | New York State Barge Canal |
| နာဝှာလင်းပိုင် | Narwhal |
| နီလာခရမ်း | Amethyst |
| နေပူရှိန်စွမ်းအင် | Sun's energy |
| နယ်ခွဲ (ရုရှနိုင်ငံ) | Region |
| နဲဗီဂေးတားကျွန်းစု | Navigator Islands |
| နိုင်ငံပေါင်းစုံ စာရေးဆရာများညီလာခံကြီး | International Congress of Writers |
| နန်လင်တောင်တန်း | Nanling Mountains |
| နန်းတက်ပွဲအထိမ်းအမှတ် | Jubilee |
| နံ့သာဆီ | Oil of sandalwood |
| နျူကောင် | Newt |
| နျူကလီးယပ်စွမ်းအင် | Nuclear Energy |
| နွေရာသီနန်းတော် | Summer Palace |
| နှင်းဆီပန်းအဆီ | Oil of rose |
| နှစ်ခါငှက်မွေးရွက်ပေါင်း | Bipinnate |
| '၂၀ ရာစု စွယ်စုံကျမ်း' | '20th Century Encyclopaedia' |
| ပဌမသုံးပွင့်ဆိုင်အဖွဲ့ | First Triumvirate |
| ပမာဏပေါင်း | Sum total |
| ပရီဗီကောင်စီ၏တရားရေးရာ ကော်မီတီအဖွဲ့ | Judicial Committee of the Privy Council |
| ပရက်ဆီဒင်းစီးကောလိပ်ကျောင်း | Presidency College |
| ပလာနယ် | Vacuum |
| ပလိုင်စတိုစင်းယုဂ် | Pleistocene |
| ပဟိုရ်စင် | The Drum Tower |
| ပိကင်နန်းတော်တံခါးမ | Gate to Forbidden City |
| ပီအဲင် အိုကုမ္ပဏီ | P & O Company |
| 'ပုလစ်ဇာဆု' | 'Pulitzer Prize' |
| ပယ်လိုရပ် ရေလက်ကြားရှည် | Pelorus Sound |
| ပဲ့တင်သံ ခန်းမဆောင် | Whispering Gallery |
| 'ပေါလ်၏သြဝါဒများ' | Epistles of Paul' |
| ပိုဟိုင်းပင်လယ် | Pohai Sea |
| ပိုးမျိုးဖျက်ဆေး | Disinfectant |
| ပိုးအိမ် | Cocoon |
| ပင်လယ်ပြူကောင် | Sea urchin |
| ပင်လယ်မှိုကောင် | Sea anemone |
| ပင်လယ်မြေ့ | Sea Cucumber |
| ပင်းဂွင်းငှက် | Penguin |
| ပစ္စည်းထိန်း | Administrator |
| ပုတ် ဆိုင် ဆေးရုံ | Pok Tsai Hospital |
| 'ပန် အာရပ် စီမံကိန်း' | Pan Arab Project' |

ပြင်သစ်ဆူဒန် — French Sudan

ပြင်သစ်ပိုင် အနောက်အာဖရိက နယ်ပယ်များ — French West Africa

ပြင်သစ်ပိုင် အီကွေတာသိုရီးအာဖရိက — French Equatorial Africa

ပြင်သစ်ပြည်ထောင်စု — French Union

ပြစ်မှုနှင့်အပြစ်ဒဏ် — 'Crime and Punishment'

ပြည်သူ့အစိုးရ ဗဟိုကောင်စီ — Central Council of the People's Government

ပွင့်ခံရွက် — Bract

ပွင့်ရင်းခံ — Receptacle

ပွန်တိုင် ညွန်ပျောင်းဒေသ — Pontine Marshes

'ဖရက်ဒရိဆီ၏ ဒေါင်လိုက်စန္ဒရား' — 'Frederici's Upright Piano'

ဖရန်စစ္စကန် သီလရှင်ဂိုဏ်း — Franciscan Nuns

ဖိအားနည်း ဒေသ — Low Pressure Area

ဖီဂျီးကျွန်း — Fiji Islands

ဖယ်ယာပြတိုက် — Phayre Museum

'ဖယ်ရီကွင်း' — 'Faerie Queene'

ဖော့စဒိုက် တူးမြောင်း — Foss Dyke

ဖိုတိုအီလက်တြစ်အိမ် — Photo-electric cell

ဖြူငယ် — Hedgehog

ဖြည့်ဖက်အရောင် — Complimentary colour

ဗရူးနေးနယ် — Brunei

'ဗဟုသုတကျမ်း' — 'The Book of Knowledge'

ဗိသနုဝကဗျာစာဆိုများ — Vaishnava Poets

ဗီယာဘွမ်းစီရင်စု — Birbhum District

ဗူလဂေးရီးယန်းလူမျိုး — Bulgarian

ဗူးရယတ်မွန်ဂိုကိုယ်ပိုင်အုပ်ချုပ်ခွင့်ရဆိုဗီယက်ဆိုရှယ်လစ်သမတနိုင်ငံ — Buryat Mongol Autonomous Soviet Socialist Republic

ဗယ်သံတရော — Bass viol

ဗော့စဖရပ် ရေလက်ကြား — Bosphorus

ဗက်တီးရီးယားပိုးပညာ — Bacteriology

ဗက်ဒူးဝင်လူမျိုး — Bedouin

ဗောက်ဆာသူပုန် — Boxer Rebellion

ဗုံသုန်းကိန်းအငယ်ဆုံး — Least common multiple

ဗြိတိသျှနိုင်ငံ စိတ်အားချို့တဲ့ခြင်းအက်ဥပဒေ — British Mental Deficiency Act

ဗြိတိသျှပိုင် အနောက်အာဖရိကနယ်သစ်များ — British West African Colonies

ဗွိုင်လာရေနွေးအိုး — Boiler

ဘဝင်စိတ် — Subconscious mind

ဘိသွာဆီ — Linseed oil

ဘုရင့်စာဆိုတော် — Poet Laureate

ဘူတီးယားလူမျိုး — Bhutia

ဘိန်းစေ့ဆီ — Poppy-seed oil

မမှတ်မိခြင်း — Forgetting

မသိစိတ် — Unconscious mind

မဟာဌာန — Faculty

မဟာမိတ် အုပ်ထိန်းရေး ကော်မစ်ရှင် — Allied Control Commission

မာကိုပိုလိုတံတား — Marco Polo Bridge

မာဗေးဒီတူးမြောင်း — Merwede Canal

မာလာဗာကမ်းရိုးတန်း — Malabar Coast

မားချင့်တေလာကျောင်း — Merchant Taylors' School

မားယုအိုင် — Maryut (Lake)

| | |
|---|---|
| မိုးစာကျောက်သဲ | Monazite sand |
| မုသားစုံထောက် | Lie detector |
| မေ့ဆေး | Anaesthetic |
| မေယာနှင့်ဗေကာ | Mayer & Baker |
| ' မယ်တော်မိဖုရား ' | ' The Queen Mother ' |
| မောစကိုဗော်လဂါတူးမြောင်း | Moscow Volga Canal |
| မက္ကင်ဇီနယ် | Mackenzie District |
| မက်ထရစ်တန်ချိန် | Metric ton |
| မင်စက်စစ်ဆေးနည်း | Ink blot test |
| မင်းဝါမင်း | Yellow Emperor |
| မစ်ရှသတ္တု | Misch Metal |
| မုန်တိုင်းဗဟိုချက် | Eye of the Cyclone |
| မျိုးစဉ်ခွဲ | Sub-order |
| မျိုးစပ်ပေးမှု | Cross breeding |
| မျိုးပွားခြင်း | Reproduction |
| မျက်လုံးအပြင်မှန်ဖောက်ပြန်ခြင်း | Astigmatism |
| မြေဖို့စက် | Bulldozer |
| မြေဝါစေး | Yellow ochre |
| မြောက်ယဉ်စွန်းတန်း | Tropic of Cancer |
| ' မြန်မာပြည်နှင့်ကရင်များ ' | ' Burma and the Karens ' |
| ' မွတ်သိပ်သောကျောက်ခဲလုံးများ ' | ' The Hungry Stones ' |
| မွန်တီနီးဂရင်းလူမျိုး | Montenegrin |
| မွန်နဇိုက်သဲ | Monazite sand |
| မှတ်မိခြင်း | Remembering |
| ယထာဘူတပညာရှင် | Philospoher |
| ယိုဒယားဝို့က် | ' Siamese White ' |
| ယုဒ္ဓဗေဒ | Military Science |
| ရိုနော့ | Rhonok |
| ရုသီးနီးယန်းလူမျိုး | Ruthenian |
| ရေကြောင်းကုန်သွယ်ရေးရန်ပုံငွေ | Mercantile Marine Fund |
| ရေငန်အိုင်ကြီး | Great Salt Lake |
| ရေဒီယမ်သတ္တိ | Radioactivity |
| ' ရေနံ ' | ' The oil ' |
| ရေနံချေး | Earth Oil |
| ရေပူစမ်း | Geyser |
| ရေလက်ဝါးကောင် | Starfish |
| ရောမကက်သလစ် | Roman Catholic |
| ရိုရှယ်ဆား | Rochelle salt |
| ရင်းပို | Rangpo |
| ရုပ်သွင်ပညာ | Morphology |
| ရွေ့ရှားခြင်း | Locomotion |
| ရွက်ကြောပြိုင် | Parallel veins |
| ရွက်လယ်ကြော | Midriff |
| ' ရှေးဦးအခြေခံသဘောတရားများ ' | ' First Principles ' |
| ရှောလမုန်သီချင်း (ဂီတမေဒနီကျမ်း) | Song of Solomon |
| ရှမ်းဆီ | Tung Oil |
| လာဒိုဂါအိုင် | Lake Ladoga |
| လာမာဗုဒ္ဓအယူဝါဒ | Buddhist Lamaism |
| လီယောင်တုန်ကျွန်းဆွယ် | Liaotung Peninsula |
| လီယောင်မြစ် | Liao River |

| | |
|---|---|
| ' လူ့ကျင့်ဝတ်အခြေခံသဘောတရားများ | ' Principles of Ethics ' |
| လူတဦးနှင့်တဦးခြားနားခြင်း | Individual differences |
| ' လူတို့၏ကိုးကွယ်ရာအယူဝါဒ ' | ' The Religion of Man ' |
| ' လူမှုရေးရာအခြေခံသဘောတရားများ ' | ' Principles of Sociology |
| လူမှုရေးသိပ္ပံပညာ | Social Science |
| လေကြောင်းခရီးလွှင့်ပညာ | Aeronautics |
| လေချိုင့်တိမ် | Depression |
| လေပြင်းမုန်တိုင်း | Cyclonic storm |
| လေဖိတူမျဉ်း | Isobar |
| လေဖိအားနည်းလှိုင်း | Low pressure wave |
| လေမုန်တိုင်း | Storm |
| လေရည် | Liquid air |
| လေးညှင်းဆီ | Oil of clove |
| လောကတ္ထစရိယလမ်းစဉ် | Humanism |
| လိုအက်မြေဝါ ကုန်းပြင်မြင့် | Loess Plateau |
| လက်ပချာလူမျိုး | Lepcha |
| လက်ျာရစ် | Clockwise |
| လက်လူမျိုး | Lapp |
| လက်ဝဲရစ် | Anti-clockwise |
| လင်းသံပြောင်း | Optophone |
| လစ်ဗာဝတ်ပင် | Liverwort |
| လန်းဒေါ့တူးမြောင်း | Languedoc (canal) |
| လုပ်ခငွေ | Wage |
| လွန်မင်းတောင် | Lungmen Mountain |
| လှံဖျားပုံ | Lanceolate |

| | |
|---|---|
| လျှပ်စစ်စွမ်းအင် | Electric energy |
| လျှပ်စစ်လုပ်စက် | Electric generator |
| လျှပ်စစ်သံလိုက်ပိုစွန်း | Electromagnetic poles |
| ဝါစေ့ဆီ | Cotton seed oil |
| ဝိတိုရိယဘုရင်မ အထိမ်းအမှတ်ပန်းခြံနှင့်တိရစ္ဆာန်ဥယျာဉ် | Victoria Memorial Park & Zoological Gardens |
| ဝိတိုရိယရေတံခွန် | Victoria Falls |
| ဝူးကေရာင်မင်း | Emperor Wu |
| ဝေဒနာ | Feeling |
| ဝဲလင် သင်္ဘောတူးမြောင်း | Welland Ship Canal |
| ဝက်ဝံဖြူ | Polar Bear |
| ဝင်ရိုးစွန်းလေ | Polar Winds |
| ဝင်းလူမျိုး | Wends |
| ဝမ်းသွားဆေး | Cathartic |
| သဘာဝပညာရှင် | Naturalist |
| ' သဘာဝသမိုင်း ' | ' Historia Naturalis ' |
| သဘောပေါက်ခြင်း | Insight |
| သမပိုင်းဇုန် | Temperate Zone |
| သီးတောင့် | Pod |
| သက်ရှိတစ်ရှူး | Living tissue |
| သစ်နီပင်မျိုး | Redwood family |
| သစ်နုပင် | Herb |
| သစ်ပင်ပန်းမာလ်တိုးပွားရေးအသင်းတိုက် | Agri-horticultural Society |
| ' သုတ္တံ (နယပုံပြင်) ကျမ်း ' | ' Proverbs ' |
| သုဒ္ဓဆခွဲကိန်း | Prime factor |
| သတ္တုဖလူအိုရိုက် | Fluoride of metal |

| | |
|---|---|
| သန်ကောင် | Ascaris |
| သန်ကောင်လုံး | Roundworm |
| သန္တာကျွန်း | Coralline Island |
| ' သမ္ဘာရ ယထာဘူတ ပညာရပ် ' | ' System of Synthetic Philosophy ' |
| သံလိုက်အားလမ်း | Line of magnetic force |
| ' ၃ လတကြိမ်ထုတ် စိတ်ခွဲခြားစိစစ်ရေးပညာဆိုင်ရာမဂ္ဂဇင်း ' | ' Psychoanalytical Quarterly ' |
| သွပ်ကရိုမိတ် | Zinc chromate |
| သွပ်အောက်ဆိုက် | Zinc oxide |
| ဟေးလွန်းကျိယန်မြစ်ဝှမ်း | Heilunkiang River Valley |
| ဟယ်လီကော့ပတာလေယာဉ် | Helicopter |
| ဟိန္ဒူယောဂီ | Hindu fakir |
| ဟွေမြစ် | Hwai River |
| အကာ | Cortex ; sapwood |
| အကျိုးဖျက်ကပ်ပါးပင် | Parasitic plant |
| အကြောင်းဆက်တုံ့ပြန်မှု | Conditioned response |
| အကြောက်စွဲစိတ် | Phobia |
| အကြိမ်ကြိမ်စမ်းသပ်သင်ယူခြင်း | Trial-and-error learning |
| အချုပ်သတ္တိ | Astringent |
| အခွဲမြောက်ကိန်းတူအကြီးဆုံး | Highest Common factor |
| အစွဲ | Complex |
| အစွမ်းမဲ့ဓာတ်ငွေ့ | Inert gas |
| အဆီးရီးယန်းလူမျိုး | Assyrian |
| အညံ့စွဲစိတ် | Inferiority complex |
| အညွန်းပြမှန် | Index glass |
| အနာသက်သာဆေး | Anodyne |
| အနောက်လေ | Westerlies |
| အနှစ် | Heartwood |
| အနှစ်အိတ် | Yolk sac |
| အပူစွမ်းအင် | Heat energy |
| အပူပိုင်းလေချိုင့်တိမ် | Tropical Depression |
| အပင်စိမ်း | Green plant |
| အပင်သတ္တဝါ | Plantimal |
| အပုပ်နိုင်ဆေး | Antiseptic |
| အပြည်ပြည်ဆိုင်ရာတပ်မဟာ | International Brigade |
| အမေရိကန်နိုင်ငံလုံးဆိုင်ရာစိတ်ခွဲခြားစိစစ်ရေးပညာအသင်း | American Psychoanalytical Association |
| အဇတ်ချုပ်ကြီး | Vizier |
| အမျိုးသားညွန့်ပေါင်းအဖွဲ့ | National Coalition |
| အမျိုးသားယူနီယန်နစ်ပါတီ | National Unionist Party |
| အမျိုးသားလွတ်မြောက်ရေးကောင်စီ | Council of National Liberation |
| အမျိုးအစားခွဲခြားခြင်းပညာ | Taxonomy or Classification |
| အမြင်မှားခြင်း | Illusion |
| ' အမှောင်ခေတ် ' | ' Dark Ages ' |
| အရေပါး | Cuticle |
| အရိုးနှင့်ခြင်ဆီရောင်နာ | Osteomyelitis |
| အရောင်သန့်သန့်ထွက်ခြင်း | Polarization |
| အလိုအလျောက်ရွေ့ရှားခြင်း | Spontaneous movement |
| အလင်းစွမ်းအင် | Light energy |
| အလှည့်မှန်ဇယား | Periodic table |
| အလှုံ့ဓာတ် | Stimulus |

| | |
|---|---|
| အဝါဆေးရည် | Chrome yellow |
| အဝေးရောက် ဘုရင့်အစိုးရအဖွဲ့ | Royalist Government in Exile |
| အအေးခံတပ်ပေးကုန်တွဲ | Refrigerated car |
| အအေးပိုင်းဇုန် | Frigid Zone |
| အာရပ်အမျိုးသားအဖွဲ့ | Arab League |
| အာရုံသိခြင်း | Perception |
| အာဟာရ၏ဓာတ်စွမ်းအင် | Chemical energy of food |
| အားကြွဆေး | Stimulant |
| အီရီတူးမြောင်း | Erie Canal |
| ' ဥယျာဉ်မှူး ' | ' The Gardener ' |
| အေဒင်ပင်လယ်ကွေ့ | Gulf of Aden |
| အယ်လဖာမှုန် | Alfa particle |
| အယ်လစ်ဇဗက်ခေတ် | Elizabethan Age |
| အဲလဗတ်တူးမြောင်း | Albert Canal |
| အော်တိုမန်တူရကီလူမျိုး | Ottoman Turk |
| အိုနီဂါအိုင် | Lake Onega |
| အက်ဆူးဝန်ဆည်ရိုး | Aswan Dam |
| အင်တီတောရပ်တောင်တန်း | Anti-Taurus Mountains |
| အင်းဂယ်လူမျိုး | Angle |
| ' အိုင်ယာလန်ပြည်၏လက်ရှိအခြေအနေနှင့်ကျွန်ုပ်၏အမြင် ' | ' A view of the Present State of Ireland ' |
| အုန်းသီးဆံခြောက် | Copra |
| အွိုက်စတာကျွန်း | Oyster Island |

## အသံလှယ်အမည်များ

| | |
|---|---|
| ကတဲ | Cattell |
| ကပါးနေယမ် (ကပေရနောင်မြို့) | Capernaum |
| ကပဲလား, မာတီယာနပ် | Capella, Martianus |
| ကဗန်း | Kabang |
| ကယေရို, ဂျိုအာနို | Cayeyro, Joano |
| ကရား | Kraal |
| ကရက်စနိုယာစခ | Krasnoyarsk |
| ကရက်ဆပ် | Crassus |
| ကရင်ဟီး | Krimhild |
| ကရစ်ပတွန် | Krypton |
| ကရွမ်ဗီ, မစ္စစ် | Crombie, Mrs. |
| ကလာဗီခေါ့ | Clavichord |
| ကလာရိနက် | Clarinet |
| ကလော့ဇဗစ်, ကားလ ဖွန် | Clausewitz, Karl von |
| ကလိုရိုဖီ | Chlorophyll |
| ကလက်ပရုတ် | Klaproth |
| ကလျူချက်ဗစကာယာ | Kluchevskaya |
| ကာကူလီအွန်းနီဒီး | Curculionidae |
| ကာလာ | Kohler |
| ကာမိုနာ | Carmona |
| ကာရက်ဒြီအိဖော်မီး | Charadriiformes |
| ကာလူမက် | Calu:net |
| ကားလျားရီ | Cagliori |
| ကီယာဂစ် | Kirghiz |

| | |
|---|---|
| ကီဇယ်ဂူး | Kieselguhr |
| ကီတူးပါဇီလိုနင်စစ် | Ketupazeylonensis |
| ကီရွနဗာရ | Kirunavara |
| ကူရဂန် | Kurgan |
| ကူဝိတ် | Kuwait |
| ကူအို မိုးရိုး | Kuo Mojo |
| ကူအိုမင်တန် | Kuomingtan |
| ကူးချင် | Kuching |
| ကေဖ | Cephas |
| ကေး | Kayes |
| ကေးလစ် | Caliph |
| ကယ်မရိုဗို | Kemerovo |
| ကယ်ရာဒရိုင်အီဒီး | Charadriidae |
| ကယ်လမာဇူး | Kalamazoo |
| ကော့ | Cork |
| ကော့, ရောဗတ် | Koch, Robert |
| ကော့တေ | Kotte |
| ကော်နီလီယာ | Cornelia |
| ကောဆိုဗို | Kossovo |
| ကောလဂိတ် | Colgate |
| ကောလိုကေးလီယား ဂျာမယ်နီ | Collocalia germani |
| ကောလစ်, မောရစ် | Collis, Maurice |
| ကိုကိုး နော် | Koko Nor |
| ကိုအင်ဗရာ | Coimbra |
| ကက္ကစတန် | Caxton |
| ကက်တာဗော်လစ်ဇင် | Catabolism |
| ကက်တီလိုင် | Catiline |
| ကက်ပရာ | Capra |
| ကက်ပါရိဒေးစီအီး | Capparidaceae |
| ကက်ရှဂါ | Kashgar |
| ကက်သုတ် | Cathode |
| ကန် ရှီး | Kang Hsi |
| ကန္ဒလီ, ဆာ ဂျိမ်း | Candlie, Sir James |
| ကန်တန် | Canton |
| ကန္နာဗစ် ဆာတီဗား | Cannabis sativa |
| ကပ္ပယ် | Kappel |
| ကျိယန်ဆီ | Kiangsi |
| ကျိယန်ဆူး | Kiangsu |
| ကျူမင် | Tyumen |
| ကွေချောင် | Kweichow |
| ကွင်းနက် (ငါး) | Quinnat |
| ကွန်ရှန် | Kunshan |
| ကွန်း အန် ကူအို | Kung An Kuo |
| ကွန်း, အိပ်ချ၊ အိပ်ချ၊ | Kung, H. H. |
| ကွန်း ရှန်း ရှီး | Kung Hsiang Hsi |
| ကွန်းလွန် | Kunlun |
| ကွမ်ဆီ | Kwangsi |
| ကွမ်ဟွာအာ | Kuanghua |
| ခကတ်စ | Khakass |
| ခဗာရပ်စကာ | Khabarovsk |

| | |
|---|---|
| ခရိစတော့ဖိုရိ | Cristofori |
| ခရိုမိုဆုမ်း | Chromosome |
| ခိုတန် | Khotan |
| ချာကာ | Chaka |
| ချီချွန် | Chihchun |
| ချီတာ | Chita |
| ချီယာဘန်ဂျန် လာ | Chiabhanjan La |
| ချီလျာဘင်စခ | Chelyabinsk |
| ချီအန်းမိုင်း | Chiengmai |
| ချိုးရှုကျင် | Chou-Shu-jen |
| ချူအန်း | Chuang |
| ချိုလာ | Chola |
| ချက် (ဆိုင်) | Chad |
| ချင် ချီယုံ မင်း | Chen Chiung Ming |
| ချန် ကူအို ဟွာအာ | Chang Kuo Hua |
| ချန်ဂန် | Changan |
| ချုန်မိုလုန်မား | Chomolungma |
| ချမ်ပီယန် | Champion |
| ချုံ ကူအို | Chung Kuo |
| ချုံ ရှန် | Chung Shan |
| ချုံဟွာအာ ကေ မင် တန် | Chunghua Keh Ming Tang |
| ချုံဟွာအာ ဂျင်မင် ကွန်ဟို ကူအို | Chunghua Jinmin Kungho Kuo |
| ချုံဟွာအာ မင် ကူအို | Chunghua Min Kuo |
| ချိမ်းဗား, အီဖရိမ် | Chambers, Ephraim |
| ဂရူးဝီးယား အီလာစတိုစတီမွိုက်ဒီ | Grewia elastostemoides |
| ဂရူးဝီးယား အေရှားတစ်ကား | Grewia asiatica |
| ဂလာလစ် | Galalith |
| ဂလားရုး | Glarus |
| 'ဂလက်' | 'Gleb' |
| ဂလန်ဗီး, ဗာသောလိုမျူး ဒီ | Glanville, Bartholomew de |
| ဂါးဆီးယား, ပေါလင် | Garcia, Pauline |
| ဂါးအို | Gao |
| ဂီတာ | Guitar |
| ဂီတာဉ္စလိ | 'Gitanjali' |
| ဂူလချင် | Gulachin |
| ဂယ်လီလီ (ဂါလိလဲ) | Galilee |
| ဂဲမိုး, ပေါ | Gelmo, Paul |
| ဂေါ့တလန် | Gotland |
| ဂိုးလဒင်း ဂိတ် | Golden Gate |
| ဂက်ဒိုလင် | Gadolin |
| ဂိုင် ဒင် သန် | Gai Dinh Thanh |
| ဂပ်စတားဗပ် ဗာဆာ | Gustavus Vasa |
| ဂမ်ပေါလ | Gampola |
| ဂျီဗူတီ | Djibouti |
| ဂျယ်လက်ပလား | Jelep-la |
| ဂျက်ဖာဆန်, ဂျိုးဇက် | Jefferson, Joseph |
| ဂျင်မနိုစပမ်း | Gymnosperm |
| ဂျိုင်ဂင်တိုကလိုအာ မက်ကရိုစတတ်ချီယာ | Gigantochloa macrostachya |
| ဂျစ်ဒါ | Jidda |
| ဂွာနီယဲရီ, ဂျူးဇက်ပေ | Guarniere, Guiseppe |

| | |
|---|---|
| ဂွန်တာ | Gunther |
| ဂျွန်ဆန်, အက်စတာ | Johnson, Esther |
| စကိ | Skeat |
| စကတ်, ဒေါက်တာ | Scurd, Dr. |
| စကန့် | Skunk |
| စတာနိဒီး | Sturnidae |
| ' စတား အော့ အာဖရိက' | ' Star of Africa ' |
| စတြစ်ကနင်း | Strychnine |
| စတြစ်ဂျီဖောမီး | Strigiformes |
| စထရာဒီဗေးရီယပ်, အန်တိုနီးယပ် | Stradivarius, Antonius |
| စထရယ်ကိုဗား | Strelkova |
| စပီး | Spill |
| စပင်းနက် | Spinet |
| စပမ်း | Sperm |
| စိသီယာ | Scythia |
| စုပါဖော့စဖိတ် | Superphosphate |
| စုရတိ | Surti |
| စုရတ် | Surat |
| စုလတန် | Sultan |
| စက်တီဝေးယို | Cetewayo |
| စန့် ဂျာမိန်း | St. Germain |
| စန့် ဒနီး (မြို့) | St. Denis |
| စန် မင်း ချူအိ | San Min Chui |
| စန်ပို | Tsangpo |
| စိန့် ဂေါ်သက် | St Gothard |
| စိန့် ဂေါ | St. Gall |
| စိန့် ဂေါ | St. Gaul |
| စိန့် ဒိုမီနီကို | St. Dominico |
| စိန့် ပီတာ (ရှင်ပေတရု) | St. Peter |
| စိန့် ပေါ (ရှင်ပေါလု) | St. Paul |
| စိန့် ပေါ ကသီဒရယ် | St. Paul's Cathedral |
| စိန့် ဗာသောလိုမျူ | St. Bartholomew |
| စံ ကရွမ်ဗီ ပိုး | Sañ Crombie Po |
| စွီ ဟိုင်း | Tsui Heng |
| ဆပရိုဖိုက် | Saprophytes |
| ဆပရိုဖစ်တစ်ဇင်း | Saprophytism |
| ဆပင်ဆာ, ဟားဗတ် | Spencer, Herbert |
| ဆပင်နိုဇာ, ဗာရွတ် | Spinoza, Baruch |
| ဆမာကန်း | Samarkand |
| ဆမားနား | Smyrna |
| ဆယိဗျာရိ | Sibir |
| ဆယက် အစ္စမေ အယ် အဇာရိ | Sayed Ismail El Azhari |
| ဆာကာရယား | Sakarya |
| ဆာဆရိ | Samari |
| ဆာနင် | Saanen |
| ဆာလဖာ ဒိုင်အောက်ဆိုဒ် | Sulpha dioxide |
| ဆာလဖာ ပိုင်ရာဇင်း | Sulphapyrazine |
| ဆာလဖာ မီရာဇင်း | Sulphamerazine |
| ဆာလဖာ မက်သာဇင်း | Sulphamethazine |
| ဆာလ်ဖိုနမိုက် | Sulphonamide |

| | |
|---|---|
| ဆာလဖို အာစနီယပ် အင်ဟိုက်ဒြိုက် | Sulpho arsenious anhydride |
| ဆာလာ | Sulla |
| ဆာလာရီ | Salary |
| ဆာလာရီယမ် | Salarium |
| ဆာအိ ပါးရှား | Said Pasha |
| ဆားဂျင့်, ဂျွန် ဆင်းဂါး | Sargeant, John Singer |
| ဆားဗိုနာရော်လာ, ဂျီရော်လားမို | Savonarola, Girolamo |
| ဆီဖရိ | Siegfried |
| ဆီကားဆို | Sikasso |
| ဆီကန် | Sikang |
| ဆီချွန် | Szechuan |
| ဆီဇာ, အော့တေးဗီယပ် | Caeser, Octavius |
| ဆီမိုင်းလက် ပရိုလီဖားရား | Similax prolefera |
| ဆီရော့ | Seraup |
| ဆီလီကွန် အောက်ဆိုက် | Silicon oxide |
| ဆီလက်တာ | Selector |
| ဆီလီနီယမ် | Selenium |
| ဆီလင်းထရေတာ | Coelenterata |
| ဆီလန်ဂါ | Selangor |
| ဆီအန် ရှန် | Hsiang Shan |
| ဆီးရီးယမ်း | Cerium |
| ဆီးလဗားမန်း, ဂေါ့ဖရိုက် | Silbermann, Gottfried |
| ဆူပါဆွန်းနစ် | Supersonic |
| ဆူမာ ကွမ် | Ssu-ma Kuang |
| ဆူမာ ချီယန် | Ssu-ma Chien |
| ဆူမာ တန် | Ssu-ma Tan |
| ဆူရီယယ်လစ်ဇင်း | Surrealism |
| ဆူးအက် | Suez |
| ဆေနာ | Sena |
| ဆေးဂူး | Segou |
| ဆေးလမ်း | Salem |
| ဆယ်လဇာ, အန်တော်နျူ ဒီ အိုလီဗေအီရာ | Salazar, Antonio de Oliveira |
| ဆယ်လဗာဒေါ | Salvador |
| ဆမိပလက်တင့် | Semipalatinsk |
| ဆဲလဗုန်း | Selborne |
| ဆဲလျူလိုက်တစ် | Cellulitis |
| ဆော်ဗန်း, ရောဗတ် ဒီ | Sorbon, Robert de |
| ဆော်လင်နေစီအီး | Solanaceae |
| ဆိုဒီယမ် ကလိုရိုက် | Sodium chloride |
| ဆိုဒီယမ် ကာဗွန်နိတ် | Sodium carbonate |
| ဆိုဒီယမ် ဆာလဖိတ် | Sodium sulphate |
| ဆိုဒီယမ် ဆီလီကိတ် | Sodium silicate |
| ဆိုဒီယမ် ဆိုင်ယနိုက် | Sodium cyanide |
| ဆိုဒီယမ် တန်းစတိတ် | Sodium tungstate |
| ဆိုဒီယမ် နိုက်ထရိတ် | Sodium nitrate |
| ဆိုဒီယမ် ပိုတက်ဆီယမ် တားထရိတ် | Sodium potassium tartrate |
| ဆိုဒီယမ် ဗိုင်ကာဗွန်နိတ် | Sodium bicarbonate |
| ဆိုဒီယမ် သိုင်အိုဆာလဖိတ် | Sodium thiosulphate |
| ဆိုဒီယမ် ဟိုက်ဒရောက်ဆိုက် | Sodium hydroxide |
| ဆိုးဖစ် | Sophist |

| | |
|---|---|
| ဆက္ကဆိုနီ | Saxony |
| ဆက္ကဆန် | Saxon |
| ဆက်စဗေးနီးယား*အကျူလီအေးတား | Sesbania aculeata |
| ဆက်ဆိုဖုန်း | Saxophone |
| ဆက်ငယ်ပင်းနီးယား နျူးဂါး | Caesalpinia nuga |
| ဆောက်သီ, ရောဗတ် | Southey, Robert |
| ဆင်ကလဲယား, အပ္ပတန် ဗီးလ | Sinclair, Upton Beall |
| ဆင်ကျိယန် | Sinkiang |
| ဆင်ဂလီလား | Singalila |
| ဆင်နာ | Cinna |
| ဆင်နန်သရိုပ် ပီကင်နင်ဆစ် | Sinanthropus Pekinensis |
| ဆင်ပလွန် | Simplon |
| ဆင်းဟား, စတ်တျင်ဒြာ ပရပ်ဆာနို | Sinha, Satyendra Prassano |
| ဆိုင်ကလုန်း | Cyclone |
| ဆိုင်ကီအက်ထရီ | Psychiatry |
| ဆိုင်ကိုအနာလစ်ဆစ် | Psychoanalysis |
| ဆိုင်ဖွန် | Siphon |
| ဆိုင်မွန် (ရှိမုန်) | Simon |
| ဆိုင်မွန်, ဂျွန် အောလစဗရွတ် | Simon, John Allsebrook |
| ဆိုင်းရပ်-သ-ဂရိတ် | Cyrus the Great |
| ဆစ်ဆရို, မာကပ် တာလီယပ် | Circero, Marcus Tullius |
| ဆစ်ထရစ် အက်ဆစ် | Citric acid |
| ဆစ်ဒနီ, ဆာ ဖိလစ် | Sidney, Sir Philip |
| ဆန် ကူအို | 'San Kuo' |
| ဆန်ချီ | Sanchi |
| ဆန် ဆယ်လဗာဒေါ | San Salvador |
| ဆန်တာ လူရှာ | Santa Lucia |
| ဆန်တီယာဂိုးဒေသ ချီလေ | Santiago de Chile |
| ဆန် မာရီးနို | San Marino |
| ဆန် အန်တိုးနီယိုး | San Antonio |
| ဆပ်ကပ် မက်ဆီးမပ် | Circus maximus |
| ဆပ်ဆိနီ ဆာလဖာသိုင်အာဇိုး | Succinyl sulphathiazole |
| ဆမ္မဆန် (ရှံဆုန်) | Samson |
| ဆွာဒလော့စခ | Sverdlovsk |
| ဆွားကင် | Suakin |
| ဆွီ ဝီလျံ | Sweet William |
| ဆွီဒင်ဗော့, အီမန်နျူအယ် | Swedenborg, Emanuel |
| ဆွီအာလန် | Svealand |
| ဆွင်တန်, အီး ဒီ | Swinten, E. D. |
| ဆွင်းဗန်း, အယ်လဂျာနန် ချား | Swinburne, Algernon Charles |
| ဆွစ်, ဂျွန်နသန် | Swift, Jonathan |
| ဆွန် ချုံရှန် | Sun Chungshan |
| ဆွန်ဂရမ်, လွန် ပီးဗူ | Songgram, Luang Pibul |
| ဆွန် ယတ် ဆင်, ဒေါက်တာ | Sun Yat Sen, Dr. |
| ဆွန် ဝင် | Sun Wen |
| ဆွန်း ချင် လင်း | Soong Ching Ling |
| ဆွန်း ဇူ ဝင် | Soong Tzu Wen |
| ဆွန်း မေ လင်း | Soong Mai Ling |
| ဆွန်းဟိုင်း | Songhai |
| ဆွန်း အိုင် လင်း | Soong Ai Ling |

| | |
|---|---|
| ဇရာသူသျှတြာ | Zarathushtra |
| ဇာကိုးနီးယမ် | Zirconium |
| ဇာကိုးနီးယမ် ဆီလီကိတ် | Zirconium silicate |
| ဇာကိုးနီးယမ် အောက်ဆိုက် | Zirconium oxide |
| ဇာကိုးနီးယမ် အိုင်အိုဒိုက် | Zirconoum iodide |
| ဇာ်ကွန် | Zircon |
| ဇာဇီး | Xerxes |
| ဇီဇိုင်ဖတ် ဂျူဂျူဗာ | Zizyphus jujuba |
| ဇီနွန် | Xenon |
| ဇူးကော့, ဂျော်ဂျီ ကန်စတန်တီနုပ်ဗျစ် | Zhukov, Georgi Kunstantinovich |
| ဇူးရစ် | Zurich |
| ဇေးမန်, ပီတာ | Zeeman, Pieter |
| ဇော်မီနီ, အန်ဟွန် အန်းရီ | Jomini, Anton Henri |
| ဇိုရိုအက်စတာ | Zoroaster |
| ဇိုလာ, ဖရန်ဆွာ | Zola, Francois |
| ဇိုးဂု, အာမက် | Zogu, Ahmed |
| ဇက်ဒလာ | Zedlar |
| ဇက်ပလင်, ဖာဒီနန် ကောင့် ဖွန် | Zeppelin, Ferdinand Count von |
| ဇင်း | Zend |
| ဇင်းနိုဖန် | Xenophon |
| ဇင်းအာဗတ်စတာ | Zend-Avesta |
| ဇိုင်ကိုဖိုင်လေစီအီး | Zygophyllaceae |
| ဇိုင်လိုဖုန်း | Xylophone |
| ဇိုင်းမေ့ | Zymase |
| ဇစ်သာ | Zither |
| ဇန်တစ်ပီး | Xanthippe |
| ဇမ်ဗီဇီ | Zambesi |
| ဇွိုင်ဒါ ဇေး | Zuider Zee |
| တဂိုး, ဒေဗင်ဒြာ နတ် | Tagore, Debendra Nath |
| တတြက်ပနက် ပက်ပီရီဖာ | Tetrapanax papyrifer |
| တနေဂျာ | Tanager |
| တရိုင်ဗျူလပ် တာရက်စတြစ် | Tribulus terrestris |
| တရန်တို | Taranto |
| တာ့ခမင် | Turkmen |
| တာတာ အီမက်တစ် | Tartar emetic |
| တာတုန် | Tatung |
| တာဒွိုက်ဒီ ဂူလာရစ် | Turdoides gularis |
| တာပင်တိုင် | Turpentine |
| တာဗီယမ် | Terbium |
| တာဗီယမ် အောက်ဆလိတ် | Terbium oxalate |
| တာဗော့ | Turbot |
| တာရီဒေါ့ဖိတာ | Pteridophyta |
| တာရှိ လာမာ | Tashi lama |
| တာလေရန်း ပေရီဂေါ, ချား မောရစ် ဒါ | Talleyrand-Perigord, Charles Maurice de |
| တားဇစ် | Tadzhik |
| တားနား, ဂျိုးဇက် မဲလာ့ ဝီလျံ | Turner, Joseph Mallord William |
| တီယင်ဆင် | Tientsin |
| တီယင်ရှန် | Tienshan |
| တီယင် အန် မင် | Tien-an-min |
| တီချီးနို | Ticino |

| | |
|---|---|
| တီဆို | Tirso |
| တီနိုစပိုးရား ကောဒီဖိုးလီးယား | Tinospora cordifolia |
| တီမိုရှင်းကို, ဆီမျွန် ကွန်စတန်တျိနပ်ဗျစ် | Timoshenko, Semyon Konstantinovich |
| တီးဇယ် | Teasel |
| တူဖူ | Tu-Fu |
| တူရဂေနျက်, အိုင်ဗန် | Turgenev, Ivan |
| တူရာနီယန် | Turanian |
| တူးဒါး | Too-da |
| တူးဗာ | Tuva |
| တူးအတ်, ဖရန်ဆွာ | Tuarte, Francois |
| တေတီ | Tete |
| တော့ဂင်ဗု | Toggenburg |
| တိုဂျို, ဟိဒဲကီ | Tojo, Hideki |
| တိုဂျို, အဲအီးကျို | Tojo, Eikyo |
| တက် (မြစ်) | Test |
| တက်ရှကင့် | Tashkent |
| တိုက်တွန်းနိဒီး | Tytonidae |
| တိုက်ဗီးရီးယပ် | Tiberius |
| တင်ချာ ဗင်ဇိုင်း | Tincture benzoine |
| တင်ပယ်, ဆာဝီလျံ | Temple, Sir William |
| တင်ဗတ်တူး | Timbucktoo |
| တင်မလိုင်အိဒီး | Timaliidae |
| တိုင်တေးနီယမ် အောက်ဆိုက် | Titanium oxide |
| တစ်စတာ | Tista |
| ' တုန် မင် ဟွီ ' | ' Tung Men Hui ' |
| တုန် ချုန် ရှူး | Tung Chung Shu |
| တြစ်ခိုင်းနား | Trichina |
| တွားရက် | Tuareg |
| တွန့်စခ | Tomsk |
| တာမာထိပတ် | Tharmathipat |
| ထရာဗင်ကို | Travantore |
| ထရေဗီဇာ, ဂျွန် | Trevisa, John |
| ထရဲဗား, မောရစ် | Travers, Morris |
| ထရိုင်ကလိုရို မက်သဲ | Trichloro-methyl |
| ဒရော့ဆီရာ | Drosera |
| ဒီလိုင်းလား (ဒေလိလ) | Delilah |
| ဒါဗီ | Derby |
| ဒါဝင်, ချားး | Darwln, Charles |
| ဒါးကား | Dakar |
| ဒါးဖူး | Dafur |
| ဒါးလခရိုး | Dalcroze |
| ဒါးလဆီမာ | Dulcimer |
| ဒီကရီ | Decree |
| ဒီနီဇူးလူး | Dinizulu |
| ' ဒီဗိုင်း ကော်မီဒီ ' | ' Divine Comedy ' |
| ဒီယိုဂို ဆိုးအရက် ဒီ မဲလိုး | Diago Soarez de Mello |
| ဒီးဒရို | Diderot |
| ဒေဗီ, ဒေါက်တာ | Davey, Dr. |
| ဒေးကတ် | Descartes |
| ဒိုးနက် | Donets |

| | |
|---|---|
| ဒိုးမက်, ဂျာဟတ် | Domagk, Gerhard |
| ဒင်ဒရိုကယ်လေးမတ် လောင်ဂျီစပေးသပ် | Dendrocalamus longispathus |
| ဒင်ဒရိုစိုင်နာ ဂျာဗန်နီကား | Dendrocygna javanica |
| ဒင်ဒရိုစိုင်နာ ဗိုင်ကာလာ | Dendrocygna bicolor |
| ဒိုင်ကလိုရို ဒိုင်ဖီနိ ထရိုင်းကလိုရို အီသိန်း | Dichloro-diphenyl trichloro ethane |
| ဒိုင်နမို | Dynamo |
| ဒိုင်အင်းသပ် ကယ်ရီယိုဖစ်လပ် | Dianthus caryophylus |
| ဒိုင်အင်းသပ် ပလူမားရီယပ် | Dianthus plumarius |
| ဒိုင်အင်းသပ် ဗာဗတပ် | Dianthus barbatus |
| ဒစ်ပစာကေစီအီး | Dipsacaceae |
| ဒဒ္ဒလိ | Dudley |
| ဒန်တီ, အလီဂျာရိ | Dante, Alighieri |
| ဒျူတာရွန် | Deuteron |
| ဒျူးဝီး | Dewey |
| ဒွန် | Don |
| နာဒါရှား | Nadir Shah |
| နာနာ | Nana |
| နားတူလား | Natula |
| နားဗစ် | Narvik |
| နီစတာ | Dniester |
| နီပါ | Dnieper |
| နီပါ | Nipa |
| နီပါ ဖရူတီကန် | Nipa Frutican |
| နီယွန် | Neon |
| နူးရက် ဒင်း | Nur-ed Din |
| နော်လန် | Norrland |
| နိုဗဲ, အဲလဖရက် | Nobel, Alfred |
| နိုဗော်စီဗီယတ်စခ | Novocibirsk |
| နိုးတိုကော့ | Notochord |
| နက်ဂျ | Nejd |
| နက်ဆာ | Nasser |
| နိုက်ထရို ဆဲလျူလို့ | Nitro-cellulose |
| နိုက်ထရစ် အောက်ဆိုက် | Nitric oxide |
| နိုက်ထရပ် အီသာ | Nitrous ether |
| နင်ပို | Ningpo |
| နင်မတုတ် | Nematode |
| နင်မာဟယ်လမင်သီး | Nemahelminthes |
| နိုင် ခူအန် | Nai Khuang |
| နိုင်းဂျား | Niger |
| နစ်ကို, ဇန်း | Nicot, Jean |
| နစ်ကိုရှီအေးနား | Nicotiana |
| နစ်ကိုရှီအေးနား တက်ဗာကမ် | Nicotiana tabacum |
| နစ်ကိုရှီအေးနား ပါစီကာ | Nicotiana persica |
| နစ်ကိုရှီအေးနား ရတ်စတီကာ | Nicotiana rustica |
| နစ်ကိုတင် | Nicotine |
| နစ်တင်း | Knitting |
| နျူမိုးနီးယား | Pneumonia |
| ပရူဒုန် | Proudhon |
| ပရိုတိုပလက်ဇမ် | Protoplasm |
| ပရင်းဒါဂတ် | Prendergast |

| | |
|---|---|
| ပရပ်ဆစ် အက်ဆစ် | Prussic acid |
| ပလာတိုး, ဂျိုးဇက် | Plateau, Joseph |
| ပလူဗီအေးလစ် ဒိုမင်နီက | Pluvialis dominica |
| ပလူမီအာရာ အကျူမိနေတာ | Plumiera acuminata |
| ပလူမေးရီယာ အကျူတီဖိုးလီယား | Plumeria acutifolia |
| ပလိုဆီအိဒီး | Ploceidae |
| ပလိုဆီအိုင်နီး | Ploceinae |
| ပလက်တီဟယ်လမင်သီး | Platyhelminthes |
| ပလင်နီ | Pliny |
| ပလောင်ယင် | Plauen |
| ပါကလိုရိုက် | Perchloride |
| ပါကင်, ဝီလျံ ဟင်နရီ | Perkin, William Henry |
| ပါရစီ | Parsee |
| ပါရောက်ဆိုက် | Peroxide |
| ပါလကိုဗို | Polkovo |
| ပါလင်ဗန်း | Palemvang |
| ပါးဂိုး ပါးဂိုး | Pago Pago |
| ပါးဒန်း | Padang |
| ပီဒရို | Pedro |
| ပီနယ်, ဖိလစ် | Penel, Phillippe |
| ပီယာနိုဖိုတီ | Pianoforte |
| ပု ယီ | Pu Yi |
| ပူးနား | Poona |
| ပေးလွန်း | Peilun |
| ပယ်ရီ | Perry |
| ပဲရီးကလီး | Pericles |
| ပဲရစ် ဂရင်း | Paris Green |
| ပေါ်လီနီးရှင်း | Polynesian |
| ပေါလစ် | Polyp |
| ပို့ ဂျက်ဆန် | Port Jackson |
| ပို့ ဆက် | Port Said |
| ပို့တဝိုင် | Port Wine |
| ပို ချူ အိ | Po Chu I |
| ပိုတက်ဆီယမ် ဆိုင်ယနိုက် | Potassium cyanide |
| ပိုတက်ဆီယမ် တားထရိတ် အက်ဆစ် | Potassium tartrate acids |
| ပိုတက်ဆီယမ် ဖယ်ရီဆိုင်ယနိုက် | Potassium ferricyanide |
| ပိုတက်ဆီယမ် ဖယ်ရိုဆိုင်ယနိုက် | Potassium ferrocyanide |
| ပိုတက်ဆီယမ် အန်တီမိုနိုင် တားထရိတ် | Potassium antimonyl tartrate |
| ပိုရာနာ ပါနီကျူလေးတား | Porana paniculata |
| ပိုရစ်ဖာရာ | Porifera |
| ပိုး, ကလယ်ရီဗယ် အိုင်ရင်း | Po, Claribel Irene |
| ပိုး, စတန်လေ ဟူဆင် | Po, Stanley Huesen |
| ပိုး, ဒေါက်တာ ကလဲရင့် ကရွမ်ဗီ | Po, Dr. Clarence Crombie |
| ပိုး, ဗစ်တာ စံ စီ | Po Victor San. C. |
| ပိုး, လိုင်ယွန်နယ် ဗန်ဒါဗီယာ | Po, Lionel Vanderveer |
| ပိုး, ဝင်နီ ကရွန်ကိုက် | Po, Winnie Cronkite |
| ပိုး, အို ဒဗျူ | Po, O.W. |
| ပက်ခီရိုဇပ် အင်ဂူးလေတပ် | Pachyrhizus angulatas |
| ပက်ပီလီအိုနေးတီး | Papilionatae |
| ပက်ဗလော့ | Pavlov |

| | |
|---|---|
| ပင့်ခ | Pink |
| ပေါင်တောင် | Paotao |
| ပင်းဝမ်း | Pinworm |
| ပင်းဗာ | Pemba |
| ပစ် | Pitt |
| ပစ်ကိုလို | Picolo |
| ပစ်သီကိုလိုဗီယမ် လိုဗေးတမ်း | Pithecolobium Lobatum |
| ပတ် | Parkes |
| ပတ္တနီ | Putney |
| ပန်ချင် လာမာ | Panchen Lama |
| ပန်ဒနေစီအီး | Pandanaceae |
| ပန်ဒနေးနပ် တက်တိုးရီးယပ် | Pandananus tectorius |
| ပျူနီကာ ဂရာနေတမ် | Punica granatum |
| ပျူနီကာစီအီး | Punicaceae |
| ပျူအီ | Puy |
| ပြင်သစ် ဆိုမာလီလန် | French Somaliland |
| ပွိုင်စီအားနား ရီဂျီးယား | Poinciana regia |
| ပွန်းတပ် | Pontus |
| ဖရီးဗူး | Fribourg |
| ဖရေးယာ | Freya |
| ဖရိုးဗစ်ရှား, မာတင် | Frobisher, Martin |
| ဖရွိုက်, ဇိဂမွန် | Freud, Sigmund |
| ဖလူးအိုရက်ဆင့် စကရင်း | Fluorescent screen |
| ဖလိုဗဲယား | Flaubert |
| ဖလန်းဒါး | Flanders |
| ဖာစီအာနီဒီး | Phasianidae |
| ဖာရားရ | Ferrara |
| ဖားဆေးလပ် | Pharsalus |
| ဖိလစ္စတင် (ဖိလိတ္တိ) | Philistine |
| ဖိနော့သဲလင်း အက်ဆက်တန်နီလိုက် | Phenolphthaleine acetanilide |
| ဖီး ကလတ် | Fields Clarke |
| ဖူကျိယန် | Fukiang |
| ဖူချောင် | Foochow |
| ဖူးလား | Fulah |
| ဖေယွန် | Phaon |
| ဖဲလီဒီ | Felidae |
| ဖဲလစ် ကေးအပ် | Felis chaus |
| ဖဲလစ် ဆီလဗက်စတြစ် | Felis sylvestris |
| ဖဲလစ် တိုက်ဂရစ် | Felis tigris |
| ဖဲလစ် ဒိုမက်စတီကပ် | Felis domesticus |
| ဖိုတိုဆင်းသဆစ် | Photosynthesis |
| ဖိုတိုဖုန်း | Photophone |
| ဖိုက်တီလီဖတ် | Phytelephas |
| ဖောင်တိန်ဗလို | Fountainebleau |
| ဖိုင်လင်သပ် အင်ဗလိကာ | Phyllanthus emblica |
| ဖိုင်းကပ် ကော်ဒီဖိုးလီးယား | Ficus cordifolia |
| ဖိုင်းကပ် ဂစ်ဗိုဆာ | Ficus gibbosa |
| ဖိုင်းကပ် ဗင်ဂျမိနာ | Ficus benjamina |
| ဖိုင်းကပ် ဗင်ဃလင်းဆစ် | Ficus benghalensis |
| ဖိုင်းကပ် ရီလီဂျီအိုဆာ | Ficus religiosa |

| | |
|---|---|
| ဖိုင်းကပ် ရီတျူဆာ | Ficus retusa |
| ဖစ်လေးရိယအီး | Filariae |
| ဖတ်စတစ် | Fustic |
| ဖန် ချိန် | Fan ch'eng |
| ဗဗတ် | Babeut |
| ဗမကိုး | Bamako |
| ဗလီဖတ်စကူ | Blefuscu |
| ဗာဒဝု, ဆာ ဝီလျံ | Birdwood, Sir William |
| ဗရိတွန်း, အန်းဒရေး | Breton, Andre |
| ဗရိး, ဒေါက်တာ | Brill, Dr. |
| ဗရူးတပ် | Brutus |
| ဗရိုမိတ် | Bromate |
| ဗရိုက်ဒဲလီးယား ရီတျူဆာ | Bridelia retusa |
| ဗရိုက်တန် | Brighton |
| ဗရိုင်ယာ | Brior |
| ဗရစ်ဂျဝါးတား | Bridgewater |
| ဗရွိုင်ယာ | Breuer |
| ဗရွန်ဟီး | Brunhild |
| ဗလန့်, လူဝီ | Blanc, Louis |
| ဗလွိုင်လာ | Bleuler |
| ဗာဂျင်နယ် | Virginal |
| ဗာဇီးလီယပ် | Berzelius |
| ဗာဗီရာ | Berbera |
| ဗားဂနား | Wagner |
| ဗားဂယို | Baguio |

| | |
|---|---|
| ဗားဗား | Berber |
| ဗားဗေ့, ဂျိမ်း | Babbage, James |
| ဗားမီး | Vermes |
| ဗားလ | Waal |
| ဗီတွာ | Betwa |
| ဗီယက်နမ် | Vietnam |
| ဗူခါးရား | Bukhara |
| ဗူရေမီ အိုအေးစစ် | Burami Oasis |
| ဗူလဂါနင် | Bulganin |
| ဗူးဂင်ဗီး | Bougainville |
| ဗူးလဒိုဇာ | Bulldozer |
| ဗေနားဒိုးနေ့, ဂျိဗန္နီး | Bernardone, Giovanni |
| ဗယ်ရို, မားကပ် တယ်ရင်ရှီယပ် | Varro, Marcus Terentius |
| ဗယ်လပရိုက်ဇို | Valparaiso |
| ဗဲယာ့, ဂျွန် လိုဂီ | Baird, John Logie |
| ဗဲရီး, ဂေးယပ် | Verres, Gaius |
| ဗဲလဂရိတ် | Belgrade |
| ဗဲလမွန့် | Belmont |
| ဗော့သနီးယား | Bothnia |
| ဗော်လဂါ | Volga |
| ဗော်ဟီးနီးယား အကျူမိနေတာ | Bauhinia acuminata |
| ဗောနူး | Bornu |
| ဗောလတစ် | Baltic |
| ဗိုနီဖားချို | Bonifacio |
| ဗိုပါး | Bhopal |

